# မြန်မာစာပေသမိုင်း

(ရန်ကုန်တက္ကသိုလ်ကျောင်းအုပ်ကြီး)

ပါမောက္ခ ဦးဖေမောင်တင်



မြန်မာစာ အဓိက ကျောင်းသား/ကျောင်းသူများ
မြန်မာစာပေ လေ့လာလိုက်စားသူများ၊ သမိုင်းသုတေသီများ
မြန်မာစာ ထူးချွန်ထက်မြက်လိုသူများ
လက်ကိုင် လက်စွဲပြုရမည့် စာအုပ်

ရန်ကုန်တက္ကသိုလ် ကျောင်းအုပ်ကြီး

ပါမောက္ခ ဦးဖေမောင်တင်

# မြန်မာစာပေသမိုင်း

၁၀၀၀ိ/-

ပထမ အကြိမ်၊ ၁၉၅၈-ခုနှစ်၊ ဇွန်လ
ဒုတိယ အကြိမ်၊ ၁၉၇၁-ခုနှစ်၊ မတ်လ
တတိယအကြိမ်၊ ၁၉၇၇-ခုနှစ်၊ မတ်လ
စတုတ္ထ အကြိမ်၊ ၁၉၈၇-ခုနှစ်၊ အောက်တိုဘာလ
ပဉ္စမ အကြိမ်၊ ၂၀၀၃-ခုနှစ်၊ ဩဂုတ်လ

---

အုပ်ရေ (၁၀၀၀)

---

**မျက်နှာဖုံးပန်းချီ**
ပန်းချီဝေမွန်လင်း

---

**အတွင်းအော့ဖ်ဆက်ဖလင်**
STAR

---

**အတွင်းဖလင်**
အောင်တင်အေးနှင့် သမီးများ

---

**စာအုပ်ချုပ်**
သဲမာထွန်း စာအုပ်ချုပ်

---

**မျက်နှာဖုံးပုံနှိပ်သူ**
ဦးမြသောင်း (၀၁၇၈၄) ခေတ္တရာပုံနှိပ်တိုက်
အမှတ် ၁၂၂၊ ၃၁ လမ်း၊ ရန်ကုန်မြို့။

---

**အတွင်းပုံနှိပ်သူ**
ဦးဝင်းမြင့် (၀၂၄၈၆) သိဒ္ဓိမြိုင်ပုံနှိပ်တိုက်
အမှတ် ၁၁၃၊ ၃၄ လမ်း၊ ရန်ကုန်မြို့။

---

**ထုတ်ဝေသူ**
ဒေါ်မိုးကေခိုင် (၀၁၆၉၂) ချိုတေးသံစာပေ
ရွှေနံ့သာကျေးရွာ၊ ပုလဲမြို့ (၃)၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့။

## မာတိကာ

မာတိကာ

မာတိကာ

## မာတိကာ

# ပုဂံမင်းဆက်

(မင်းဆက် ၅၅။ ။သရေခေတ္တရာ သက္ကရာဇ် ၂၉-မှ ပုဂံသက္ကရာဇ် ၇၃၀။
မြို့သက် ၁၂၆၁။)

| တတိယပုဂ် | သက္ကရာဇ် | နန်းသက် |
|---|---|---|
| ၁၂။ သား-သိုက်တိုင် | ၄၃၈-၄၄၅ | ၇ |
| ၁၃။ သေဉ်လည်ကြောင်ငယ် | ၄၄၅-၄၅၄ | ၉ |
| ၁၄။ ညီ-သေဉ်လည်ခိုက် | ၄၅၄-၄၆၉ | ၁၅ |
| ၁၅။ ခန်းလောင်း | ၄၆၉-၄၇၉ | ၁၀ |
| ၁၆။ ခန်းလတ် | ၄၇၉-၄၉၁ | ၁၂ |
| ၁၇။ သား-ထွန်းတိုက် | ၄၉၁-၅၀၄ | ၁၃ |
| ၁၈။ ထွန်ပစ် | ၅၀၄-၅၂၀ | ၁၆ |
| ၁၉။ ထွန်ခြစ် | ၅၂၀-၅၃၅ | ၁၅ |
| ၂၀။ ပုပ္ပားစောရဟန်း။ သက္ကရာဇ်ဖြိုသည် | ၅၃၅-၅၆၂ | ၂၇ |
| ၂၁။ ပုပ္ပားစောရဟန်း၏ သမက် ရွှေအုန်းသီး (ထွန်ခြစ်မင်း၏ သား) | ၂- ၁၄ | ၁၂ |
| ၂၂။ ညီ-ပိသုံ | ၁၄- ၂၂ | ၈ |
| ၂၃။ သား-ပိတ်တောင်း | ၂၂- ၇၂ | ၅၀ |
| ၂၄။ ညီ-မင်းခွေး | ၇၂- ၇၈ | ၆ |
| ၂၅။ မြင်းကျွေးမင်း | ၇၈- ၈၈ | ၁၀ |
| ၂၆။ ထွန်ခြစ်မင်း၏ မြေး-သိခ် | ၈၈- ၉၆ | ၈ |
| ၂၇။ သား-သိန်းခွန် | ၉၆-၁၀၆ | ၁၀ |
| ၂၈။ ရွှေလောင်း | ၁၀၆-၁၁၅ | ၉ |
| ၂၉။ ထွန်တွင်း | ၁၁၅-၁၂၄ | ၉ |
| ၃၀။ ရွှေမှောက် | ၁၂၄-၁၄၇ | ၂၃ |
| ၃၁။ ညီ-ထွန်လတ် | ၁၄၇-၁၆၄ | ၁၇ |
| ၃၂။ သား-စောမွန်နစ် | ၁၆၄-၁၉၁ | ၂၇ |
| ၃၃။ ခဲလူး | ၁၉၁-၂၀၈ | ၁၇ |

စတုတ္ထပုဂ်

| | | |
|---|---|---|
| ၃၄။ ညီ-ပျဉ်ပြား | ၂၀၈-၂၄၀ | ၃၂ |
| ၃၅။ သား-တန်နက် | ၂၄၀-၂၆၈ | ၂၈ |
| ၃၆။ စလေငခွေး | ၂၆၈-၂၇၇ | ၉ |
| ၃၇။ သား-သိန်းခို | ၂၇၇-၂၉၃ | ၁၆ |
| ၃၈။ တောင်သူကြီး ညောင်ဦးစောရဟန်း | ၂၉၃-၃၂၆ | ၃၃ |

## ပင်းယမင်းဆက်

(မင်းဆက် ၆ ဆက်။ ။၆၆၀–၇၂၆။ မြို့သက် ၆၆။)

# စစ်ကိုင်းမင်းဆက်

(မင်းဆက် ၇ ဆက်။ ။၆၇၇–၇၂၆။ ။မြို့သက် ၅၀ ခန့်။)



# အင်းဝမင်းဆက်

(မင်းဆက် ၃၀။ ။၇၂၆–၁၁၁၃။ ။မြို့သက် ၃၈၇။)

# ကုန်းဘောင်မင်းဆက်

(မင်းဆက် ၁၁ ဆက်။ ။၁၁၁၄–၁၂၄၇။ ။မင်းအဆက်ဆက် ၁၃၃။)

| | သက္ကရာဇ် | နန်းသက် |
|---|---|---|
| ၁။ အလောင်းမင်းတရား | ၁၁၁၄–၁၁၂၂ | ၈ (ရွှေဘိုမြို့) |
| ၂။ သား–နောင်တော်ကြီး | ၁၁၂၂–၁၁၂၅ | ၃ (ရွှေဘိုမြို့) |
| ၃။ ညီ–ဆင်ဖြူရှင် | ၁၁၂၅–၁၁၃၈ | ၁၃ (ရွှေဘိုနှင့် အင်းဝ) |
| ၄။ သား–စဉ့်ကူးမင်း | ၁၁၃၈–၁၁၄၃ | ၅ (အင်းဝ) |
| ၅။ နောင်တော်ကြီးသား–မောင်မောင် | ၁၁၄၃–၁၁၄၃ (အင်းဝ) | ၇ ရက် |
| ၆။ အလောင်းဘုရား၏ စတုတ္ထသား–ဘိုးတော် | ၁၁၄၃–၁၁၈၁ | ၃၈ (အမရပူရ) |
| ၇။ မြေး–ဘကြီးတော် | ၁၁၈၁–၁၁၉၉ | ၁၉–ခန့် (အရမပူရမှ အင်းဝသို့ပြောင်း) |
| ၈။ ညီ–ကုန်းဘောင်မင်း | ၁၁၉၉–၁၂၀၈ | ၉ (အင်းဝမှ အမရပူရသို့ပြောင်း) |
| ၉။ သား–ပုဂံမင်း | ၁၂၀၈–၁၂၁၄ | ၆ (အမရပူရ) |
| ၁၀။ ညီ–မင်းတုန်းမင်း | ၁၂၁၄–၁၂၄၄ | ၆ (အမရပူရမှ မန္တလေးသို့ပြောင်း) |
| ၁၁။ သား–သီပေါမင်း | ၁၂၄၀–၁၂၄၇ | ၇ (မန္တလေး) |

# အညွှန်း

## ပြုစုသူ - ဒေါ်စန်းစန်းမေ

(တက္ကသိုလ်များ ဗဟိုစာကြည့်တိုက်)

ဤအညွှန်း၌ ကျမ်းပြုစာဆိုတို့၏ အမည် ရှေ့တွင်ပါသော ဦး၊ ရှင်၊ အသျှင်၊ မ၊ မိ၊ မယ် အစရှိသည့် ဝိသေသများကို အက္ခရာစဉ်ရာတွင် နာမည်၏ နောက်သို့ ပို့ပြီး စဉ်ထားပါသည်။

ဤအညွှန်းတွင် (၁) ကျမ်းပြုစာဆိုအမည်၊ (၂) ကျမ်းအမည်နှင့် (၃) စာပေအမျိုးအစားအမည်တို့ကို စနစ်တကျ အက္ခရာစဉ်ထားပါသည်။

အက္ခရာစဉ်ရာတွင် မြန်မာစာ အဖွဲ့က ထုတ်ဝေထားသော မြန်မာအဘိဓာန် အကျဉ်းချုပ် (၅)တွဲတွင် အသုံးပြုသည့် အက္ခရာစဉ် စနစ်ကို အသုံးပြုထားပါသည်။

# အက္ခရာစဉ် မာတိကာ

# ဤစာအုပ် . . .

## [ ၁ ]

ဤစာအုပ်သည် မြန်မာစာပေကို ဖွံ့ဖြိုးသည်ထက် ဖွံ့ဖြိုးလာအောင်၊ တိုးတက်သည်ထက် တိုးတက်လာအောင်၊ ခိုင်မာသည်ထက် ခိုင်မာလာအောင်၊ ကျယ်ပြန့်သည်ထက် ကျယ်ပြန့်လာအောင်၊ ခေတ်မီသည်ထက် ခေတ်မီလာအောင် ဦးစီးဦးဆောင်ပြုကာ အထူးတလည် ကြိုးပမ်းအားထုတ်၍ ပြုစုပျိုးထောင်ပေးခဲ့သော **'ရန်ကုန်တက္ကသိုလ် ပါမောက္ခ ဆရာကြီး ဦးဖေမောင်တင်'** ရေးသားပြုစုထားခဲ့သော မြန်မာစာပေဆိုင်ရာ ကျမ်းငယ်တစ်ဆူ ဖြစ်သည်။ ထို့ကြောင့်လည်း ဤကျမ်းငယ်ကို ဆရာကြီးက **'မြန်မာစာပေသမိုင်း'** ဟု အမည်ပေးထားခဲ့ခြင်း ဖြစ်လေသည်။

ဤကျမ်းငယ်တွင် ဆရာကြီးသည် ရှေးခေတ်အခါက မြန်မာ့လူ့အဖွဲ့အစည်း၌ ပေါ်ပေါက်လာခဲ့သော မြန်မာစာစု၊ မြန်မာမှုများကို အစီအစဉ်နှင့် စနစ်တကျ ရေးသားဖော်ပြထားသည်။ ယင်းသို့ ရေးသားဖော်ပြရာ၌ ဆရာကြီးသည် မြန်မာစာပေ ခေတ်ကို ခေတ် (၇) ခေတ်မျှ ခွဲ၍ တစ်ခေတ်စီ၏ ထင်ရှားခဲ့သော စာပေပညာရှင်များနှင့် ထိုပညာရှင်တို့၏ အကြောင်း၊ ထိုပညာရှင်တို့၏ လက်ရာများကို ဝေဖန်သုံးသပ်ဖော်ပြထားလေသည်။

ပထမဆုံးခေတ်သည် **'ပုဂံကျောက်စာခေတ်'** ဖြစ်၏။ မြန်မာစာပေ အရေးအသား၏ မူလအစဖြစ်သော ကျောက်စာများအကြောင်းကို အကျဉ်းချုပ်၍ ဖော်ပြသည်။ အထူးသဖြင့် ဤခေတ်၏ အဓိကဖြစ်သော **'မြစေတီကျောက်စာ'** အကြောင်းကို နောက်ခံသမိုင်းကြောင်းနှင့်တကွ အရေးအသားကိုပါ ဝေဖန်

သုံးသပ်ပြသည်။ **'မြန်မာစာအစ ကျောက်စာက'** ဟူသော အချက်ကို သိသာမြင်သာအောင်လည်း အကျဉ်းချုပ်၍ ပြသည်။

ထို့နောက် ဆရာကြီးသည် **'ပင်းယခေတ်'** ကို ဖော်ပြသည်။ ဤခေတ်တွင် ပေါ်ထွန်းလာခဲ့သည့် စာပေပညာရှင်မှာ **'စတုရင်္ဂဗလ အမတ်ကြီး'** တစ်ဦးတည်းသာ ဖြစ်၍ အမတ်ကြီး၏ လက်ရာဖြစ်သော **'ရွှေဖဝါးတော်အောက် ကျွန်၏လျှောက်ဖြင့်'** အစချီသော ရတုကို ဝေဖန်သုံးသပ်ပြသည်။

တတိယခေတ်သည် **'အင်းဝခေတ်'** ဖြစ်၍ ဆရာကြီးက ထိုခေတ် တစ်ခေတ်လုံး၏ စာဆိုပညာရှင်များအကြောင်းနှင့် သူတို့၏ လက်ရာများကို ဖော်ပြသည်။ ဤခေတ်တွင် ထူးထူးခြားခြား ပေါ်ပေါက်လာခဲ့သည့် 'ရှင်ဥတ္တမကျော်၊ ရှင်မဟာသီလဝံသ၊ ရှင်အုံးညိုနှင့် ရှင်ခေမာ' စသော ရဟန်းစာဆိုတို့၏ အကြောင်းနှင့် ယင်းတို့၏ လက်ရာများကိုပါ ကောက်နုတ်ပြသည်။

အထူးသဖြင့် ဤခေတ်တွင် ပေါ်ထွန်းလာသည့် 'ချေင်း၊ မော်ကွန်း၊ တောလား၊ ပျို့' စသော ကဗျာ လင်္ကာများ၏ အနက်အဓိပ္ပာယ်၊ သဘောသဘာဝနှင့် အစပ်အဟပ်များကို ဖော်ပြသည်။ ထို့ပြင်လည်း ဆရာကြီးသည် ဤခေတ် စာပေပညာရှင်တို့၏ ထူးခြားပြောင်မြောက်သော အဖွဲ့အနွဲ့များကိုပါ ကောက်နုတ်၍ ဖော်ပြသည်။

ဤခေတ်၏ အထူးခြားဆုံးသော စာဆိုပညာရှင်များမှာ ရဟန်းစာဆိုများဖြစ်ရာ ယင်းတို့အထဲမှ အကျော်အမော် စာဆိုရှင် 'ရှင်ဥတ္တမကျော်' ၏ 'တောလား' မှ . . .

> **"တိမ်ညိုမိုလွှာ၊ တိမ်စူကာနှင့်၊ တိမ်ပြာရောရှက်၊ မရမ်းဘက်၍၊ တိမ်သက်တံ့ရောင်၊ အဝါဘောင်ဝယ်၊ မှောင်ခဲ့တစ်ခါ၊ ပြာခဲ့တချို့၊ ညိုခဲ့တစ်လီ၊ ရီခဲ့တစ်ပုံ၊ မှုန်ခဲ့တစ်ချက်၊ ယုဂန်ထက်က၊ လေးဘက်လုံးခြုံ၊ တိမ်ဂဠုန်လည်း၊ နဂါးရုံကြွေ့၊ ရန်ချင်းတွေ့သော်၊ ခိုးငွေ့လွှတ်ပြိုင်၊ ဂုဏ်ချင်းဆိုင်ခဲ့ . . ."**

စသည့် အရေးအဖွဲ့ အပြောင်မြောက်ဆုံးသော အပိုဒ်တချို့ကိုလည်း ဆရာကြီးက ထုတ်နုတ်ပြသည်။ ပြီးတော့ မည်သို့ပြောင့်မြောက်ရသည်ကို သုံးသပ်ပြသည်။

စတုတ္ထခေတ်မှာ 'တောင်ငူခေတ်' ဖြစ်၍ ပဥ္စမခေတ်မှာ 'ညောင်ရမ်းခေတ်' ဖြစ်၏။ ဤခေတ် နှစ်ခေတ်စလုံးတွင် ပေါ်ထွန်းလာခဲ့သည့် စာဆိုများနှင့် သူတို့၏

လက်ရာများကို ဖော်ပြသည်။ တောင်ငူခေတ်တွင် အထူးခြားဆုံးသော စာပေပညာရှင်သည် 'နတ်ရှင်နောင်' ဖြစ်၍ သူ့အား 'ရတုဘုရင် စာဆိုရှင်' ဟုပင် အမည်ပေးခဲ့ကြသည်။

နတ်ရှင်နောင်အား ရတုဘုရင်ဟု ဘာကြောင့် အမည်ပေးရသည်ကို သိသာစေလိုသော ဆန္ဒဖြင့် ဆရာကြီးက...

**"တင့်လှပေဟန်၊ ဘက်မရန်တည့်၊ ခြောက်တန် နတ်ရွာ၊ ဘုံကလာသို့၊ ပြာပြာလတ်လတ်၊ မွတ်မွတ်ရေးချေ၊ ထုံးနေမကျော့၊ ပတ်လျှော့ဆံကြာ၊ ကျတိုင်းသာလျှင်၊ ရွှေဝါပိတ်ရှင်း၊ ထည်ချင်းစံပယ်၊ နှံ့ကြွယ်လှိုင်ကြူ၊ မဥ္ဇူမျက်မည်း၊ ပေါ်ထပ်စည်းနှင့်၊ မရည်းမထင်၊ ဖြတ်ခြည်းမြင်က၊ နတ်ပင် ယိုးမှား၊ ဝိုးဝါးတွေးချွတ်၊ စိတ်လုံးညွတ်သည်၊ ဘုံထွတ်နန်းတောင်၊ နေတို့လော..."**

ဟူသော အလှဘွဲ့တစ်ပိုဒ်ကို ထုတ်နုတ်ပြသည်။

ထို့ပြင်လည်း ဆရာကြီးသည် ညောင်ရမ်းခေတ်၏ စကားပြေများ ထွန်းကားလာမှုကို သိသာအောင် ဖော်ပြသည်။ ဤခေတ်၏ အထူးခြားဆုံးသော စကားပြေဆရာ ဦးကုလား၏ စကားပြေများကိုလည်း ဆရာကြီးက ကောက်နုတ်တင်ပြထားသည်။ 'ဦးကုလား၏ စကားပြေသည် ရိုးရိုးကလေးနှင့် ဣန္ဒြေရကာ ပြေပြစ်လှသသည်' ဟုလည်း ဝေဖန်ပြထားသည်။

ဆရာကြီးသည် ကုန်းဘောင်ခေတ်ကို နှစ်ပိုင်းခွဲသည်။ တစ်ပိုင်းကို 'ကုန်းဘောင်ခေတ် ပထမပိုင်း' ဟု သတ်မှတ်၍ ကျန်တစ်ပိုင်းကို 'ကုန်းဘောင်ခေတ် ဒုတိယပိုင်း' ဟု သတ်မှတ်သည်။ ဤခေတ်နှစ်ခေတ်စလုံးတွင် ပေါ်ထွန်းလာခဲ့သည့် 'ပျို့၊ ရတု၊ တေးထပ်၊ လေးဆစ်၊ ရကန်၊ မေတ္တာစာ၊ ဘောလယ်' စသော အဖွဲ့အနွဲ့များကို ဖော်ပြသည်။

ဤခေတ် နှစ်ခေတ်တွင် အမျိုးသမီးစာဆိုများလည်း ပေါ်ထွန်းလာခဲ့သည်ဖြစ်ရာ ယင်းတို့၏ အကြောင်းများနှင့် လက်ရာများကို ဆရာကြီးက များစွာအလေးအနက်ထား၍ ဖော်ပြသည်။ ဤခေတ်နှစ်ခေတ်၏ အထူးခြားဆုံးနှင့် အထင်ရှားဆုံးဟု ဆိုအပ်သော စာဆိုပညာရှင်များမှာ 'ဦးသြ၊ လက်ဝဲသုန္ဒရ၊ ဦးတိုး၊ ဦးသြဘာသ၊ မြဝတီမင်းကြီး ဦးစ၊ မမြကလေး၊ ဦးကြင်ဥ၊ လှိုင်ထိပ်ခေါင်တင်၊ ခလေဦးပုည၊ မန်လည်ဆရာတော်' စသည့်ပုဂ္ဂိုလ်များ ဖြစ်လေသည်။

[ ၂ ]

ဤစာအုပ် 'မြန်မာစာပေသမိုင်း' ကို ရေးသားပြုစုခဲ့သော ဆရာကြီး ဦးဖေမောင်တင်အား ခရစ်သက္ကရာဇ် ၁၈၈၈–ခုနှစ်၊ ဧပြီလ (၂၄) ရက်၊ မြန်မာ သက္ကရာဇ် ၁၂၅၀–ပြည့်နှစ်၊ ကဆုန်လပြည့်နေ့တွင် အဖ ဦးဖေ၊ အမိ ဒေါ်မြိုင်တို့မှ အင်းစိန်မြို့၊ ပေါက်တောရပ်တွင် မွေးဖွားသည်။ သားသမီး ခြောက်ယောက်တွင် ဆရာကြီးသည် ပဥ္စမမြောက် သားဖြစ်လေသည်။

ဆရာကြီး အသက်ငါးနှစ်သားအရွယ် ၁၈၉၃–ခုနှစ်တွင် ဆရာကိုရင်ကြီး၏ အလွတ်ပညာသင်ကျောင်း၌ စတင်ပညာသင်ကြားသည်။ ခရစ်ယာန်ဘာသာဝင် ဖြစ်သော ဆရာကြီးသည် အလွတ်ပညာသင်ကျောင်း၌ 'မင်္ဂလသုတ်' မှ အစ ပရိတ်ကြီး (၁၁) သုတ်နှင့် ရှင်သီလဝံသ ဆုံးမစာ၊ ရှင်မဟာရဋ္ဌသာရ ဆုံးမစာ၊ ကဗျာသာရတ္ထသတ်ပုံ၊ လောကနီတိနှင့် ဇာတ်တော်ကြီး' စသည်များကို သင်ကြား ခဲ့ရလေ၏။

ရှစ်နှစ်သားအရွယ် ရောက်သည့်အခါ ဆရာကြီးသည် 'ရန်ကုန် ဟိုက်စကူး ကျောင်း' သို့ ပြောင်းရွှေ့ ပညာသင်ခဲ့ရ၏။ ပညာထူးချွန်သော ဆရာကြီးသည် တစ်နှစ်တစ်တန်း မှန်မှန် အောင်မြင်ခဲ့၍ ခုနစ်တန်းရောက်သည့်နှစ်တွင် 'အစိုးရ စကောလားရှစ်ဆု' ရရှိခဲ့သည်။ ဆရာကြီးသည် အသက်ဆယ့်ခုနစ်နှစ်အရွယ် ၁၉၀၅–ခုနှစ်တွင် ရှေးခေတ်အခေါ် ကိုးတန်း (ယခုခေတ် တက္ကသိုလ်ဝင်တန်း) စာမေးပွဲ အောင်မြင်သည်၊ အောင်မြင်ရာ၌ သာမန်မဟုတ်ဘဲ ထူးခြားစွာ အောင်မြင် ခြင်းကြောင့် 'ရနောင်းဆု' (Renown Prize) ကို ရရှိခဲ့သည်။

၁၉၀၆–ခုနှစ်တွင် ဆရာကြီးသည် ရန်ကုန်ကောလိပ်၌ ပညာသင်ကြားသည်။ ၁၉၀၇–ခုနှစ်တွင် ဥပစာတန်း ဒုတိယနှစ် (Senior Intermediate of Arts) စာမေးပွဲ အောင်မြင်ခဲ့ရာ ပထမရသဖြင့် 'ဂျာဒင်းဆု' (Jardine Prize) ချီးမြှင့်ခြင်း ခံခဲ့ရ ပြန်လေ၏။

၁၉၀၉–ခုနှစ်တွင် ဆရာကြီးသည် ဘီအေပါဠိ ဂုဏ်ထူးတန်းအောင်မြင်ကာ ဝိဇ္ဇာဘွဲ့ ရခဲ့သည်။ ဆရာကြီးနှင့်အတူ မောင်ဘဟန် (ဒေါက်တာဘဟန်) အပါအဝင် ကျောင်းသားကိုးဦး ဝိဇ္ဇာဘွဲ့ ရခဲ့ကြ၏။ ထိုအချိန်က ဆရာကြီး၏ အသက်သည် ၂၁–နှစ်မျှသာ ရှိပေသေးသည်။

၁၉၁၁–ခုနှစ်တွင် မဟာဝိဇ္ဇာဘွဲ့ကို ပါဠိဘာသာဖြင့် အောင်မြင်ခဲ့သော ဆရာကြီးသည် ၁၉၁၂–ခုနှစ်၊ ဇူလိုင်လ (၂၄) ရက်နေ့တွင် ရန်ကုန်ကောလိပ်၌ 'ပါဠိပါမောက္ခ' အဖြစ် ခန့်ထားခြင်း ခံရသည်။ မြန်မာအမျိုးသားထဲမှ ပါမောက္ခ ရာထူးကို ပထမဆုံး ရရှိခြင်းပေတည်း။

ဆရာကြီး စာ စတင်ရေးသားသည့်နှစ်မှာ (မှတ်တမ်းများအရ) ၁၉၁၁–ခုနှစ် ဖြစ်သည်။ ထိုနှစ် ဇွန်လထုတ် 'မြန်မာနိုင်ငံ သုတေသနအသင်း ဂျာနယ်၊ အတွဲ–၁၊ အမှတ်–၁' (The Journal of Burma Research Society, Vol 1, Part 1) ၌ 'ခရစ်ယာန်သာသနာပြု မြန်မာစာ' (Missionary Burmese) ဆောင်းပါးကို 'မောင်တင် (ဘီအေ)' ကလောင်အမည်ဖြင့် စတင်ရေးသားသည်။

၁၉၂၀–ခုနှစ်တွင် အင်္ဂလန်နိုင်ငံသို့ ပညာတော်သင်အဖြစ် ထွက်ခွာခဲ့သော ဆရာကြီးသည် 'အောက်စဖို့ဒ်တက္ကသိုလ်၊ အက်ဇီတာကောလိပ်' (Oxford University, Exeter College) ၌ ပညာသင်ကြားခဲ့ရာ ၁၉၂၂–ခုနှစ်တွင် 'The Path of Purity, Part I' (ဝိသုဒ္ဓိမဂ်–ပထမပိုင်း) စာတမ်းတင်သွင်းခဲ့သဖြင့် ဘီလစ် (B.Litt) ဘွဲ့ကို ရရှိခဲ့လေသည်။

၁၉၂၄–ခုနှစ်၊ ဩဂုတ်လထဲတွင် မြန်မာနိုင်ငံသို့ ပြန်လည်ရောက်ရှိလာခဲ့သော ဆရာကြီးသည် ရောက်ရှိပြီး မကြာခင်မှာပင် ရန်ကုန်တက္ကသိုလ် အရှေ့တိုင်း ဘာသာရပ် ဌာနမှူး တာဝန်ဖြင့် အလုပ်ပြန်ဝင်ခဲ့သည်။ ယင်းတာဝန်ကို ထမ်းဆောင်နေစဉ်အတွင်း ဆရာကြီးသည် 'ရန်ကုန်တက္ကသိုလ်၌ မြန်မာစာသင်ကြားမှုကို တိုးချဲ့ပေးရန်' တက္ကသိုလ် ဆီးနိတ်အဖွဲ့သို့ အရေးဆိုခဲ့၏။

အင်္ဂလိပ်ခေတ်ဖြစ်သော်လည်း တိုင်းသူပြည်သားများအတွက်လည်း အကျိုးဖြစ်ထွန်း၍ ကျိုးကြောင်းဆီလျော်ခိုင်လုံမှုလည်း ရှိမည်ဆိုပါက အင်္ဂလိပ်ပညာရှင်တို့သည် အရေးဆိုမှုကို လိုက်လျောတတ်သည်ဖြစ်ရာ ဆရာကြီး၏ အဆိုကိုလည်း လိုက်လျောလက်ခံခဲ့သည်။ ထိုနှစ်မှာပင် ဆီးနိတ်အဖွဲ့မှ ကျောင်းသားတိုင်း မြန်မာစာတန်းနိမ့်ကို မသင်မနေရ ဘာသာရပ်အဖြစ် ဥပဒေပြဋ္ဌာန်းပေးခဲ့လေသည်။

၁၉၂၅–ခုနှစ်တွင် ဆရာကြီး၏ ကြိုးပမ်းမှုဖြင့် ရန်ကုန်တက္ကသိုလ်တွင် 'မြန်မာစာဝိဇ္ဇာဂုဏ်ထူးတန်း' ကို ဖွင့်လှစ်ခဲ့သည်။ ပထမဦးဆုံး ဂုဏ်ထူးတန်း ကျောင်းသားမှာ တစ်ဦးတည်းဖြစ်၍ 'မောင်စိန်တင်' ဆိုသူ ဖြစ်၏။ ယင်း မောင်စိန်တင်သည် နောင်အခါတွင် အိုင်စီ–အက်စ် ဦးစိန်တင် ဖြစ်လာခဲ့ပြီး

'သိပ္ပံမောင်ဝ' အမည်ဖြင့် ထူးခြားထင်ရှားသော စာရေးဆရာတစ်ဦး ဖြစ်လာခဲ့လေသည်။

၁၉၂၆-ခုမှ ၁၉၂၇-ခုနှစ် ကာလအတွင်း 'မြန်မာနိုင်ငံ သုတေသနအသင်း ဂျာနယ် စာတည်းနှင့် စာကြည့်တိုက်မှူး တာဝန်ယူခြင်း၊ မြန်မာစာ မဟာဝိဇ္ဇာ ဂုဏ်ထူးတန်းကို ဦးဆောင်ဖွင့်လှစ်ခြင်း၊ သူငယ်တန်းမှ ပဉ္စမတန်းအထိ ကျောင်းသုံး 'မြန်မာဖတ်စာများ' ပြုစုထုတ်ဝေခြင်း စသည်-စသည်များကို ဆောင်ရွက်ခဲ့သော ဆရာကြီးသည် ၁၉၂၈-ခုနှစ်တွင် ဘိလပ်ပြန်ဝတ်လုံတော်ရ ဦးဖိုးဒန်၊ ဒေါ်မြကြီး တို့၏ သမီး (ဒေါ်)ကြည်ကြည် (Edith) နှင့် လက်ထပ်ခဲ့လေ၏။

၁၉၂၉-ခုနှစ်တွင် ဆရာကြီး၏ The Path of Purity Part 2 (ဝိသုဒ္ဓိမဂ်-ဒုတိယပိုင်း) ကိုလည်းကောင်း၊ ၁၉၃၁-ခုနှစ်တွင် The Path of Purity Part 3 (ဝိသုဒ္ဓိမဂ်- တတိယပိုင်း) ကိုလည်းကောင်း ထုတ်ဝေခဲ့သည်။ ဗုဒ္ဓဘာသာ၏ အနှစ်သာရဖြစ်သော ဝိသုဒ္ဓိမဂ်ကျမ်းကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့သည့်အတွက် ယိုးဒယား (ထိုင်း) ဘုရင်မှ ပေါင်တစ်ထောင် ဆု ချီးမြှင့်ခဲ့၏။ ဆုငွေအားလုံးကို ဆရာကြီးက 'လန်ဒန်ပါဠိအသင်း' သို့ ပြန်လည် လှူဒါန်းခဲ့သည်။ ယင်းစာအုပ် သုံးတွဲကို ပေါင်း၍ လန်ဒန်ပါဠိ အသင်းမှ ၁၉၇၁-ခုနှစ်တွင် တစ်တွဲတည်း ထုတ်ဝေခဲ့လေသည်။

ဤစာအုပ် 'မြန်မာစာပေသမိုင်း' ကိုမူ ၁၉၃၈-ခုနှစ်တွင် စတင်ထုတ်ဝေခဲ့သည်။ ထိုစဉ်က 'ဇမ္ဗူမိတ်ဆွေ ပိဋကတ်တိုက်' မှ ပထမဆုံးအကြိမ် ထုတ်ဝေခဲ့ခြင်းဖြစ်၏။ မြန်မာစာပေ တိုးတက်ဖွံ့ဖြိုးရေးအတွက် ဆရာကြီး ရေးသားပြုစုခဲ့သော စာအုပ်စာတမ်းများမှာ အများအပြားရှိခဲ့ရာ ယင်းတို့ထဲတွင် 'အထက်တန်း မြန်မာကဗျာ ကောက်နုတ်ချက်များ၊ မြန်မာဝါကျဖွဲ့ထုံးကျမ်း၊ အထက်တန်းကျောင်းသုံး မြန်မာသဒ္ဒါ၊ အလယ်တန်း မြန်မာသဒ္ဒါ၊ မြစေတီကျောက်စာ၊ ရွှေစည်းခုံ မှန်ကျောက်စာ (မြန်မာပြန်)၊ ကျန်စစ်သားမင်းကြီး၏ နန်းတော် မှန်ကျောက်စာ (မြန်မာပြန်)၊ ဘာသာလောကကျမ်း၊ တန်းမြင့်သဒ္ဒါနှင့် အသုံးအနှုန်း၊ မြန်မာဝတ္ထု သမိုင်းအစနှင့် သုတေသနစာတမ်းများ စသည်တို့ ပါဝင်ခဲ့လေသည်။

ထို့ပြင်လည်း ဆရာကြီးသည် လယ်တီဆရာတော် မြန်မာပြန်ခဲ့သော 'ဓမ္မစက္ကပဝတ္တနသုတ်နှင့် အနတ္တလက္ခဏသုတ်' ကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ရာ ၁၉၇၃-ခုနှစ်တွင် 'ပါဠိ၊ မြန်မာ၊ အင်္ဂလိပ်' သုံးဘာသာတွဲ၍ Buddha First

Sermon: Dhamma Cakkapavattana Sutta and Anattalakhh ana Sutta အမည်ဖြင့် ထုတ်ဝေခဲ့သည်။

မြန်မာနိုင်ငံနှင့် မြန်မာလူမျိုးတို့၏ အကျိုးစီးပွားအတွက် မြန်မာစာပေလောကကို ဖွံ့ဖြိုးတိုးတက်အောင် တစိုက်မတ်မတ် ကြိုးပမ်းအားထုတ်ခဲ့သော ဆရာကြီးသည် ၁၉၇၃–ခုနှစ်၊ မတ်လ ၂၂–ရက်နေ့တွင် ကွယ်လွန်ခဲ့သည်။ ကွယ်လွန်ချိန်တွင် ဆရာကြီး၏ အသက်သည် ရှစ်ဆယ့်ငါးနှစ်မျှ ရှိခဲ့ပေပြီ။

ဆရာကြီးသည် မြန်မာလူမျိုးနှင့် မြန်မာစာပေ တိုးတက်ရေးကို အားသွန်ခွန်စိုက် ကြိုးပမ်းနေစဉ်က မြန်မာနိုင်ငံသားတို့၏ တိုးတက်ကြီးပွားရေးကို အထောက်အကူ ပြုမည့် နိုင်ငံခြား စာအုပ်စာတမ်းများကို မြန်မာဘာသာသို့ ပြန်ဆိုရေးသားထုတ်ဝေကြရန် မကြာခဏ တိုက်တွန်းခဲ့သည်ဟု ဆိုပါသည်။

မည်သို့ပင်ဆိုစေ ဟောပြောပွဲတစ်ခု၌ ဆရာကြီး ပေးသွားသော ဩဝါဒတစ်ခုရှိခဲ့သည်ဟု ဆရာကြီး မောင်ထင်က ဆိုခဲ့ဖူးသည်။ ယင်းမှာ "ကလောင်ကိုလည်း တယ်ပြီးတော့ မကလိကြနဲ့ပေါ့၊ ကလောင်ကလိလွန်းရင်လည်း ကျိုးသွားမယ်၊ တို့တစ်တွေ ရေးနေတဲ့ ကလောင်က ဘာလဲ၊ ပတ်ကားကလောင်လား၊ ပိုင်းလော့ကလောင်လား၊ အေး . . . ဘာနဲ့ပဲ ရေးရေး၊ မင်းတို့ရေးတာက မြန်မာစာ၊ မြန်မာစာကို ရေးရာမှာ နိုင်နိုင်နင်းနင်း ရေးကတ်ဖို့၊ အသိအထားမှန်ဖို့ ဂရုပြုရမယ်၊ မြန်မာစာနဲ့ ရေးရာမှာ လူတစ်ယောက်ကို ဆဲရတာ လွယ်သလောက် ချီးကျူးရတာခက်တယ်၊ ဒါကြောင့်မို့လို့ မင်းတို့ ကလောင်က ထွက်လာတဲ့ စာတွေဟာ စာကောင်းစာမွန်တွေ ဖြစ်ပါစေလို့ ဆရာ ဆုတောင်းပါတယ်" ဟူ၍ ဖြစ်၏။

ဤတွင် ဦးဖေမောင်တင် (၁၀၁) နှစ်ပြည့် အထိမ်းအမှတ် ကျင်းပစဉ်က ဆရာကြီး ဒေါက်တာလှဖေက 'မြန်မာဘာသာစာပေ ကျေးဇူးသခင် ပညာရှင် ဦးဖေမောင်တင်' ဟူသော ခေါင်းစီးဖြင့် ဂုဏ်ပြုစာတမ်း တင်သွင်းခဲ့ရာ ယင်းစာတမ်းနိဂုံးတွင် ဤသို့ ဝမ်းနည်းစကားဆိုခဲ့သည်။

"ဆရာကြီးသည် ၁၉၇၃–ခု၊ မတ်လ ၂၂–ရက်၊ ကြာသပတေးနေ့ နံနက်တွင် လူကြီးရောဂါနှင့် အသက် (၈၅) နှစ်၌ အနိစ္စရောက်သွားပါသည်။ ၁၉၂၄–ခုနှစ်မှ ၁၉၆၄–ခုအထိ နှစ်ပေါင်း (၄၀) ခန့် မြန်မာဘာသာစာပေအတွက် တစိုက်မတ်မတ် ဆောင်ရွက်ခဲ့သည့် ကျေးဇူးရှင်ကြီးကား အိုဇာတာ မကောင်းလှသဖြင့် ခြိုးခြိုးခြံခြံ နေခဲ့ရသည့် အဖြစ်ကို တွေးလိုက်မိသည့်အခါ စိတ်မချမ်းမြေ့ခြင်း အကြီးအကျယ်ဖြစ်ပြီး တွေးတောစရာ အဖြာဖြာကြားမှ အဓိက အချက်တစ်ချက် ပေါ်လာပါ၏။

.........၊ (ယင်းမှာ) သက်တမ်းစေ့၍ စိတ်အေးချမ်းသာစွာနှင့် ခေါင်းချသွားနိုင်အောင် ဆရာကြီးအား ဘာကြောင့် ဗုဒ္ဓဘာသာ မြန်မာလူမျိုးတို့က မလှူဘဲ နေခဲ့ကြသလဲဆိုသည့် အချက်ပင် ဖြစ်ပါ၏။"

ဆရာကြီး ဒေါက်တာလှဖေ၏ 'ဝမ်းနည်းစကား' သည် မြန်မာလူမျိုးတို့ အထူးသတိထား၍ နှလုံးသွင်းသင့်သည့် စကားဖြစ်ပါသည်။ ထိုစကားကို မမေ့မလျော့ မပေါ့သော သတိဖြင့် အမြဲတစေ နှလုံးသွင်းနိုင်ကြမည်ဆိုပါက ပူဇော်သင့် ပူဇော်ထိုက်၊ ပြုစုသင့် ပြုစုထိုက်သူများအား သေခါမှ ချီးကျူးတမ်းတ တသသ လုပ်နေမည့်အစား မသေမီကတည်းက ဒုက္ခရောက်လျှင် ရောက်သလို ကူညီစောင့်ရှောက်ခြင်းကို ပြုသင့်ကြသည်ဟု ထင်ပါ၏။

* * *

[ ၃ ]

ဤစာအုပ် 'မြန်မာစာပေသမိုင်း' အကြောင်းကိုလည်းကောင်း၊ ဤကျမ်းငယ်ကို ရေးသားပြုစုခဲ့သော ဆရာကြီးဦးဖေမောင်တင် အကြောင်းကိုလည်းကောင်း ဖော်ပြခဲ့ပြီးပြီ။ ယခုတစ်ဖန် ဤစာအုပ်နှင့် ပတ်သက်၍ ပြောသင့်ပြောထိုက်သည်ဟု ယူဆမိသော အကြောင်းတစ်ခုကို ပြောပြချင်မိပါသည်။

ကျွန်တော် မှတ်မိနေပါသေးသည်။ **'ထိုအချိန်က'** ကျွန်တော့်အသက်သည် ဆယ့်လေးနှစ်...။ ကျွန်တော် ပညာသင်ကြားနေရသည့် အတန်းမှာ 'ပဥ္စမတန်း'။ ဤနေရာတွင် **'ထိုအချိန်က'** ဟူသော စကားကို အနည်းငယ်မျှ 'ရှင်း'ဖို့ လိုလိမ့်မည်ဟု ကျွန်တော် ထင်ပါသည်။

**'ထိုအချိန်က'** ဆိုသည်မှာ ဤစာအုပ် **'မြန်မာစာပေသမိုင်း'** နှင့် ကျွန်တော် အမှတ်မထင် ဆုံမိခဲ့ကြသည့် **'အချိန်ကာလတစ်ခု'** ကို ဆိုခြင်းဖြစ်သည်။ တစ်ရက်သော နေ့ခင်းတွင် ကျွန်တော့်အဖေသည် အိမ်ခေါင်းရင်းဘက် မြေစိုက်တဲကြီးအတွင်းရှိ ဝါးကွပ်ပျစ်ပေါ်၌ လဲလျောင်းကာ စာဖတ်နေသည်။ တစ်ချီ... တစ်ချီတွင် သူသည် ကဗျာလိုလို ဘာလိုလို စာပိုဒ်များကို သံနေသံထားဖြင့် အော်၍ ဖတ်နေသည်။ နားထောင်၍ ကောင်းလှပါသည်။

အဖေသည် စာဝါသနာကြီးသူ ဖြစ်၏။ သား နှစ်ယောက်နှင့်လည်း တရင်းတနှီး တရောတနှော နေတတ်သူ ဖြစ်၏။ အထူးသဖြင့် သားအကြီးဖြစ်သော ကျွန်တော်သည် အဖေနှင့် တရင်းတနှီး ပို၍ရှိခဲ့သည်။ တစ်ခါတစ်ရံ စိတ်လိုလက်ရရှိသည့် အခါများတွင် အဖေသည် ကျွန်တော့်အား သီချင်းဆိုပြတတ်သည်။ သီချင်းများမှာ **'နန်းတော်ရှေ့ ဆရာတင်နှင့် မြို့မငြိမ်း'** တို့၏ သီချင်းများ ဖြစ်သည်။ အဖေသည် သူ့ခေတ်က အလွန်နာမည်ကြီးခဲ့သော **'အငြိမ့်မင်းသမီး လေဘာတီမမြရင်'** ကို 'စွဲ'ခဲ့သူဖြစ်၍ မမြရင် ဆိုထားသမျှ သီချင်းအားလုံးလိုလိုကိုလည်း အလွတ် ရသူ ဖြစ်၏။

တစ်ခါတလေကျတော့လည်း အဖေသည် ကျွန်တော့်အား 'ရတုတေးထပ်နှင့် ဘောလယ်များ' ကို အသံနေ အသံထားဖြင့် ရွတ်ပြတတ်ရုံမျှမက ရေးစပ်သူအကြောင်း နှင့် အဓိပ္ပာယ်များကိုပါ ရှင်းပြတတ်၏။ ဤသို့ဖြင့် ကျွန်တော်သည် ခပ်ငယ်ငယ် ကတည်းက လက်ဝဲသုန္ဒရ အမတ်ကြီး၏ **'မဲဇာတောင်ခြေ'** နှင့် **'ဝေဠုန်းစန္ဒာ'** ရတုများနှင့် ထိတွေ့မှုရှိခဲ့သည်။ စလေဦးပုညနှင့် အချုပ်တန်း ဆရာဖေတို့၏ တေးထပ်များနှင့်လည်း ထိတွေ့ခဲ့ရ၏။ 'လှိုင်ထိပ်ခေါင်တင်' ၏ ဘောလယ်တချို့ နှင့်လည်း ထိတွေ့ခဲ့ရလေသည်။

စောစောက ကျွန်တော် ခင်းထားခဲ့သည့် စကားကို ဆက်လိုပါသည်။ ဆိုနေ့က အဖေ အော်ဖတ်နေသော စာပိုဒ်သည် ကျွန်တော့်အဖို့ နားဝင်ချိုလျက် ရှိလေရာ ကျွန်တော်သည် အဖေ့လက်ထဲမှ စာအုပ်ကို သွားကြည့်မိသည်။ စာအုပ် အမည်မှာ 'မြန်မာစာပေသမိုင်း'၊ ရေးသူမှာ 'ဦးဖေမောင်တင်'။

"အဖေရွတ်နေတာ ဘာလဲ၊ ရတုလား" ဟု ကျွန်တော်က မေးမိသည်။ ဘာနှင့် ပတ်သက်လျှင် အလွန်စိတ်ရှည်သော အဖေက ကျွန်တော့်အမေးကို ဤသို့ ဖြေသည်။

"အဲဒါ ရတုမဟုတ်ဘူးကွ၊ 'တောလား'"

ဤစာအုပ် 'မြန်မာစာပေသမိုင်း' နှင့် ဒုတိယအကြိမ် ပြန်လည်ဆုံမိခဲ့သည်မှာ ၁၃၄၇–ခုနှစ်၊ အသက်က (၁၆)နှစ်၊ အတန်းက ရှစ်တန်း၊ ထိုနှစ်တွင် 'မြန်မာ စာပေသမိုင်း' သည် ကျွန်ုပ်တို့ ရှစ်တန်းအတွက် ပြဋ္ဌာန်းစာအုပ်ဖြစ်လာခဲ့၏။ သို့သော်လည်း တစ်အုပ်လုံးကို သင်ရသည်မဟုတ်။

ထိုစဉ်က မြန်မာစာပေသမိုင်းကို ကျွန်တော်တို့ သင်ယူခဲ့ရသည်မှာ အပိုင်း သုံးပိုင်းခွဲ၍ သင်ယူခဲ့ကြရခြင်း ဖြစ်သည်။ ရှစ်တန်းတွင် 'ပုဂံကျောက်စာခေတ်၊

ပင်းယခေတ်နှင့် အင်းဝခေတ်' ခေတ်သုံးခေတ်ကို သင်ရသည်။ ကိုးတန်းတွင် 'တောင်ငူခေတ်နှင့် ညောင်ရမ်းခေတ်' ခေတ်နှစ်ခေတ်ကို သင်ယူရပြီး ဆယ်တန်းတွင် 'ကုန်းဘောင်ခေတ် ပထမပိုင်းနှင့် ဒုတိယပိုင်း' ကို သင်ယူရသည်။

ဤသို့ဖြင့် ကျွန်တော်သည် 'မြန်မာစာပေသမိုင်း' နှင့် ပတ်သက်၍ အခြေခံ အကြောင်းခြင်းရာများကို သိလာသည်။ နားလည်လာသည်။ ကျွန်တော်တို့ စာပေသည် ဘယ်က လာသည်၊ ဘယ်မှာ သန္ဓေတည်သည်၊ ရတု၊ ရကန်၊ အဲ၊ အန်၊ လူးတား' မှ အစ 'ချေင်း၊ မော်ကွန်း၊ တောလား' စသည်များကိုလည်းကောင်း၊ 'ပျို့၊ ကဗျာ၊ သာချင်း၊ တေးထပ်၊ ဘောလယ်၊ မေတ္တာစာ' စသည်များကိုလည်းကောင်း နားလည်ခွင့်ရလာခဲ့လေသည်။

ထိုအခါတွင် ကျွန်တော်သည် ကိုယ့်စာပေအပေါ်၌ စိတ်ဝင်စားခြင်း၊ လေးစားခြင်းနှင့် မြတ်နိုးခြင်း စသော စိတ်တို့သည် ဖြစ်ပေါ်လာသည်။ ကိုယ့်စာပေ၏ ကျယ်ပြန့်မှုပမာဏနှင့် အတိုင်းအတာကိုလည်းကောင်း၊ အားသာချက်နှင့် အားနည်းချက်များကိုလည်းကောင်း မြင်လာ သိလာသည်။

အမှန်တော့ ဤစာအုပ်သည် မြန်မာစာပေ၏ သမိုင်း အကျဉ်းချုပ်ကလေး ဖြစ်သည်။ ဤသမိုင်းအကျဉ်းချုပ်ကလေးထဲတွင် ထူးခြားသည့် ပျို့၊ ကဗျာ၊ လင်္ကာများနှင့် စကားပြေများ၊ ထင်ရှားကျော်ကြားသည့် စာဆိုပညာရှင်များကို တွေ့ရမည် ဖြစ်၏။ မြန်မာလူမျိုးတစ်ယောက်အနေဖြင့် မြန်မာစာပေ၏ အခြေခံကို ထဲထဲဝင်ဝင် ဖြစ်လာအောင် 'ပေး'ထားခြင်းဖြစ်သဖြင့် ဤစာအုပ်၏ တန်ဖိုးသည် ကြီးမားသည်ဟု ဆိုရမည်ဖြစ်သည်။

သို့ဖြစ်ရာ ဤစာအုပ် 'မြန်မာစာပေသမိုင်း'သည် ကျောင်းသူ ကျောင်းသား လူငယ်များအတွက်သာမက လူရွယ် လူလတ်ပိုင်းနှင့် လူကြီးများအတွက်ပါ များစွာ အထောက်အကူပြုနိုင်မည့် စာအုပ်ဟု သတ်မှတ်လျှင် မှားနိုင်အံ့ မထင်ပါ။

ဆရာကြီး ဦးဖေမောင်တင်၏ ကျေးဇူးသည် ကြီးမားလှပါဘိသည်။ နိုင်ငံနှင့် လူမျိုး တိုးတက်မြင့်မားရေးအတွက် ဆောင်ရွက်ခဲ့ကြသော ကြိုးပမ်းခဲ့ကြသော လူတို့၏ ကျေးဇူးတရားကို အသိအမှတ်ပြုခြင်းနှင့် ပြန်လည်ပေးဆပ်ခြင်းတို့သည် အဆင့်အတန်းမြင့်သော လူမျိုးတို့၏ အကျင့်စရိုက်ဖြစ်၏။ သို့ဆိုလျှင် . . .

**မောင်ထွန်းသူ**

(၉) ရက်၊ အောက်တိုဘာ၊ ၂၀၀၂။

# မြန်မာစာပေသမိုင်း

## နိဒါန်း

သမိုင်းဟူသည် ရှေးရှေးက ဖြစ်ပျက်ခဲ့သော အကြောင်းအရာများကို စုပေါင်း၍ စကားပြေဖြင့်ဖြစ်စေ၊ လင်္ကာဖြင့်ဖြစ်စေ၊ ရေးသားထားသည့် စာပေများ၏ အမည်ဖြစ်သည်။ ဤသို့ဖြစ်သည်ကို ထောက်လျှင် ကျွန်ုပ်တို့ လက်ထက်မတိုင်မီက ဆယ်ပေါက် ထွန်းကားခဲ့သော မြန်မာစာစု မြန်မာမှုများကို အစီအစဉ်နှင့်တကွ ဖော်ပြအပ်သော ဤစာအုပ်ကိုလည်း 'မြန်မာစာပေသမိုင်း' ဟူသော အမည်ကို ပေးရန် အသင့်လျော်ဆုံး ဖြစ်သည်ဟု ထင်မြင်မိ၏။

စင်စစ်အားဖြင့် ဤစာအုပ်သည် မြန်မာစာပေ ရာဇဝင်ချုပ်ကလေးပင် ဖြစ်၏။ အဘယ်ကြောင့်ဟူမူ ပုဂံခေတ်၊ အင်းဝခေတ်၊ တောင်ငူခေတ် စသည်ဖြင့် ရာဇဝင် ကျမ်းများ၌ ပိုင်းခြားသကဲ့သို့ ဤစာအုပ်တွင်လည်း ခေတ် အပိုင်းအခြား အစီအစဉ်ဖြင့် တစ်ခေတ်တစ်ခေတ်အတွင်း ထင်ရှားကျော်စောသော စာဆိုတော် များနှင့် ထိုပုဂ္ဂိုလ်တို့၏ ထူးခြားသော အကြောင်းများကို ဖော်ပြရုံမျှမက ဝေဖန် သင့်သည့် နေရာ၌ ဝေဖန်၍ ပုဂ္ဂိုလ်တစ်ဦးနှင့်တစ်ဦး နှိုင်းယှဉ်ပြသင့်သည့် နေရာ၌ လည်း ဉာဏ်မီသလောက် နှိုင်းယှဉ်၍ ပြထားသောကြောင့် ဖြစ်၏။ ရာဇဝင် ကျမ်းကို ပြုစုရာ၌ သေးသိမ် မှေးမှိန်သော အကြောင်းအရာများ၊ အလေးဂရု မပြုထိုက်သော အဖြစ်အပျက်များကို တမင်သက်သက် ချန်လှပ်ထားခဲ့ပြီးလျှင်

# နိဒါန်း

အရေးပါအရာရောက်၍ ဥဒါန်းတွင်ရစ်လောက်သော အကြောင်းအရာများကိုသာ ရွေးချယ် စိစစ်ပြုစုသည့်နည်းတူ ကျွန်ုပ်သည်လည်း ရာဇဝင်နှင့် တူသော ဤမြန်မာ စာပေသမိုင်းတွင် အထူး ဂရုပြု၍ မှတ်သားလောက်သော ကျမ်းများနှင့် ထင်ရှား ကျော်စောသော စာဆိုတော်များကိုသာ ရွေးချယ်စိစစ် ရေးသားဖော်ပြ၍ ရှေးရှေး အခါကပင် ကျော်စောခဲ့ဟန် မတူသော ပုဂ္ဂိုလ်တို့နှင့် ကျမ်းများကိုကား တမင် သက်သက်ပင် ချန်လှပ်၍ ထားခဲ့ပါသည်။

ဤစာအုပ်ငယ်ကလေးတွင် ရှေးရှေးက ပေါ်ထွန်းခဲ့သမျှသော စာဆိုပုဂ္ဂိုလ် ဟူသမျှနှင့် ထိုပုဂ္ဂိုလ်တို့၏ ကျမ်းများကို ဝေဖန်၍ ပြရန်ကား လွယ်ကူသည်မဟုတ်။ ထို့ကြောင့် မည်သည့်ပုဂ္ဂိုလ်ကို ချန်ထားခဲ့သည်။ မည်သည့် ကျမ်းကား ကျန်ခဲ့ပြီ စသည်ဖြင့် စောဒက မတက်သင့်ပေ။ အဘယ်ကြောင့်ဟူမူ မြန်မာစာပေသည် လွန်စွာ နက်ကျယ်လှသည့်အတွက် ခရားစေ့တွင်းကျ အားလုံးသော စာဆိုပုဂ္ဂိုလ် တို့နှင့် စာပေဟူသမျှတို့ကို ဤစာအုပ်တစ်အုပ်ထဲတွင် ရေးသားဖော်ပြခြင်းငှာ ဖြစ်နိုင်ဖွယ်ရာ အကြောင်းမရှိသောကြောင့်ပေတည်း။ ဤစာအုပ်သည် အထူးသဖြင့် ကျောင်းသားသူငယ်များအဖို့ မြန်မာစာပေ၏ အရသာ ပေါ်စေနိုင်ရုံလောက်ကိုသာ ရည်မှန်း ရေးသားပြုစုသော ကျမ်းဖြစ်သောကြောင့် အကြောင်းအရာ မစုံလင်နိုင်ပေ။ မြန်မာစာပေတွင် တွေ့ရှိရသမျှ အကြောင်းအရာများကို စုံလင်အောင် စုပေါင်း သိုသိပ်၍ ရေးသားပြန်ပါကလည်း ကျမ်းစာအုပ် အလွန်ကြီးမားသွားမည်ဖြစ်၍ သင်ကြား ဖတ်ရှုလိုသူတို့အတွက် ခက်ခဲ ဝန်လေးနေခြင်း၊ သင်ကြားဖတ်ရှုကြပါ သော်လည်း ငါးသိုင်းများ ဟင်းဟုံ ဆိုဘိသကဲ့သို့ အရေးကြီးသော အချက်များကို စေ့စေ့စပ်စပ် မှတ်သားဂရုမပြုနိုင်ဘဲ စာ၏အရသာ ပေါ့ပျက်သွားခြင်း ရှိကြမည်ကို စိုးရိမ်ဖွယ်ရှိ၏။

သင်ကြားဖတ်ရှုလိုသူတို့ လွယ်ကူစေရန် မကျဉ်းမကျယ် ရေးသားရာမှာလည်း ကျွန်ုပ်တို့ နေ့စဉ်စားသောက်သော အစားအစာများတွင် အချို၊ အချဉ်၊ အဖန်၊ အခါး စသော အရသာများကို ရောနှော၍ သုံးဆောင်ပါလျှင် အဘယ် အရသာ ဟူ၍ မည်မည်ရရမရှိ။ ပေါ့ပျက်ပျက် ဖြစ်သွားဘိသကဲ့သို့ စာပေတွင်လည်း အမျိုးမျိုး ရောနှောထားပါက စာဖတ်သူတို့သည် မည်မည်ရရ မည်သည့်အရသာကိုမျှ ခံစားနိုင်ကြမည် မဟုတ်ပေရာ။ ထို့ကြောင့် စာပေ၏ အရသာကို လိုရာရွေးကောက် ထုတ်နုတ်၍ သုံးစွဲနိုင်ကြစေခြင်းငှာ ပုဂံခေတ်၊ ပင်းယခေတ်၊ အင်းဝခေတ်၊

ဆောင်ငူခေတ်၊ ညောင်ရမ်းခေတ်၊ ပထမကုန်းဘောင်ခေတ်၊ ဒုတိယကုန်းဘောင်ခေတ် ဟူ၍ ခေတ်အပိုင်းအခြားဖြင့် သတ်မှတ်ကာ အရသာအမျိုးမျိုးတို့ကို ခွဲခြားစိတ်ဖြာ၍ ပြထားပါ၏။

ဤသို့ ခေတ်အပိုင်းအခြားအားဖြင့် သတ်မှတ်သည်ဆိုသော်လည်း ရာဇဝင်ကျမ်းများတွင် သတ်မှတ်သကဲ့သို့ နန်းစဉ်နန်းဆက် မင်းပြောင်းမင်းလွဲကိုလိုက်၍ ခေတ်တိုင်း မခွဲခြားမသတ်မှတ်ဘဲ စာပေ၏ရာဇဝင်ဖြစ်သည့် အားလျော်စွာ စာပေထွန်းပေါ်သည့် အခြေအနေသို့ လိုက်၍သာ ခေတ်ကို ခွဲခြားသတ်မှတ်သင့်၏။ ဤအရာ၌ အင်းဝမြို့ကို တကောင်းမင်းရိုး၊ သတိုးမင်းဖျား တည်ထောင်သည့် သက္ကရာဇ်–၇၂၆ မှ စသော အင်းဝခေတ်သည် ရှမ်းသိုဟန်ဘွား သားအဖတို့ ဖျက်၍ အင်းဝပျက်စီးရသော သက္ကရာဇ် ၈၈၈–ခုနှစ်တွင် အဆုံးမသတ်သင့်ပေ။ အဘယ့်ကြောင့်ဟူမူ သက္ကရာဇ် ၈၈၈–ခုနှစ်တွင် အင်းဝပျက်သော်လည်း မြန်မာစာပေ၏ အရှိန်သည်ကား မသတ်သေး။ သက္ကရာဇ် ၉၀၀–ကျော် ၉၁၅–ခုနှစ်ခန့်တိုင်အောင် အင်းဝမြို့တစ်ဝိုက်၌ အင်းဝစာဆိုများ ပေါ်ထွန်းလျက် ရှိနေကြသေးသောကြောင့်ပင်တည်း။ ထိုအခါတွင် လွန်စွာကျော်စောသော အင်းဝ ရှင်အဂ္ဂသမာဓိနှင့် ရှင်ဣန္ဒဂုတ္တ စာဆိုတို့သည် သက္ကရာဇ် ၉၀၀–ကျော်မှ စာဆိုကြ၏။ ထို့ပြင်လည်း အမျိုးသမီး စာဆိုများဖြစ်ကြသော အင်းဝမိဖြူ၊ ရခိုင်မိညိုတို့သည်လည်း သက္ကရာဇ် ၉၀၀ ကျော်မှ စာဆိုကြကုန်သည်။ ဤသည်တို့ကို ထောက်၍ ထိုစာဆိုတို့ကို စာပေအပိုင်းအခြားအားဖြင့် အင်းဝခေတ်တွင် ထည့်သွင်းလိုက်ရပါသည်။

ကုန်းဘောင်ခေတ်ကို နှစ်ပိုင်းခွဲခြား မှတ်သားရခြင်းကား ကုန်းဘောင်ခေတ်ကြီးတွင် မြန်မာစာပေသည် လွန်စွာထွန်းကားပြီးလျှင် ကျမ်းတစ်ခုနှင့်တစ်ခုမှာလည်း ဆင်တူယိုးမှား များပြားပြည့်လျှံလျက် ရှိနေသောကြောင့် ရောယှက်ရှုပ်ထွေးခြင်း မရှိစေရန်အတွက် ဖြစ်၏။ ဤစာအုပ်၏ အဆုံးဖြစ်သော ဒုတိယကုန်းဘောင်ခေတ်ကို သီပေါမင်း နန်းကျသော သက္ကရာဇ် ၁၂၄၇–ခုနှစ်တွင် ပိုင်းဖြတ်သင့်ပါလျက် အနှစ် ၃၀–ကျော်ခန့် ပိုမို၍ ပိုင်းဖြတ်လိုက်ရခြင်းကား မြန်မာပြည်ကြီး ထီးကျိုးစည်ပေါက် ဖြစ်ခဲ့ရသော်လည်း မြန်မာစာပေ၏အရှိန်မှာ မသေသေး။ ကင်းဝန်မင်းကြီး၊ မန်လည်ဆရာတော်ဘုရားကြီး၊ လယ်တီဆရာတော်ဘုရားကြီးတို့သည် မြန်မာပြည်ကြီး ပျက်ပြီးမှပင် စာပေအမြောက်အမြား ရေးသားပြုစုကြလျက် အင်္ဂလိပ်မင်းပေး ဘွဲ့တံဆိပ်များကို ခံယူကြရသေးသောကြောင့် ဖြစ်၏။

## နိဒါန်း

ယခုပစ္စုပ္ပန်ခေတ် စာဆိုတို့နှင့် ထိုပုဂ္ဂိုလ်တို့၏ ကျမ်းများကိုကား ဤစာအုပ်တွင် ဖော်ပြရန် အချိန်မကျသေး ဟူ၍ ထင်မြင်မိ၏။ အကြောင်းကို ဆိုသော် ပစ္စုပ္ပန်ခေတ်ကား မြန်မာစာပေတွင် ခေတ်သစ်ထူထောင်ခါစ ရှိသေး၏။ ထို့ပြင်လည်း ပစ္စုပ္ပန်ခေတ်သည် မြန်မာစာပေနှင့် အင်္ဂလိပ်စာပေ ယှဉ်တွဲ၍ လာသော ခေတ်ဖြစ်သောကြောင့် ထိုခေတ်တွင် ဆန်းသစ်သော အာဘော် စိတ်ကူးဉာဏ် ကိုယ်တွေ့အဖြစ်အပျက်များနှင့်သာ ပြည့်နှက်နေမည် ဖြစ်၍ ထိုပစ္စုပ္ပန်ခေတ်စာပေအကြောင်းကို ရေးသားရန် အချိန်မကျသေးဟု ထင်မြင်မိသည့်အတွက် ချန်လှပ်ထားခဲ့ရပေ၏။



ဆရာကြီးဦးဖေမောင်တင်
(၁၉၃၇-ခုနှစ်၊ မတ်လထုတ်၊ တက္ကသိုလ်ကျောင်းတိုက် မဂ္ဂဇင်းမှ)



ဆရာကြီး ဦးဖေမောင်တင်၏ မိသားစုပုံ။

ရှေ့တန်း = သမီး ဒေါ်မေမေတင်၊ သမီး ဒေါ်ကြည်ကြည်တင်၊

နောက်တန်း = သား ဦးဖေဇံတင်၊ ဆရာကြီး၏ ဇနီး ဒေါ်ကြည်ကြည်၊
ဆရာကြီး ဦးဖေမောင်တင်၊ သား ဦးဖေအောင်တင်

## ဆရာကြီး ဦးဖေမောင်တင် M.A., B. Litt,

### အတ္ထုပ္ပတ္တိ

ဆရာကြီး ဦးဖေမောင်တင်သည် အင်းစိန်မြို့ ပေါက်တောရပ်နေ အဖ ဝန်ထောက်မင်း ဦးဖေ၊ အမိ ဒေါ်မြိုင်တို့မှ ခရစ်သက္ကရာဇ် ၁၈၈၈–ခု၊ ဧပြီလ ၂၄–ရက်၊ မြန်မာသက္ကရာဇ် ၁၂၅၀–ပြည့်နှစ်၊ ကဆုန်လပြည့် အင်္ဂါနေ့ ညနေ ငါးနာရီခွဲ အချိန်တွင် ဖွားမြင်ခဲ့သည်။ ဆရာကြီးသည် ပဉ္စမမြောက် သားဖြစ်သည်။ ငါးနှစ်သား အရွယ်သို့ ရောက်သောအခါ မိဘများက မြန်မာစာသင်ကျောင်းသို့ အပ်နှံလေသည်။ ရှစ်နှစ်သားအရွယ်သို့ ရောက်သောအခါ ရန်ကုန်မြို့ အစိုးရ ဟိုက်စကူးကျောင်းသို့ အပ်နှံပြန်လေသည်။ ဆရာကြီးသည် ငယ်ရွယ်စဉ်ကပင် ပညာဉာဏ် ထူးချွန်သည်ဖြစ်၍ တစ်နှစ်တစ်တန်း မှန်မှန်အောင်ပြီးလျှင် ခုနစ်တန်းသို့ ရောက်သောအခါ အစိုးရ စကောလားရှစ်ဆုကို ရလေသည်။ အသက် တစ်ဆယ့် ခုနစ်နှစ် (၁၂၆၇) ခုနစ်တွင် ရှေး ကိုးတန်း (ယခုအခေါ် တက္ကသိုလ်ဝင်တန်း) စာမေးပွဲကို အောင်မြင်လေသည်။ ထိုသို့ အောင်မြင်ရာ၌ သာမန်မဟုတ်ဘဲ ထူးခြားစွာ အောင်မြင်ခြင်းကြောင့် ရနောင်မင်း၏ ချီးမြှင့်သော ဆုကို ရရှိခဲ့လေသည်။

ထိုကဲ့သို့ ရနောင်မင်း၏ ဆုချီးမြှင့်ခြင်း ခံရသူများအား အမှတ်တရဖြစ်စေရန် ပထမကမ္ဘာစစ်မဖြစ်မီက ရန်ကုန်မြို့ အစိုးရဟိုက်စကူးကျောင်းတွင် ရွှေစာလုံးဖြင့် မှတ်တမ်းတင်ထားခဲ့ဖူးသည်။

ငယ်ရွယ်စဉ်ကပင် ပညာဉာဏ် ထူးချွန်ခဲ့သည့် ဆရာကြီးကား သာမန် မဟုတ်သည့် ပုဂ္ဂိုလ်ထူးဖြစ်ကြောင်း ထင်ရှားပေသည်။ အထင်ရှားဆုံး သာဓက မှာကား ၁၂၆၉–ခုနှစ်တွင် (အက်ဖ်အေ) စာမေးပွဲဝင်ရောက်ဖြေဆိုရာ မြန်မာပြည်မှ ပထမစာရင်းဝင်အဖြစ်ဖြင့် တစ်ဦးတည်းအောင်မြင်ခြင်းပင် ဖြစ်ပေသည်။ဆရာကြီး၏

ထူးကဲသည့် စွမ်းရည်ကို ဂုဏ်ပြုသောအားဖြင့် ကာလကတ္တားတက္ကသိုလ် ကျောင်းတော်ကြီးမှ ဒတ်စကောလားရှစ်ဆုကို ချီးမြှင့်လေသည်။ ရန်ကုန်ကောလိပ်မှလည်း ဂျာဒင်းဆုဖြင့် ချီးမြှင့်သည်။

အက်ဖ်အေ အတန်းတွင် ပညာသင်ကြားနေစဉ် ကာလ၌လည်း တိရစ္ဆာန်များကို သနားကြင်နာရေးနှင့် စပ်လျဉ်း၍ အင်္ဂလိပ်ဘာသာဖြင့် စာစီစာကုံးပြိုင်ပွဲတွင် ဝင်ရောက်ယှဉ်ပြိုင်ခဲ့ရာ ပထမ ရရှိသဖြင့် တိရစ္ဆာန်ညှဉ်းပန်းမှု ကာကွယ်ရေးအသင်း (အက်စ်–ပီ–စီ–အေ) မှ ဆုချီးမြှင့်ခြင်း ခံရပြန်လေသည်။

သက္ကရာဇ် ၁၂၇၁–ခုနှစ်တွင် ဝိဇ္ဇာတန်းကို ဝင်ရောက်ဖြေဆိုရာ အထစ်အငေါ့ မရှိဘဲ ချောမောစွာဖြင့် အောင်မြင်ခဲ့သည်။ ဆရာကြီးသည် ဝိဇ္ဇာဘွဲ့ဖြင့် အားရ တင်းတိမ်ခြင်း မရှိသေးရကား ကာလကတ္တားတက္ကသိုလ် ကျောင်းတော်တွင် မဟာဝိဇ္ဇာ (အင်မ်အေ) စာမေးပွဲကို ဝင်ရောက်ဖြေဆိုပြန်ရာ ၁၂၇၃–ခုနှစ်တွင် ပါဠိဘာသာတွင် ဂုဏ်ထူးဖြင့် အောင်မြင်ပြန်လေသည်။

၁၂၇၄–ခုနှစ်တွင် ရန်ကုန်ကောလိပ်တွင် ပါဠိဘာသာ ပါမောက္ခအဖြစ် ခန့်အပ်ခြင်းခံရသည်။ ဆရာကြီးသည် ထိုစဉ်က အသက် ၂၄–နှစ်မျှသာ ရှိသေးသည်။ တစ်ချိန်တည်းမှာပင် ဆရာကြီး တာဝန်ယူ ထမ်းဆောင်ခဲ့ရသည့် လုပ်ငန်းဝတ္တရားများကား ဘားနတ်ပိဋကတ်တိုက်တွင် တိုက်အုပ်အဖြစ်ဖြင့်လည်းကောင်း၊ သုတေသနဂျာနယ်တွင် အယ်ဒီတာချုပ်အဖြစ်ဖြင့်လည်းကောင်း၊ လန်ဒန်မြို့ရှိ ပါဠိအသင်းကြီး၏ အရှေ့တိုင်းဆိုင်ရာ ကိုယ်စားလှယ်အဖြစ်ဖြင့်လည်းကောင်း၊ အစိုးရက နှစ်စဉ်ကျင်းပသည့် ပါဠိပထမပြန် စာမေးပွဲတွ ် စိမံစစ်ဆေးရသည့် အရာရှိအဖြစ်ဖြင့်လည်းကောင်း၊ မြန်မာနိုင်ငံတစ်ဝန်းလုံးရှိ ကျောင်းများမှ ပြုလုပ်သည့် စာမေးပွဲများတွင် ပါဠိဘာသာဖြင့် မြန်မာဘာသာတို့ကို စိမံအုပ်ချုပ်သူအဖြစ်ဖြင့်လည်းကောင်း အလွန်ပင် များပြားလှပေသည်။

၁၂၈၂ (၁၉၂၀) ခုနှစ်တွင် အင်္ဂလန်ပြည် အောက်စဖို့ဒ်တက္ကသိုလ်သို့ ပညာတော်သင် စေလွှတ်ခြင်း ခံရသည်။ အောက်စဖို့ဒ်တက္ကသိုလ်တွင် လေးနှစ် ပညာသင်ကြားပြီး အဘိဓမ္မာခုနစ်ကျမ်းတွင် ဓမ္မသင်္ဂဏီကျမ်း၏အဖွင့်ဖြစ်သော အဋ္ဌသာလိနီခေါ် အဘိဓမ္မာ အဋ္ဌကထာ ကျမ်းကြီးနှင့် ဝိသုဒ္ဓိမဂ္ဂ အဋ္ဌကထာ ကျမ်းကြီးများကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုရေးသားပြီး ဘီလစ် (B.Litt) ဘွဲ့ ရရှိခဲ့လေသည်။

သက္ကရာဇ် ၁၂၈၆–ခုနှစ်၊ မြန်မာပြည်သို့ ပြန်လည်ဆိုက်ရောက်သည့် အချိန်မှစ၍ မြန်မာနိုင်ငံ တိုင်းရင်းဘာသာ မြန်မာစာ မြန်မာမှုတို့ တွင်ကျယ်ကြီးမြင့်ခမ်းနားတိုးတက်မှသာလျှင် မြန်မာအမျိုးသားတို့ တန်ခိုးထွား၍ တိုးပွားမည်ဟု ရှေးမဆွကပင် နှလုံးသွင်းခဲ့သည်နှင့်အညီ မြန်မာနိုင်ငံ အမြို့မြို့ အရွာရွာတွင် ပျံ့နှံ့လျက် ရှိနေသော

ရှေးဟောင်းစာ၊ ပေစာ၊ မင်စာ၊ ပုရပိုက်စာ၊ မွန်စာ အစရှိသည်များကို လက်ဝယ်ထားရှိသူများထံမှ ကျေနပ်လောက်အောင် ပြောဆိုဝယ်ယူ၍ ခဲယဉ်းစွာ စုဆောင်းပြီးလျှင် မြန်မာတိုင်းဖွား အများပြည်သူ ရှင်လူရဟန်းတို့ ကြည့်ရှုမှတ်သား ပညာဗဟုသုတ တိုးပွားစေရန် ရန်ကုန်မြို့ ဘားနတ်ပိဋကတ်တိုက်ကြီးတွင် သိုမှီးထားခဲ့လေသည်။ ရှေးဟောင်းစာပေများ တိမ်ကောပပျောက်ခြင်း မရှိစေရန် ရည်သန်၍ မြန်မာနိုင်ငံ သုတေသနအသင်း၏ အယ်ဒီတာချုပ်အဖြစ်ဖြင့် ၎င်းအသင်းမှ ရိုက်နှိပ်ထုတ်ဝေခဲ့လေသည်။

ဆရာကြီးသည် မြန်မာနိုင်ငံ ပညာပြန့်ပွားရေး အသင်းကြီးတွင် ဥက္ကဋ္ဌအဖြစ်ဖြင့် ဆောင်ရွက်စဉ်က အသင်းသားတို့အား မကြာမကြာ တိုက်တွန်းနှိုးဆော်ခဲ့သည်မှာ မြန်မာပြည်ဖွား အမျိုးသားတို့ တိုးပွားကြီးမြင့်စေမည့် ပညာရပ်များကို တိုင်းတစ်ပါးသားတို့ဘာသာမှ တိုင်းရင်းသား ဘာသာသို့ ပြန်ဆိုကာ စာအုပ်စာတမ်းရေးသားထုတ်ဝေကြရန်ပင် ဖြစ်သည်။

ဆရာကြီးသည် မြန်မာနိုင်ငံ တက္ကသိုလ် ပညာရေးသမိုင်းတွင် မြန်မာလူမျိုးများအနက်မှ ပထမဆုံး ပါမောက္ခရာထူးကို ရရှိခဲ့သူတစ်ဦးပင် ဖြစ်ပေသည်။ ရလည်းရထိုက်သူတစ်ဦး ဖြစ်ပါ၏။ ဆရာကြီးသည် ယိမ်းယိုင်ပြိုလဲအံ့ဆဲဆဲဖြစ်သော မြန်မာစာပေ ကျောက်စာတိုင်ကြီးကို ခိုင်မာလာသည့်တိုင်အောင် တည်ဆောက်နိုင်ခဲ့သော စာပေဗိသုကာ ဆရာကြီးတစ်ဦး ဖြစ်ပေသည်။

ဆရာကြီး၏ အမည်ရင်းမှာ မောင်တင် ဖြစ်သည်။ မိမိ၏ ဖခင်ကို ဂုဏ်ပြုသောအားဖြင့် ဖခင်၏အမည်ကို မိမိအမည်တွင် ထပ်တိုးမှည့်ခေါ်ခဲ့သူတစ်ဦးဖြစ်သည်။ ထိုခေတ်အနေနှင့် ကြည့်လျှင် အလွန်ပင် ခေတ်ရှေ့ပြေးခဲ့သူတစ်ဦးဟု ခေါ်ဆိုရပေမည်။ တက္ကသိုလ်တွင် ဆရာကြီး စတင် အမှုထမ်းရွက်စဉ်က မြန်မာစာပေသည် မျက်နှာငယ်လျက်ရှိသည်။ ထိုခေတ်သည် အင်္ဂလိပ်စာကို အလုအယက် သင်ကြပြီး၊ မြန်မာအချင်းချင်းပင်လျှင် အင်္ဂလိပ်စာ ညံ့ဖျင်းက ကဲ့ရဲ့လှောင်ပြောင်ကြသည့်ခေတ် ဖြစ်သည်။ ရန်ကုန်ကောလိပ်တွင် မြန်မာစာပေဟူ၍ မရှိသေးဘဲ မြန်မာစာစီစာကုံး ဘာသာရပ်ဟူ၍သာ ရှိခဲ့သည်။ မြန်မာစာစီစာကုံး ဘာသာရပ်သော်မှ မြန်မာကျောင်းသားတိုင်း သင်ယူချင်း မရှိကြချေ။ ထိုအခြင်းအရာကို တွေ့ရှိရ၍ မြန်မာစာပေ၏ နောင်ရေးအတွက် ပူပန်မိသည့် ဆရာကြီးသည် ကောလိပ်တွင် တန်းနိမ့်မြန်မာစာကို သင်ကြားခွင့်ရရန် ဆီးနိတ်ကို တိုက်တွန်းခဲ့ရာ အဘိုက်အခဲများကြားမှ အောင်မြင်မှုရရှိခဲ့သည်။ ထိုမှတစ်ဆင့် ၁၉၂၄–ခုနှစ်တွင် ဆရာကြီး၏ ကြိုးပမ်းမှုကြောင့် မြန်မာစာဌာနဟူ၍ ပေါ်ပေါက်လာခဲ့ပေသည်။

(တက္ကသိုလ်နှင့် မြန်မာစာပေ–မှ)

# အတ္ထုပ္ပတ္တိ

မြန်မာစာဌာန ဟူ၍ ပေါ်ပေါက်လာခဲ့သော်လည်း မိမိတို့၏ တိုင်းရင်းဘာသာကို လေးစားမှုမရှိဘဲ အိန္ဒိယ ပင်္ဂိုဘာဉ်ခံ ဝန်ထမ်းရာထူး (အိုင်-စီ-အက်) ရသူကိုသာ မိုးကျရွှေကိုယ်သဖွယ် ကျောင်းသားအများက အားကျမက်မောနေသည့်အချိန်တွင် မြန်မာစာပေ တိုးတက်ဖွံ့ဖြိုးလာစေရန် ပြုလုပ်ရခြင်းမှာ လွယ်ကူသည့် လုပ်ငန်းတစ်ရပ် မဟုတ်ပေ။ သို့ရာတွင် ဆရာကြီး မလျှော့သော ဇွဲ, လုံ့လတို့ဖြင့် မြန်မာဝေါဟာရနှင့် အနုစာပေကို လိုက်စားလေ့လာသည့် ကျောင်းသားတစ်စု ဖြစ်သည့် ဦးစိန်တင်(သိပ္ပံမောင်ဝ)၊ ဦးသိန်းဟန်(ဇော်ဂျီ)၊ ဦးဝန်(မင်းသုဝဏ်)၊ ဦးဇမောင်(တက္ကသိုလ် မောင်သန့်ဇင်)၊ ဦးတိုးအောင်(ကုသ) အစရှိသည့် လူငယ်တစ်စုကို မြေတောင်မြှောက်ကာ ခေတ်စမ်းစာပေ ထွန်းကားစေရန် ပြုစုပျိုးထောင်ပေးခဲ့သူ ခေတ်စမ်းခဲ့သူတစ်ဦး ဖြစ်ပေသည်။

ဆရာကြီးသည် ကောလိပ်တွင် မြန်မာစာဌာနဟူ၍ ပေါ်ပေါက်အောင် ကြိုးစားခဲ့ပြီး စာပေပြုစုပျိုးထောင်ရုံမျှဖြင့် တင်းတိမ်ခဲ့သူတစ်ဦး မဟုတ်ပေ။ မြန်မာ့သမိုင်းနှင့် ဗုဒ္ဓဘာသာစာပေများကိုလည်း သုတေသနပြုခဲ့သူတစ်ဦးလည်း ဖြစ်သည်။

၁၉၃၆-ခု၊ ဇွန်လ ၁၈-ရက်နေ့တွင် ဗြိတိသျှ အုပ်ချုပ်ရေး နယ်အတွင်းရှိ ကိုလိုနီခေတ် မြန်မာပြည်တွင် အနောက်နိုင်ငံသားများနှင့် ပခုံးချင်း ယှဉ်၍ မြန်မာလူမျိုးများထဲမှ မဖြစ်စဖူးသော ရန်ကုန်တက္ကသိုလ် ကျောင်းအုပ်ကြီးအဖြစ်သို့ ရောက်ခဲ့ပေသည်။ ကျောင်းအုပ်ကြီးဘဝနှင့်ပင် မြန်မာနိုင်ငံသို့ ဂျပန်များ ဝင်ချိန်ဖြစ်သည့် ၁၉၄၁-ခု၊ ဧပြီလ ၂၄-ရက်နေ့အထိ တာဝန်ထမ်းဆောင်ခဲ့ပေသည်။ သို့သော်လည်း ဂျပန်တို့ကြီးစိုးသည့် ခေတ်တွင်လည်း ရန်ကုန်တက္ကသိုလ် အုပ်ချုပ်ရေးအဖွဲ့၏ ဥက္ကဋ္ဌအဖြစ် ၁၉၄၃-ခု၊ မေလ တစ်ရက်နေ့မှ ၁၉၄၅-ခု၊ ဧပြီလ ၃၀-ရက်နေ့အထိ ဆောင်ရွက်ခဲ့ရပေသည်။

၁၉၄၈-ခု၊ ဩဂုတ်လ တစ်ရက်နေ့မှ ၁၉၅၀-ပြည့်နှစ်၊ မေလ ၃၁ ရက်နေ့ထိ ရန်ကုန်တက္ကသိုလ် ပါဠိဂုဏ်ထူးဆောင် ပါမောက္ခအဖြစ်သို့ ခန့်အပ်ခြင်း ခံရပြန်သည်။ ၁၉၅၀-ပြည့်နှစ်၊ ဇွန်လ တစ်ရက်နေ့တွင် ရန်ကုန်တက္ကသိုလ် ပါဠိသုတေသနဆရာကြီး (Reader in Pali) အဖြစ် အမှုထမ်းရွက်ပြန်သည်။

ဆရာကြီးသည် အင်္ဂလန်ပြည်တွင် ပညာဆည်းပူးနေစဉ် လန်ဒန်ရှိ မြန်မာအသင်း၏ မြန်မာကျောင်းသားများအဖွဲ့၏ ဥက္ကဋ္ဌအဖြစ် အင်္ဂလိပ်လူမျိုး ဆာ၊ ဟာဗေး အဒမ်ဆင်နှင့် ယှဉ်ပြိုင်အရွေးခံခဲ့ရသည်။ ဆာ၊ ဟာဗေး အဒမ်ဆင်၏ မဲလုမှုကြောင့် တရားရုံးတော်တွင် တင်ပြရာ တရားရုံးတော်မှ ဆရာကြီးအား ဥက္ကဋ္ဌအဖြစ် ရထိုက်ကြောင်း စီရင်ချက်ချခြင်း ခံရသည်။ ဆရာကြီးသည် မြန်မာ

လူမျိုးများထဲမှ အင်္ဂလန်တွင် အင်္ဂလိပ်များနှင့် ရင်ပေါင်တန်းကာ စွမ်းရည်ပြခဲ့သူ တစ်ဦး ဖြစ်ပေသည်။

ရန်ကုန်တက္ကသိုလ်ကြီး ပေါ်ပေါက်လာရန်အတွက် ဖွဲ့စည်းလိုက်သော ရန်ကုန်တက္ကသိုလ် တည်ထောင်ရေး အမှုဆောင်အဖွဲ့ (University Standing Committee) ကို ပထမကမ္ဘာစစ်အတွင်း ဖွဲ့စည်းရာတွင် ပါဠိပါမောက္ခတစ်ဦးအနေဖြင့် အမှုဆောင်တစ်ဦးအဖြစ် ပါဝင်ဆောင်ရွက်ကာ စည်းမျဉ်းများကိုလည်း ရေးဆွဲခဲ့သည်။ ဆရာကြီး၏ စိုင်းပြင်းမှုကြောင့် ရန်ကုန်တက္ကသိုလ်ကြီး အဖြစ်သို့ ရောက်ခဲ့ရပေသည်။

ရန်ကုန်တက္ကသိုလ်တွင် မြန်မာစာပေသင်ကြားရန် ကြိုးပမ်းခဲ့စဉ်က မြန်မာစာပေသင်စရာ စာအုပ်မရှိ၍ စာအုပ်များ ထုတ်ရန်က အစ လုံ့လဥဿဟ ထုတ်၍ ဆောင်ရွက်ခဲ့ရသည်။ ဆရာကြီးသည် မြန်မာနိုင်ငံသုတေသနအသင်း တည်ထောင်ရာတွင် တစ်ဦးအပါအဝင် ဖြစ်သည်။ တက္ကသိုလ်တွင် သင်ရန် မြန်မာစာပေစာအုပ်များ လိုလာသည့်အခါ ဆရာကြီးသည် သုတေသန အသင်းကြီးမှ ကျမ်းများထုတ်ဝေရန် အခက်အခဲကြားမှ ကြိုးပမ်းဆောင်ရွက်ခဲ့သည်။ အခက်အခဲများကြားမှဟုဆိုရခြင်းမှာ ထိုစဉ်က "ဘကုန်း" မသုံးဘဲ "ဖဦးထုပ်" သုံးလိုသည့် ဆရာကြီးများ၊ နောက်ပစ်တွင် ဝစ္စနလုံးပေါက်ထည့်ရန် လိုလားသည့် ဆရာကြီးများ အစရှိသည်ဖြင့် ကိုယ့်ယူဆချက်ကိုသာ ဆုပ်ကိုင်ထားလိုကြသည့် "မှုကွဲ" ဆရာကြီးများရှိခဲ့ရာ စာအုပ်ထုတ်ဝေရေးမှာ ထင်သလောက် မလွယ်ကူခဲ့ပေ။ သို့ရာတွင် ဆရာကြီး၏ အမြော်အမြင်ကြီးမှု၊ အများကျေနပ်စေရန် ဖျန်ဖြေတတ်မှုကြောင့် ၁၉၂၄–ခုနှစ်မှ ၁၉၃၆–ခုနှစ်အတွင်းတွင် ဂန္ထဝင်ကျမ်း လေးဆယ့်ခြောက်ကျမ်းကို ထုတ်ဝေနိုင်ခဲ့သည်။ မြန်မာနိုင်ငံ သုတေသနအသင်း၏ အယ်ဒီတာချုပ်အဖြစ် ဆောင်ရွက်စဉ် သမိုင်းနှင့် ပေါရာဏ စာတမ်းပေါင်း မြောက်မြားစွာကို ရေးသားခဲ့သည်။ မှန်နန်းရာဇဝင် ပထမတွဲကို အင်္ဂလိပ်ဘာသာဖြင့် ပြန်ဆိုပုံနှိပ်ခဲ့သည်။

မြန်မာနိုင်ငံ ပညာပြန့်ပွားရေး အသင်း၏ ဥက္ကဋ္ဌလည်း ဖြစ်ခဲ့ဖူးသည်။ ၎င်းအသင်းမှပင် အဏ္ဏမြူကျမ်းနှင့် အဏ္ဏမြူဋီကာ ကျမ်းတို့ကို မြန်မာဘာသာသို့ ပြန်ဆိုရေးသား ထုတ်ဝေခဲ့သည်။

ဆရာကြီးသည် မြန်မာစာပေ တိုးတက်ဖွံ့ဖြိုးရေးတွင် အထောက်အကူဖြစ်စေရန် မြန်မာဝေါဟာရ တိုးတက်ရေးကိုပါ တစ်ပါတည်း ကြိုးစားအားထုတ်ခဲ့သူ တစ်ဦး ဖြစ်သည်။ ထိုသို့ အားထုတ်ရာတွင်လည်း လွယ်လွယ်ကူကူဖြင့် လုပ်ဆောင်ခဲ့ရသည် မဟုတ်ပေ။ ထိုစဉ်က အုပ်ချုပ်သူ အင်္ဂလိပ်လူမျိုးတို့သည် အရာရာတွင် ဥပဒေကို လက်ကိုင်ပြုသည်ဖြစ်ရာ အခေါ်အဝေါ် ပြောင်းလဲလိုသည်ကအစ ဥပဒေ

အတိုင်း လိုက်နာရပေသည်။ သို့သော် မဆုတ်မနစ် ကြိုးစားသူ ဆရာကြီးသည် အင်္ဂလိပ်လူမျိုးများက မြန်မာဘာသာဖြင့် မှည့်ခေါ်ထားသည့် ဘွဲ့၊ နာမည်၊ ရာထူး အစရှိသည်များတွင် ဟာကွက်များကို မရမနေလိုက်ရှာပြီး ညွှန်ပြဖော်ထုတ်ကာ မြန်မာ့ဝေါဟာရစစ်စစ် ဖြစ်လာစေရန် ကြိုးစားခဲ့သည်။ ယုတ်စွအဆုံး **ယူနီဗာစတီ** ဟူသော အမည်မှ **တက္ကသိုလ်** ဟူသော အခေါ်အဝေါ်သို့ ပြောင်းလဲမှည့်ခေါ်လာခြင်း ပင်လျှင် ဆရာကြီး၏ ကြိုးပမ်းမှုတစ်ရပ် ဖြစ်ပေသည်။ ဆရာကြီးသည် ဝေါဟာရ ထွင်ရာ၌ တက္ကသိုလ်ပတ်ဝန်းကျင်မှ ဝေါဟာရများကိုသာ မကဘဲ၊ တိရစ္ဆာန်ရုံမှ တိရစ္ဆာန်များ၏ အမည်ကိုပင်လျှင် မြန်မာအမည်ပေးရန် ဘာသာပြန်မှု ပြုခဲ့သူတစ်ဦး ဖြစ်ပေသည်။

ဆရာကြီးသည် လွတ်လပ်သော သမ္မတမြန်မာနိုင်ငံတော်တွင် နိုင်ငံတော် ဘာသာပြန်စာပေအသင်း (ယခု ပြန်ကြားရေးဌာန စာပေဗိမာန်) သုခမိန်အဖွဲ့၏ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ခဲ့သည်။ ယဉ်ကျေးမှုဗိမာန်အဖွဲ့ အမှုဆောင်လူကြီးတစ်ဦး လည်း ဖြစ်သည်။ ရန်ကုန်တက္ကသိုလ် ဘာသာပြန်နှင့် စာအုပ်ထုတ်ဝေရေးဌာန အကြံပေးအဖွဲ့၏ ဥက္ကဋ္ဌအဖြစ်လည်းကောင်း၊ မြန်မာနိုင်ငံ သမိုင်းကော်မရှင် ဥက္ကဋ္ဌလည်း ဖြစ်ခဲ့သည့်ပြင် နိုင်ငံတော် အစိုးရမှ ဒေါက်တာဘွဲ့ အပ်နှင်းခဲ့သည်။

ပုဂ္ဂိုလ်တစ်ဦးအနေဖြင့် ဉာဏ်မျှမျှများပြားလှသော တာဝန်များ၊ လုပ်ငန်းများကို ဆောင်ရွက်နိုင်သူ ရှားပါးလှသည်။ ဆရာကြီးကား ထိုရှားပါးသူများထဲတွင် တစ်ဦး အပါအဝင်ဖြစ်သည်။ ထို့ကြောင့်လည်း မြန်မာစာပေလောကတွင်သာမက ကမ္ဘာ့ စာပေလောကတွင်ပါ ဆရာကြီး၏ စွမ်းရည်နှင့် ဂုဏ်သတင်းသည်ပျံ့သင်းခဲ့ပေသည်။

ဆရာကြီး ရေးသားပြုစုခဲ့သော စာအုပ်စာတမ်း အရေအတွက်မှာ အောက်ပါ အတိုင်း ဖြစ်ပါသည်။

| | |
|---|---|
| မြန်မာဘာသာဖြင့် ရေးသားပြုစုခဲ့သည့် စာအုပ် | ၁၈ အုပ် |
| အင်္ဂလိပ်ဘာသာဖြင့် ရေးသားပြုစုခဲ့သည့် စာအုပ် | ၁၂ အုပ် |
| သုတေသနဂျာနယ်ရေး စာတမ်းပေါင်း | ၄၂ စောင် |
| အခြား စာနယ်ဇင်းရေး စာတမ်းပေါင်း | ၆ စောင် |
| မြန်မာစာနယ်ဇင်းရေး စာတမ်းပေါင်း | ၁၈ စောင် |
| သုတေသနဂျာနယ်တွင် ဝေဖန်စာ | ၅၂ စောင် |

ဆရာကြီးသည် ၁၉၇၁–ခု၊ ဧပြီလ ၂၄–ရက်နေ့တွင် အသက် ၈၄–နှစ် ပြည့်တော့မည်။ သို့ရာတွင် ကျန်းမာရေးမှာမူ ခိုင်ခံ့လျက်ရှိပြီး နံနက် (သို့မဟုတ်)

## အတ္ထုပ္ပတ္တိ

ညနေဘက်တွင် အင်းလျားလမ်းတစ်ဝိုက်၌ လမ်းလျှောက်တုတ်မပါဘဲ လမ်းလျှောက်လေ့ ရှိသည်ကို အမြဲတမ်းလို တွေ့ရပါသည်။

ဆရာကြီးသည် ကိုယ်ပိုင်အိမ်မရှိဘဲ ရသမျှ ပင်စင်လစာငွေဖြင့် လောဘနည်း၍ ရောင့်ရဲတင်းတိမ်ကာ အင်းလျား၌ သူများပိုင် အဆောက်အအုံတွင် အေးချမ်းသာယာစွာဖြင့် နေထိုင်လျက် ရှိပြီး လာသမျှ တပည့်အပေါင်းတို့အား အဖိုးတန်လှသော ဗဟုသုတများကို မနားတမ်း ပြောနိုင်ပါသည်။

**(အထက်ပါ ဆရာကြီး၏ အတ္ထုပ္ပတ္တိကို မြန်မာဝတ္ထု သမိုင်းနှင့် သုတေသနစာတမ်း စာအုပ်မှ ထုတ်နုတ်ပါသည်။)**

# စပယ်ဦး၏ အမှာ

ပါမောက္ခ ဆရာကြီးဦးဖေမောင်တင်၏ မြန်မာစာပေသမိုင်းစာအုပ်သည် စပယ်ဦးစာပေတိုက်အနေဖြင့် ယခု ပဥ္စမအကြိမ် ရိုက်နှိပ်ရန် စီစဉ်ရသောအကြောင်း ရင်းမှာ မြန်မာစာပေသမိုင်းသည် စာအုပ်ဈေးကွက်၌လည်း ဝယ်ယူ၍ မရရှိဘဲ ရံဖန်ရံခါ စာအုပ်အဟောင်းဆိုင်များတွင် တစ်အုပ်စ နှစ်အုပ်စ ရှာဖွေတွေ့ရှိ၍ ဝယ်ယူသောအခါတွင်လည်း အဆမတန် ဈေးကြီးပေး ဝယ်ယူနေရကြောင်း မြန်မာစာ အဓိက တက္ကသိုလ် ကျောင်းသား ကျောင်းသူများမှ စပယ်ဦးစာပေတိုက်သို့ မကြာ‌ခဏ လာရောက်၍ ညည်းညူပြောဆိုလာကြပါသည်။ အချို့စာအုပ်ဆိုင်များ ကလည်း ပြန်လည် ရိုက်နှိပ်ပေးရန် ဆန္ဒပြုပြောဆိုလာကြပါသောကြောင့် ယခုကဲ့သို့ တက္ကသိုလ် ကျောင်းသား ကျောင်းသူများ၏ အကျိုးနှင့် မြန်မာစာပေ သုတေသီများ၏ အကျိုးအတွက် စပယ်ဦးစာပေမှ စာဖတ်ပရိသတ်တို့၏ ဆန္ဒကို အမြဲတစေ လိုက်လျောတတ်သည့် စာပေစေတနာ၊ စာပေတာဝန်ကို ထမ်းဆောင်လိုက်ခြင်းပင် ဖြစ်ပါသည်။

မြန်မာစာပေသမိုင်းသည် စစ်ကြိုခေတ်က တက္ကသိုလ်ကျောင်းသုံး စာအုပ် ဖြစ်ခဲ့၍ အကြိမ်ကြိမ် ရိုက်နှိပ်ခဲ့ကြောင်း သိရှိရပါသည်။ သို့သော် ရိုက်နှိပ်ခဲ့သည့် စာအုပ်များ၏ ရိုက်နှိပ်ကြိမ်များ ရှာဖွေသော်လည်း အခက်ခဲကြောင့် ပထမအကြိမ် ဇမ္ဗူမိတ်ဆွေ ပုံနှိပ်တိုက်မှ ၁၉၃၈–၃၉ ခုနှစ်၌ ရိုက်နှိပ်ခဲ့ကြောင်းကိုသာ ဖော်ပြ နိုင်ပါသည်။

စစ်ပြီးခေတ် ယခုအချိန်အထိ ပြန်လည်ရိုက်နှိပ်ခဲ့သော စာအုပ်တိုက်များမှာ ပထမအကြိမ် သုခမ္ဘဝတီပုံနှိပ်တိုက်၊ ဒုတိယအကြိမ် တက္ကသိုလ်များ ပုံနှိပ်တိုက်၊ တတိယအကြိမ် စိန်ပန်းမြိုင် စာပေတိုက်နှင့် စတုတ္ထအကြိမ် စပယ်ဦးစာပေဖြန့်ချိရေးတို့

ဖြစ်ပြီး (ယခု ပဉ္စမအကြိမ်) စပယ်ဦးစာပေမှပင် ရိုက်နှိပ်ခြင်း ဖြစ်ပါသည်။ ယခု အကြိမ် ပုံနှိပ်ထုတ်ဝေသော မြန်မာစာပေသမိုင်းကို ကြည့်လျှင် ထူးခြားမှုတစ်ရပ်ကို တွေ့ရှိရပါမည်။ ထိုထူးခြားမှုမှာ စာအုပ်အညွှန်း ပြုစုထားခြင်း ဖြစ်ပါသည်။

ကျွန်တော်များ၏ စပယ်ဦးစာပေသည် မြန်မာစာပေ မြင့်မားတိုးတက်ရေးကို အစဉ်တစိုက် စိတ်အားထက်သန်လျက် စာပေဝါသနာပါသူများ ဖြစ်ကြပြီး စာပေ ချစ်မြတ်နိုးသူများ၏ စာပေတိုက်ဖြစ်သည့် အားလျော်စွာ စာဆောင်းစာမွန်များကို လစဉ်ထုတ်ဝေလျက် ရှိပါသည်။

ပါမောက္ခ ဆရာကြီးဦးဖေမောင်တင်၏ မြန်မာစာပေသမိုင်းသည် တက္ကသိုလ် ကျောင်းသား ကျောင်းသူများ အတွက်သာ မဟုတ်ဘဲ မြန်မာစာပေကို စိတ်ဝင်စားသူ၊ မြန်မာမှုကို လေ့လာလိုသူ၊ မြန်မာစာကို ချစ်မြတ်နိုးသူ၊ မြန်မာစာကို အစဉ်မပြတ် လေ့လာ၍ ဂုဏ်ထူးဖြင့် အောင်မြင်လိုသူများအတွက် စာအုပ်ကောင်းတစ်အုပ် ဖြစ်ပါသည်။

ဤစာအုပ်ကို လေ့လာခြင်းအားဖြင့် မြန်မာမှုနှင့် မြန်မာစာပေသမိုင်း၏ အတိမ်အနက်၊ အကျယ်အဝန်း၊ အသွားအလာ၊ မြန်မာစာ၏ အရသာတို့ကို သိမြင် ခံစားရပါသည်။

မြန်မာစာပေ၏ စာဆိုတော်မှူးကြီးများ ဖြစ်ကြသော စာဆိုကြီးများ၏ အရည်အသွေးတို့ကိုလည်းကောင်း၊ ပညာပေးစွမ်းအားနှင့် အဆိုအမိန့်တို့ကိုလည်း ကောင်း၊ ပညာပေးကြပုံတို့ကိုလည်းကောင်း မှတ်သားဖွယ်ရာများကို ဖတ်ရှုရ ပေမည်။

မြန်မာစာပေသမိုင်းကို လေ့လာတတ်မြောက်ခြင်းအားဖြင့် ကိုယ်တိုင် မြန်မာ စာပေ ပညာရှင်ကြီးတစ်ယောက် အဖြစ်သော်လည်းကောင်း၊ စာဆိုရှင်ကြီးတစ်ယောက် အဖြစ်သော်လည်းကောင်း၊ ဗဟုသုတရှင်ကြီး အဖြစ်သော်လည်းကောင်း၊ တက်လှမ်း၍ ထူးခြားသော လူကောင်းလူတော်ဘဝသို့ ရောက်နိုင်ပါသည်။ မြန်မာစာပေ ဘာသာရပ်၌ အမြဲတမ်း ထူးချွန်သော အဆင့်၌ ရပ်တည်လိုပါလျှင် ထပ်တလဲလဲ လေ့လာ၍ အကြွင်းအကျန်မရှိ မှတ်သားလေ့လာနိုင်ပါသည်။ မြန်မာစာပေသမိုင်းကို အမြဲတစေ သိမ်း၍ လေ့လာခြင်းအားဖြင့် မြန်မာစာအတွက် ဂုဏ်ယူဖွယ်ရာများ တွေ့ရှိနိုင်ပါသည်။

မြန်မာစာပေသမိုင်းသည် တက္ကသိုလ်များနှင့် တက္ကသိုလ် စာပေးစာယူ သင်တန်း ကျောင်းသား ကျောင်းသူ ပထမနှစ်နှင့် မဟာဝိဇ္ဇာတန်းထိ ကျောင်းသုံး ပြဋ္ဌာန်း၍ ရည်ညွှန်းစာအုပ်အဖြစ်လည်း ပြဋ္ဌာန်းထားသော စာအုပ်ဖြစ်ကြောင်း ဆော်ပြလိုက်ရပေသည်။

စပယ်ဦးစာပေ

## စပယ်ဦး၏ အမှာ

မြန်မာစာပေသမိုင်းစာအုပ် ဖြစ်မြောက်ရေးအတွက် အကြံဉာဏ်များပေးသော ဆရာဇော်ဂျီ (ဦးသိန်းဟန်) အားလည်းကောင်း၊ အမှာစာနှင့် ချီးကျူးဂုဏ်ပြုလွှာ ထည့်သွင်းခွင့်ပြုသော ဆရာမင်းသုဝဏ် (ဦးဝန်) အားလည်းကောင်း၊ အဘက်ဘက်မှ လိုအပ်သည်များကို ကူညီကြသော ဦးသော်ကောင်း (စာကြည့်တိုက်မှူး) နှင့် ဒေါ်ကျော့ကျော့ (လက်ထောက် စာကြည့်တိုက်မှူး) တက္ကသိုလ်များ ဗဟိုစာကြည့်တိုက် တို့အားလည်းကောင်း၊ စာအုပ်အညွှန်း ပြုစုပေးသူ ဒေါ်စမ်းစမ်းမေ (စာကြည့်တိုက် လက်ထောက် (၁) တက္ကသိုလ်များ ဗဟိုစာကြည့်တိုက်) အားလည်းကောင်း၊ စာအုပ်ရိုက်နှိပ်ခွင့်ပြုသော ဆရာကြီး ဦးဖေမောင်တင်၏ အမွေဆက်ခံသူ သား ဦးဖေဇံတင်နှင့် မိသားစုအားလည်းကောင်း၊ မြန်မာစာပေသမိုင်းစာအုပ်ကို အစမှ အဆုံးတိုင် ပုံနှိပ်ထုတ်ဝေရေးအတွက် အထူးအကူအညီပေးသော စပယ်ဦးစာပေ ပိုင်းတော်သား ဦးချစ်ဝေ (တက္ကသိုလ်များ ဗဟိုစာကြည့်တိုက်) အား လည်းကောင်း၊ အခြားတစ်နည်းနည်းဖြင့် ကူညီကြသော စာပေမိတ်ဆွေများအားလည်းကောင်း၊ စပယ်ဦးစာပေမှ လုပ်သားမိသားစုများအားလည်းကောင်း ကျေးဇူးဥပကာရတင်ရှိကြောင်း မှတ်တမ်းတင်အပ်ပါသည်။

၁၉၈၅၊ ဩဂုတ်လ (၁) ရက်။ စပယ်ဦးစာပေ

ဆရာကြီး ဦးဖေမောင်တင်၏ (၂၄-၃-၇၃) ရျာပန အခမ်းအနား၌
တပည့်ရင်းဖြစ်သူ ဦးဝန် (ဆရာမင်းသုဝဏ်) က
ဆရာကြီး ဦးဖေမောင်တင်အား
နောက်ဆုံး ရှိုးကျူးဂုဏ်ပြုသည့် ဂုဏ်ပြုကန်တော့ စာတမ်း

# ဦးဖေမောင်တင်အား ကန်တော့ခြင်း

ယခု ကွယ်လွန်အနိစ္စ ရောက်သွားသော ပါမောက္ခ ဒေါက်တာဦးဖေမောင်တင်သည် ကျွန်တော်တို့၏ ဆရာကြီးဖြစ်ပါသည်။ ကျွန်တော်တို့၏ ဆရာကြီးဆိုသဖြင့် ကျွန်တော်နှင့် ကျွန်တော့် အပေါင်းအသင်း ကျောင်းနေဘက် တစ်စု၏ ဆရာကြီး မျှသာ ဖြစ်သည်ဟု မဆိုလိုပါ။ ဆရာကြီး ဦးဖေမောင်တင်သည် ၁၉၁၂-ခု၊ ဇူလိုင်လ ၂၄-ရက်နေ့တွင် ရန်ကုန်ကောလိပ်ကျောင်း၌ ပါဠိပါမောက္ခဖြစ်သည်မှ အစပြု၍ ဆရာကြီး ပို့ချသင်ကြားသည်ကို ခံယူခဲ့သော အဆက်ဆက်သော တပည့်ယောကျ်ား၊ တပည့်မိန်းမ အပေါင်းတို့၏ အနန္တ ကျေးဇူးရှင် ဆရာကြီးဖြစ်သည်ဟု ကျွန်တော် ဆိုလိုပါသည်။ အမှန်အားဖြင့်ကား ဆရာကြီးသည် ဤမျှသော တပည့်တို့၏ ဆရာမျှသာ မဟုတ်သေးပါ။ ကျွန်တော်တို့ မြန်မာစကားတွင် သင်ဆရာ၊ မြင်ဆရာ၊ ကြားဆရာဟု ရှိပါသည်။ ဤစကားတို့ကို အပြန်အားဖြင့် ကြည့်မည်ဆိုပါလျှင် သင်တပည့်၊ မြင်တပည့်၊ ကြားတပည့်ဟူ၍ သုံးမျိုးရှိပါသည်။ အထက်က ကျွန်တော်ဆိုခဲ့သော တပည့်ယောကျ်ား၊ တပည့်မိန်းမတို့သည်ကား ဆရာကြီး၏ ခြေရင်းတွင် ဝပ်စင်းခယ၍ ပညာရင်နို့ကို သောက်စို့ကြသော သင်တပည့်တို့ ဖြစ်ကြပါသည်။ ဤသင်တပည့်တို့အပြင် ဆရာကြီး ရေးသားပြုစုခဲ့သော စာတမ်းစာစောင်၊ ကျမ်းကြီး ကျမ်းငယ်တို့ကို ဖတ်ရှု၍ ပညာရင်နို့ သောက်စို့

ဆရာကြီး ဦးဖေမောင်တင်၏ (၂၄-၃-၇၃) ရှာပန အခမ်းအနား၌
တပည့်ရင်းဖြစ်သူ ဦးဝန် (ဆရာမင်းသုဝဏ်) က
ဆရာကြီး ဦးဖေမောင်တင်အား
နောက်ဆုံး ရှိုးကျူးဂုဏ်ပြုသည့် ဂုဏ်ပြုကန်တော့ စာတမ်း

# ဦးဖေမောင်တင်အား ကန်တော့ခြင်း

ယခု ကွယ်လွန်အနိစ္စ ရောက်သွားသော ပါမောက္ခ ဒေါက်တာဦးဖေမောင်တင်သည် ကျွန်တော်တို့၏ ဆရာကြီးဖြစ်ပါသည်။ ကျွန်တော်တို့၏ ဆရာကြီးဆိုသဖြင့် ကျွန်တော်နှင့် ကျွန်တော့် အပေါင်းအသင်း ကျောင်းနေဘက် တစ်စု၏ ဆရာကြီးမျှသာ ဖြစ်သည်ဟု မဆိုလိုပါ။ ဆရာကြီး ဦးဖေမောင်တင်သည် ၁၉၁၂-ခု၊ ဇူလိုင်လ ၂၄-ရက်နေ့တွင် ရန်ကုန်ကောလိပ်ကျောင်း၌ ပါဠိပါမောက္ခဖြစ်သည်မှ အစပြု၍ ဆရာကြီး ပို့ချသင်ကြားသည်ကို ခံယူခဲ့သော အဆက်ဆက်သော တပည့်ယောကျ်ား၊ တပည့်မိန်းမ အပေါင်းတို့၏ အနန္တ ကျေးဇူးရှင် ဆရာကြီးဖြစ်သည်ဟု ကျွန်တော် ဆိုလိုပါသည်။ အမှန်အားဖြင့်ကား ဆရာကြီးသည် ဤမျှသော တပည့်တို့၏ ဆရာမျှသာ မဟုတ်သေးပါ။ ကျွန်တော်တို့ မြန်မာစကားတွင် သင်ဆရာ၊ မြင်ဆရာ၊ ကြားဆရာဟု ရှိပါသည်။ ဤစကားတို့ကို အပြန်အားဖြင့် ကြည့်မည်ဆိုပါလျှင် သင်တပည့်၊ မြင်တပည့်၊ ကြားတပည့်ဟူ၍ သုံးမျိုးရှိပါသည်။ အထက်က ကျွန်တော်ဆိုခဲ့သော တပည့်ယောကျ်ား၊ တပည့်မိန်းမတို့သည်ကား ဆရာကြီး၏ ခြေရင်းတွင် ဝပ်စင်းခယ၍ ပညာရင်နို့ကို သောက်စို့ကြသော သင်တပည့်တို့ ဖြစ်ကြပါသည်။ ဤသင်တပည့်တို့အပြင် ဆရာကြီး ရေးသားပြုစုခဲ့သော စာတမ်းစာစောင်၊ ကျမ်းကြီး ကျမ်းငယ်တို့ကို ဖတ်ရှု၍ ပညာရင်နို့ သောက်စို့

ကြသောသူ အပေါင်းကား မြင်တပည့်တို့ ဖြစ်ကြပါသည်။ တစ်ဖန်တုံလည်း ဆရာကြီး ဟောပြောဆွေးနွေးသည်ကို ကြားနာကြ၍ ပညာရင်နို့ သောက်စို့ကြသော သူအပေါင်းကား ကြားတပည့်တို့ ဖြစ်ကြပါသည်။ တကယ်စင်စစ်မှာကား ဆရာကြီး၏ ပညာကို တစ်စွန်းတစ်စ တစ်နည်းနည်းဖြင့် ရယူ အကျိုးကျေးဇူး ခံစားရသူအပေါင်း သည် ဆရာကြီး၏ တပည့်များပင် ဖြစ်ကြသည်ဟု ဆိုချင်ပါသည်။

ဤရပ်ဝေးနေ၊ ရပ်နီးနေ၊ လူမျိုးတူ၊ လူမျိုးမတူ၊ စကားတူ၊ စကားမတူ၊ ဘာသာတူ၊ ဘာသာမတူ၊ အမျိုးမျိုးအဖုံဖုံသော တပည့်အပေါင်းတို့၏ ဆရာကြီး ဖြစ်သည်ကို ကျွန်တော်တို့၏ ဆရာကြီးဟူ၍ ကျယ်ပြန့်သောအနက်ဖြင့် ခေါ်ဆို လိုက်ခြင်း ဖြစ်ပါသည်။

အန္တေဝါသိက ခြေရင်းနေ တပည့်ရင်းများဖြစ်ကြသော ကျွန်တော်တို့သည် ဆရာကြီးကို မျက်မှောက်တွင်လည်းကောင်း၊ နောက်ကွယ်တွင်လည်းကောင်း ချစ်ကြပါသည်။ ကြောက်ကြပါသည်။ ရိုသေကြပါသည်။ ဘာကြောင့် ချစ်ကြသလဲ ဆိုလျှင် ဆရာကြီးသည် တပည့်များကို ကြည့်ရှုစောင့်ရှောက်ရာတွင် မျက်နှာကြီးငယ် မရွေး ထိုက်တန်သလို အကြောင်းအားလျော်စွာ ပြုမူတတ်သောကြောင့် ဖြစ်ပါသည်။ တစ်ဖန် ဘာကြောင့် ကြောက်ကြပါသလဲဆိုလျှင် ဆရာကြီးသည် စကားများများ ပြောလေ့မရှိ။ သူ့အလုပ်နှင့်သူ တွေးကြံလုပ်ကိုင်နေ၍ သင်ကြားပို့ချ ညွှန်ကြားတတ် သောကြောင့် ပြောဆိုစရာရှိမှ ဣန္ဒြေကြီးကြီး စကားနည်းနည်းနှင့် သင်ကြားပို့ချ ညွှန်ကြားတတ်သောကြောင့် တပည့်များအနေနှင့် ဆရာကြီးကို ကြောက်ကြပါသည်။ နှိပ်စက်ကလူ ပြုတတ်သောကြောင့် ကြောက်ခြင်းမျိုးမဟုတ်ပါ။ တစ်ဖန် ဘာကြောင့် ရိုသေကြပါသလဲဆိုလျှင် ဆရာကြီး၏ သီလရှိခြင်း၊ သမာဓိခိုင်မြဲခြင်း၊ ပညာကျယ်ပြန့် နက်နဲခြင်းတို့ကြောင့် ကျွန်တော်တို့သည် ဆရာကြီးကို သူတော်ကောင်း သူတော်မြတ် တစ်ဦးအနေဖြင့် ရိုသေလေးစားခြင်း ဖြစ်ပါသည်။

ဆရာကြီးသည် နှစ်ပေါင်းရှစ်ဆယ်ကျော်အတွင်း တိုင်းပြည်အကျိုး၊ လူမျိုး အကျိုးကို အနိစ္စရောက်ကာနီး အချိန်တိုင်အောင် လိုလားတောင့်တပြုစုဆောင်ရွက် ခဲ့ပါသည်။ အနိစ္စမရောက်ခင် ဆယ်ရက်ခန့်အခါက တိတိကျကျ ပြောရပါလျှင် မတ်လ ၁–ရက်၊ တနင်္ဂနွေနေ့က ကျွန်တော် ဆရာကြီးထံ ရောက်ပါသည်။ ပြည်မြို့ ရွှေဘုန်းပွင့် စာကြည့်တိုက် လူကြီးများက သူတို့ စာကြည့်တိုက်တွင် ဆရာကြီး၏ လက်ရေးနှင့် လက်မှတ်တို့ကို အမှတ်တရ တင်ပြထားလိုသဖြင့် ဆရာကြီးထံမှ တောင်းပေးပါဟု ပြောသောကြောင့် ကျွန်တော် ဆရာကြီးထံ သွားရောက်ခြင်း ဖြစ်ပါသည်။ ထိုအခါ ဆရာကြီးသည် စာအကြောင်း၊ ပေအကြောင်း၊ မြန်မာ့ယဉ်ကျေးမှုအကြောင်းတို့ကို အကြာကြီးပင် အားရပါးရ ပြောပါသည်။

ပုဂံယဉ်ကျေးမှုအကြောင်းတို့ကို အကြာကြီးပင် အားရပါးရ ပြောပါသည်။ ပုဂံယဉ်ကျေးမှုကို မြေအောက်မြေပေါ် တူးဖော်တင်ပြနေသည့်နည်းတူ သရေခေတ္တရာယဉ်ကျေးမှု၊ ပျူတို့၏ ယဉ်ကျေးမှုကိုလည်း မြေအောက်မြေပေါ် တူးဖော်တင်ပြဖို့ကောင်းနေပြီဖြစ်ကြောင်းကို ပြောဟောကာ နောက် တနင်္ဂနွေနေ့တွင် သူ့ထံမှစာနှင့်လက်မှတ်ကို လာယူရန် မှာကြားလိုက်ပါသည်။ မတ်လ ၁၈–ရက်(တပေါင်းလပြည့်) တနင်္ဂနွေနေ့တွင် သက်ဆိုင်ရာ ပုဂ္ဂိုလ်များသည် ဆရာကြီးထံ သွားကြပါသည်။ ဆရာကြီး အသင့်ရေးထားပြီးဖြစ်သော စာနှင့် လက်မှတ်ကို ရကြပါသည်။ ဆရာကြီး ဘာရေးပေးလိုက်ပါသလဲ။ သရေခေတ္တရာ ယဉ်ကျေးမှုအကြောင်းကို ရေးပေးလိုက်သည်ဟု သိရပါသည်။ မတ်လ ၂၂–ရက်နေ့တွင် ဆရာကြီး ကွယ်လွန်ပါသည်။ ထို့ကြောင့် မတ်လ ၁၈–ရက်နေ့တွင် ဆရာကြီး ပေးခဲ့သော စာသည် နောက်ဆုံးစာပင် ဖြစ်ရပါသည်။

ဆရာကြီး၏ သီလ၊ သမာဓိ၊ ပညာကို ကြည်ညိုလေးစား အရေးထားကြသော ဗုဒ္ဓဘာသာဝင် သူတော်စင် ယောဂီပုဂ္ဂိုလ်တို့သည် ဆရာကြီးကို မကြာခဏ ဒိဘ်ခေါ်၍ တရားဓမ္မ ဆွေးနွေးလေ့ရှိကြပါသည်။ ယခု အနိစ္စရောက်ကာနီး အချိန်တိုင်အောင်လည်း ယောဂီအချို့နှင့် သံယုတ်ပါဠိတော်ကြီးကို ဆွေးနွေးဆဲဖြစ်သည်ဟု သိရပါသည်။

ဤတွင် ဆရာကြီးသည် တစ်သက်ပတ်လုံး လေးလေးစားစား မြတ်မြတ်နိုးနိုး သုလာကာ နက်နက်နဲနဲ ကျယ်ကျယ်ပြန့်ပြန့် တွေးတော၍ ပြန်ဆိုရေးသားသောပြောခဲ့သော ပိဋကတ်တော် ကျမ်းဂန်များမှာ ကျမ်းကြီးတစ်ကျမ်းအကြောင်းကို အနည်းငယ် တင်ပြလိုပါသည်။

ဆရာကြီးသည် ၁၉၂၂–ခုနှစ် (အသက် ၃၄–နှစ်) အရွယ်တွင် အင်္ဂလန်ပြည်၊ အောက်စဖို့ဒ် တက္ကသိုလ် အက်ဇိကာကောလိပ်၌ ပညာဆက်လက် သင်ယူလျက်ရှိပါသည်။ ထိုအချိန်တွင် ဆရာကြီးသည် ဝိသုဒ္ဓိမဂ္ဂကျမ်းကြီးကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုပြီးဆုံးသဖြင့် နိဂုံးကမ္ပတ်အဆုံးသတ်ပါသည်။

ဝိသုဒ္ဓိမဂ္ဂကျမ်းကြီးသည် ပိဋကတ်သုံးပုံ၏ အဆီအနှစ်ဖြစ်သဖြင့် အလွန်သိမ်မွေ့နက်နဲ ခက်ခဲသော ကျမ်းကြီးဖြစ်သည်။ ဗုဒ္ဓဘာသာနိုင်ငံများတွင် မြန်မာနိုင်ငံသည်သာလျှင် ဤကျမ်းကြီးကို ပေါက်ပေါက်ရောက်ရောက် သင်ကြားပို့ချနိုင်စွမ်းရှိသည်ဟု ပညာရှိများ မိန့်ဆိုသည်ကို ကြားဖူးရပါသည်။ ဤသို့သော ကျမ်းကြီးကို အင်္ဂလန်ပြည်၊ လန်ဒန်မြို့၊ ပါဠိတော်အသင်းက ဘာသာပြန်ဆိုထုတ်ဝေရန် တစ်ဆယ့်သုံးနှစ်ပတ်လုံး အားထုတ်ကြိုးပမ်းပါသည်။ အနာဂါရိက ဓမ္မပါလ သီဟိုဠ်သား ပုဂ္ဂိုလ်ကြီးက ငွေကျပ် ၁၀၀၀ ပူဇော်၍ ဘာသာပြန်နိုင်စွမ်း

ရှိသူကို ရှာဖွေရန် တာဝန်ပေးအပ်သဖြင့် ပါဠိတော်အသင်းက မစ္စက်ရစ္စဒေးဗစ် (မြန်မာအခေါ် လန်ဒန်ဒေဝီ) က ငွေထုပ်ပိုက်ကာ အာရှ၊ ဥရောပ၊ အမေရိက၊ ဩစတြေလျတိုက်ကြီးများတွင် ရှာဖွေပါသည်။ ကျွန်တော်တို့ ပိဋကတ်တော် သမိုင်းတွင် မင်္ဂလာတရားတော်ကို ဗဟု၊ များစွာကုန်သော။ ဒေဝါစ၊ နတ်တို့သည် လည်းကောင်း။

မနုဿာစ၊ လူတို့သည်လည်းကောင်း။ သောတ္ထာနံ၊ စင်ကြယ်စွာသော။ နိဗ္ဗာန၊ နိဗ္ဗာန်ချမ်းသာကို။ အကင်္ခမာနာ၊ လိုချင်တောင့်တကုန်သည်ဖြစ်၍။ မင်္ဂလာနိ၊ စီးပွားချမ်းသာခြင်း၏အကြောင်းဖြစ်ကုန်သော မင်္ဂလာတရားတော်တို့ကို။ ဒွါဒသဟိ၊ တစ်ဆယ့်နှစ်နှစ်တို့ကာလပတ်လုံး။ အစိန္တယုံ၊ ကြံကြကုန်၏။ စိန္တယန္တပိ၊ ကြံကြ ကုန်သော်လည်း။ နာဓိဂစ္ဆန္တိ၊ မသိနိုင်ကုန် ဆိုသကဲ့သို့ပင် ဝိသုဒ္ဓိမဂ္ဂကျမ်းကြီးကို ဘာသာပြန်နိုင်စွမ်းရှိသည့် ပညာရှိပုဂ္ဂိုလ်ကို ရှာဖွေရာ တစ်ဆယ့်သုံးနှစ်ကြာခဲ့ပါ သည်။ ထိုအခါကျမှ မြန်မာနိုင်ငံမှ ဦးဖေမောင်တင်ကို တွေ့ရှိ၍ တာဝန်ပေးအပ် မေတ္တာရပ်ခံကြသဖြင့် အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုရာ ၁၉၂၂-ခု၊ ဒီဇင်ဘာလ ၁၀-ရက်နေ့ နိဒါန်းရေးသားသော ဝိသုဒ္ဓိမဂ္ဂ အင်္ဂလိပ်ဘာသာပြန်ကျမ်းကြီးသည် အရှေ့လောကဓာတ်မှ နေမင်းကြီး ထွက်ပေါ်လာသကဲ့သို့ ထွက်ပေါ်လာပါသည်။ ဤကျမ်းသည် အင်္ဂလိပ်ဘာသာဖြင့်လည်း ပထမအကြိမ်၊ ဥရောပဘာသာဖြင့်လည်း ပထမအကြိမ်ပေါ်လာသော ဝိသုဒ္ဓိမဂ်ကျမ်းဖြစ်သဖြင့် လန်ဒန်ဝေဒီသည် အလွန် နှစ်ထောင်းအားရဖြစ်ကာ ဘာသာပြန်သူ ဦးဖေမောင်တင် အကြောင်းကို နိဂုံးစာတွင် များစွာချီးကျူး ရေးသားဂုဏ်ပြုခဲ့သည်ကို တွေ့ရပါသည်။ ဤပင်ပန်းဖွယ်ဖြစ်သော မကြာခဏ စိတ်အားလျှော့ဖွယ်ဖြစ်သော ခဲယဉ်းကုတ်ကော်သော လုပ်ငန်းကြီးကို လက်ရှိ စာဖတ်ပရိတ်နှင့် လာလတ္တံ့သော စာဖတ်ပရိသတ်တို့၏ အကျိုးငှာ မဆုတ်မနစ်သော လုံ့လဥဿဟဖြင့် မရမနေ အပြီးအဆုံးတိုင်အောင် ဘာသာပြန်ဆို ပေးသော ဦးဖေမောင်တင်၏ ကျေးဇူးကို အထူးအောက်မေ့ကြောင်း လန်ဒန်ဒေဝီက စိတ်အားထက်သန်စွာ မိန့်ဆိုပါသည်။ ယခုအခါ ဤဗုဒ္ဓဘာသာကျမ်းကြီးကို ကမ္ဘာသို့ တင်ပြနိုင်ပြီဖြစ်၍ အထူးအားရ နှစ်သက်ဖွယ်ရှိကြောင်း မိန့်ဆိုပါသည်။ မိမိ၏စကားမဟုတ်သော ပါဠိဘာသာမှ၊ မိမိ၏စကားမဟုတ်သော အင်္ဂလိပ် ဘာသာသို့ ခက်ခဲနက်နဲသော ကျမ်းကြီးကို ချောချောမောမော အောင်အောင်မြင်မြင် ပြန်ဆိုနိုင်သည်မှာ အံ့ဖွယ်ကြီးတစ်ပါး ဖြစ်ပေသည်ဟု မိန့်ဆိုပါသည်။ လန်ဒန် ဒေဝီသည် နှစ်ထောင်းအားရ ဝမ်းသာလှသည်ဖြစ်၍ "So the man Pe Maung Tin became also the worthy ones." ဟူ၍ပင် ကြွေးကြော်လိုက်ပါသည်။ ဤသို့သော မိန့်ဆိုချက်ကို အချို့သောပုဂ္ဂိုလ်များက အတိဝုတ္တဒေါသများ သင့်လေ

မည်လားဟု အလင်္ကာသံသယ ဖြစ်ကောင်း ဖြစ်မိလိမ့်မည်။ သို့ဆိုလျှင် အလင်္ကာဆရာ အတိဝုတ္တဒေါသ သင့်သည်မဟုတ်၊ အတိသယဝုတ္တိ အလင်္ကာမြောက်ခြင်း ဖြစ်သည်ဟု ဖြေဆိုလိမ့်မည် ထင်ပါသည်။ ဤဝိသုဒ္ဓမဂ် အင်္ဂလိပ်ဘာသာပြန်ကျမ်းကြီးသည် ပထမပုံနှိပ်ပြီးနောက် ၄၉–နှစ်ကြာသော ၁၉၇၁–ခုနှစ်တွင် မလေးရှားနိုင်ငံ၊ ပီနန်မြို့ တရုတ်အမျိုးသား မစ္စတာယပ်အင်ဟိုး၏ ဓမ္မဒါနအဖြစ် ဒုတိယအကြိမ် ထွက်ပေါ်လာပါသည်။ ဤကဲ့သို့ အမျိုး၊ ဘာသာ၊ သာသနာမရွေးလောကကို ကျေးဇူးပြုမည်ဆိုလျှင် ဆောင်ရွက်မည်ဟူသော အဓိဋ္ဌာန်ဖြင့် လောကအကျိုး သည်ပိုးဆောင်ရွက်သွားသော ကျွန်တော်တို့၏ ဆရာကြီး ဦးဖေမောင်တင်ကို ရိုသေမြတ်နိုး လက်စုံမိုး၍ ရှိခိုးကန်တော့ပါကြောင်း။

မင်းသုဝဏ်
(မောင်ဝန်)

# ကြိုဆိုပါ၏

## (၁)

တစ်ဆယ့်ကိုးရာစုခေတ်ထဲတွင် ဥရောပတိုက်သား သုတေသီပညာရှင်များသည် အာရှတိုက် ယဉ်ကျေးမှုကို ခွဲနပဲကြီးစွာ ယုံကြည်မှုအပြည့်အဝနှင့် ကာလအလျောက် သိပ္ပံနည်းကျကျ ရှာဖွေလေ့လာ တင်ပြကြပါသည်။ အိန္ဒိယ ယဉ်ကျေးမှုကို အထူးဂရုပြု ရှာဖွေလေ့လာတင်ပြကြပါသည်။

အကြောင်းမှာကား အိန္ဒိယနိုင်ငံသုံး ရှေးဟောင်းစကား သက္ကတဘာသာ၊ ပါဠိဘာသာ စသည်တို့သည် ဥရောပတိုက်သုံး ဂရိဘာသာ၊ လက်တင်ဘာသာ စသော ဘာသာစကားတို့နှင့် ဆွေမျိုးတော်စပ်နေသည်ကို တွေ့နေရသောကြောင့် ဖြစ်ပါသည်။

ဘာသာစကားကို လေ့လာယင်း ဗြဟ္မဏဘာသာ၊ ဗုဒ္ဓဘာသာ၊ ဂျိန်းဘာသာ ဆိုသည့် ကိုးကွယ်မှုဘာသာကြီးများကိုလည်း တစ်နွယ်ငင် တစ်စင်ပါ လေ့လာဖော်ထုတ်ကြပါသည်။ တစ်ဖန် ပါဠိစကားကို အကြောင်းပြု၍ ဗုဒ္ဓဘာသာ ပါဠိ ပိဋကတ်ကို လေ့လာကြပါသည်။ ထိုအခိုက် ရုရှလူမျိုးပညာရှင် မိနာယက်ဖ်[၁] က မြန်မာနိုင်ငံဖြစ် ဂန္ဓဝံသကျမ်းကို ကိုင်ကာ ဗုဒ္ဓဘာသာအကြောင်း သုတေသနစာတမ်း ရေးသားတင်ပြပါသည်။ ပါဠိကျမ်းတစ်ကျမ်းကိုလည်း ဘာသာပြန်ကာ တင်ပြပါသည်။

ဤသို့ဖြင့် ပိဋကတ်စာပေ ထွန်းကားတောက်ပြောင်ရာ မြန်မာနိုင်ငံဘက်သို့ ရုရှ၊ ပြင်သစ်၊ ဂျာမန်၊ အင်္ဂလိပ် စသော သုတေသီပညာရှိတို့သည် ဦးတည်ရောက်ရှိလာကြပါသည်။

---

၁။ Minayeff.

# (၂)

၁၈၈၀–ပြည့်နှစ်တွင် ရန်ကုန်မြို့၌ ကာလကတ္တားတက္ကသိုလ် လက်အောက်ခံ ရန်ကုန်ကောလိပ်သိပ္ပံကျောင်းကို တည်ထောင်ဖွင့်လှစ်ပါသည်။ ယင်းသိပ္ပံကျောင်းတွင် ပါဠိပါမောက္ခရာထူး ထားရှိ၍ ပါဠိပါမောက္ခများကို အဆက်ဆက် ခန့်ထားကာ ပါဠိစာပေကို သင်ကြားပို့ချပေးခြင်း၊ ပါဠိကျမ်းဂန်ကို အပြင်လောကသို့ ရောမ အက္ခရာနှင့် လှယ်၍တစ်မျိုး၊ အင်္ဂလိပ်ဘာသာနှင့် ပြန်၍ တစ်မျိုး တင်ပြခြင်းဆိုသော ပညာဒါနလုပ်ငန်းများကို ဆောင်ရွက်ပါသည်။ ထိုပုဂ္ဂိုလ်တို့တွင် ဒေါက်တာဖောချမ္မာ[၁]၊ ပါမောက္ခ ဂျိန်းဂရေး[၂]၊ မစ္စတာ ဒူရွာဇဲ[၃] တို့မှာ ထင်ရှားပါသည်။

ထိုပညာရှိကြီးများသည် မြန်မာ့စာပေ ယဉ်ကျေးမှုကိုလည်း တစ်ပါတည်း ရှာဖွေလေ့လာကြရာ ရေးဟောင်း ပျူ၊ မွန်၊ မြန်မာ ကျောက်စာများကို သတိပြု လာကြပါသည်။ လေ့လာလာကြပါသည်။ တည်းဖြတ်ပုံနှိပ် ထုတ်ဝေလာကြပါသည်။ ထိုအခါ စာတော်ပြန် မြို့အုပ် ဦးထွန်းငြိမ်းက ကျောက်စာများကို အင်္ဂလိပ်ဘာသာ ပြန်ဆိုပေးရပါသည်။ ထိုအခိုက်တွင် ဆရာကြီး ဦးဖေမောင်တင် အလောင်း အင်းစိန်မြို့ဇာတိ စာတော်ပြန် မြို့အုပ် ဦးထွန်းငြိမ်း၏တူ၊ မန္တလေးမြို့ သာသနာပိုင် ဆရာတော်ဘုရား၏ မြေး မောင်တင်သည် ၁၉၀၉–ခုနှစ်၌ ရန်ကုန်ကောလိပ် သိပ္ပံကျောင်းတွင် ဘီအေဘွဲ့ကို ရပါသည်။

ယင်းနှစ်၌ပင် အင်္ဂလန်ပြည် အာရှအသင်းတော်က ဒေါက်တာမေဘယ်ဗုဒ်[၄]၏ မြန်မာနိုင်ငံ ပါဠိကျမ်းဂန်[၅] ဆိုသော စာအုပ်ကို ထုတ်ဝေလိုက်ပါသည်။ မြန်မာလူမျိုး ပညာရှိကြီးများပြုစုသော ဂန္ထဝံသ၊ သာသနာလင်္ကာရစာတမ်း၊ သာသနာဝံသကျမ်း၊ ပိဋကတ်သမိုင်း စသည်တို့ကို အားကိုး၍ အင်္ဂလိပ်အမျိုးသမီးကြီးက မြန်မာနိုင်ငံ ပါဠိကျမ်းဂန်သမိုင်း ပြုစုသည်ကို မောင်တင် အလွန်နှစ်ခြိုက် အားကျသည်။ ရန်ကုန်ကောလိပ်သိပ္ပံတွင် စာပေပို့ချပြီး ပို့ချဆဲဖြစ်သော ပါဠိမောက္ခများ၏ စာပေရှာဖွေမှု၊ လေ့လာမှု၊ ရေးသားတင်ပြမှုတို့ကလည်း မောင်တင်ကို လက်ယပ် ခေါ်လျက် ရှိသည်။ မျိုးရိုးပါ စာပေဝါသနာ ပါဠိပညာရေး အထုံတို့ကလည်း နှိုးဆော်လျက် ရှိသည်။

---

၁။ Dr. Emil Forchammer.

၂။ Prof. James Gray.

၃။ Prof. Charles Duroiselle.

၄။ Dr. Mabel Haynes Bode.

၅။ The Pali Literature of Burma.

ထို့ကြောင့် မောင်တင်သည် ပါဠိဘာသာကို ဆက်လက်သင်ယူ၍ ကာလကတ္တား တက္ကသိုလ်က စစ်ဆေးပေးအပ်သော မဟာဝိဇ္ဇာဘွဲ့ကို ၁၉၁၁–ခုနှစ်တွင် ရလေသည်။ ၁၉၁၂–ခုမှ ၁၉၂၀–ပြည့်နှစ်အထိ ရန်ကုန်ကောလိပ်သိပ္ပံတွင် ပါဠိပါမောက္ခအဖြစ် လုပ်ဆောင်စာပေပို့ချရင်း ဘားနဒ် အခမဲ့ စာကြည့်တိုက်အုပ်အဖြစ် ဆောင်ရွက်လေသည်။ ယင်းသို့ လုပ်ကိုင်ဆောင်ရွက်ရင်း ဆန္ဒပြင်းစွာ ဖြစ်လာသည်မှာကား မြန်မာနိုင်ငံနှင့် ပတ်သက်သော ပါဠိစာပေသမိုင်းသည် မြန်မာဘာသာ၊ ပါဠိဘာသာ၊ အင်္ဂလိပ်ဘာသာတို့နှင့် ရှိနေလေပြီ။ မြန်မာစာပေသမိုင်းကား မရှိသေး။ ဖြစ်ပေါ်ဖို့ အချိန်တန်ပြီ။

ယင်းသို့ တွေးနေခိုက် နိုင်ငံခြားတွင် ပညာသင်ယူခွင့် ရသဖြင့် အင်္ဂလန်ပြည် အောက်စဖို့ဒ်တက္ကသိုလ်သို့ သွားရောက် ပညာသင်ရပါသည်။

## (၃)

မောင်တင်သည် ယင်းတက္ကသိုလ်၌ အခြားဘာသာရပ်များအပြင် အင်္ဂလိပ်စာပေကိုလည်း ပညာကျော် ဆရာကြီးများထံတွင် လေ့လာသင်ယူသည်။ အင်္ဂလိပ်စာပေကို သင်ယူရင်း အင်္ဂလိပ်စာပေနှင့် မြန်မာစာပေကို နှိုင်းယှဉ်ဆင်ခြင်ကာ ရှေးဟောင်းမြန်မာစာပေကို ပြန်လည်ဖော်ထုတ်ရန် ဆန္ဒဖြစ်လာသည်။ ခေတ်မီ မြန်မာစာပေသစ်ကိုလည်း ဖန်တီးရန် စိတ်ကူးရလာသည်။ ထို့ကြောင့် အောက်စ်ဖို့ဒ် တက္ကသိုလ် ဗော့ဒလီယန် စာကြည့်တိုက်၊ လန်ဒန်မြို့ ဗြိတိသျှပြတိုက်၊ အိန္ဒိယ ရုံးတော် စာကြည့်တိုက်တို့တွင် ရှိသော မြန်မာပုံနှိပ်စာအုပ်များတွင် ပေပုရပိုက်တို့ကို ရှာဖွေမွှေနှောက်ကာ သင့်နိုးရာရာတို့ကို လေ့လာ၍ မှတ်စုရေးသား စုဆောင်းပါသည်။

## (၄)

မြန်မာပြည်သို့ ပြန်လာသောအခါ ရန်ကုန်တက္ကသိုလ် အရှေ့တိုင်း ဘာသန္တရ ဌာနၣ် ပါမောက္ခဌာနမှူးအဖြစ် ဆောင်ရွက်ပါသည်။ ထိုအခါ တက္ကသိုလ်သင်ရိုးညွှန်းတမ်းတွင် မြန်မာစကားနှင့် စာပေကို သီးခြား ဘာသာရပ်တစ်ခုအနေဖြင့် သင်ကြားပို့ချနိုင်ခွင့်ရအောင် ဘားနဒ်စာကြည့်တိုက်မှ လင်္ကာစကားပြေ စာပေများကို ဆုတ်ယူလေ့လာပါသည်။

လင်္ကာစကားပြေကောင်းများကို မိမိကိုယ်တိုင်လည်း စနစ်တကျတည်းဖြတ်သည်။ ပညာရှိများကို ချဉ်းကပ်၍လည်း တည်းဖြတ်စေသည်။ ထို့နောက် မိမိ

အထွေထွေစာတည်းအဖြစ် လုပ်ကိုင် ဆောင်ရွက်နေသော မြန်မာနိုင်ငံ သုတေသန အသင်းက ဤရှေးဟောင်း လင်္ကာ စကားပြေကျမ်းများကို ပုံနှိပ်ထုတ်ဝေပါသည်။ ဤနည်းဖြင့် မြန်မာစကားနှင့် စာပေကို ဝိဇ္ဇာဂုဏ်ထူးတန်းနှင့် မဟာဝိဇ္ဇာဂုဏ်ထူး တန်းတို့အထိ သင်ကြားပို့ချနိုင်သော အဆင့်သို့ရောက်အောင် ပို့ဆောင်လိုက်ပါသည်။ ထိုအခါ ပါမောက္ခ ဦးဖေမောင်တင်သည် မိမိဟစ်သက်တာ ရှာဖွေလေ့လာ ဆွေးနွေးမေးမြန်း စုံစမ်းစုဆောင်းခဲ့သော စာပေသမိုင်း အချက်အလက်များကို မိမိတစ်သက်တာ လေ့လာခဲ့သော နည်းစနစ်တို့ဖြင့် စကာချရွေးချယ် စနစ်တကျ စီစဉ်ကာ တပည့်အချို့၏ နည်းနာသင်ယူရင်း ဝမ်းသာအားရ ဂုဏ်ယူလုပ်ဆောင် ပေးသော အကူအညီကို ခံယူလျက် မြန်မာစာပေသမိုင်းကို ပြုစုထုတ်ဝေ၍ မိမိ တစ်သက်တာ မျှော်မှန်းမွေးမြူခဲ့သည့် လိုဘကို ဖြည့်တင်းလိုက်ပါတော့သည်။

(၅)

ယခု ဤစာပေအလင်းရောင် စာအုပ်သည် ရှားပါး စာရင်းဝင်အဖြစ်မှ ပြန်လည်ထွက်ပေါ်လာဦးမည်ဆိုသဖြင့် ဝမ်းသာအားရ ကြိုဆိုပါ၏။ ဆရာကြီး ဦးဖေမောင်တင်ကိုလည်း ဤကြိုဆိုစာပေဖြင့် အလေးအမြတ် ကန်တော့ဝတ်ချကာ ကျေးဇူးထစ်စိတ် ဆပ်လိုက်ပါ၏။ ဆရာကြီး၏ ပညာဒါနအတွက်လည်း သာဓု ခေါ်လိုက်ပါသတည်း။

၁-၈-၈၅

မင်းသုဝဏ်

# ၁။ ပုဂံကျောက်စာခေတ်

မြန်မာစာပေ အရေးအသား၏ အစမူလကို ရှာဖွေလျှင် ကျောက်စာကို တွေ့ရှိရသည်။ စင်စစ်အားဖြင့် ကျောက်စာသည်ကား မြန်မာစာပေ၏ အုတ်မြစ်ကြီး သဖွယ်ပင်တည်း။ ထို့ကြောင့် မူလပင်ရင်းဖြစ်သော ကျောက်စာကို သေချာစွာ စဉ်းစားဆင်ခြင်ကာ ကျောက်စာ ထွန်းကားရာဖြစ်သော ပုဂံကောင်းစားသည့်ခေတ်ကို တွေးရှုသင့်သည်။ မြန်မာကျောက်စာများတွင် မြစေတီကျောက်စာကို အလေးမူ၍ ကောင်းစွာဆင်ခြင် စဉ်းစားရာ၏။ မြစေတီကျောက်စာကို ကျန်စစ်မင်း၏သား ရာဇကုမာ အမည်ရှိသော မင်းသားက သက္ကရာဇ် ၄၇၄–ခုနှစ်တွင် စိုက်ထူခဲ့သည် ဖြစ်၍ ခမည်းတော် အသည်းအသန် မကျန်းမမာဖြစ်သည့်အခါ ရွှေဆင်းတု တစ်ဆူ ပြုလုပ်၍ လှူကြောင်းနှင့် ကျေးကျွန် လယ်မြေများကိုလည်း လှူကြောင်း တို့ကို စကားပြေဖြင့် ရေးသားထားသည်ကို တွေ့ရသည်။ ထို့ကြောင့် မြန်မာ စာပေတွင် ကျောက်စာ စကားပြေသည် ရှေးအကျဆုံးဖြစ်သည်ဟု ယူဆဖွယ် ဖြစ်၏။ မြန်မာဘာသာမျှ မကသေး၊ အထက်ပါ အကြောင်းအရာကို ပျူဘာသာ ဖြင့်လည်းကောင်း၊ ပါဠိဘာသာဖြင့်လည်းကောင်း၊ မွန်ဘာသာဖြင့်လည်းကောင်း ကျောက်စာတိုင်၏ အခြားသော သုံးမျက်နှာ အသီးသီးတွင် ရေးထိုးထား သည်ကို တွေ့ရှိရသည်။ သို့ဖြစ်၍ ထိုခေတ် ထိုအခါတွင် မြန်မာဘာသာအပြင်

ပျူဘာသာ၊ ပါဠိဘာသာ၊ မွန်ဘာသာတို့ကိုလည်း ရေးသား သုံးစွဲကြောင်းကို သိသာ၏။ မြစေတီကျောက်စာကို စာပေဘက်မှ နေ၍ ကြည့်ရှုပါမူ အရေးအသားမှာ ရှေးကျ၏။

> ထိုမင်း၏ ပါယ်မယား တယောက်သော်ကား တြိလောက ဝငံ့သကာဒေဝိ မည်၏။ ထိုပါယ်မယား သားတမူလည်း ရာဇကုမာရ် မည်၏။ ထိုမင်းကား ကျွန်သုံးရွာတည်း ပါယ်မယားအား ပေး၏။*

ဤကဲ့သို့သော ဝါကျတိုများကို ထောက်သော် လိုရင်းအဓိပ္ပာယ်ကို သိသာအောင် ရေးသားခြင်းမျှသာ ဖြစ်ကြောင်း သိရ၏။ စာအရေးအသားသည် ထိုခေတ်မှ အစပြုစဖြစ်သည့်အပြင် အခြားသော ဘာသာစကားများ ရှိနေခြင်းကြောင့်လည်း ဤသို့ဖြစ်ရသည်ဟူ၍ ယူဆထိုက်၏။ ယခုခေတ် မြန်မာစာပေ၏ အခြေအနေကို ကြည့်ခြင်းအားဖြင့်လည်း အထက်ပါအကြောင်းကို ထင်ရှားစွာ သိသာနိုင်၏။ မြန်မာအမျိုးသားတို့သည် မြန်မာစကားအပြင် အင်္ဂလိပ်စာကိုလည်း လေ့လာလိုက်စားနေရခြင်းကြောင့် မြန်မာစာပေဘက်တွင် ဂရုပြုချင်သလောက် အချိန်မရကြပေ။ မြန်မာစာပေကို တစ်ဘက်သတ် သက်သက် ကြည့်ရှု မှတ်သား လေ့ကျင့်သောသူတို့ကဲ့သို့ တတ်မြောက်နိုင်ရန် ခဲယဉ်း၏။ မြစေတီကျောက်စာ ရေးသားသောခေတ်၌လည်း အခြားဘာသာ အရေးအသားတို့က များပြားလျက် ရှိသည် ဖြစ်သောကြောင့် မြန်မာစာမှာ တိုးပွားသင့်သလောက် မတိုးပွားဘဲ ရှိနေခြင်းဖြစ်သတည်း။ သို့ရာတွင် ပုဂံခေတ်ရှိ ရှေးလူဟောင်းတို့သည် မဆုတ်မနစ်သောလုံ့လဖြင့် မြန်မာစာ အရေးအသားကို ပြုလုပ်ကြလေသည်။ အကြောင်းသော်ကား မြစေတီကျောက်စာ ရေးသည်မှစ၍ နောက် ဆက်ကာဆက်ကာ အနှံ့အပြား ရေးသား စိုက်ထူထားခဲ့သည်ကို တွေ့ရှိရသောကြောင့်ပင် ဖြစ်သည်။ ဤသို့ပင် မြန်မာစာပေအရေးအသားဝါကျ အစီအစဉ်တို့သည် လေ့ကျင့်ဖန်များသဖြင့် တဖြည်းဖြည်း တစ်စတစ်စ တိုးပွား၍ လာရပေတော့၏။ ဤအကြောင်းကို သက္ကရာဇ် ၅၈၆–ခုတွင် အနန္တသူ ဇနီးမောင်နှံတို့ စိုက်ထူခဲ့သော ကျောက်စာကို ကြည့်ခြင်းအားဖြင့် သိသာနိုင်၏။

---

* ကျောက်စာမှ အကိုးအကားတို့ကို အဖတ်လွယ်ကူစေခြင်းငှာ ယခုခေတ် စာလုံးပေါင်းဖြင့် ပြင်ဆင်သင့်သမျှ ပြင်ဆင်ထားပါသည်။

> အနန္တသူရ် မောင်နှံ နှစ်ယောက် ဤယ်လူတွင်နိုက်အတိုင်း မသိသန္ဓါရုယ်ပြုသောကောင်းမှု အကျိုးဖြင့်ကား။ ရေမြေခပ်သိမ်းသော အသှိုင် ဖြစ်သော မြတ်စွာသောမင်းကြီး စသော မင်းငီ၊ မင်းသား၊ မင်းသမီး၊ မင်းနှမခပ်သိမ်း။ အမိပုရှား စသော ဋွမောင်းမတော် ခပ်သိမ်း။ အမတ္တျာ စသော ဗိုလ်ဗာခပ်သိမ်း။ ဩက်အဝစိယ်စသော အထက် ဖ ဝဏ် တိုင် ဩင်။ အတိုဝ့် စကြဝဋ္ဌာစသော အတိုင်း မသိသော စကြဝ်ဋ္ဌာနိုက်နေသော လူ နတ် သတာ ခပ်သိမ်း သကိုဝ့်ကိုဝ် အကြွင်းမဲ့သဖြင့်။ သသ်ရာဆင်းရဲမှ ထွက်မြောက် ခရုယ့် ဆင်းရဲမဲ့သော နိရဗန်ပြည်သို့ဝ့် ရောက်စေချင်သောကြောင့်။ ငါလည်း သိစပ် မြင်နှမ့်သော သဗ္ဗညုတဉာန် ပုရှားဆုကိုဝ် လိုဝ်ချင် သော ကြောင့်။ ဤ အာ မ နာ မည်သော ကန်အရပ် နိုက်ကား များစွာသော ထန်းပင် ဘိလ္လာင် ပေျှာင်းအရံစိုက် လတ်၍...

ဟု ရေးသားထားသဖြင့် မြစေတီကျောက်စာ ရေးသားပြီးနောက် နှစ်ပေါင်း ၁၁၁-နှစ်မျှ ကြာလျှင်ပင် မြန်မာစာအရေးအသား စကားအသွားအလာသည် မည်မျှကောင်းစွာ တိုးတက်လာကြောင်း ထင်ရှားပေသည်။

သက္ကရာဇ် ၆၀၄-ခုနှစ်သို့ ရောက်သောအခါမူကား စာအရေးအသားမှာ ရှေးကထက်ပင် တိုးတက်ကောင်းမွန်၍ လာခဲ့၏။ ရှင်ပင်ဗောဓိ ကျောက်စာ ၌င်...

> သိခင် ညောင်ရမ်းကြီး သမီး မိမိအသက်နှင့် တူသော မျက်စေ့ မျက်ဆန်နှင့်တူသော မိမိချစ်စွာသော လင်...

ဟု ရေးသားထားခြင်းကို ထောက်ရှုခြင်းအားဖြင့် ဥပမာ အနှိုင်း အခိုင်းများကို ထည့်သွင်းရေးသားလာကြောင်း ထင်ရှား၏။

သက္ကရာဇ် ၆၂၈-ခု အာမနာကျောင်း ကျောက်စာတွင် သိဃ်သူ့ သမီး၏ ဆုတောင်းများကို ဖတ်ရှုခြင်းအားဖြင့် မြန်မာစာ အရေးအသားသည် မည်သို့သော အခြေအနေသို့ ရောက်ရှိလာပြီ သိသာနိုင်သည်။

> သက္ကရာဇ် ၆၂၈-ခု ပိသျှက်နှစ် နံကာ လဆန်း ၇ ရက် ကြာသပတေးနေ့ မထီးလိုမြေးမင်း မယား သိဃ်သူ သမီး

ဖွစ်သော ဆင်းရဲ၊ အိုဝ်မင်းသော ဆင်းရဲ၊ သေသော ဆင်းရဲ၊ မချစ် သောသူနှင့်တကွ နေသော ဆင်းရဲ၊ ချစ်သောသူနှင့် ကွေကွင်းသော ဆင်းရဲ၊ လိုဝ်ရယ်မရသော ဆင်းရဲ၊ ဤသို့က စသော အတိုင်းမသိသော ဆင်းရဲတို့ဝ်သည် နိပ်စက်သော ခန္ဓာကိုစွန့်ထားခရယ် ဆင်းရဲခပ်သိမ်း ကင်းသော ချမ်းသာစွာသော၊ မြတ်သော နိရဗန်ကိုဝ်လျှင် ကိုလိုဝ် သတေးဟူရယ် ချစ်စွာသော မြတ်သော ရွှေငွေကစသော ညတ်စာ တိုင့်ကိုဝ် စွန့်ရယ်ပြုသော ကျောင်းတွင်နေသော သတင်းသမာဓိ ပြညာဟူသော ကျေးဇူးသုံးပါး ကိုဝ်ရှာသော သတင်းစင်သော ပုရှားတပည့်သား ရဟန်းသင်္ဃာ ချမ်းသာစိမ့်သောငှာ လယ်ဥယဉ် ကျွန်းခပင်း အကြွင်းမယ့်လျှင် လှူ၏။ ဤငါတိုဝ့်ပြုသော ကောင်းမှု အကျိုး၊ အတို့ခပ်သိမ်းသော ကိုဝ် အစိုးရသော ရေမြေအသွိင် ဖြစ်သော မင်းကြီးလည်း ရစေအေ်။ ဤယ်ကောင်းမှု အာနုဘဝ်ဖြင့် ပြည်တိုင်းကား ခပ်သိမ်းသော နှိုက်နေသော လူခပ်သိမ်းသောအေ် အစီးအပွား ချမ်းသာကိုဝ် ရှာပေလျက် သက်တော်ရှည်စွာ နေရယ် ဤကောင်းမှုကုဝ် ထောက်ပင့်စေသတည်း။ အမိပုရှားစသော မောင်းမ တော် ခပ်သိမ်းလည်း ရစေအေ်။ အချင်းချင်း အမျက်အဤတစေ့ မရှိ ချစ်သော မျက်စေ့ဖြင့် ရှုကြရစေအေ်။ ယခုရှိသော နှောင်ဖြစ်လတ့် အံ့သော မင်းကြီး မင်းသား အမတ်များ စသော သူခပ်သိမ်းလည်း ရစေသတည်း၊ အရေအရံ ယူပါစေသတည်း။ ယမမင်းစသော သတ္တဝါခပ်သိမ်းလည်း ရစေသတည်း။ အရအမိ ကိုဝ်လိုဝ်သော သူကား အရအမိရစေအေ်။ ကောင်းမှု ကိုဝ်မှုလိုသော သူကား ကောင်းမှုကိုင်မှု ရစေအေ်။ ငါလည်း ရံမက်ကြီးသော မရောင့်ရယ် တတ်သော အမျက်ကြီးသော သူတစ်ထူးကို ညှင်းဆယ်တတ်သော ပြညာမရှိသော မိုက်သော ဝန်တိုဝ်သော အပေးအကာံ မရှိသော သစ္စာမရှိသော ပျက်တတ်သော မေ့လျဝ်သော ဩမေ့တသ ကင်းသော မဖြစ်မူရယ်။

စသည်ဖြင့် ရေးသားထား၏။

အထက်ပါ အကြောင်းအရာကို ထောက်ရှုခြင်းဖြင့် လှူဒါန်းသူ မိဖုရား၏ စိတ်နေသဘောထားကို နှိုင်းချင့် သိသာနိုင်၏။ မိမိ လှူဒါန်းသော ဒါနကုသိုလ်ကို သူတစ်ပါးအားလည်း ရစေလို၏။ သံသရာဝဲကြီးမှ လွဲထွက်ချင်သော ဗုဒ္ဓဘာသာ

စင်စစ်ဖြစ်ကြောင်း ထင်ရှား၏။ အလိုရမ္မက် အမျက်ကင်းရှင်းလျက် သူတစ်ထူးအား စောင်မကြည့်ရှုလိုသော စိတ်သာလျှင် ရှိ၏။ မိမိကိုယ်ကို ဗုဒ္ဓဘာသာပီပီ နှိမ့်ချလိုသော စိတ်လည်း ရှိ၏။ ဤသို့ တစ်ဦးဦး၏ အတွင်းစိတ်ဓာတ်သဘော တည်နေပုံ အခြင်းအရာကို သူတစ်ပါးတို့ ကွက်ကွက်ကွင်းကွင်း ထင်လင်းပေါ်လွင် သိမြင်အောင် ရေးသားနိုင်ရန်လည်း လွယ်ကူသည် မဟုတ်ချေ။ တစ်စုံတစ်ခုသော ပုဂ္ဂိုလ် အထည်ဝတ္ထုတို့၏ ဖြစ်ပျက်သည့်အကြောင်း အတ္ထုပ္ပတ္တိကို ပြန်လှန်ရေးသားခြင်းထက် ခက်ခဲ၏။ ယင်းသို့ ခက်ခဲလှငြားသော်လည်း ဤအာမနာ ကျောင်း ကျောက်စာတွင် အဓိပ္ပာယ်ပါပါနှင့် ထိထိခိုက်ခိုက် ရေးသားထားသည်ကို တွေ့ရ၏။

ဤမျှမကသေး၊ သက္ကရာဇ်-၆၃၃ မင်းဝိုင်းကျောင်း ကျောက်စာ၏ ကျောဘက် တွင် မိဖုရား ဖွားစောသည် ဤသို့ ဆုတောင်း၏။

> လူဖြစ်သော်ကား လူတကာထက် စည်းစိမ်ချမ်းသာ ငါ ရလိုအေ်။ နတ်ဖြစ်သော်လည်း နတ်တကာထက် မြတ်သော နိုင်ငံသော အဆင်း အရောင် အဝါနှင့် ပြည့်စုမ်ရယ် အထူးသဖြင့်လျှင် အသက်ရှည်သော အနာမယ့်သော အဆင်းလှသော အသံသာယာသော အလုံးအရုပ် လှသော လူနတ်ခပ်သိမ်း ချစ်ခင်ရိုဝ်သေ မြတ်နိုဝ်းသော ငါဖြစ်လိုအေ်၊ ရွှေငွေပတ်တမြား ပုလယ်းသန္တာက စသော အသက်မဲ့သော ဥတ်စာ၊ အသက်ရှိသော ဆင်မြင်းက စသော ဥတ်စာ ရတနာများစွာသော ငါဖြစ်လိုဝ်အေ်၊ ဖုန်းတန်ခိုဝ်းဖြင့် အနိုင်အင အခြံအရံ အကျော် အဃော ကြီးစွာသော ငါဖြစ်လိုအေ်၊

စသည်ဖြင့် ရေးသားထား၏။

ဤကျောက်စာကို ထောက်ရှုခြင်းအားဖြင့် မိဖုရား ဖွားစောသည် အထက် ဆိုခဲ့ပြီးသော သိင်္ဃသူ၏ သမီးနှင့် စိတ်ဓာတ်ခြင်း တူပုံမရ။ မာန်မာန အနည်းငယ် တက်သည်ဟု ဆိုရချေမည်။ ဖြစ်လေရာရာတွင် လူတကာ၏ ထိပ်၊ နတ်တကာ တို့၏ မကိုဋ် ဖြစ်လို၏။ ငါ- ငါဟူသော ဗုဒ္ဓဘာသာတရား၏ ဆန့်ကျင်ဘက် ဖြစ်သော သက္ကာယဒိဋ္ဌိသံ၊ မာနသံတွေ ရောစွက်လျက် ရှိ၏။ ထို့ကြောင့် ထိုမိဖုရားနှစ်ပါးတို့၏ စိတ်ဓာတ်ကို ဖတ်ရှုသူဟို့ သိသာလောက်အောင် ကျောက်စာ ဖြင့် ဖော်ပြနိုင်သည်ကို ထောက်ရှုခြင်းအားဖြင့် မြန်မာစာအရေးအသားသည်

မြစေတီကျောက်စာရေးထိုးသည်မှ စ၍ တဖြည်းဖြည်း တိုးတက်၍လာသည်မှာ မုချဖြစ်၏။ ပုဂံကောင်းစားသော ခေတ်တွင် အရေအတွက် များပြားလှစွာသော ကျောက်စာတို့ကို စိုက်ထူခဲ့ပေ၏။ ထိုကျောက်စာတို့သည်ကား မြန်မာစာပေ လိုက်စားသူတို့အတွက် တစ်မျိုးစီ အသုံးဝင်ကြ၏။ ထိုကျောက်စာတို့ကို အကျယ် ဖော်ပြနေမည်ဆိုပါက ရှည်လျားအံ့စိုး၍ မရေးသားတော့ပြီ။ အထက်ပါ အကြောင်း အရာ ချုပ်ကိုသာ ကြည့်ရှု ဆင်ခြင်ခြင်းအားဖြင့် မြန်မာစာ အရေးအသားသည် မည်သို့ တိုးတက်လာကြောင်းကို တွေးတော ခန့်မှန်း၍ ယူကြရန် ဖြစ်တော့ သည်။

စာပေပရိယတ္တိအပြင် အခြားဘက်တွင်လည်း ကျောက်စာသည် အသုံး ဝင်၏။ ကျောက်စာကို ကြည့်ရှုခြင်းဖြင့် ရှေးပုဂံခေတ်၏ အခြေအနေကို ကောင်းစွာ ခန့်မှန်းနိုင်၏။ ထိုခေတ် ထိုအခါက တိုင်းပြည်ကို မည်သို့အုပ်ချုပ်သည်၊ မည်သို့ သော ရာထူးဌာနန္တရနှင့် လူများကို ခန့်ထားသည်။ မည်သည့်အလုပ်အကိုင်များကို လုပ်ကိုင်ကြသည်။ လူတို့ကို မည်သည့်အဆင့်အတန်းဖြင့် ခွဲခြားထားသည် စသည် တို့ကို ကောင်းစွာသိနိုင်သည်။ ထိုခေတ်ကပင် စ၍ မှူးမတ်သေနာပတိတို့ ရှိကြောင်းကို လေးမျက်နှာဘုရား ကျောက်စာ၌ **'မင်းကြီး မတ္တျာမဟာ သေနာပတိ'** ဟူသော စကားက ထောက်ခံသဖြင့် သိနိုင်၏။ လယ်မြေများကို ကြည့်ရှုမှတ်သား ရသော လယ်မြေအရာရှိများ ရှိကြောင်းကိုလည်း တိုင်းချွတ်ဘုရား ကျောက်စာတွင် **သံပျင်သေ စရင်းတွင်လဲ ၂၁ သံပျင်ပု စရင်းတွင်လဲ ၁၀** ဟူ၍လည်းကောင်း၊ ဓမ္မရံကြီးကျောက်စာ၌ **ကလာန်အိဖုဟ်တောင်၊ ကလာန်လု** ဟူ၍လည်းကောင်း တွေ့ရသဖြင့် သိသာနိုင်သည်။ မောင်းထောင်ဆရာတော် ရေးသားသော ရာဇသေဝက ဒီပနီကျမ်း၌ ရွာတစ်ခုတည်းသော ကြီးစိုးသော အမတ်ကို ကလန်၊ ရွာတစ်ခုထက် ပိုမို၍ အများအပြား ကြီးစိုးသော အမတ်ကို သံပျင်ဟူ၍ ပြဆို၏။ သို့ဖြစ်၍ ရှေးပုဂံ ခေတ်ကပင်လျှင် လယ်မြေများကို ကြည့်ရှုစာရင်းမှတ်ကာ ရွာကို ကြီးစိုးသော ကလန်၊ သံပျင် အရာရှိများရှိကြောင်း ထင်ရှားသတည်း။ ထို့ပြင်လည်း စောရဟန်း သိမ်ကျောက်စာ၌ **'စာချိဗိုလ်'** ဟူ၍ ပါရှိသော ဝေါဟာရကို ထောက်ထားခြင်းအားဖြင့် စာရေးကြီးများရှိကြောင်းကို သိနိုင်သည်။ ထိုခေတ် ထိုအခါ၌ နေထိုင်ကြသူတို့၏ လုပ်ငန်းဆောင်တာများကို တွေးရှုပြန်လျှင်လည်း ရွှေထည်၊ ငွေထည်၊ ကြေးထည်မှ စ၍ ပန်းချီ၊ ပန်းပု၊ ပန်းရံ စသော အလုပ် များကို ထင်ရှားစွာ တွေ့မြင်ရပေသည်။ ပုဂံမြို့ လေးထောင့်ကန်ရပ် လေးမျက်နှာ ကျောက်စာတွင်...

> ထိုဝ်အပကား ရွှေမူရုယ့် ရတနာတိ အမျက်ခတ်သော။ ထိုဝ်အပကား ဆင်စွယ်ပြုသော။ ထိုဝ်အပကား ကြေးနီပြုသော။ ထိုဝ်အပကား ကျောက်ပြုသော ပုထိုဝ်။ ထိုတွင် ထည့်ပါသော။ ရွှေစမခန်း ငွေစခန်း ရွှေပေါက်ပေါက် ငွေပေါက်ပေါက် ရွှေ တန်ဆောင် ငွေတန်ဆောင် တိုဝ့်ဖြင့် ပူဇော်ရုယ် ထည့်လိုက် အေ်။ ကျောက်ပုထိုဝ် ကိုဝ်ကား ဆေးရေးရုယ် ကြေးခြည်နှင့် ခက်အေ်...

ဟု ရေးသားထားသည်။

ဤကျောက်စာကို ထောက်ရှုခြင်းအားဖြင့် ရေးခေတ်ကပင်လျှင် ရွှေထည် ငွေထည် လုပ်ငန်းဆောင်တာများ ထွန်းကားလျက် ရှိကြောင်း ထင်ရှားသတည်း။ ဤလေးမျက်နှာ ကျောက်စာ၌ပင် **'ဇာတ်ငါးရာလည်း အတင့်အတယ်ရေး၏'** ဟူ၍ ပါရှိသော စကားကို ထောက်ထားခြင်းအားဖြင့် ပန်းချီဆေးရေးခြင်းအမှု သည်လည်း ယိုခေတ်ကပင် ရှိနေကြောင်း ထင်ရှား၏။ ပုဂံမြို့ရှိ အချို့ဘုရားများတွင် ရှေးနှစ်ပေါင်း ရှစ်ရာကျော်မှ ရေးသားခြယ်လှယ်ထားခဲ့သော ပန်းချီကားများကိုပင် ယခုတိုင် လတ်လတ်ဆတ်ဆတ် တွေ့ရှိနိုင်ပေသည်။ ထို့ပြင် စည်ပတ်သာစသော တူရိယာငါးပါးတို့ကို တီးကြမှုတ်ကြသူများလည်း ရှိကြ၏။ ကူနီဘုရား ကျောက် စာတွင်...

> ပဥ္စင်္ဂတုရ် မည်သော စည်ညှင်းဖြင့် နှိုဝ်းထ ထသော စည်းစိမ် လိုဝ်ရကာ။ စည်ကြီးပန်တျာပြုသော စည်သည်ကား ငါသူစာ။ ငါမတ်။ ငါမရန်။ ငါဖုန်ဆုမ်။ ပသာသည်ကား ငါသုရိမ်။ ခွက်ခွင်းသည်ကား ငါဖြူ...

စသည်ဖြင့် ရေးသားသည်ကို အထောက်အထားပြုနိုင်သည်။

မင်းဝိုင်းကျောင်း ကျောက်စာရှိ အလှူစာရင်း... အမ္ဘကွန်းတင်၏။... သစ်တလာတွင် ထည့်၏။ ရွှေပေရှစ်ချပ်၊ ရွှေချည်ဖွဲ့၏။ သစ်ကျမ်းဆေးရေးတည်း ဟူသော စကားတို့ကို ထောက်သော် ဆေးရေးအပ်သော သစ်ကျမ်းများ ရှိကြောင်းကို သိရ၏။

ကျောက်စာတိုင်းလိုလို၌ပင် လယ်မြေများအကြောင်း ပါရှိသည်။ သို့ဖြစ်၍ လယ်လုပ်ကာ အသက်မွေးမှုကို ပြုလုပ်ကြသူများလည်း ရှိကြပေမည်မှာ ယုံမှားဖွယ်

မရှိချေ။ ဘုရားဂူကျောင်းများကို တည်ဆောက်ပြီးကြသည့်အခါ ယောကျာ်း မိန်းမပေါင်း များစွာတို့ကို ကျေးကျွန်အဖြစ်ဖြင့် ဘုရားတည်ထားသူက လှူဒါန်းလေ့ ရှိသဖြင့် ဘုရားကျွန်၊ ကျောင်းကျွန်၊ ပိဋကတ်ကျွန်များ ဖြစ်ကြရကုန်၏။ ထိုသူတို့မှ ဆက်နွယ်ပေါက်ပွားကြသော သားစဉ်မြေးဆက် ဟူသမျှတို့သည်လည်း ကျေးကျွန်ဘဝမှ လွတ်ကြမည် မဟုတ်တော့ချေ။ သို့ဖြစ်၍ ပုဂံခေတ်သည် ယခု ခေတ်ကဲ့သို့ မဟုတ်။ ကျွန်မျိုးကျွန်နွယ်ဟူ၍ သီးခြားရှိမည်ဟု စဉ်းစားတွေးတောဖို့ရန် ဖြစ်သည်။ လူများ သုံးစွဲကြသော ငွေကြေးမှာလည်း တစ်ကျပ် နှစ်ကျပ် စသည်ဖြင့် ငွေစိုင်ငွေခဲကို ချိန်တွယ် ဖြတ်တောက်ကာ သုံးစွဲကြဟန် လက္ခဏာရှိသည်။ ကျပ်ချိန်ဖြင့် သုံးကြောင်းကို စူဠာမဏိ ဘုရားမြောက် လေးမျက်နှာဘုရား ကျောက်စာ၌...

> ပန်းပယ်ပေးသလည်း ၄ ကျပ်၊ ကူရေးသော ပန်းချီ ပေးသလည်း ၇။
> ကျောင်းရေးသော ပန်းချီပေးသလည်း ၁၂၀။

စသည်ဖြင့် တွေ့ရှိရသည်။

ဤစကားရပ်၌ ပန်းပဲသမားကို လေးကျပ်ပေးရ၏။ ပန်းချီသမားကို ခုနစ်ကျပ်ပေးရ၏ ဟူသော စကားကို တွေးရှုပါက ပန်းပဲအတတ်သည် ပင်ပန်းစွာ လုပ်ရသော်လည်း မပင်ပန်းသော ပန်းချီအတတ်လောက် အဖိုးမတန်ကြောင်းကို သိနိုင်သည်။ သို့ဖြစ်သောကြောင့် ကျောက်စာထွန်းကားသော ပုဂံခေတ်တွင် စီရင်အုပ်ချုပ်ခြင်းဘက်၌ ဘုရင်သည် အကြီးအမှူးဖြစ်လျက် သေနာပတိ၊ မှူးကြီး မတ်ရာ၊ မြို့စား၊ ရွာစား၊ သံပျင်၊ ကလန်၊ စာချီ အစရှိသည်တို့ အဆင့်ဆင့် အုပ်ချုပ်ကြကြောင်းကို တွေ့ရှိနိုင်သည်။ ဆင်းရဲသားများဘက်တွင် ရွှေထည် ငွေထည်၊ ကြေးထည် အစရှိသော လုပ်ငန်းဆောင်တာများကို ပြုလုပ်သော ပန်းထိမ်သည်များ၊ ဆေးရေးမွမ်းမံခြင်းကို ပြုလုပ်ကြသော ပန်းချီသမားများ သီချင်းသည်များ၊ တူရိယာတီးမှုတ်ကြသူများ၊ ကချေသည်များနှင့် လယ်သမားများ ရှိကြပေလိမ့်မည်။ အနိမ့်ဆုံး အဆင့်အတန်း၌ကား ဘုရားကျွန်၊ ကျောင်းကျွန် ပိဋကတ်ကျွန်တို့ပင် ဖြစ်ကြသတည်း။

ကျောက်စာများကို ရာဇဝင်ဘက်မှ တစ်ဖန် ကြည့်ရှုပြန်လျှင်လည်း အလွန်အသုံးဝင် အဖိုးထိုက်တန်ကြောင်းကို တွေ့ရှိရ၏။ မြစေတီကျောက်စာတွင် တြိဘုဝနာဒိတျ ဓမ္မရာဇာခေါ် ကျန်စစ်မင်းသားသည် သာသနာနှစ် ၁၆၂၈–တွင်

နန်းတက်သည်ဟု ဆို၏။ ထိုနှစ်သည် ဂေါဇာ သက္ကရာဇ် ၄၄၆–ခုနှစ် ကျရောက်၏။ ထိုသက္ကရာဇ်သည် နောက်ရေးသော မြန်မာရာဇဝင်တို့၌ ဖော်ပြသော ကျန်စစ်မင်း နန်းတက်သက္ကရာဇ်တို့နှင့် မညီညွတ်။ မြစေတီကျောက်စာသည် မူလရေးခေတ်က ငှပ္ပနွေးနွေး ရေးထိုးခဲ့သော ကျောက်စာဖြစ်ခြင်းကြောင့် ဤထက်မှန်ကန်သော အကိုးအကားမှာ မရှိသလောက် ရှားပါး၏။ ထို့ပြင် ရှေးမင်းများ၏ ဇာတာများကို ဆောင်းကာ ရေးသားထားသော ဇာတာတော်ပုံ ရာဇဝင်နှင့် တိုက်ဆိုင်ကြည့်သော အခါလည်း ထိုကျောက်စာပါ သက္ကရာဇ်နှင့် တူညီကြောင်းကို တွေ့ရှိရပါသည်။ သို့ဖြစ်၍ ကျန်စစ်မင်းသား ၏ နန်းတက်သက္ကရာဇ် အမှန်ကို ဤကျောက်စာက ဖော်ပြသည့်အတွက် ရာဇဝင်လိုက်စားသူတို့အဖို့ အထူးအသုံးဝင်လေသည်။ ထို့ပြင် ဤသက္ကရာဇ်ကိုထောက်၍ အနော်ရထာ နန်းသက်ကုန်သည့် သက္ကရာဇ်ကိုလည်း ဆက်လက်သိနိုင်သေးသည်။ ဤမြှုမကသေး ကျန်စစ်မင်းသား၏ နန်းစံအမှန်ကို ကြည့်ရှုခြင်းအားဖြင့် အလောင်းစည်သူ၏ နန်းတက်နှစ်ကိုလည်း ဆက်လက်သိသာ နိုင်၏။

ထို့ပြင် မြစေတီကျောက်စာ၌ ရာဇကုမာ မည်သော မင်းသားသည် ကျန်စစ်မင်း၏သား ဖြစ်ကြောင်းကို ဆို၏။ ထိုမင်းသားကား တြိလောကဝင် သကာ ဒေဝီ အမည်ခံသော သမ္ဗုလ၏ သားပင်ဖြစ်သည်။ သို့ရာတွင် သမ္ဗုလ သားအမိမှာ ကျန်စစ်မင်းကြီးက မြေးတော် အလောင်းစည်သူကို အိမ်ရှေ့နှင်းပြီးမှ သာလျှင် ပုဂံထီးနန်းသို့ တောအရပ်မှ ရောက်လာသဖြင့် ရာဇကုမာမင်းသားသည် သားဖြစ်လျက်နှင့် ထီးနန်းမရ ဖြစ်လေသည်။ ဤကား ရှေးရှေးက မင်းများ ဘားမိသော ကတိကို တည်ကြည်စောင့်ထိန်းခြင်းပင် ဖြစ်၏။ ကျန်စစ်မင်း၌ သားရှိကြောင်းကို မြစေတီကျောက်စာက ကောင်းမွန်စွာ ရှင်းလင်းပြဆိုပေ သတည်း။

ဒိသာပါမောက် ကျောက်စာကို ထောက်ထားခြင်းဖြင့်လည်း တရုတ်ပြေးမင်း လက်ထက်၌ တရုတ်လူမျိုးတို့သည် မြန်မာပြည်သို့ လာရောက်တိုက်ခိုက်၍သာ မြန်မာပြည် ပျက်ရသည်မဟုတ်။ အခြား ပြည်တွင်းရန် တစ်ခုခုလည်း ရှိလိမ့်ဦးမည် ဖြစ်ကြောင်းကို တွေးရှုသိမြင်နိုင်သည်။ ဒိသာပါမောက်သည် ရဟန်းဖြစ်လျက်နှင့် တရုတ်ပြည်သို့ သံအဖြစ်ဖြင့် သွားရောက်ကာ မြန်မာပြည် တိုင်းရေး ပြည်မှုကို ဆောင်ရွက်သည်ကို တွေ့ရသဖြင့် ရှေးခေတ်ကပင် ရဟန်းတော်များသည် တိုင်းပြည် အရာ လောကမှုများတွင် ဝင်ရောက် ဆောင်ရွက်ကြောင်းကို သိသာနိုင် သည်။ ဇေယပွတ် ဘုရားကျောက်စာတွင် ဥဇနာမင်းသည် ဇေယပွတ်အမတ်အား

မြေပေး၏။ အမတ်ကြီးသည် ထိုမြေကို ဘုရားအား လှူဒါန်း၏။ ကျစွာမင်း လက်ထက်တွင် ထိုမြေကို သိမ်းယူသဖြင့် ကျောင်းနေ ဘုန်းကြီးက ဘုရားကို လှူခဲ့ကြောင်း ပြောဆိုသောအခါ မင်းကြီးက စုံစမ်း၍ ဟုတ်မှန်သဖြင့် ထိုမြေကို ပြန်ပေးရ၏။ ဤအကြောင်းကို ထောက်ထားခြင်းအားဖြင့် ရှေးခေတ်က ရဟန်းတော်များသည် များစွာ သြဇာတိက္ကမ ရှိကြောင်း ထင်ရှားပေသည်။ ယင်းသို့ သြဇာတိက္ကမ ရှိရခြင်း အကြောင်းမှာလည်း ပုဂံပြည်သူပြည်သားများသည် ရတနာ့သုံးပါး ဘုရား တရား ရဟန်းတော်များကို အလွန်တရာ ကြည်ညိုလေးမြတ် ကြသောကြောင့် ဖြစ်၏။ ကြည်ညိုလေးမြတ်သည့်အတိုင်းလည်း တည်ဆောက် ခဲ့သော ဘုရား စေတီ ဂူကျောင်းတို့သည် ယခုခေတ်တိုင်အောင်ပင် များပြား တည်ရှိကြ၏။

ကျောက်စာများတွင်လည်း များသောအားဖြင့် ဘုရားပုထိုးများကို မည်သို့ တည်ကြောင်း၊ မည်မျှလောက် ကျေးကျွန်လယ်မြေများကို လှူခဲ့ကြောင်း၊ မည်သည့် ဆုကို လိုချင်ကြောင်း၊ ဘုရားဖျက်ဆီးသူများအား မည်ကဲ့သို့သော အတိဒုက္ခ တို့ကို တွေ့စေချင်ကြောင်း၊ ကောင်းမှုတော်များကို ချီးပင့်သောသူတို့အဖို့ မည်သည့် ဆုများ ရစေလိုကြောင်း စသည်တို့ကို ရေးသားထား၏။ အကယ်၍ ထိုအကြောင်း၊ အရာတို့အပြင် တိုင်းရေးပြည်မှု စီရင်အုပ်ချုပ်ပုံနှင့် လူများ နေထိုင်ဆက်ဆံပုံ အကြောင်းများကိုလည်း အနှံ့အပြား ရေးသားထားမည်ဆိုပါက ကျောက်စာ လိုက်စားသူတို့သည် ရှေးခေတ်အကြောင်းကို ယခုထက်ပင် တိုးတက်သိရှိနိုင်ရန် အကြောင်းရှိပေသတည်း။

ပုဂံကောင်းစားသောခေတ်တွင် ကျောက်စာဖြင့် သီးခြားစွာ ရေးသားခဲ့သော ကဗျာလင်္ကာများကို မတွေ့ရချေ။

သိုးကလေ၊ ပုပ္ပားနတ်တောင်၊ အခေါင်မြင့်ဖျား၊ စုံတောပြား၍၊
နံ့ရှားကြိုင်လွင့်၊ ခါတန်ပွင့်သည်၊ ရွှေနှင့်ယိုးမှား ပန်းစကား။

ဟု ပထမပိုဒ်ချီ ပုပ္ပားနတ်တောင်ဖွဲ့လင်္ကာ၊

သူတည်းတစ်ယောက်၊ ကောင်းဘို့ရောက်မူ၊ သူတစ်ယောက်မှာ၊
ပျက်လင့်ကာသာ၊ ဓမ္မတာတည်း။

ဟု ခေါ်ဆိုက မှားမည်မဟုတ်ချေ။ ပုဂံခေတ်အဆုံး ပင်းယဟု ပထမပိုဒ်ချီ အနန္တသူရိယ လင်္ကာတို့ကား ထင်ရှားလျက် ရှိကြ၏။ သို့သော် ကျောက်ပေါ်တွင်

ရေးသားလျက် မတွေ့ရသဖြင့် ထိုကဗျာတို့ကို မည်သည့်သက္ကရာဇ်တွင် ရေးသားသည်ဟူ၍ တပ်အပ်သေချာစွာ မသိရပေ။ သေချာစွာ ဆုံးဖြတ်ရန်လည်း မလွယ်ကူချေ။ ဒုတိယ ကဗျာမှုကိုကား နရပတိစည်သူမင်းကြီးလက်ထက် သက္ကရာဇ် ၅၃၆-ခုနှစ်တွင် မင်းယဉ် နရသိင်္ခ၏ အထိန်းတော် အနန္တသူရိယအမတ်သည် မင်းပြစ်ဒဏ်ရာဇသံကြောင့် သေရမည့်ဆဲဆဲတွင် ရေးသားခဲ့သော ကဗျာဖြစ်သည်ဟု အများယုံကြည်ကြ၏။ မှတ်သား စံတင်လောက်သော တရားသဘောများ ပါရှိ၏။ ကိုယ်ခန္ဓာ စည်းစိမ်ဥစ္စာတို့၏ မမြဲတတ်သော အနိစ္စသဘောတရားသည် မှန်လှပေစွ တကားဟု ရေးသားသည့်အခါ ထင်မြင်အောက်မေ့ဖွယ်ရာ လက္ခဏာရှိသည်။ သေရမည့်ဆဲဆဲတွင် ကိုယ်တိုင်ဒိဋ္ဌ တွေ့ကြုံရသည့်အကြောင်းကို စပ်ဆိုခဲ့ခြင်းကြောင့် စိတ်ဓာတ်ကို ထိခိုက်လောက်အောင် တိုတိုနှင့်ပင် ကောင်းလှ၏။

ထိုလင်္ကာ ၄-ပိုဒ် အစချီ အသီးသီးတို့သည် တစ်ခုနှင့်တစ်ခု တူညီကြသည်မဟုတ်။ အဆုံးချတွင်လည်း စကားရစ်လုံးဖြင့် ရေးသားထား၏။ လင်္ကာသဘောအစစ်ဖြင့် စပ်ဆိုထားသည်ဟု ဆိုရချေမည်။ ပုပ္ပားနတ်တောင်ဖွဲ့မှာကား အနန္တသူရိယ လင်္ကာနှင့် စပ်ဆိုပုံခြင်းမတူ။ အစချီပုံ၊ အဆုံးချပုံတို့နှင့်တကွ ဖွဲ့နွဲ့ပုံအကြောင်းအရာတို့မှာ ရတုသဘောသို့ များစွာ သက်ဝင်နေခြင်းကြောင့် ပုပ္ပားနတ်တောင်ဖွဲ့သည် ရတု ဖြစ်သည့်ခေတ်တွင် ပေါ်ပေါက်သည့်ရတု ဖြစ်တန်ရာ၏ဟုသာ ယူဆရန် ရှိသည်။ အချို့ကမူကား ထိုလင်္ကာပါ စကားများ၏ အဓိပ္ပာယ်အရိပ်အမြွက်ကို ထောက်၍ ပုဂံ၊ သော်လည်းကြောင်မင်းကြီး လက်ထက်တွင် ပေါ်ပေါက်ဟန် တူသည်ဟု ယူဆကြ၏။

မြကန်သာ၊ တောင်ကျချောင်းဘေး၊ ရေဝင် ပြေးလှည့်၊ ရေးကြည်စွာ၊
ကန်ပိုင်မာလျက်၊ ကြာပေါင် ထုံထုံ၊ ငှက်မျိုးစုံသည်၊ ဝတိ သာက၊
နန္ဒာလော၊ တူစွဟုတ္တာ၊

ဤမြကန် လင်္ကာသည်ကား လိုရင်း အဓိပ္ပာယ်ကို စကားတိုတိုဖြင့် ဖော်ပြသည့်အပြင် ကျောက်စာ စကားပြေတွင် သုံးစွဲသော စကားအချို့တို့ ပါရှိခြင်းကြောင့် ပုဂံ ကောင်းစားသော ခေတ်တွင် ရေးသော ကဗျာဟု ယူဆရန် ရှိသည်။

ဤလင်္ကာနှင့် ပတ်သက်၍ စဉ်းစားရန် အကြောင်းတစ်ခုမှာ ဤသို့တည်း။ ပုဂံပြည် တူရွင်းတောင်ခြေရင်းရှိ မြကန် ကမ်းပါး၌ တည်ရှိသော မြကန်ကျောက်စာ

တိုင်တစ်ခုရှိ၏။ ထိုကျောက်စာတိုင်၏ လေးမျက်နှာ၌ ရေးထိုးထားသော မွန်ကျောက်စာကို ဖတ်ရှုသော် ထိုကန်ကို ကျန်စစ်သားမင်းသည် ခပ်သိမ်းသောလူအပေါင်းတို့၏ အကျိုးငှာ တူးပြီးလျှင် **'မဟာနိဗ္ဗာန်လက်ဆွဲချိရေ'** ဟူ၍ အမည်ပေးခဲ့ကြောင်း သိရ၏။ ဓမ္မဝိလာသ ကျောက်စာများအပြင် သက္ကရာဇ် ၅၃၆–ခု နန်းတက်သော ပုဂံ နရပတိစည်သူမင်းလက်ထက် ဒလမြို့ စီရင်စု ပတိပ္ပဓေယျရွာဇာတိ၊ ရဟန်းမည် ရှင်သာရိပုတ္တရာ၊ တံဆိပ်မည် ဓမ္မဝိလာသ ပုဂ္ဂိုလ်သူမြတ် ဒလမြို့တွင် သီတင်းသုံးနေစဉ် မနုရင်းဓမ္မသတ်ကို မှီ၍ စီရင်သည့် ဓမ္မဝိလာသ ဓမ္မသတ်ကျမ်းကို တွေ့ရှိရ၏။ ဓမ္မဝိလာသ မထေရ်သည် ဓမ္မသတ်ကျမ်းကို ပြုရာ မြန်မာဘာသာဖြင့် မဟုတ်။ ပါဠိဘာသာဖြင့် ရေးသည်။ ထိုပါဠိ ကျမ်းမှ အနက်ပြန်သော မြန်မာကျမ်းသာ ကျန်ရစ်ခဲ့၍ မူလ ပါဠိကျမ်းကား ပပျောက်သွားသည်ဟူ၍ အချို့ဆရာတို့ အယူရှိကြသည်။ ဓမ္မဝိလာသသည် မွန်ဘုန်းတော်ကြီး ဖြစ်သည်ကိုလည်းကောင်း၊ မွန်ဘာသာဖြင့် ဓမ္မဝိလာသ ဓမ္မသတ်ကျမ်း ရှိသေးသည်ကိုလည်းကောင်း ထောက်သော် ထိုအယူကား ယုတ္တိရှိတန်ရာ၏။ စကားအသုံးအနှုန်း ဝေါဟာရ ရွေ့ပြောင်းခြင်းကို ထောက်သော် မြန်မာဓမ္မဝိလာသ ဓမ္မသတ်ကျမ်းသည် ပုဂံခေတ်ကို မမီ။ အတော်အတန် နောက်ကျမှ ရေးသားထားသော ကျမ်းဖြစ်သည်ဟုလည်း ယူဆရန် အကြောင်းရှိ၏။

ပုဂံခေတ်စာပေ၌ မည်သည့်အတွက်ကြောင့် လင်္ကာအရေးအသား နည်းပါးရသနည်း။ မည်သည့်အကြောင်းကြောင့် ကျောက်စာဖြင့် လင်္ကာများကို မရေးသားခဲ့သနည်း။ လင်္ကာကို မရေးနိုင်၍ပေလော။ သို့တည်းမဟုတ် မရေးလို၍ပေလော ဟူသော အမေးမျိုးကို မေးမြန်းကာ ဆင်ခြင်အပ်ပေသည်။ စင်စစ်အားဖြင့် ပုဂံခေတ်ရှိ ရေးလူဟောင်းတို့သည် လင်္ကာကို မရေးတတ်ဟူ၍ကား မဆိုသာချေ။ ပရိမ္မ ထီးလှိုင်ရှင်ဘုရား ကျောက်စာ၌ **'ဥဿာလမည်၊ တန်လိုင်းပြည်ကိုဝ်၊ နည်နည်ညက်ညက်၊ ဖက်ချေပြီးရယ်'** ဟူ၍ လည်းကောင်း၊ လှည်းထောက်ဘုရား ကျောက်စာ၌ **'အပြစ်ရှစ်ပါး တန်ဆယ်ပါးလျှင်၊ ထင်ရှားမျက်မှောက်၊ ရောက်စေသော'** ဟူ၍ လည်းကောင်း၊ နားတောင်းတပ်ဘုရား ကျောက်စာ၌ **'အမျိုဝ်းခုနစ်ဆက် ညက်ညက်ပြွန်းတီး၊ ပျက်စီးစေသော'** ဟူ၍လည်းကောင်း၊ ပုဂံကျောက်စာ စကားပြေ များ၌ တွေ့ရသော လင်္ကာကာရန်တို့ကို ထောက်ခြင်းဖြင့် သိသာနိုင်သည်။ ထိုသူတို့ တည်ထားခဲ့သော အာနန္ဒာဘုရား၊ သဗ္ဗညုဘုရားတို့၏ ကြီးကျယ်ခမ်းနား ဆန်းကြယ် ခိုင်မာပုံတို့ကို ကြည့်ရှုခြင်းအားဖြင့်လည်း ရေးခေတ်

မြန်မာလူမျိုးတို့၏ ဉာဏ်ရည် ဉာဏ်သွားသည် မည်မျှ ထက်မြက်ကြောင်း ဆင်ရှား၏။ မြန်မာစာ အရေးအသားသည် အစိုအပြောက်ပေါက်စ ဖြစ်သော ကြောင့် ဉာဏ်ထက်မြက်သည့်အလျောက် လင်္ကာကို ရေးသားမည်ဆိုပါက ထိုက် သင့်သလောက် ကောင်းမည် မှန်သော်လည်း သာလွန်အရေးကြီးသော စကားပြေ အရေးအသားကိုသာ နိုင်နိုင်နင်းနင်း ရေးသားခြင်း ဖြစ်သည်ဟု တွေးတော ရာ၏။

တစ်နည်းအားဖြင့်လည်း ထိုပုဂံခေတ်၌ပင် သထုံပြည်မှ ပိဋကတ်သုံးပုံကို ဆောင်လျက် ဗုဒ္ဓသာသနာသည် ပုဂံပြည်သို့ ကူးပြောင်းကာ အမြစ်တွယ်စပြုသည် ဖြစ်သောကြောင့် ရှေးယခင်က မိစ္ဆာအယူကို ယူမိမှားသူတို့သည် တရားအစစ်အမှန်ကို တွေ့ကြရလေပြီဟု သဘောပိုက်လျက် ယုံကြည်လေးမြတ်သူများ ဖြစ်ကြလေသည်။ 'လှည်းဝင်ရိုးသံ၊ တည်ညံ၊ ပုဂံဘုရားပေါင်း' ဟူ၍ပင် ပုဂံခေတ်ရှိ လူအပေါင်းတို့ တည်ခဲ့သော ဘုရားပုထိုးတို့၏ များပြားကြောင်းကို စကားဆိုစမှတ် ပြုကြလေသည်။ ထင်းသို့ ဗုဒ္ဓသာသနာကို အထူးသဖြင့် ယုံကြည်အားထားကြသူများ ဖြစ်သည့် အားလျော်စွာ လင်္ကာရတု သီမှု ကုံးမှုတို့သည် ဂီတနှင့်သာ သက်ဆိုင်သဖြင့် တရားကိုယ်တော်မြတ် ဟောကြားသော တရားတော်နှင့် မလိုက်လျောလေသော ကြောင့် လင်္ကာကို အရေးအသား နည်းကြလေသည်ဟု ယူဆဖွယ်ရာလည်း ဖြစ်၏။ အများအားဖြင့် ကျောက်စာများကို ရေးသားရာ၌ စာသားကို ဘုန်းကြီး ရဟန်းများက ရေးပေးပြီးမှ ကျောက်ပြားပေါ်တွင် စာထွင်းသမားက တစ်ဖန် ကူးလေ့ရှိသည်။

ယခုခေတ်၌ပင် ဘုရား ပုထိုး ဂူ ကျောင်း စသည်များတို့ တည်ဆောက် လှူဒါန်းပြီး ကျောက်စာ စိုက်ထူရာ၌ ကျောက်ပြားပေါ်တွင် စာထွင်းသမားက ကူး၍ ရေးရန်အတွက် စာကို စီကုံး၍ ဘုန်းကြီး ရဟန်းများအား တောင်းပန် ကြရသည်။ အဘယ်ကြောင့်ဆိုသော် ကျောင်းကန် ဘုရား အစရှိသော အဆောက်အအုံ တို့ကို လှူဒါန်းခြင်းသည် လောကုတ္တရာရေးဖြစ်သည်။ ထိုလောကုတ္တရာရေးတွင် ရဟန်းတော်များသည် လူများထက်သာ၍ သိကျွမ်းနားလည်ကြသည်ဟု အယူ ရှိကြ၏။ ထိုနည်းအတူ ပုဂံကောင်းစားသော ခေတ်၌ များသောအားဖြင့် ဘုန်းကြီး ရဟန်းများက စာစီကုံးပေးရသည်ဖြစ်၍ လင်္ကာရတုများကို ဂီတဟု သဘောပိုက်ကာ ရေးသားခြင်း မပြုကြသဖြင့် ကျောက်စာတွင် စကားပြေများ၍ လင်္ကာမှာ မရှိ သလောက် ပါးရှားရခြင်း ဖြစ်ပေသည်ဟု တွေးတောရပေမည်။ တစ်နည်းအားဖြင့်

လည်း အကယ်၍ လက်ာကို ယခုတွေ့ရှိရသည်ထက် ကျောက်ပေါ်တွင်ဖြစ်စေ ပေပေါ်တွင်ဖြစ်စေ ပိုမိုကာ ရေးသားခဲ့ကြသည် ဖြစ်စေကာမူ ပုဂံကောင်းစားသော ခေတ် နှစ်ပေါင်းရှစ်ရာကျော် လွန်မြောက်ခဲ့ပြီဖြစ်သောကြောင့် အချို့စာပေတို့သည် မုချ ပျောက်ပျက်ရပေမည်။ မြန်မာတို့သည် စစ်တိုက်ခိုက်ကြခြင်းကို ကြိုက်နှစ်သက် သူများဖြစ်ကြ၍ စစ်တိုက်ခိုက်ခြင်းဖြင့် ထီးကျိုးစည်ပေါက် မင်းပြောင်းမင်းလွှဲ ဖြစ်ကြသည့်အခါ စာပေတို့သည် ပျောက်ပျက်ကြရပြန်၏။



# ၂။ ပင်းယခေတ်

ပုဂံပြည်သည် နောက်ပိုင်း တဖြည်းဖြည်း တစ်စတစ်စ အရှိန်တန်ခိုး မှိန်ညှိုးလျက်လာ၏။ သက္ကရာဇ် ၆၆၀–ခုနှစ်လောက်တွင်မူကား ပုဂံပြည်ကြီး သည် ပြည်တွင်းရေးရာ မငြိမ်မသက် ဝါးအစည်းပြေဘိသကဲ့သို့ ကစဥ့်ကလျား ပျက်ပြားသည့် အခြေသို့တိုင် ရောက်လေ၏။ ကျော်စွာဘုရင်ကို ရှမ်းညီနောင် သုံးဦးတို့က နန်းချကွပ်မျက်လျက် မြန်မာပြည်၏ ဦးစွန်းမကိုင်ကို ကိုယ်ပိုင်သိမ်းယူ ကြ၏။ ပုဂံပြည်တွင် ထီးနန်းမစိုက်တော့ဘဲ မြင်စိုင်း၊ ပင်းယ၊ စစ်ကိုင်းတွင် အဆက်ဆက်စိုးစံကြ၏။ သို့ဖြစ်သောကြောင့် ပုဂံပျက်စီးသည်မှ အင်းဝတည်ထောင် သည်အတွင်း ရှမ်းတို့ထွန်းကားသော နှစ်ပေါင်း ၆၆–နှစ်ခန့်မျှကို စာပေသမိုင်း အားဖြင့် ပင်းယ ကောင်းစားသည့် ခေတ်ဟူ၍ ခေါ်ဆိုသင့်၏။ ထိုပင်းယ ကောင်းစားသော ခေတ်တွင် မြန်မာစာပေ၏ အခြေအနေကို ကြည့်ရှုပါလျှင် ဖွံ့ပုံနည်း တိုးတက်လာကြောင်းကို ထင်ရှားစွာ သိသာနိုင်သည်။ ထိုခေတ်တွင် တျာဘွဲ့သီချင်း၊ ကာချင်းနှင့် ရတုအရေးအသားများကို တွေ့ရှိရသည်။ ဂီတဘက်ကို လိုက်စား လာကြောင်း ထင်ရှားပေ၏။ သက္ကရာဇ် ၆၇၄–ခုနှစ်တွင် ပင်းယ၌ နန်းတက်သော သီဟသူ လက်ထက်တွင် အမည်မသိ ပုဂ္ဂိုလ် ရေးသားသည့် **‘ခါးပတ်တော်မှာ ရွှေချည်စုံ။ မှိုင်းလုံးရွှေဝတ်လုံ။ မလုံသာချမ်းအေး’** အစရှိသော ကာချင်းသည် ရေးပင်းယခေတ်တွင် အချို့သူတို့ ဝတ်ပုံဆင်ပုံ ပြုမူသွားလာပုံကို

ဖော်ပြထားသော သီချင်းဖြစ်သည်။ သက္ကရာဇ် ၇၀၄–ခုနှစ်တွင် နန်းတက်သော မြင်စိုင်းငါးစီးရှင် ကိုယ်တိုင်ကဆိုသည့် 'တာဝတိံသာ။ နတ်ရွာလော။ နတ်ရွာလော' အစရှိသော ကာချင်းမှာ တိုတိုတုတ်တုတ် စပ်ဆို၍ ထား၏။ ရာသီပန်းမန်နှင့် မြို့ပြ၏ အခြေအနေကို စပ်ဆိုသော အကြောင်းအရာများလည်း ပါရှိ၏။ ဤကာချင်းအပြင် သက္ကရာဇ် ၇၀၀–ကျော်လောက်တွင် စတုရင်္ဂဗလ အမတ်ကြီး ရေးသားသော ရတုလည်း ရှိသေး၏။ ထိုရတုသည် ပေါက္ကံဆရာတော်၊ သို့မဟုတ် ဆူးတွင်းပစ် ဆရာတော်အား မြတ်စွာဘုရား တရားတော်အကြောင်းနှင့် စပ်လျဉ်း၍ မေးမြန်းကာ ရေးသားသော အမေးပုစ္ဆာရတု ဖြစ်၏။ ပေါက္ကံဆရာတော်က တစ်ဖန် ပြန်၍ အဖြေရတုများကိုလည်း ရေးသားခဲ့သည်။ မြန်မာစာပေသည် မည်ကဲ့သို့သော အခြေအနေသို့တိုင် ရောက်ပြီကို သေချာစွာ သိသာနိုင်စေခြင်းငှာ စတုရင်္ဂဗလ အမတ်ကြီး ရေးသားသော ရတုကို ကောင်းစွာ ကြည့်ရှုဆင်ခြင်အပ်ပေသည်။

## စတုရင်္ဂဗလ အမတ်ကြီးရေး ရတု

၁။ ရွှေဖဝါးတော်အောက်၊ ကျွန်၏လျှောက်ဖြင့်၊ မလျှောက်ဝံ့ဝံ့၊ လျှောက်ဝံ့ဝံ့တည့်၊ ကြောက်ရွံ့လျက်ပင်၊ စက်ရွှေစင်ကို၊ ထိပ်ပြင်ပန်းနှယ်၊ ဆင်စမွယ်လျက်၊ နိကာယ်လုံးစုံ၊ ကျမ်းသုံးပုံဝယ်၊ အာရုံညွှတ်ညွှတ်၊ ပရမတ်ကို၊ အထွတ်ဘုန်းခိုင်၊ သိမြင်နိုင်က၊ ကျော်လှိုင်ပေါက်ပြ၊ ကြားလ,ကလျှင်၊ ဘဝသုံးမည်၊ လူ နတ်ပြည်၌၊ မည်သည်ကုသိုလ်၊ နှိုင်းဆိုမတန်၊ နိဗ္ဗာန် လက်လှမ်း၊ နန်းပွင့်ငြိမ်းသည်၊ ရှင်လန်းဝမ်းမြောက်တော်မူစေသောဝ်။

၂။ မင်း၏တရား၊ ကျင့်ဆယ်ပါးနှင့်၊ မမှားအယူ၊ နတ်လူပူဇော်၊ မင်းရဲကျော်ဝယ်၊ ကျွန်တော်ရင်းစစ်၊ အဖြစ်ရှေးဦး၊ ပါခဲ့ဘူးသား၊ ကျေးဇူးလိုက်လာ၊ မရဏာ သန်၊ ဇောငါးတန်လျှင်၊ လွန်၍ခုနစ်၊ အဖြစ်သဘော၊ မဇောလေကောင်း၊ ဇောလေကောင်းတည်း၊ အကြောင်းထွေငေါ်၊ တစ်နည်းသော်မူ၊ နိရော် အထွတ်၊ သမာပတ်ကို၊ လူ နတ် ဗြဟ္မာ၊ ဝင်သောခါ၌၊ ချမ်းသာငြိမ်းမျှ၊ စံစားကြသား၊ နေဝသညာ၊ နာသညာယတနနှောင်း၊ ရကောင်းဘဝင်၊ ဖိုလ်နှင့်ပင်တည့်၊ သို့စင်ဟူ၍၊ အယူမသိ၊ ဝိစိကိစ္ဆာ၊ စွန်းသက်ာကို၊ ဉာဏ်ဝါလင်းပြောင်၊ ထွတ်ဘုန်းခေါင်သည်၊ ပျောက်အောင်ဖျောက်တော် မူစေသောဝ်။

၃။ နာမ်နှင့်ရုပ်ကို၊ ပေါင်းချုပ်ကြွင်းမဲ့၊ သချာဖွဲ့သော်၊ တစ်ဆယ့်လေးကိစ္စ၊ ဆယ်ဌာနဖြင့်၊ ဒွါရခြောက်ထပ်၊ ခြောက်ရပ်အာရုံ၊ ခြောက်စုံဝိညာဉ်၊ ခြောက်စဉ်ဝီထိ၊ ကတိငါးဖြာ၊ ရုပ်လေးမွာနှင့်၊ ခန္ဓာအာယတနဓာတ်၊ ဥပါဒ်ဋ္ဌီဘင်၊ ဘဝင်ဇောစိတ်၊ နိမိတ်မဂ္ဂာ၊ တစ်ဒါရမ္မဏ၊ အရထိုထို၊ ပုဂ္ဂိုလ်အပြား၊ ဝါကရားနှင့်၊ ဘုရားမြတ်မွန်၊ နိဗ္ဗာန်ယူနီး၊ မြေကြီးမိုးပြင်၊ ကောင်းကင်နံ့သိ၊ စုတိတော်စိတ်၊ အတိတ်နှင်နှင်၊ သုံးပါးတွင်၌၊ ဘယ်လျှင်အာရုံ၊ ပြုတုံသနည်း၊ ရိုက်ကြည်းကျော်ဟိုး၊ နန်းပွင့်ရိုးသည်၊ မြေရိုးကောက်တော်မူစေသောဝ်။

ဤရတုကို ကြည့်ရှုပါလျှင် တောတောင်၊ ရာသီဥတု၊ ချစ်ခင်ခြင်း၊ မေတ္တာအစတို့ကို ဖွဲ့နွဲ့သည်မဟုတ်။ လောကုတ္တရာသက်သက် တရားဘက်နှင့် ဆက်နွယ်ကာ ရေးသားထားသည်ကို တွေ့နိုင်ပေသည်။ **'မရဏာသန်၊ ဇောငါးတန်လျှင်၊ လွန်၍ခုနစ်'** အစရှိသောစကား၊ **'နာမ်နှင့်ရုပ်ကို၊ ပေါင်းချုပ်ကြွင်းမဲ့၊ သချာဖွဲ့သော်၊ တစ်ဆယ့်လေးကိစ္စ၊ ဆယ်ဌာနဖြင့်၊ ဒွါရခြောက်ထပ်'** အစရှိသော စကားများသည် ဗုဒ္ဓဘာသာတွင် လေးနက်လှသော အဘိဓမ္မာတရားနှင့် ဆက်ဆံသော စကားများ ဖြစ်ကြ၏။ အဘိဓမ္မာတရားတော်တွင် ခဲရာခဲဆစ်များကို မေးမြန်းသည့်သဘောဖြင့် စကားအဆိုအမိန့် မှန်ကန်ညီညွတ်စွာ ရတုရေးသားနိုင်ခြင်းမှာ မြန်မာစာပေသည် ပုဂံခေတ်ကထက် ထူး၍ တိုးတက်လာသည်ဟု ယူဆရန် အကြောင်းရှိ၏။ ထို့ပြင် ရေးသားထားသော ရတုသည်လည်း တိုတောင်းသည် မဟုတ်။ ပါဠိဘာသာများစွာ ပါဝင်လျက် ရှိ၏။ ပါဠိဘာသာနှင့် ဗုဒ္ဓဘာသာတရားကို အလွန်အရေးယူဂရုပြုကြဟန်တူ၏။ မြန်မာစကားစစ်ကား များစွာ မပါလှချေ။ သို့သော် ပါဝင်သော မြန်မာစကားတို့သည်ကား ရိုးရိုးနှင့် အဓိပ္ပာယ်ထင်လင်းအောင် ရေးသားထားသော စကားများ ဖြစ်ကြ၏။

## ရတုဟူသော ဝေါဟာရ

ရတုသည် လင်္ကာမှ ပေါက်ပွားလာသော ကဗျာအဖွဲ့အနွဲ့ပင် ဖြစ်သည်။ သို့သော် လင်္ကာကဲ့သို့ မဟုတ်မူ၍ ဖွဲ့ဆိုရာ၌ စည်းစနစ်ဥပဒေရှိ၏။ လင်္ကာ၌ ပုဒ်ရေပေါင်း ဖွဲ့လိုသမျှ ဖွဲ့ဆိုနိုင်သည်။ အဖျားချတွင်လည်း စာလုံးရေ အကန့်အသတ် မရှိ။ ရတုတွင်ကား တစ်ပိုဒ်တည်း ဖွဲ့စပ်လျှင် ဧကပိုဒ်၊ ၂-ပိုဒ်ဖွဲ့စပ်လျှင် အဖြည့်ခံ၊ သုံးပိုဒ်ဖွဲ့စပ်လျှင် ပိုဒ်စုံဟူ၍ ခေါ်ဆိုသည်။ သုံးပိုဒ်ထက်ပိုမို၍လည်း မဖွဲ့နွဲ့ကြချေ။ တစ်ပိုဒ်တစ်ပိုက်တွင်လည်း ပဒ အရေအတွက်အားဖြင့်

၁၀၈–ပဒထက် ပိုမို၍ မဖွဲ့နွဲ့ကြချေ။ အဖျားချများတွင်လည်း ခိုင်ညွှန့်ခက်ဖြာ ၇–လုံး၊ မဏိ ဆံကျင် ၉–လုံး၊ အာသာဝတီဝတ်ဆံ ၁၁–လုံး၊ မဏိဦးပြည်း ၁၅–လုံး၊ ဇော် တစ်ခိုင်လုံး ၁၉–လုံး စသည်ဖြင့် အဖျားစာလုံး အရေအတွက် သီးသန့်ထားလျက် ရှိသည်။

ရတုဟူသည် သက္ကတဘာသာ ရိတုမှ ပျက်လာသော ရတုလည်း ရှိသည်။ မြန်မာဘာသာ ပေါရာဏသက်သက် ရတုလည်း ရှိသည်။ သက္ကတဘာသာ ရိတုမှာ အခါရာသီ အနက်ရ၏။ မြန်မာဘာသာရတုမှာ သဘင်ဟူသော အနက်၊ အခမ်းအနားဟူသော အနက်၊ အခြေအနေဟူသော အနက် သုံးမျိုးရှိရသည်။ ဤသို့ ဌာနအားဖြင့် သုံးစားကွဲပြားလျက်ရှိရာ အကြင်အဖွဲ့တစ်ခုသည် အများနှင့် စပ်ဆိုလျှင် ထိုအဖွဲ့မျိုးမှာ သဘင်အနက်ရ၏။ အများနှင့် မစပ်ဆိုင်ဘဲ တစ်ဦးတစ်ယောက် အတွက်တည်းသာ စပ်ဆိုလျှင် အခမ်းအနား၊ ပကတိဖြစ်ထွန်းနေသည့် သဘာဝဓမ္မ အခြေအနေများကိုပြလျှင် အခြေအနေသဘော ပေါက်ရောက်သည်ဟူ၍ ယူဆကြ၏။

ပင်းယကောင်းစားသောခေတ်တွင် တျာချင်း၊ ကာချင်းနှင့် ရတုများမှတစ်ပါး အခြားလင်္ကာ ကဗျာများကို မတွေ့ရသေးချေ။ ယင်းသို့ လင်္ကာတစ်စုံတစ်ခုကို မတွေ့ရခြင်းကြောင့်လည်း ထိုခေတ်၌ မရေးသားကြဟု မယူဆအပ်ပေ။ အကြောင်းမူကား စတုရင်္ဂဗလ အမတ်ကြီး၏ ရတုကဲ့သို့ နက်နဲသော ရတုကိုပင် ရေးသားနိုင်ပါလျက် အဘယ်ကြောင့် လင်္ကာကို မရေးနိုင်ဘဲ ရှိပါအံ့နည်း။ မုချ ရေးသားနိုင်ကြပေလိမ့်မည်။ ထိုရေးသားခဲ့သော လင်္ကာတို့သည် ထီးပြောင်း နန်းလွှဲခြင်းကြောင့်သော်လည်းကောင်း၊ နှစ်ကာလ ပရိစ္ဆေဒ ကြာမြင့်ခြင်းကြောင့်သော်လည်းကောင်း ပျောက်ပျက်ကုန်ဟန် တူသည်ဟု တွေးတောရာ၏။

ရတုအရေးအသားအပြင် ပင်းယခေတ်၌ ကျောက်စာများကိုလည်း ရေးသားစိုက်ထူကြလေသည်။ ပုဂံခေတ်ကပင်လျှင် စကားပြေရေးသားခြင်းသည် များပြားခဲ့သဖြင့် ယခု ပင်းယခေတ်တွင် ဆက်လက်ရေးသားသည့်အတွက် တစ်စထက်တစ်စ တိုးတက်လာမည်မှာ ယုံမှားဖွယ် မရှိချေ။ အကြောင်းတစ်ရပ်မှာလည်း စကားပြေထက် ခက်ခဲသော ရတုကိုပင် ကောင်းမွန်စွာ ရေးသားနိုင်ခြင်းကို ထောက်ထားခြင်းအားဖြင့် မြန်မာစကား ဝေါဟာရများကို တစ်စထက်တစ်စ နိုင်နိုင်နင်းနင်း ရေးသားပေလိမ့်မည်ဟု ယူဆဖွယ်ဖြစ်သည်။ ထိုခေတ်ရှိ ကျောက်စာတို့သည် အကြောင်းအရာအားဖြင့် ပုဂံခေတ်ရှိ ကျောက်စာများနှင့် မခြားနားကြ။ အများအားဖြင့် တူညီကြသည်။ ကျောင်း ကန် ဘုရား လှူကြောင်း၊ ကျေးကျွန်

ဘယ်မြေလှူကြောင်းများကို ထည့်သွင်းရေးသားထားသည်။ ဉဇနာမင်းလက်ထက် သက္ကရာဇ် ၇၀၂-ခုနှစ်တွင် ဂူတည်၍ မြေလှူကြောင်းကို ကျောက်ထက်အက္ခရာ တင်ထားခဲ့၏။ ပင်းယကျော်စွာငယ်လက်ထက် သက္ကရာဇ် ၇၂၁-ခုနှစ်တွင် ဘုရား ကျောင်းများကို တည်ထားဆောက်လုပ်၍ လယ်မြေများလှူကြောင်းကို ကျောက်စာ ထိုးခဲ့၏။

နမော ဗုဒ္ဓါယ သိရိတြိဘဝနာဒိတျ ပဝရ ဓမ္မရာဇာ သီဟသူရ မည်သော ဆင်ဖြူငါးစီး အသိခင်သား ဖြစ်ထသော ဖုန်းတခိုင်း အသရေနှင့် ပြည့်စုံစွာသော ကျော်စွာမင်းကြီးသည် သူရဲများတွင် ကောသည်ဟု မှတ်တော်မူသော ဟိန်စော်သူကြီး စတ္တလက်သူသည် ရတနာသုံးပါးနှိုက် နှလုံးသဒ္ဓါ ကြည်ညိုဝ်စစွာ ဖြစ်ရယ်ဟိန်စော်နှိုက် ဖွတ်စာတိ၊ ပင်းယနှိုက်ကား ကျောင်းရွှေဖုရား ၃ ဆူ ပြုလစ်ရယ် ကျော်စွာမင်းကြီးကိုဝ် မြင်းခွာဖြူ ၁ စီး၊ ခြပ် ၁ လုံး၊ လက်ဆောင် တော် ဆက်ရယ်

စသည်ဖြင့် ရေးသားထားသည်ကို ထောက်ရှုသော် ဝါကျရှည်များကို ရေးသားလာကြောင်းကို တွေ့ရသည်။ နာမဝိသေသနပုဒ်များကို ဆင့်ကာထပ်ကာ သုံးထား၏။ 'နှလုံးသဒ္ဓါ ကြည်ညိုဝ်စွာဖြစ်ရယ်' ဟူသော စကားသည် များစွာ သုံးနှုန်းပုံ ကောင်းသော စကားဖြစ်၏။ ပင်းယခေတ်တွင် ကျောက်စာအများအပြား ရှိသည်ဖြစ်ရာ ထိုကျောက်စာတို့ကို အကျယ်ဖော်ပြပါက များစွာရှည်လျားနေပေ လိမ့်မည်။ သို့ရာတွင် ပုဂံခေတ်ရှိ ကျောက်စာအရေအတွက်ကို ပင်းယခေတ်ရှိ ကျောက်စာအရေအတွက်နှင့် နှိုင်းစာခဲ့ပါလျှင် ပုဂံခေတ်က အလွန်တရာ ပိုမိုများပြား ကြောင်းကို တွေ့ရသည်။ ဤကဲ့သို့ အရေအတွက်နည်းသည့်အတွက် တစ်စုံတစ်ရာ အပြစ်ဆိုဖွယ်မရှိချေ။ ပင်းယကောင်းစားသော ခေတ်သည် ပုဂံကောင်းစားသော ခေတ်၏ သုံးပုံတစ်ပုံမျှသာ ကြာမြင့်သည်။ ကြီးစိုးသော မင်းတို့သည်လည်း ရှမ်းမင်းတို့ ဖြစ်ကြ၏။ ထိုမျှလောက်သော ကျောက်စာများကို တွေ့ရှိရခြင်းသည်ပင် ဝမ်းမြောက်ဖွယ် ဖြစ်သတည်း။



# ၃။ အင်းဝခေတ်

သက္ကရာဇ် ၇၂၆–ခုနှစ်တွင် အထက် တကောင်းမင်းရိုးဖြစ်သော သတိုးမင်းဖျားသည် စစ်သည်တော် အလုံးအရင်းနှင့် ရတနာပူရ အဝရွှေနန်းကို တည်ထောင် ဖန်ဆင်းကြငှန်း ဖွင့်တော်မူသည်။ ထိုသတိုင်းမင်းဖျား လွန်ပြီးနောက် မင်းကြီးစွာစော်ကဲလက်ထက်သို့ ရောက်သောအခါ . . .

> မှတ်လော့ ဗိုလ်ပါ၊ သာသနာစည်ရှည်၊ မြန်မာပြည်ကို၊ မူသည်မင်းတို့၊ ကွယ်ခြင်းထပြီ၊ မည်မညွတ်၊ ဖြစ်လတ်ချောက်ချား၊ ပျက်စီးများရာကား၊ သိကြား နတ်မင်း စသည်၊ သာသနာကို ချီးပင့်နိုင်အံ့ သသူတို့ကို ကြည့်လတ်သော်တည်း၊ ခန်းတရက် မင်းကြီးကို ထိုးဘက်မူ နိုင်ထသော သီဟသူမည်သော ဆင်ဖြူသွိုင် မင်းကြီး၏ . . .

အစချီ မှတ်သားဖွယ်ကောင်းသော ကျောက်စာတစ်ချပ်ကို တွေ့ရသည်။ ထိုကျောက်စာမှာ လင်္ကာ စကားပြေ နှစ်ထွေရောစပ် ရေးသားထားသည့်အပြင် **'သီဟစိတ္တ၊ ခြင်္သေ့လျှာသို့'** ဟူ၍လည်းကောင်း၊ **'စုလစ်ဖျားကား၊ ငှက်သားလည်းကောင်း၊ ဥဒေါင်းတွန်သို့'** ဟူ၍လည်းကောင်း ကောင်းမွန်သော ဥပမာတို့ဖြင့်

တန်ဆာဆင်ကာ ရေးသားထားလေသည်။ ဤမျှမကသေး၊ ဗိသုကာအခေါ်အဝေါ်နှင့် စပ်လျဉ်းသည့် စကားဝေါဟာရ အများအပြား ပါရှိသောကြောင့်လည်း ဖတ်ရှုသူတို့အား ဗဟုသုတ ပွားများစေလေသည်။ ဤသို့ ကျောက်သားပေါ်တွင် မှတ်သားဖွယ်ကောင်းသည့် အကြောင်းအရာများကို လက်ာ စကားပြေဖြင့် စီကုံးထားသည်ကို ထောက်ရှုသော် ထိုကျောက်စာထက် အနည်းငယ်မျှ စောသော ပင်းယခေတ် ဆုံးလုနီးတွင် စတုရင်္ဂဗလ အမတ်သည် မိမိ၏ ရတုကို ကျောက်သပါတွင် မဟုတ်ဘဲ ပေပေါ်၌သာ ရေးရိုးရှိ၍ ရေးသားခဲ့သည်ဟူသော အချက်မှာ ယုံမှားဖွယ် မရှိချေ။

## ပထမ မင်းခေါင်ကြီး

သက္ကရာဇ် ၇၆၃-ခုနှစ်၊ အဝဘုရင် ပထမ မင်းခေါင်ကြီးသည် မြန်မာမှုကို များစွာအားပေးခဲ့သည်။ ကိုယ်တော်တိုင်ကပင် ကျေးစေရတုတစ်ပုဒ်ကို စပ်ဆိုခဲ့၏။ ဤရတုသည် ကျေးစေမယ်ဘွဲ့ရတုဖြစ်၍ စကားတန်ဆာဆင်ပုံမှာ ရိုးရိုးနှင့်ပင် ခေစပ်ပြေပြစ်သည်။

> နန္ဒဝန်လျှင်၊ အလွန်စည်ပင်၊ ကျင်လည်ဇာတိ၊ မွေးမျိုးရှိ၍၊ ထွန်းညိ
> အတောင်၊ စိမ်းရောင်သိဂ်၊ ယုယသိမ်းမွေး၊ ညီချစ်ကျေး...

ဟူ၍ ကျေးငှက်ကလေး၏ ဇာတိကို ဖော်ပြပြီးလျှင် အာလုပ်ပြုသည်။ မင်းကြီး၏ အဖွဲ့အနွဲ့သည်လည်း မည့်လှပေ။ မိန်းကလေးအား မှာကြားလိုက်ပုံ၌...

> မိန့်လိုက်သည်မူ၊ မဆည်နိစ္စ၊ နေ့နှင့်ညလည်း၊ ပျောင်းမျှဆွတ်သွယ်၊
> သနားဖွယ်လျှင်၊ ပြုံးရယ်မရွှင်၊ မပြင်ရောင်ဆင်း၊ မိစိုးမင်းတို့၊
> သံညှင်းထွေငေါ်၊ ရှင့်မောင်တော်ကား၊ ပြေဖျော်ရလာ၊ လက်ဆောင်
> စာဟု၊ မကြာခင်လှည့်၊ ယူဖတ်ကြည့်လည်း၊ မြေး၏ မြဲငြား၊ မှာ
> စကားဖြင့်၊ များများမပဟ၊ မိန့်သမျှကို၊ မွေးဖရှင်မှာ လျှောက်လိုက်
> ပါလော့...

ဟသည်ဖြင့် ရိုးရိုးစကား အသွားအလာကလေးများဖြင့် ဖွဲ့နွဲ့ထားလေသည်။

## အဒူမင်းညို

ရတနာပူရအဝမြို့၌ သက္ကရာဇ် ၈၀၄–၈၃၀ ပြည့်နှစ်တွင် စိုးစံတော်မူသော ဘုရင် နရပတိနှင့် သက္ကရာဇ် ၈၁၇–၈၄၀ ခုနှစ်တွင် ရခိုင်ပြည်ကြီးကို စည်ထီးနှင့် တကွ စိုးအုပ်တော်မူသော ရခိုင်ဘုရင် ဘစောဖြူတို့သည် ထီးပြိုင်နန်းပြိုင် ဖြစ်သည်သာမက စာပေတွင်လည်း စင်ပြိုင်ထောင်လျက် ရှိကြပေသည်။ အဘယ် ကြောင့်ဟူမူ ရခိုင်ပြည်တွင် ရခိုင်ဘုရင် ဘစောဖြူ၏ သမီးတော်ကို ရခိုင်ပညာရှိ အမတ်ကြီး အဒူမင်းညိုက ချောင်းဖွဲ့ဆိုသည့် အချိန်အခါ၌ အဝတွင်လည်း ပြည်စုန် မင်းမြေးတော် (စလင်းသတိုးကျော်) ၏ သမီး သခင်ထွေးကို မြန်မာပညာရှိ ရှင်သူရဲက ချောင်းဖွဲ့ဆိုသည်။

## ရခိုင်မင်းသမီး ချောင်း

အဒူမင်းညိုရေးသော ရခိုင်မင်းသမီး ချောင်းသည် အထင်အရှား တွေ့ရှိ ရသမျှသော ချောင်းများတွင် အဟောင်းဆုံးဖြစ်သည်။ ချောင်းဖွဲ့ဆိုသော ခုနှစ်ကိုကား အတိအကျမသိရ။ ဘစောဖြူမင်း နန်းတက်သော သက္ကရာဇ် ၈၁၇–ခုနှစ်တွင်ပင် ဖွဲ့ဆိုပေရာမည်။ ထိုခေတ် ထိုအခါက ရခိုင်ပြည်တွင် မြန်မာစာပေ ပွန်းကား တိုးတက်လျက် ရှိနေကြောင်းမှာ များစွာ အံ့သြဖွယ်ရာဖြစ်သည်။ မြန်မာပြည်က အားကျဖွယ် ကောင်းလှပေ၏။ အဘယ်ကြောင့် ရခိုင်ပြည်တွင် မြန်မာစာပေ ပွင့်လင်းနေရပါသနည်းဟူမူ ရာဇဝင်ကျမ်းအရ မင်းကြီးစွာစော်ကဲလက်ထက် သက္ကရာဇ် ၇၃၅–ခုနှစ်တွင် ရခိုင်အမတ်များ တောင်းပန်သဖြင့် မြန်မာဘုရင်မင်းမြတ် သည် မြန်မာဘုရင်ခံ စောမွန်ကြီးကို ခန့်ထားသည်မှ အစပြု၍ မြန်မာစာပေသည် လည်း ရခိုင်ပြည်တွင် ပွင့်လင်းပြန့်ပွားလျက် ရှိရတော့သည်ဟူ၍ ယူဆဖွယ်ရာ ဖြစ်သည်။ ထို နောင်ကာလများတွင် အဝပြည်မှ ကဗျာဝိဒူများ ဖြစ်ကြသော ရှင်မဟာရဋ္ဌသာရ၊ ရှင်တေဇောသာရတို့သည် ရခိုင်ပြည်သို့ ကြွရောက်သီတင်းသုံး ကြ၍ ရတုစာကို အမြောက်အမြားပင်လျှင် ဖွဲ့နွဲ့ကြပေသေးသည်။

ထို့ကြောင့် ရခိုင်မင်းသမီး ချောင်းဆရာသည်လည်း မြန်မာပညာရှိများနှင့် ဆက်ဆံဖူးဟန် တူသည်။ ထိုမင်းသမီး ချောင်းတွင် မင်းသမီး၏ ဆွေတော်မျိုးတော် အရင်းအချာများ၏ အစဉ်အဆက် နွယ်တော် ပြန့်ပွားလာပုံများကို ရှင်းလင်းစွာ ဖော်ပြသည်။ စကားအသွားအလာ ဖွဲ့နွဲ့ပုံမှာ တောင်ငူခေတ် ကုန်းဘောင်ခေတ်ပေါ် ချောင်းများလောက် ရာဇဝင်ကြောင်းတွင် မပြည့်စုံလှ၊ ချောင်းအဖွဲ့ မျိုးစေ့ကို ချရုံ မျှသာ ရှိသည်။ သို့သော် ဖွဲ့ဆိုလိုသမျှကို မကွယ်မထောင့် ရှင်းလင်းပြတ်သားစွာ

၌ ဆိုနိုင်သည်။ ချေင်းတွင် သုံးစွဲထားသော စကားလုံးများသည် သုတိ သာယာ၍ ဆါလွင်လှသည့်ပြင် စပ်ပုံစပ်နည်းမှာလည်း ကောရန့်နှင့် အစချီ၍ ကောရန့်နှင့် အဆုံးသတ်သည်။

ဖေပိမ့်နှစ်သိမ့်၊ အငြိမ့်အချမ်း၊ သူငယ်ဝမ်းဖြင့်၊ မြည်တမ်းပူဆာ၊ နိုးနာမရှိ၊ စက်ပျော်တိမ့်မျှ၊ သိန်းထိဘိုးခက်၊ ညှံ့သက်ပင်ချည်၊ လျားနံ့ရှည်နှင့်၊ နောက်ပြည်မင်းတို့၊ ခွန်ဆက်ပို့သား၊ နှစ်လို့ချင်စွာ၊ ခါသာသလင်း အောက်နီးခင်းလျက်၊ ပေါ်တင်းကြက်မွန်၊ ဗိတာန်ဆောင်းထား၊ ကိုးပါး ရတနာ၊ စီခြယ်မြွာလျက်၊ ရွှေပုခက်တွင်၊ ရွှေရွက်လူလူ၊ ရွှေချူသွင်သွင်၊ လက်ငင်တိုင်ငှတ်၊ မျှင်မျှင်ထုတ်၍၊ တမှုတ်ကြိုးကိုင်၊ နှစ်သက်ဆိုင် သည်၊ တော်ရိုက် ပျံ့ပျူးတည့်လေ…

ဟူသော အဖွဲ့ကို ကြည့်ရှုလျှင် အဒူမင်းညိုသည် ရေးအခါက ပုခက်ယောဉ်ကို မည်သို့ ဆင်ယင်၍ မည်သို့ ယောဉ်တော်ကျူးကြပုံကို ပေါ်လွင်သော စကားလုံး များဖြင့် ဗဟုသုတဖြစ်ဖွယ်ရာ ပြခဲ့သည်။ ချေင်းဆရာတို့မည်သည် ဘုရင်မင်းမြတ်၏ ဘုန်းတော်ကို ချီးကျူးဖွဲ့ဆိုကြစမြဲ ဖြစ်သောကြောင့် အဒူမင်းညိုကလည်း မိမိ၏ အဖွဲ့တွင်…

ဝေသာလိဝယ်၊ ဓာတိဆဒ္ဒန်၊ မျိုးမှန်ဖြူလှဲ၊ တစ်ဆယ့်နှစ်စီး၊ ကျော်သီး ထိုခါ၊ ကျော်ထင်စွာသား၊ မဟာမည်လှိုင်း၊ တိုင်းစန္ဒရား၊ ကျောက် လှေကား၌၊ သိကြားနတ်ပေး၊ လေးနှင့်သန်လျက်၊ လက်နက်လုံ့ပျံ၊ စေစားခံ၍၊ နွံတုံသောင်းနက်၊ ကိုးဆက်မင်းတိုင်၊ တုတ်ခွန်လှိုင်၏၊ ရိုက်တိုင်ထန်ကြိုး၊ မိုးလည်းရတနာ၊ ရွာကာကာတည်း၊ မည်သော ကျော်မွန်း၊ ဥဒါန်းဆောင်လွှား၊ စန္ဒရားဟု၊ ကြီးအားမြှောက်စည်၊ ကိုးဆက်တည်သည်၊ လူ့ပြည်ဘုန်းရှိန် စူးတည့်လေ…

ဟူသည်ဖြင့် အတိဝုတ္တဒေါသမှ ကင်းလွတ်အောင် သွယ်ဝိုက်၍ ရေးသားဖွဲ့နွဲ့ထား ပါသည်။

## ရှင်သူရဲ

အဒူမင်းညိုသည် ရခိုင်မင်းသမီး ချေင်းကို စပ်ဆိုပြီး၍ အနှစ် ၂၀-ကျော် ကာလသို့ ရောက်လတ်သော် မြန်မာပြည် အဝရွှေမြို့တော်တွင်လည်း ရှင်သူရဲ အမည်ခံ မြန်မာပညာရှိတစ်ဦးက သခင်ထွေး ချေင်းကို ဖွဲ့နွဲ့စပ်ဆိုလေသည်။

## သခင်ထွေး ချောင်း

မြန်မာပြည်၌ တွေ့ရှိရသမျှသော ချောင်းများတွင် ရှင်သူရဲ ဖွဲ့ဆိုသော ချောင်းသည် အဟောင်းဆုံးဖြစ်သည်။ ချောင်းအဖွဲ့ခံသူသည် စလင်းသတိုးကျော် သမီးဖြစ်၍ သက္ကရာဇ် ၈၃၈–ခုနှစ်တွင် ဖွားသန့်စင်သည်။ ထိုနှစ်၌ပင် ရှင်သူရဲက ချောင်းကို ဖွဲ့သည်။ ရှင်သူရဲသည် ရှင်အမည်ခံသော်လည်း ရဟန်းပုဂ္ဂိုလ် မဟုတ်။ လူပုဂ္ဂိုလ်ပင်တည်း။ ဇာတိအားဖြင့် အဝမြို့သားဖြစ်၍ ဘုရင်နရပတိလက်ထက်မှ ဒုတိယမင်းခေါင် လက်ထက်တိုင် စစ်အမှုထမ်းအဖြစ် ခစားထမ်းရွက်သည်။ စစ်အမှုထမ်းအဖြစ်နှင့်လည်း စစ်ချီမယ်ဘွဲ့၊ မောင်ဘွဲ့ရတုများကို အမြောက်အမြား စပ်ဆိုခဲ့သည်။ ထိုစစ်ချီ ရတုများကိုလည်း ရှင်သူရဲကပင်လျှင် အစထွင်ခဲ့သည်ဟူ၍ ယူဆဖွယ်ရာ ဖြစ်သည်။

## ရှင်သူရဲ၏ စစ်ချီရတုများတွင်

မြေသင်းဩဇာ၊ မွှေးနံ့သာတိ၊ ရံကာမကင်း၊ လေညင်းပျံ့ချို၊
နေညိုညိုဝယ်၊ ဆွေညိုသူရဲ၊ မြခဲနှိုင်းရည်၊ နောင်စစ်သည်ကြောင့်၊
မျက်ခြည်ရှုမူး၊ ပျံ့ပျူးညှိုးရော်၊ လာနိုးမျှော်၍၊ ချစ်ဖော်ကွဲပြား၊

မပြားငှက်သွင်၊ ဆွတ်ဆွတ်ကြင်မျှ၊ ရက်ပင်လများ၊ မြင့်ရှည်လျား
သော်၊ ပျော်ပါးမဲ့ဆုံး၊ ကြာသို့ရုံးသည်၊ နှလုံးအူသည်း နောင်သို့စည်း...

စသည်ဖြင့် ရိုးရိုးနှင့်ယဉ်အောင် ဖွဲ့နွဲ့စပ်ဆိုနိုင်ပေသည်။

ထို့ပြင်လည်း အဖွဲ့အနွဲ့တွင် မိမိအမည်ရင်းကို ဖော်ပြ၍ ပထမဆုံးစပ်သူ ဖြစ်သည်။ သခင်ထွေး ချောင်းတွင်ကား...

ဘိုးဘေးမိဘ၊ သမ္မတက၊ အစအရင်း၊ ရှစ်သောင်းမင်း၏၊ အချင်း
အတ၊ ပြည်ထောင်စကို၊ ချီချသာမော၊ ကျူးရင့်ပြောအံ့...

ဟူ၍ ပဋိညာဉ် ပြုထားပါသော်လည်း ဖွဲ့စပ်ရာ၌ သခင်ထွေး မင်းသမီးကလေး၏ အရင်းအချာ ဆွေတော်မျိုးတော်များလောက်ကိုသာ ဖွဲ့ဆိုသည်။ စာအဖွဲ့အနွဲ့မှာ ရခိုင်မင်းသမီး ချောင်းထက် အနည်းငယ် စုံလင်သည်။ ချောင်း စာကိုယ်တွင် ဘိုးတော် ဘေးတော်တို့ စစ်တိုက်ခိုက်ကြပုံ၊ ရန်အပေါင်းတို့ကို အောင်မြင်ကြပုံ၊ အခွန်ပဏ္ဏာ လက်ဆောင်များ ရရှိပုံတို့ကို ဖော်ပြခြင်းအားဖြင့် ဘုန်းတော်ကို ဖွဲ့ဆိုသည်။

တကဲတကဲ၊ ရှင့်ဘရဲ၍၊ ခြိမ်းမဲရိုက်ကြိုး၊ လက်ရုံးမိုးက၊ သတိုးသတိုး၊ ကြောက်စိုးရွံ့စို၊ ကျွန်းလုံးပြိုလျက်၊ အိုအိုလန့်ဖျပ်၊ ရင်တီးသပ်၍၊ ရန်စပ်ပြည်ထောင်၊ ကုန်အောင်သသူ၊ ဟူလင့်ဝှန်တက်၊ ကျိုက်ကျိုက် ပွက်မျှ၊ ထိုးဘက်တကာ၊ ကိုးကွယ်ရာလျှင်၊ ကြေညာအလုစ်၊ ခုံကြိုး ဖြစ်၏၊ စင်စစ်အကယ်၊ မယုံဖွယ်တည့်၊ တောဝယ်မကျန်၊ တိရစ္ဆာန် မကျေးငှက်၊ အမိုက်လျက်တည့်၊ တက်သက်မြူးခုန်၊ တောင်ဟုန် ခတ်ဖြိုး၊ ရင့်ရှုကြိုးလျက်၊ သာနိုးသာဝှန်၊ သတိုးကျွန်ဟု တွန်တုံ သတတ်…

အစရှိသဖြင့် သတိုးကျော်၏ ဘုန်းတန်ခိုးတော် ထွန်းတောက်ပုံ၊ ငှက်တိရစ္ဆာန်များ ကပင်လျှင် သတိုးကျွန်ဟူ၍ တွန်မည်ပုံများကို ပြဆိုရာ၌ ရှင်သူရဲ၏ စိတ်ကူး ကောင်းကြောင်းကို သိရှိရပေ၏။ ရှင်သူရဲ၏ ချေင်းသည် ရခိုင်မင်းသမီး ချေင်း ထက် အနှစ် ၂၀–နီးပါးလောက် နောက်ကျသည်ဖြစ်သော်လည်း ရှင်သူရဲသည် ရခိုင်မင်းသမီး ချေင်းမှ အတုယူကာ စပ်ဆိုဖွဲ့နွဲ့သည်ဟူ၍ မစွပ်စွဲနိုင်ပေ။ ချေင်း နှစ်စောင်ကို ယှဉ်ကြည့်သော် ဖွဲ့နွဲ့ပုံမှာ တစ်မျိုးစီဖြစ်ကြောင်း တွေ့ရှိရပေလိမ့်မည်။ အကယ်၍ ရှင်သူရဲသည် ရခိုင်မင်းသမီး ချေင်းမှ အတုယူသည် ဖြစ်အံ့။ 'အကြဲတူ– နောက်လူ ကောင်းစမြဲ' ဟူသည့်အတိုင်း နောက်လူ ရှင်သူရဲ၏ စာများက စာသား အဖွဲ့အနွဲ့ အစီအစဉ်မှ စ၍ ရခိုင်မင်းသမီး ချေင်းထက် သာလွန်ကောင်းမွန်ဖွယ် ရှိရာ၏။ ယခုမှာကား ထိုသို့မဟုတ်မူ၍ ရှင်သူရဲ၏ စာများတွင် စိတ်ကူးစိတ်သန်း ကောင်းခြင်းမှတစ်ပါး ဖွဲ့နွဲ့ပုံ ဗန္ဓစကား အထားအသို အစီအစဉ်တို့မှာ ရခိုင်မင်းသမီး ချေင်းကို မမီပေ။ အဘယ်ကြောင့် ဤသို့ဖြစ်ရသနည်းဟူမူ ရခိုင်အမတ်ကြီး အဒူမင်းညိုသည် နန်းတွင်း ကြီးပြင်းသူလည်း ဖြစ်၍ နန်းတော်တွင် ယဉ်ကျေး သိမ်မွေ့စွာ ခစားထမ်းရွက်ခြင်းဖြင့် အသက်မွေးရသူဖြစ်သောကြောင့် ကြမ်းကြမ်း တမ်းတမ်း စစ်အမှုထမ်းအလုပ်ဖြင့် အသက်မွေးရသော ရှင်သူရဲထက် ဇာတိ အားဖြင့် ပိုမို ယဉ်ကျေးသိမ်မွေ့သူဖြစ်ကြောင်းကား ယုံမှားဖွယ် မရှိ။ ထိုသို့ သိမ်မွေ့သူသည် စာပေအဖွဲ့အနွဲ့တွင်လည်း ဇာတိအလုပ်အကိုင်ကို လိုက်၍ သိမ်မွေ့နူးညံ့မည်ပင် ဖြစ်၏။ ရှင်သူရဲမှာကား ကြမ်းတမ်းခက်တရော်ရှိသော အလုပ်ဖြင့် အသက်မွေးရသူ ဖြစ်သောကြောင့် 'ပညတ်သွားရာ–ဓာတ်သက်ပါ' ဟူဘိသို့ ကိုယ်အနေအထိုင် အပြောအဆိုမှ စ၍ ရိုးတိုင်းရိုင်းတိုင်း ကြမ်းကြမ်း တမ်းတမ်းကြီးပင် ဖြစ်တန်ရာသည်။ ထို့အတူ ရှင်သူရဲသည်လည်း စစ်အကြောင်းနှင့် ပတ်သက်သည့် ကြမ်းကြမ်းတမ်းတမ်း အဖွဲ့များတွင် အဒူမင်းညိုထက် သာ၍

မင်းခမ်းမင်းနား အဖွဲ့များတွင် အဒူမင်းညိုကို မမီချေ။ သို့သော် ရှင်သူရဲက စိတ်ကူးသာကြောင်းကား ထင်ရှားပေ၏။ သခင်ထွေး ချေင်းတွင် သခင်ထွေး၏ ဇာတာစန်းလက် ဂြိုဟ်နေဂြိုဟ်ထားများကိုလည်း ဖော်ပြသဖြင့် ပိုမိုပြည့်စုံသည်ဟု ဆိုရပေမည်။

## ချေင်းဟူသော ဝေါဟာရ

ချေင်းဟူသည်မှာ မင်းသမီး မင်းသားငယ်များအား ယောဉ်တော်မင်္ဂလာ ဆင်ယင်ကျင်းပသည့် အခါများတွင် ပခက်တွင်း၌ သိပ်၍ ပခက်ကို လွဲရင်း သီဆို ကျူးရင့် ချော့မော့ရသော ကဗျာဖြစ်၍ ဂီတသဘောမျိုးတွင် သက်ဝင်သောသီချင်းပင် ဖြစ်သည်။ ဂီတသီချင်းများသည် အင်းဝခေတ်တွင်မှ ပေါ်ပေါက်လာသည်မဟုတ်၊ ရှေးပုဂံခေတ်ကပင် စ၍ ပေါ်ပေါက်လျက်ရှိသည်မှာ ယုံမှားဖွယ်မရှိ။ အဘယ်ကြောင့် ဟူမူ ရှေးဟောင်းကျောက်စာများတွင် သီချင်းစာကိုယ်ကို မတွေ့ရငြားသော်လည်း သီချင်းသည် ကချေသည်၊ စည်ကြီးပန်တျာခွက်ခွင်းသည် စသော ဂီတနှင့် ပတ်သက် သည့် အသုံးအနှုန်း ဝေါဟာရများကို တွေ့ရှိရပေသည်။ ဂီတသီချင်းတို့မည်သည်မှာ စိတ်ရွှင်လန်း ဝမ်းမြောက်သည့်အခါများ၌ ဝမ်းတွင်းမှာ လှိုက်လှိုက်လှဲလှဲဖြစ်လာ၍ မျိုသိပ်အောင့်အည်း မထားနိုင်တော့ဘဲ ပါးစပ်မှ ထိုးဖောက်ထွက်လာရသော ကမ္ဘာ့နိယာမ အသံပင်ဖြစ်၏။ ထို့ကြောင့် ဤသီချင်း ဂီတတို့သည် လူမှုကိစ္စ၊ သာသနာကိစ္စ၊ အိမ်တွင်းမှုကိစ္စ အများတို့တွင် လူတို့နှလုံး ရွှင်ပြုံးပျော်မြူးကြစဉ် အလိုအလျောက် ဝမ်းတွင်းမှ ပေါ်ထွက်လာကြသော အသံဖြစ်ခြင်းကြောင့် ဂီတ သီချင်းတို့မည်သည်မှာ လူရိုင်းတို့၌ဖြစ်စေ၊ လူယဉ်တို့၌ဖြစ်စေ လူမျိုးအလိုက် ရှိနေကြကြောင်းကို ချင့်ချိန်တွေးဆ,ရာသည်။ ထို့ကြောင့် သက္ကရာဇ် ၇၀၃–၇၀၄ ငါးစီးရှင်ကျော်စွာလက်ထက်တွင် ကာချင်းဟူ၍ခေါ်သော ဂီတသီချင်းများ ပေါ်ပေါက် လာကြောင်း ဖော်ပြခဲ့ပေပြီ။ ထိုကာချင်းများသည် ကာ–ကရာတွင် ရွှင်မြူးသည့် စိတ်ဖြင့် သီဆိုကြသော သီချင်းများ ဖြစ်ကြ၏။ ရဲရင့်ခြင်း ဝီရ ရသနှင့် ပြည့်စုံသော သီချင်းများ ဖြစ်ကြ၍ စစ်သည်တော်များကိုလည်း ရဲစိတ် ရဲမာန် သွတ်သွင်းပေးသောအားဖြင့် နှစ်ဘက်နှစ်လမ်း အကျိုးဖြစ်ထွန်းစေသော ဂီတသီချင်း မျိုးဖြစ်သည်။ ချေင်းကဗျာသည်လည်း ဇာတိသွေး ဇာတိမာန် ရဲသွေးတို့ကို ကာချင်းများကဲ့သို့ပင် တက်ကြွစေ၏။ သို့သော် ကာချင်းများကဲ့သို့ ရဲရည် ရဲသွေး များကို အပြေးအလွှား အကြမ်းအတမ်း လှုံ့ဆော်ပေးသည့် သဘောမျိုး ပါဝင်သော သီချင်းမျိုးမဟုတ်။ ကောရန္တ နှင့် အစချီ၍ ကောရန္တ နှင့် အဆုံးသတ်ကာ ကြားရ

သူတို့ အလွန်သာယာနာပျော်ဖွယ်ဖြစ်အောင် ဓာတ်သွေး ဓာတ်မာန်ကို တစ်မျိုး တစ်နည်းအားဖြင့် မြှင့်ပေးပေသည်။ သို့ဖြစ်ရကား သီချင်း၊ ကာချင်း၊ ချေင်းတို့ သည် တစ်ခုနှင့်တစ်ခု သဘောအားဖြင့် ဆက်နွယ်လျက် ရှိကြ၏။ ချေင်းကို အိပ်မွေ့ချ ကလေးချော့သီချင်းဟူ၍လည်း ဆိုနိုင်သည်။ ကောရန္တနှင့် အဘယ်ကြောင့် အစချီ အဆုံးသတ်ရပါသနည်းဟူမူ ကောရန္တမှာ ရွတ်ဆိုရာတွင် လွန်စွာချိုသာ အသံဖြစ်သည်။ ကောရန္တကို ကလေးချော့ရာ၌ အသုံးပြုသည်မှာ မင်းသမီး မင်းသားများသာ မဟုတ်။ ဆင်းရဲသူ ဆင်းရဲသားများပင် အသုံးပြုကြ၏။ ဆင်းရဲ သားများ ကလေးချော့ရာ၌လည်း ဧ... ဧ ဟူသော ကာရန်ဖြင့် ကလေးချော့ကြ သောကြောင့် ဖြစ်၏။ ဥပမာပြရမည်ဆိုသော် 'ဧ... ဧ လူကလေးရဲ့ အိပ်ပါဆို၊ ခိုဖမ်းလို့ပေး၊ ခိုဖြူ ခိုပြာနက်ကယ် ဖမ်းခက်လှသေး' ဟူရာ၌ နေ့စဉ်စ၍ ကောရန္တ နှင့်ပင် အဆုံးချသည်။ ချေင်းဆရာတို့သည် ချေင်းကဗျာဖြင့် လူတို့၏စိတ်ကို လှုံ့ဆော်ပေးခဲ့လေသည်။ ထိုချေင်း၏ လှုံ့ဆော်ပေးခြင်းကြောင့် မင်းသား မင်းသမီး တို့မှာ ဓာတ်မာန်တဖွားဖွား တက်ကြွကြပြီးလျှင် မိမိတို့ တိုင်းပြည်ကို ချစ်ကြရတော့ သည်။ အမျိုးကို ခင်ကြရတော့သည်။

ထို့ကြောင့် လူမျိုးခြား လက်အောက်သို့ မကြာခဏ သက်ဆင်းခြင်းခံရသော မြန်မာပြည်ကြီးကိုလည်း အကြိမ်ပေါင်းများစွာ ကယ်ဆယ်နိုင်ခဲ့ကြလေပြီ။ ထို့ပြင် ဧချင်းအဖွဲ့၏ အကျိုးထူးတစ်ရပ်ကား ချေင်း သည် ရာဇဝံသဉာဏ်ကို ပေးသည်။ ရာဇဝင်ကြောင်းကို ရေးသားဖော်ပြသဖြင့် ရာဇဝင် မပေါ်ပေါက်သေးသော ခေတ် တွင် ချေင်းကို အားကိုးအားထားပြုကြရသည်။ နောက်နောင်တွင် ရာဇဝင်ဆရာ တို့သည် ချေင်းစာကိုယ်များမှ ရာဇဝင်အထောက်အထားများ ရကြသည်။ ထို့ကြောင့် ဧချင်းကား အဖိုးတန်လှပေသည်။

## မော်ကွန်း

အဝရွှေမြို့တော်၌ အထက် ဆိုခဲ့ပြီးသော သခင်ထွေး ချေင်း မပေါ်ပေါက်မီ သုံးနှစ်ခန့်က မြန်မာကဗျာဆန်းတစ်မျိုး ပေါ်သေးသည်။ ထိုကဗျာကား မော်ကွန်းဟု ခေါ်သော အဖွဲ့အနွဲ့မျိုး ဖြစ်သည်။ ထိုမော်ကွန်းမှာ သက္ကရာဇ် ၈၃၀-၈၄၂ ခုနှစ် အဝရွှေနန်းကို သိမ်းမြန်းစိုးစံတော်မူသော မဟာသီဟသူရလက်ထက်တွင် ပေါ်ပေါက် ထွန်းကားသည်။ သက္ကရာဇ် ၈၃၄-ခုနှစ်တွင် မဟာသီဟသူရသည် ညီတော် ပြည်မြို့စား မင်းကြီးစွာနှင့် သာယာဂတိစား ဦးရီးတော် ကျော်စွာတို့ ဖောက်ပြန်

ရိုင်းပျခြားနားကြသည်ကို နှိမ်နင်းရန် စကြာရွှေဖောင်တော်ဖြင့် ပြည်မြို့သို့ စုန်ဆင်း နှိပ်ကွပ်တော်မူရာတွင် ဖြစ်ပျက်တွေ့ကြုံရသော အကြောင်းအရာများကို ဖွဲ့နွဲ့စပ်ဆိုထားခြင်းကြောင့် ထိုမော်ကွန်းမှာ ပြည်စုန်မော်ကွန်းဟူ၍ အမည် တွင်သည်။

## ရှင်ထွေးညို

ထိုပြည်စုန်မော်ကွန်းကို သက္ကရာဇ် ၈၃၄–ခုနှစ်တွင် စစ်လျင်ထောင်မှူး ရှင်ထွေးညို အမည်ရှိသော စာဆိုတော်က ဖွဲ့ဆိုခဲ့သည်။ ထိုစာဆိုတော်သည် အဝ ဘုရင် နရပတိကြီး ၈၀၄–၈၃၀ လက်ထက်မှစ၍ ရွှေနန်းကြော့ရှင် နရပတိ ၈၆၃–၈၈၈ လက်ထက်တော်တိုင် စစ်သူရဲ တစ်ထောင်ပေါ်တွင် အုပ်ချုပ်ရသော ဗိုလ်မှူးကလေး ဖြစ်သည်။ (စစ်လျင်ဟူသော စကားမှာ စစ်တပ်မတော်ကြီး၏ ရှေ့တော်မှ အဦးဆုံး ထွက်ခွာသွားရသော ကင်းစမ်းစစ်တပ်တော် ဖြစ်သည်)။ ရှင်ထွေးညိုသည် ပြည်စုန်မင်းကြီးနှင့်အတူ ညီတော် မင်းကြီးစွာကို နှိမ်နင်းရာသို့ လိုက်ပါသွားပြီးလျှင် အပြန်တွင် ဤမော်ကွန်းကို ရေးသားသည်။ ဤမော်ကွန်းမှာ မော်ကွန်းမည်ကာ မဟုတ်၊ ရေလားအဖွဲ့သဘောမျိုး အပါအဝင်ဖြစ်သည်။ နောက်နောင် ပေါ်ပေါက်လတ္တံ့သော ရေလားအဖွဲ့များ၏ ရှေ့တော်ပြေးလည်း ဖြစ်သည်။ ဤမော်ကွန်းတွင် လိုရင်းအချက်ထက် မပိုလွန်စေဘဲ တိုတိုတုတ်တုတ် နှင့် ပေါ်လွင် ထင်ရှားအောင် ဖွဲ့ဆိုထားသည်။ ဖွဲ့နွဲ့ပုံမှာ လွန်စွာ ရှင်းလင်းပြတ်သား သည်။ ရာဇဝင် ဗဟုသုတကိုလည်း များစွာပေးပေသည်။ ဦးကုလားရာဇဝင်၊ မဟာရာဇဝင်ကြီးတို့ကပင် ဤမော်ကွန်းလာ ရာဇဝင်ကြောင်းကို အထောက် အထားပြု၍ ကူးယူကြရကုန်၏။ ပုံစံပြရမည်ဆိုသော် ပြည်စုန်မော်ကွန်း စာပိုဒ် ၄၂–တွင်…

> ပြည်ဆိပ်တူရူ၊ သဲကမ်းဖြူထက်၊ ထပ်တူတည်လျှင်၊ အိမ်ရှေ့မင်းနှင့်၊
> ရန်တင်းရာရာ၊ နော်ရထာလျှင်၊ တောင်တာခံခံ၊ ရေကြောင်းရံ၍၊
> ရဲစံကိုးကိုး၊ မင်းမျိုးမင်းဆွေ၊ တည်လေကြည်းဘက်၊ နိုင်ချင်ကြက်သို့၊
> အဘက်သင့်စွာ၊ မတ်ရာတလိုက်၊ ရှမ်းပိုက်ရိုင်းရိုင်း၊ နဝင်းခိုင်း
> လျက်…

စသည်ဖြင့် ဖွဲ့နွဲ့ထားရာ ရာဇဝင်ဆရာများက…

မြို့တော်ကို လုပ်ကြံတော်မူမည် ခန့်ထားတော်မူသည်ကား သားတော် အိမ်ရှေ့မင်း၊ သားတော် နော်ရထာတို့ကို တောင်ရှည်က ရေကြောင်း ရံစေတော်မူ၏။ ရှမ်းတို့ကို နဝင်းက ရံစေတော်မူ၏။ အမှူးအမတ် အပေါင်းကား ပြည်မြို့ကို ပိတ်မိအောင် ရံစေပြီးလျှင်...

ဟူ၍ ကူးယူထားသည်ကို တွေ့ရသည်။ ရှင်ထွေးညိုသည် ချေင်းဆရာများကဲ့သို့ပင် မိမိ၏မော်ကွန်း၌ မိမိအရှင်သခင် ဘုရင်မင်းမြတ်၏ ဘုန်းတော်ကို မြှောက်ချီးချီးကျူးလိုသောကြောင့်...

နရာတဲဆိပ်၊ လှူ့ထိပ်နှစ်စုံ၊ ကာမဘုံကို၊ အုပ်ခြုံစိုးပြီး၊ တန်ခိုးမီးဖြင့်၊ ရောင်ညီးဝင်းဝင်း၊ လေးကျွန်းချင်းသား၊ သေဋ္ဌနင်းလူတွင်၊ စကြာရှင်နှင့်၊ အသွင်နိုင်းလျက်၊ ခိုင်းကြဘက်၍၊ အထက်နန်းမ၊ ဖွင့်လကလျှင်၊ သားလှတိုင်းကား၊ ရပ်ရှစ်ပါးမှ၊ ဝန်လျှားပြည်ထောင်၊ မင်းကုန်အောင်တို့၊ အခေါင်ရှိညွှတ်၊ ပူဇော်လတ်သော်၊ အထွတ်ရွှေဘုန်း၊ နတ်နှင့်နှုန်းသည်၊ ပွင့်တုန်းရေးကျိုး သမ္မာတည်း။

စသည်ဖြင့် စကြာမင်းနှင့် နှိုင်းနှုန်းဖွဲ့ဆိုထားသည်။ ဤမော်ကွန်းမှ ခရီးသွားနေ့စဉ်မှတ်တမ်းကဲ့သို့လည်း ပြည့်ဖွန်ပေသည်။ မည်သည့်နေရာသို့ မည်မျှ ခရီးသွားရကြောင်း၊ မည်သည့်နေရာတွင် မည်သည့် ကောင်းမှုတော်များကို ပြုခဲ့ကြောင်း စသည်ဖြင့် မှတ်တမ်းများကိုလည်း ဖွဲ့ဆိုသေး၏။ ပြည်စုန်မင်း ဆိုက်ရောက်သော ခရီးစဉ်ကို အလစ်အဟင်းမရှိအောင် ပြဆိုသည်။ ထို့ပြင်လည်း ဗဟုသုတပွားများဖွယ်ရာဖြစ်အောင် လှေတော်၊ သမ္ဗန်၊ ကူရွပ်များအကြောင်းနှင့် စစ်ဆင်စစ်တက် ခန့်ခွဲပုံများကို ပြဆိုထားသည်မှာ ရှင်ထွေးညိုအား အထူး ချီးမွမ်းဖွယ်ရာ ဖြစ်တော့၏။ ရှင်ထွေးညိုသည် ပြည်စုန်မော်ကွန်း တစ်ခုတည်းဖြင့် ကျော်စောသူ မဟုတ်။ ဆင်တော် မော်ကွန်းကိုလည်း ဦးစွာ ပထမ စတင် စပ်ဆိုသူဖြစ်၏။ ထိုမော်ကွန်းကား ရွှေစာတိုင်မည်သော ဆင်ကို ဖွဲ့ဆိုသည်ဖြစ်၍ 'ရွှေစာတိုင် ဆင်တော်မော်ကွန်း' ဟု ဘွင်၏။ ရွှေစာတိုင် ဆင်တော်မော်ကွန်းကို စာဆိုသူသည် သက္ကရာဇ် ၈၇၂-ခုနှစ် အဝဘုရင် ရွှေနန်းကြော့ရှင် လက်ထက်တွင် စပ်ဆိုသည်။ စာဆိုသူသည် ပြည်စုန် မော်ကွန်းမှာကဲ့သို့ ရွှေစာတိုင် မော်ကွန်းတွင်လည်း ဘုရင်မင်းမြတ်၏ ဘုန်းတော်ကို ချီးကျူးလို၍...

နွယ်ဆက်ဘေးလောင်း၊ မြစ်တော်ဟောင်းထက်၊ ရင့်ညှောင်းမင်္ဂလာ၊ ပွားတက်ရာကို၊ ပြဟ္မာနှစ်ယောက်၊ ဘိသိက်မြှောက်၍၊ ထွန်းတောက် ဥကင်၊ လှစ်ထွန်းရှင်သည်၊ ဥငင်ကျည်းလျှို၊ အလိုလိုလျှင်၊ မြင်းမိုရ် ထိပ်ဖျား၊ သိကြားနေတန်၊ ဝေဇယန်လည်း၊ မလွန်လှည့်ယောင်၊ ဆယ်ရပ်ပြောင်မျှ၊ ဝင်းရောင်မောက်မောက်၊ ရွှေတိုင်ဆောက်သို့၊ တောင်မြောက်ကြေညာ၊ ဆယ်မျက်နှာလည်း၊ အာဏာလျှံဘိ၊ ဘုန်း တော်ညီ၍၊ နရပတိ၊ မည်ရှိသမိုက်၊ ခံတန်ထိုက်သည်၊ အုပ်ပိုက်ဇမ္ဗူ ကျွန်းခေါင်တည်း။

စသည်ဖြင့် အလွန်အကျူး စပ်ဆိုထားရာ၌ မိမိအရှင်သခင်၏ ဘုန်းတော်ကို နိုလှုံ၍ ဖွဲ့ဆိုအပ်သည် ဖြစ်သောကြောင့် ရှင်ထွေးညိုကိုလည်း အပြစ်မဆိုသာ။ ရွှေစာတိုင် ဆင်တော်မော်ကွန်းကို ဖွဲ့ဆိုရာ၌ ရှင်ထွေးညိုသည် ငယ်ရွယ်စဉ်က ဖွဲ့ဆိုအပ်သော ပြည်စုန်မော်ကွန်း၏ အဆင့်အတန်းကို မမီချေ။ ဆင်တော်မော်ကွန်းမှာ စကားဖွဲ့ဆိုပုံ ခမ်းနားသည်မှတစ်ပါး အခြားချီးမွမ်းဖွယ်ရာ အချက်မရှိ။ ပြည်စုန် မော်ကွန်းကား ဆင်တော်မော်ကွန်းထက် ရှင်းလင်းပြတ်သား၍ စကားလုံးပြောင်၏။ ဆိုလိုရင်းအချက်များလည်း ကွက်ကွက်ကွင်းကွင်း ပေါ်၏။ ဤသို့ ဖွဲ့နွဲ့ပုံကွာခြား ရခြင်း အကြောင်းကား ပြည်စုန်မော်ကွန်းကို ရေးစဉ်၌ စာဆိုသူသည် မိမိ သေချာစွာ သိရှိရသောအကြောင်း၊ မိမိဝါသနာပါသော စစ်ပွဲများအကြောင်းနှင့် ပတ်သက်ရေးရ၍ ကဗျာအာဘော် ကွန့်မြူးနိုင်သလောက် ကွန့်မြူးနိုင်ခဲ့၏။ ဆင်တော်မော်ကွန်း ကိုကား အသက်အရွယ်ကြီးရင့်မှ ရေးရသည် ဖြစ်သောကြောင့် ကဗျာအဆင့် အတန်း ပိုမို ကောင်းမွန်သင့်ပါသော်လည်း မိမိကိုယ်တိုင် ထိထိရောက်ရောက် ကျွမ်းကျင်သော အကြောင်းအရာများကို ဖွဲ့နွဲ့စီကုံးရခြင်း မဟုတ်။ စိတ်ကူး စိတ်သန်းဖြင့် မှန်းဆ ထင်မြင်ကာ ဖွဲ့နွဲ့စီကုံးရသည်ဖြစ်ရကား ဆင်တော်မော်ကွန်း သည် ငယ်ငယ်က ရေးခဲ့သော ပြည်စုန်မော်ကွန်း၏ အခြေအနေကို မမီနိုင်ခြင်း ဖြစ်တန်ရာသည်။

## မော်ကွန်းဟူသော ဝေါဟာရ

မော်ကွန်းဟူသော စကားသည် ပုဂံခေတ်ကပင် ရှိသည်။ ပုဂံမြို့ လေးယောင့် ကန်အရပ်၊ တက်နွဲအရပ်၊ စစ်ကိုင်းမြို့များတွင် တူးဖော်တွေ့ရှိရသော ရေးဟောင်း ကျောက်စာများတွင် ‘အမူကွန်း’ တင်သော အကြောင်းအရာများကို ရေးထိုးထား

သည်။ ပုဂံမြို့ လေးထောင့်ကန်အရပ် မင်းဝိုင်းကျောက်စာ အရှေ့မျက်နှာတွင် မိဖုရား ဖွားစောသည် ကျောင်း၊ ဥယျာဉ်၊ နွား၊ ဆိတ်၊ ကျွန်ယောကျ်ား၊ ကျွန်မိန်းမ များကို လှူသော အလှူစာရင်းကို အမှုကွန်းတင်ထားကြောင်း ပြဆိုသည်။ ထို ကျောက်စာ စာကြောင်းရေ ၃၆-၃၇ တွင် . . .

> သက္ကရာဇ် ၆၃၃-ခု အာသိန်နှစ် တန်ခူးလဆန်းဆယ်ရက် သောကြာ နိယ်အား မြတ်စွာသော အသွိင်ဖွာဇင်၊ အလှူစာရင်း၊ ကွန်းပြောက်ကြီး ထွက်တဝ်မူသော မင်းကြီးပြုရယ်၊ အမှုကွန်းတင်၏ . . .

ဟူသည်ဖြင့် ပြဆိုသော အကြောင်းအရာများကို ထောက်၍ အလှူပြုသော သက်ရှိ သက်မဲ့ စာရင်းများကို ခိုင်ခန့်ထင်ရှားအောင် ရေးမှတ်ထားခြင်းကို အမှုကွန်း တင်သည်ဟုပင် ခေါ်ကြောင်း ထင်ရှားသည်။ အမှုကွန်းဟူသော စကားမှ ရွေ့လျော ပြောင်းလဲ၍ အဝခေတ်တွင် မော်ကွန်း ဝေါဟာရဖြစ်ပေါ်လာသည်ဟူ၍ ယူဆဖွယ် ဖြစ်သည်။ ဤကဲ့သို့ နှောင်အစဉ်အလာ တည်တံ့ခိုင်မြဲစွာ မှတ်သားနာယူနိုင်ကြစေရန် ရေးမှတ်ထားသော စာရင်းအင်းမျိုးကို စကားပြေဖြင့်သာ မဟုတ်ဘဲ ကဗျာလင်္ကာ ဖြင့်လည်း ဆင်တော်အကြောင်း၊ နန်းတော်အကြောင်း၊ လှေတော်အကြောင်း၊ စစ်ပွဲအကြောင်း၊ ကန်တော်အကြောင်း၊ ဘုရားစေတီအကြောင်း စသည်ကို နှောင် အစဉ်အလာ ဥဒါန်းတွင်ရစ်အောင် ရေးသားစီကုံးဖွဲ့နွဲ့ထားသည့် ကဗျာလင်္ကာများ ကိုလည်း မော်ကွန်းကဗျာဟူ၍ပင် ခေါ်ကြလေသည်။

## ပေလေးပင်၊ ရှင်လေးပါး

သက္ကရာဇ် ၈၀၀-ပြည့်နှစ် အဝဘုရင် မိုးညှင်းမင်းတရား လက်ထက်တော်၌ တောင်တွင်းကြီးမြို့တွင် ထူးကဲစွာ တဘောင်ပေါ်လာသည်ကား . . .

> ဘုရားရှစ်သောင်း၊ လေးထောင်ဆောင်း၍၊ ကိန်းအောင်းစံရန်၊ ဓမ္မ ခန်သည်၊ သံတောင်ဖြိုးမြင့်စွင့်လိမ့်လေး၊ အကိုက်လေးဖော်၊ မြေမှ ပေါ်သော်၊ ရှင်ကျော်လေးဦး၊ ခူးလိမ့်လေး၊ ခူးလည်းခူးလတ္တံ့၊ ကူးလည်း ကူးလတ္တံ့၊ မြူးလည်းမြူးလတ္တံ့။

ဟူ၏။ တောင်တွင်းကြီးမြို့၌ ပုဂ္ဂိုလ်မွန် ပုဂ္ဂိုလ်မြတ်တို့ ပေါ်ထွန်းသည့် အချိန်ဝယ် ပုဗ္ဗနိမိတ်အဖြစ်ဖြင့် ပေတောကြီး ငါးရှာဝယ် ဖွံ့ဖြိုးသော ပေစိုကြီးများ မြေမှ

ပေါ်ထွက်တတ်လေသည်။ ပေဟူသည်ကား စာပေနိမိတ်ဖြစ်သောကြောင့် ပေတစ်ပင် ပေါ်လျှင် စာပေကျမ်းဂန်တွင် အထူးသိမြင်နှံ့စပ်သော ကျမ်းတတ် ပုဂ္ဂိုလ်တစ်ယောက် ပေါ်ပေါက်မြဲတည်း။ ထိုသက္ကရာဇ် ၈၀၀–ပြည့်နှစ်၌ပင် တောင်တွင်းကြီးမြို့ မြောက်ဘက် မြို့လုလင်ရွာ၊ သတိုးထမ်းရွာ၊ မကျည်းယောင်ရွာများတွင် ပေစို့ကြီး လေးစို့ မြေမှ ပေါ်ထွက်လာရကား မြို့သူမြို့သားတို့မှာ လွန်စွာဝမ်းမြောက်ကြလျက် 'ပေလေးပင်၊ ရှင်လေးပါး' ပေါ်ဦးတော့မည်တကားဟူ၍ ဥက္ကောဋ္ဌေယျ ဖြစ်နေလေ သည်။ ထိုပုဗ္ဗနိမိတ် ပြသည့်အတိုင်း သက္ကရာဇ် ၈၁၅–ခုနှစ်တွင် ရှေ့နောက် ဖွားသန့်စင်ကြသော ပုဂ္ဂိုလ်များကား . . .

၁။ မြို့လုလင်ရွာ အဖ ဦးသောကြာ၊ အမိ ဒေါ်နှင်းဆီ၏ သား မောင်ဥက္ကာ၊ နောင်သော် ရှင်ဥတ္တမကျော်။

၂။ မြို့လုလင်ရွာ၊ အဖ ဦးကြည်၊ အမိ နတ်ထိန်းကြီးမယ်ဒွေး၏ သား မောင်ညို၊ နောင်သော် ရှင်မဟာသီလဝံသ။

၃။ သတိုးထမ်းရွာ (မိဘမည်ရည်မသိ) ရှင်အုံးညို။

၄။ မကျည်းယောင်ရွာ (မိဘမည်ရည်မသိ) ရှင်ခေမာတို့ပေတည်း။

## ရှင်ဥတ္တမကျော်

ပေလေးပင်၊ ရှင်လေးပါး သိုက်ဝင် ရှင်ဥတ္တမကျော်သည် ငယ်စဉ်ကပင် တောင်တွင်းကြီးမြို့ နတ်မီးလင်း ဆရာတော်ထံ၌ ရှင်မဟာသီလဝံသနှင့်အတူ ပညာသင်ကြားသည်။ ရှင်မဟာသီလဝံသ၊ ရှင်မဟာရဋ္ဌသာရတို့ကဲ့သို့ မြို့ကြီးရွာကြီး နန်းတော်ကြီးအတွင်း၌ သီတင်းသုံးတော်မူလိုသော ဆန္ဒမရှိ၊ ဩကာသလောကဟု ဆိုအပ်သော ရေမြေတောတောင် သစ်ပင်ပန်းမန်တို့၌သာ စိတ်ဝင်စား၍ တစ်ယောက် ထီးတည်း တရားလေ့ကျင့်ရန်ကိုသာ အလိုရှိသည်။ အဝဘုရင် ဒုတိယမင်းခေါင်၊ သားတော် ရွှေနန်းကြော့ရှင်တို့က ကျောင်းဆောက်လုပ် လှူဒါန်းပါသော်လည်း အလှူခံယူတော်မမူ။ မိမိ နှစ်သက်ပျော်မွေ့ရာ သဘာဝဓမ္မ လောကကြီးနှင့် အိုးစား မခွဲရှာနိုင်ပေ။ ထိုပုဂ္ဂိုလ်သည် သက္ကရာဇ် ၈၄၅–ခုနှစ်လောက်တွင် တောလား ကဗျာကို ဖွဲ့ဆိုခဲ့သည်။ ဤတောလားမှာ ယခု ထင်ရှားတွေ့ရသမျှ ၉–ပုဒ်သာ ရှိ၏။ ထိုထက် အပိုအလွန် ရှိသေးသည်ဟူ၍လည်း ဆိုကြသည်။ ဤကဗျာကြီးသည်

ဖြစ်ရေ သုံးပိုဒ်ထက် ပိုလွန်သော်လည်း အချို့ပညာရှိများက ရတုကဗျာဖြစ်သည်ဟု မှတ်ယူကြ၍၊ အချို့ကမူ လင်္ကာဟူ၍ မှတ်ယူကြ၏။ ထင်ရှားတွေ့ရှိရသမျှသော တောလားအဖွဲ့များတွင် ဥတ္တမကျော်၏ တောလားသည် ပထမတန်းစားကြီးဖြစ်သည်။

## တောလားဟူသော ဝေါဟာရ

တောလားဟူသည်မှာ တောတောင်၏ အခြေအနေ အလားအလာကို ဖော်ပြသော ကဗျာအဖွဲ့တည်း။ လယ်ယာမြေကွက်များကို သတ်မှတ်ကြရာ၌ အရှေ့အလား အနောက်အလား စသည်ဖြင့် သတ်မှတ်ပိုင်းခြားသကဲ့သို့ တောလားအဖွဲ့တွင်လည်း အရှေ့ဘက်အလားတွင် တောတောင်၏ တည်နေပုံ၊ အနောက်ဘက် အလားတွင် တောစပ်တောင်ကုန်း၏ တည်နေပုံ စသည်တို့ကို ထုတ်ဆိုညွှန်ပြသသည်။ ထိုကြောင့် တောလားဟူ၍ ခေါ်သည်။

**မှတ်ချက်။** ။အချို့က တောလားဟူသည် တောသို့ သွားရာလာရာသို့ တွေ့ကြုံရသော တောတောင်အခြေအနေ ဖော်ပြသော ကဗျာအဖွဲ့ဖြစ်ကြောင်း၊ လားဟူသည်မှာ သွားခြင်း လာခြင်း အနက်ရကြောင်းနှင့် ကြံဆကြ၏။ တောလားကို တောသို့ သွားခြင်း လာခြင်း အနက်ဟု ယူဆလျှင် တိမ်လားကို အဘယ်သို့ ယူဆတော့အံ့နည်း။ ရှေးအခါက တိမ်တိုက်အတွင်းသို့ လူများ မသွားမလာနိုင်ကြသေးပေ။ ထိုပြင် တစ်ရပ်လည်း ရှင်မဟာရဋ္ဌသာရ၏ တောလားကို 'ရွှေစက်တော်သွား တောလား' ဟူ၍ အမည်မှည့်သည်ကို ထောက်၍ ဤအရာမှာ သွားနှင့် လားသည် အနက်အဓိပ္ပာယ် မတူကွဲပြားကြောင်း။ အကယ်၍ တောလားမှာ တောသို့သွားခြင်း အဓိပ္ပာယ်ကိုယူလျှင် 'ရွှေစက်တော်သွား တောလား' ဟူသည်မှာ ရွှေစက်တော်သွား တောသွားခြင်း ဟူ၍ စကားထပ်နေပေလိမ့်မည်။ ထိုကြောင့် တောလားဟူသည် တော၏ အလားအလာကို ပြသော အဖွဲ့ဟူ၍ ယူဆအပ်သည်။

ရှင်ဥတ္တမကျော်၏ တောလားသည် တောလား မည်ကာ မဟုတ်။ မြတ်စွာဘုရားသည် ကပိလဝတ်ပြည်သို့ ကြွသွားတော်မူအံ့သော အချိန်၌ လမ်းခရီး၏သာယာခြင်း၊ ရာသီဥတု၏သာယာခြင်း အခြေအနေကို ဖွဲ့ဆိုသည်ဖြစ်သောကြောင့် နောက်နောင် ပေါ်ပေါက်လတ္တံ့သော ၁၂-ရာသီအဖွဲ့များ၏ မျိုးစေ့လည်း ဖြစ်ပေ၏။ ရှေ့ပြေးတမန်လည်း ဖြစ်ပေ၏။ ဤလင်္ကာကြီးတွင် ၁၂-ရာသီအဖွဲ့များကို ဘာစ်လလျှင် တစ်ပုဒ် စသည် ဝေပုံချ၍ အပိုင်းအခြားဖြင့် ဖွဲ့မထားခဲ့စေကာမူ

၁၂-ရာသီလုံးကို အချက်ကျကျ ကွက်ကွက်ကွင်းကွင်း ပေါ်အောင် စပ်ဆိုထားလေသည်။ ထိုမှုမက ရာသီအလိုက် ပွင့်ဖူးကြကုန်သော သစ်ပင်ပန်းမန်များအကြောင်းနှင့် နက္ခတ်တာရာတို့၏ တည်နေဟန်များကို ဖွဲ့ဆိုရာ၌ ဆေးရောင်စုံဖြင့် ခြယ်လှယ်ထားအပ်သော ပန်းချီကားကြီးများကဲ့သို့ ကြားရသူ၊ ဖတ်ရှုရသူတို့၏ မျက်စိထဲ၌ ထင်ရှာ စွာ ပေါ်ပေါက်လာပေသည်။ ဤတောလားသည် တရားတစ်ခုတည်းသာ သဘောသက်ဝင်သော စာမဟုတ်။ စက္ခုအာရုံ၊ သောတအာရုံဖြင့် ခံစားတွေ့ရှိရသော အကြောင်းအရာများကို ဖွဲ့နွဲ့ထားခြင်းကြောင့် ရှင်ဥတ္တမကျော်ကို စာပန်းချီဆရာကြီး ဟူ၍ အမည်ပေးထိုက်ပေသည်။ နွေဦးကာလ သစ်ရွက်ကလေးများ ရော်ရီ၍ သစ်ပင်ထက်မှ ကြွေကျပုံကို ရိုးရိုးသားသားမဖွဲ့ဘဲ ဆေးရောင်စုံနှင့်တူသော စာလုံးကလေးများဖြင့် . . .

> သဘင်ဂိမှာန်၊ တာသကြိန်ဟု၊ လေပြန်လွင့်ကူ၊ ဘုံသစ်ထူ၍၊ ဥဏှဂူနတ်၊ ဖန်ရဟတ်လည်း၊ သဟာသရောင်၊ ခြည်တစ်ထောင်ဖြင့်၊ ပြောင်ပြောင်ဝင်းထိန်၊ အာဏာနိမ်လျက်၊ ပြင်းရှိန်အန္တ၊ ကုန်စွမ်းပြသော်၊ လေခမြေသက်၊ ဈာန်ဝိတက်သို့၊ သစ်ရွက်ရော်ရီ၊ ဣန္ဒနီဝယ်၊ သီဂီတစ်ဝက်၊ ဖက်၍ဆေးစုံ၊ ခြယ်သောပုံသို့ . . .

ဟူ၍ စကား တန်ဆာဆင်ထားပုံတို့သည် လွန်စွာ ခမ်းနား ပြေပြစ်လှ၏။ ဤစာဆိုအရှင်သည် မိမိ၏တောလားတွင် တိမ်လာနှင့် ရေလားကို ပါဝင်အောင် ဖွဲ့ဆိုခဲ့ပေသေး၏။

> တိမ်ညိုမိုလ္လာ၊ တိမ်စူကာနှင့်၊ တိမ်ပြာရောယှက်၊ မရမ်းဖက်၍၊ တိမ်သက်တံရောင်၊ အဝါဘောင်ဝယ်၊ မှောင်ခဲ့တစ်ခါ၊ ပြာခဲ့တစ်ချို့၊ ညိုခဲ့တစ်လီ၊ ရီခဲ့တစ်ဖုံ၊ မှုံခဲ့တစ်ချက်၊ ယုဂန်ထက်က၊ လေးဘက်လုံးခြုံ၊ တိမ်ဂဠုန်လည်း၊ နဂါးရုံကြွေ၊ ရန်ချင်းတွေ့သော်၊ ခိုးငွေ့လွတ်ပြိုင်၊ ဂုဏ်ကျင်းဆိုင်ခဲ့ . . .

စသည်ဖြင့် မိုးတိမ်တို့၏ အခြေအနေ အလားအလာကို ခမ်းနားအောင် ဥပစာစကားများဖြင့် မွမ်းမံခြယ်လှယ်၍ လူတို့၏စိတ်ကို ဆွဲငင်ခဲ့ပြီးနောက် . . .

> မြူးကြပဓ္ဓုန်၊ ထောင်အားသုန်သည်၊ လွှမ်းခြုံသင်ဒိုင်း၊ တိမ်အလှိုင်းဖြင့်၊ တိုင်းအမွှန်ဆီ၊ မိုးမေဃီလျှင်၊ ဘေရီသံကျင်း၊ ဇမ္ဗူဟာခင်း၍၊

နတ်မင်းဝဠာ၊ ဒေဝရာမူ၊ ဇွေရာကြူးခေါက်၊ ရေရှူးမောက်၍၊ ထုံးပေါက်အင်းအိုင်၊ ဂနိုင်စိမ့်စမ်း၊ တင်းကျမ်းသုန်သုန်၊ ယမုန်ဂင်္ဂါ၊ ရွှေညီလာနင့်၊ သီတာသဘင်၊ ရှုအင်မခန်း၊ မကန်းလိပ်ငါး၊ ပျော်ပါးစံပ၊ ရွှေများတစ်သင်း၊ တွင်းရွှေဂုဟာ၊ လိုဏ်နန်းသာက၊ သက္ကဋ္ဌာမွန်၊ ရွှေပုစွန်လည်း၊ သွားသွန်ညှတ်ခ၊ သုံးလူ့ဘကို၊ ဖူးကြသောဟန်၊ ရေနန်းစံခဲ့...

ဤသည်ဖြင့် ရေ၏အခြေအနေ အလားအလာကို စိတ်မျက်စိထဲ၌ ကွင်းကွင်းကွက်ကွက် ပေါ်ပေါက်လာအောင် ဖွဲ့ဆိုနိုင်သည်မှာ ထိုစာဆိုအရှင်၏ အံ့ဖွယ်ရာကဗျာပါရမီထူးကြီးပင် ဖြစ်တော့သည်။ စာဆိုအရှင်၏တောလား လင်္ကာကြီးသည် ဖွဲ့နွဲ့ပုံ လွန်စွာခမ်းနားရကား နောက်ဆရာများသည် ရာသီဖွဲ့များကို စပ်ဆိုရာ၌ ဤတောလားမှ အတုယူနည်းနာခံ၍ စပ်ဆိုဖွဲ့နွဲ့ကြကုန်သည်။ ဤကဲ့သို့ ထူးကဲသော ကဗျာပါရမီ အခြေခံရှိသူ ပုဂ္ဂိုလ်သည် မြန်မာမှုတွင် စာကြီးပေကြီးများကို မပြုစုခဲ့သည်မှာ ဝမ်းနည်းဖွယ်ရာပင် ဖြစ်ပေ၏။ ပါဠိကျမ်းဂန်များကိုကား အနည်းငယ်ပြုစုစီရင်ခဲ့ဟန်တူ၏။ မြန်မာမှုတွင်ကား ဤတောလားတစ်ခုကိုသာ အထင်အရှားတွေ့ရ၏။

## ရှင်မဟာသီလဝံသ

'ပေလေးပင်၊ ရှင်လေးပါး' သိုက်ဝင် ရှင်မဟာသီလဝံသသည် တောင်တွင်းကြီးမြို့ ငှက်ပစ်တောင် နတ်မီးလင်းဆရာတော်ထံတွင် ငယ်စဉ်က ပညာကို ဆည်းပူး၍ ကျမ်းဂန်တွင် များစွာနှံ့စပ်သည်။ သက္ကရာဇ် ၈၅၃–ခုနှစ်တွင် ပါရမီတော်ခန်းပျို့ကို ရေးသားစီရင်ပြီးသည်။ တောင်တွင်းကြီးမြို့တွင် ကျမ်းတတ်ပုဂ္ဂိုလ်နည်းပါးလှသဖြင့် ပညာကို ဆည်းပူးစုဆောင်း၍ အားမရနိုင်သော စာဆိုအရှင်သည် ကျမ်းတတ်ပုဂ္ဂိုလ်များရှိရာ အဝနေပြည်တော်သို့ လာရောက်လိုသော ဆန္ဒရှိသဖြင့် ဆရာတော်အား အဝသို့သွားရန် အခွင့်လွှတ်ပါမည့်အကြောင်းကို တောင်းပန်လေသည်။ ဆရာတော်ကလည်း လမ်းခရီးက ကြမ်းသည်တစ်ကြောင်း၊ ညာလက်ရုံးကဲ့သို့ အားကိုးရသော တပည့်ကြီးတစ်ယောက် ထွက်ခွာသွားခဲ့လျှင် တောင်တွင်းကြီးမြို့တွင် အားလျော့ဖွယ် ဖြစ်နေတော့မည်တစ်ကြောင်း များကို တွေးတောစိုးရိမ်မိ၍ အဝသို့

မသွားရောက်ရန် အတန်တန်တား၍ ထားသော်လည်း မရသောကြောင့် နောက်ဆုံးတွင် အခွင့်ပြုလိုက်ရလေသည်။

**မှတ်ချက်။** ။အချို့ဆရာများကား ရှင်မဟာသီလဝံသအား ရဟန်းတန်မဲ့နှင့် ကဗျာဖွဲ့သည်ကို အပြစ်ဆိုပြီးလျှင် နတ်မီးလင်းဆရာတော်က ကျောင်းမှနှင်ချလိုက်သည်ဟု ဆိုကြ၏။ ထိုအဆိုသည် မခိုင်လုံချေ။ အဘယ်ကြောင့်ဆိုသော် ရှင်မဟာသီလဝံသ ရေးသော တောင်တွင်းလာပျို့တွင်...

ဘ–နှင့် က–ကို၊ အကြောင်းဆိုအံ့၊ ပ–ကိုအခြား၊ ရှေးကားသာစံ၊
အ–နှင့်ခံ၍၊ တတန်ထူးလည်၊ တတည်က–နှင့်၊ အာ–နှင့်လည်းကောင်း၊
အကြောင်းတ–နှင့်၊ သံဆင့်ဆိုရာ၊ တောင်ပန်ထွာလည်း၊ ဆရာသံနိတ်၊
တိတ်တိတ်နေထွေ၊ အခြေမရ၊ သ–နှင့်အတုံ၊ အကြောင်းစုံသော်၊
နေရုံမကြာ၊ သွားပါတော့အံ့၊ တောင်းပန်ဆန့်သော်၊ သွားအံ့တော့မည်၊
မောင်ရှည်သည်ကား၊ အကြည်မသွား၊ စည်းတန်းသားသို့၊ အခြားမရှုတ်၊ သမုဒ္ဒရာ၊ ဂင်္ဂါမြစ်တွင်၊ ခုတ်ပါကျင်လည်း၊ ရေတွင်အရာ၊
မထင်ပါသို့၊ ပမာထို့ထက်၊ ဆယ်ဆခက်၏

အစရှိသည်ဖြင့် အဝမြို့သို့သွားရန် ရှင်သီလဝံသက တောင်းပန်သောအခါ ဆရာတော်က တားမြစ်တော်မူသေးကြောင်း ရေးသားထားသည်ကို တွေ့ရှိရသည်။

ပါရမီတော်ခန်းပျို့ကို မည်သည့်ခုနှစ်တွင် စ၍ ရေးသည်ကိုကား အတိအကျမသိရပေ။ ကျမ်းပြီး နိဂုံးတွင် သက္ကရာဇ် ၈၅၃–ခုနှစ်၌ ပါရမီတော်ခန်းပျို့ကို ရေးသားစီရင်ပြီးကြောင်း ပြဆိုသည်။ ပါရမီတော်ခန်းပျို့၌ လာရှိသည့် အကြောင်းအရာကား ဂေါတမမြတ်စွာဘုရားသခင်သည် သုမေဓာရသေ့ဘဝနှင့် ဒီပင်္ကရာမြတ်စွာဘုရားထံမှ ဘုရားဖြစ်မည့် ဗျာဒိတ်တော်ကို ခံယူတော်မူ၍ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း ဖြည့်ဆည်းပူးတော်မူရမည့် ပါရမီတော် အကြောင်းအရာများကို ဗုဒ္ဓဝင်ပါဠိတော်မှ ထုတ်နုတ်ကာ စကားအလင်္ကာတန်ဆာဆင်၍ ဖွဲ့ဆိုစီကုံးထားသော အကြောင်းအရာဖြစ်သည်။ ဤသို့ ပါရမီတော်များကို ခွဲခြားဝေဖန်၍ ပြရာ၌ အခန်းကြီး ၁၀–ခန်းထား၍ ပါရမီတော်တစ်ပါးလျှင် တစ်ခန်းကျ ဝေဖန်ပြီးလျှင် စီရင် ရေးသားထားသည်။ ပါရမီတော်ခန်း ပျို့သည် လွန်စွာ နက်နဲလှသည့်ပြင် ကဗျာဗန္ဓဖွဲ့ဆိုပုံ၌လည်း စကား အပိုအလို မရှိ။ စေ့စပ်သိပ်သည်းလှသောကြောင့်

**'ပါရမီ-မသိနှင့်'** ဟူ၍ ရှေးရှေး ပညာရှိကြီးများက ဆိုထုံးပြုကြသည်။ အဓိပ္ပာယ်ကား ပါရမီတော်ခန်းပျို့သည် စကား စေ့စပ် သိပ်သည်းပြေပြစ်၍ အဓိပ္ပာယ်လေးနက် ခက်ခဲလှသောကြောင့် ဤပျို့ထက် သာလွန်ကောင်းမွန်အောင် နောက်ဆရာတို့ ရေးနိုင်မည်ဝေးစွ၊ ဤပျို့၏ အဆင့်အတန်းကိုမီအောင် ရေးနိုင်ကြမည်မဟုတ်။ ထို့ကြောင့် တုပယှဉ်ပြိုင်ရန် ပါရမီတော်ခန်းပျို့အနားသို့ မကပ်မသိကြလေနှင့်ဟူ၍ ဆိုလိုသတည်း။ ရှင်သီလဝံသသည် ကဗျာကို ကောင်းစွာနိုင်နင်းသော စာဆိုဖြစ်သည်။ တရားအဆီအနှစ်များနှင့် ပြည့်ဝသော ဤပျို့သည် စုလစ်မွန်းခေါင်တို့ဖြင့် တန်ဆာဆင်ထားသော နန်းတော်အဆောက်အအုံတို့နှင့် တူသည်။ စာဆိုအရှင်သည် ပါဠိ အဋ္ဌကထာတို့၌ လွန်စွာ ကျွမ်းကျင်သည့် အားလျော်စွာ မိမိ ကျွမ်းကျင်သော အတတ်ဖြင့် ကဗျာအဆောက်အအုံကြီးကို အလင်္ကာ တန်ဆာဆင်ယင် ဖွဲ့ဆိုတတ်သောကြောင့် **'သဒ္ဒါမှာ ရှင်မဟာကစ္စည်း၊ ကဗျာမှာ ရှင်မဟာသီလဝံသတည်း'** ဟူ၍ ရှေးပညာရှိများ ဆိုထုံးပြုကြလေသည်။ ဤသို့ ကဗျာအဆောက်အအုံကြီးကို မွမ်းမံခြယ်လှယ်ရာ၌ လောက ဓမ္မ ရာဇကြောင်း သုံးခုတွင် ဓမ္မကြောင်းဘက်သို့ အားသန်သည်။ ထို့ကြောင့်သာလျှင် ဓမ္မကြောင်းဘက်က ပိုမိုပြည့်ဝသည်။ ပါရမီတော် ကျမ်းကြီးသည် ကဗျာဘဏ်တိုက်ကြီးနှင့်လည်း တူသည်။ ဤကဗျာကျမ်းကို စေ့စပ်သေချာစွာ နားလည်ထားရှိသူသည် အခြားကျမ်းငယ်များကို နားလည်နိုင်ဖို့ရန် မခဲယဉ်းတော့ပေ။ စာဆိုအရှင်မှာ မိမိ ဖွဲ့ဆိုလိုသော အကြောင်းအရာတစ်ခုခုကို ပိုမိုလေးနက်အောင် ဥပမာ, ဥပစာတို့ဖြင့် ခိုင်းနှိုင်းတင်စား၍ ဖွဲ့တတ်သော အလေ့ရှိ၏။ ပုံစံပြရမည်ဆိုသော် မြတ်စွာဘုရားသခင်သည် တပည့်သား အပေါင်းတို့အား ခေါ်သည့် အာလုပ်စကား၌...

> နိက္ခမဟု၊ ကိစ္စလွယ်ရှောင်း၊ အင်းကောင်းမန္တန်၊ မန်းမှုတ်ပွန်သား၊ အနန္တဉာဉ်၊ ငါနှင့်ယှဉ်၍၊ စိမ်းချဉ်မိုက် မျက်၊ ဥပါခက်ဟု၊ ရမ္မက် မကြွင်း၊ ဆယ့်နှစ်သင်းသား၊ အပြင်းဖမ်းကြျူး၊ တောဘီလူးကို၊ တပ်ဦး ငါ့တွင်၊ ကြည်မှူးသင်မှ၊ ဖြိုနှင်စဉ်းဖြတ်၊ မဂ်နှင့်သတ်ပြီး၊ ဥပဒ် သိမ်ဖျင်း၊ မှောင့်ရှောင့်ကင်းမှ၊ ကိုယ်တွင်းအရေး၊ ငြိမ်းဆေး ဖြေနိုင်၊ ဂုဏ်နှံ့လှိုင်သည်၊ ဆွယ်ပြိုင်နှိုင်းရှား၊ ထေရ်မြတ်များတို့...

စသည်ဖြင့် ရမ္မက်နှင့်တကွ မကြွင်းမကျန် ဆယ့်နှစ်တန်သော အကုသိုလ်စိတ်တည်း ဟူသော ဘီလူးကြီးဆယ့်နှစ်ယောက်ကို မဂ်တည်းဟူသော လက်နက်ဖြင့် တိုက်ဖျက်

အောင်မြင်ပုံကို ဥပမာ တင်စား၍ စကားအလင်္ကာဆင်ထားပုံသည် များစွာ လေးနက် ခမ်းနားလှပေသည်။

ထို့ပြင်တဝ သီလစောင့်ထိန်းရာ၌လည်း စာမရီသားကောင်သည် မြီးဆံ တစ်မျှင် အကျွတ်မခံသကဲ့သို့ သီလကို ဆောက်တည်ရာ၌လည်း မည်သူမည်သို့ ဖျက်စေကာမူ သီလတရားကို မပျက်ပြားရအောင် စောင့်ထိန်းသင့်ကြောင်းများကို ပြဆိုလိုသောကြောင့် . . .

ပမာသွေးသီ၊ စာမရီဟု၊ နောက်ချီပွပွ၊ မြီးဆံလှလျက်၊ တောမထိပ်ခေါင်၊ သရေဆောင်သည်၊ ရွှေရောင်ဖြိုးဖြိုး၊ သားအမျိုးကား၊ ကျင့်ရိုးအစဉ်၊ ချင်းတို့ဉာဉ်ဖြင့်၊ ရောင်ကြည်လျက်ပင်၊ မြီးဆံခင်၏၊ အကြင်သရော်၊ မသွားတော်၍၊ ထော်လော်ကန့်လန့်၊ ချုံနွယ်ညွန့်၌၊ အတွန့်ရောက် ရောက်၊ ငြိလေမြောက်အံ့၊ မျှလောက်မွေးသက်၊ တမျှင်ရှက်ကို၊ စုံမက်ချစ်စိုး၊ နှမြောနိုး၍၊ သားမျိုးတိရစ္ဆာန်၊ အားကုန်သွန်လျက်၊ လည်လန်မူးမော်၊ ရန်းချေသော်လည်း၊ ထိုရော်မြီးဖျား၊ ပြတ်ခန့်ညား၍၊ မသွားတဆွေ့၊ ထိုရွှေ့ဝပ်တန့်၊ အသက်စွန့်လျက် . . .

စသည် စာဆိုတော်မူပြီးလျှင် မြီးဆံနှင့်တူသော သီလကို စာမရီသားကောင်နှင့် တူသော သူတော်ကောင်းတို့သည် စောင့်ထိန်းကြကုန်ရာသည်ဟူ၍ ဩဝါဒပေးတော် မူသည်။

အဝရွှေမြို့တော်သို့ ရောက်ကာစ အဝဘုရင်မင်းခေါင်ထံသို့ မေတ္တာစာများ ရေးသားဆက်သွင်းသည်တွင် ဘုရင်မင်းခေါင်သည် စေတနာထက်သန် ကြည်ညို တော်မူလှသဖြင့် ရှင်မဟာသီလဝံသအား ရတနာဗိမာန်ကျောင်းကို ဆောက်လုပ် လှူဒါန်းတော်မူ၏။ နေပြည်တော် ဆရာ ရှင်မဟာရဋ္ဌသာရကဲ့သို့ပင် မြှောက်စား လေသည်။ ထိုအခါက ရွှေနန်းတော်တွင်းဝယ် ပါရမီတော်ခန်းပျို့နှင့် ရှင်မဟာရဋ္ဌသာရ ပုဂ္ဂိုလ် စီရင်အပ်သော ဘူရိဒတ်လင်္ကာကြီး၊ ဘူရိဒတ် ဇာတ်ပေါင်းပျို့များကို ပြိုင်ယှဉ်ကြားနာ၍ စာပွဲသဘင်ကြီး ကျင်းပတော်မူလေသည်။ ထိုသို့ စာပွဲသဘင်ကြီး ကျင်းပ၍ အဆုံးတွင် ဒုတိယမင်းခေါင်က နေပြည်တော်ဆရာ ရှင်မဟာရဋ္ဌသာရအား ပါရမီတော်ခန်း ကဗျာ ကောင်းလှကြောင်းနှင့် လျှောက်ထားရာတွင် ရှင်မဟာရဋ္ဌသာရ က **'ပါရမီတော်ကို မည်သို့ပင် ဖြည့်ဆည်းဖူးသော်လည်း ဆုတောင်းဦးမှ ဘုရား ဖြစ်နိုင်သည် တကာတော်မင်းမြတ်'** ဟူ၍ မိန့်မြွက်တော်မူသွားသည်ကို

ရှင်မဟာသီလဝံသ ပုဂ္ဂိုလ် ကြားသိရကား မိမိနေထိုင်ရာ ကျောင်းတော်သို့ ပြန်ကြွတော်မူပြီးလျှင် **'ဆုတောင်းခန်းပျို့'** ကို သုံးရက်နှင့်အပြီး ရေးသားတော်မူသလသည်။

## ဆုတောင်းခန်း ပျို့မှာ

ဂေါတမ မြတ်စွာဘုရားသခင်သည် ဤကမ္ဘာမှ ပြန်၍ ရေသော် လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းထက်တွင် ဒီပင်္ကရာဘုရားလက်ထက် သုမေဓာပုဏ္ဏားဘဝနှင့် နစဉ်အခါက ကုဋေအရာမက များပြားလှစွာသော ဥစ္စာပစ္စည်း အခြွေအရံတို့ကို စွန့်ပစ်တောထွက်၍ ရသေ့ ရဟန်း ပြုတော်မူပြီးလျှင် ဒီပင်္ကရာဘုရား ပွင့်တော်မူ၍ ရမ္မဝတီပြည်သို့ ကြွလာတော်မူသောကာလ လမ်းခရီးတွင် တာခန်းပြု၍ ပူဇော်အံ့သောငှာ ကြိုးစားပါသော်လည်း တာခန်းမပြီးလေရကား မိမိကိုယ်ကို တံတားခင်း၍ ဘုရားဆုကို တောင်းတော်မူသော အကြောင်းအရာများကို ဗုဒ္ဓဝင်ပါဠိတော်မှ ထုတ်နုတ်၍ မြန်မာကဗျာဖြင့် တန်ဆာဆင်ကာ ရေးသားထားလေသည်။ ဤပျို့တွင် လေးနက်ခမ်းနားသော စကားအသုံးအနှုန်းများကို ပါရမီတော်ခန်းပျို့တွင် တွေ့ရှိရသကဲ့သို့ပင် တွေ့ရှိရပြန်သည်။ ဗုဒ္ဓဝင်ပါဠိတော်ကြီးတွင် လာရှိသော လွန်စွာအဓိပ္ပာယ် နယ်ကျဉ်းသည့် ပါဠိတော်စကားလုံးများကို အကျယ်ချဲ့၍ ခက်ခဲနက်နဲအောင် ဖွဲ့ဆိုနိုင်သော စာဆိုအရှင်ကို ချီးမွမ်းသင့်တော့သည်။ ထို့ပြင် . . .

> ဓမ္မာဓိဋ္ဌာန်ရွှေ၊ ဗုဒ္ဓဟောအောက်၊ ဆန်းကြယ်ပေါက်သား၊ ရောင်တောက် ပလ္လင်၊ သမိုက်ပြင်ထက်၊ အောင်မြင်ခါလင့်၊ သစ္စာပွင့်က၊ မြင့်အံ့သသူ၊ သုံးပါးလူဝယ်၊ မပြုလျှင်းပဲ၊ လွန်ကြူးကဲလျက်၊ အံ့အဲစလောက်၊ မိုးဆုံးချောက်မျှ၊ ချီးမြှောက်ကျူးသံ၊ ဘုန်းခေါင်လျှံသား၊ ဓမ္မသာမိ၊ မုနိပုင်္ဂဝ၊ သုံးလူ့ဘကား၊ မဆွစွာစွာ၊ ဝါဆိုခါ၌၊ ဗာရာဏသီ၊ ပြည်ကိုမှီ၍၊ ဝဂ္ဂီငါးယောက်၊ ရှင်တို့မှောက်ဝယ်၊ ကြားချောက် ဘဝင်၊ ဓမ္မစက်ကို၊ သံမြွက်ဝှဲချီး၊ ဟောပေပြီးမူ၊ ချေချွတ်ပြုမှ၊ ဥရုဝေလ၊ ကဿပကာ၊ စသည့်ညီနောင်၊ ရှင်တစ်ထောင်ကို၊ တိမ်တောင်မိစ္ဆာ၊ ဒိဋ္ဌိခွာ၍၊ အရာနောက်တော်၊ ပါအောင်ခေါ်ပြီး၊ ပြည်ကျော်နဂိုရ်၊ ရာဇဂြိုဟ်တွင်၊ ရောက်တုံကျင်မှ . . .

စပယ်ဦးစာပေ

စသည်ဖြင့် လွန်စွာကျယ်ဝန်းလှသော ဂေါတမဗုဒ္ဓဝင် အကြောင်းအရာတွေကို တစ်ပုဒ်တည်းနှင့် အကျဉ်းရုံး၍ ဖွဲ့ဆိုနိုင်သည် ဖြစ်ရကား စာဆိုအရှင်၏ အဖွဲ့အနွဲ့များသည် ဩဇာဂုဏ်နှင့် ပြည့်စုံလှပေ၏။ အနှစ်မရှိ အကာတိဖြင့် ဖုံးလွှမ်းနေသော လောကီစည်းစိမ်ကြီးကို တပ်မက်မောနေမိသော သုမေဓာသည် ပညာဖြင့် တွေးဆဆင်ခြင်မိမှ လောကီစည်းစိမ်ကြီးကို စက်ဆုပ်ရွံရှာကြောင်း ပြဆိုရာ၌...

> ဆယ်လံ အစောက်၊ ရေထဲအောက်သို့၊ ထုတ်ချောက်စုပ်စုပ်၊ စုံးစုံးငုပ်၍၊ စမ်းခုပ်သရော်၊ သူပေါ်စိမ်းစား၊ တံငါသားလျှင်၊ လည်ကျားသုံးရစ်၊ မည်းချစ်ရင်ပြောက်၊ ရေမြွေဟောက်ကို၊ ဝန့်ကြောက်မရှိ၊ ငါးဟုမိ၍၊ လည်စိကိုင်ဆုပ်၊ ဝမ်းသာရုပ်ဖြင့်၊ သူနုပ်ကျွန်လျော်၊ ကြည့်လျက် ပေါ်သော်၊ မြော်ကတုံးတုံး၊ အလူဆုံးဟု၊ နှလုံးမဆုံ၊ ရင်တီးအုံသို့၊ သိန့်ပညာ၊ ထိုရော်ငါလည်း၊ ပမာဤတူ၊ စည်းစိမ်ထူ၍၊ ရှိမ်းပူမထိ၊ ချမ်းသာရှိလျက်၊ သတိမြင်ကျယ်၊ သူတော်နွယ်ကို၊ ယိုးမယ်မဲ့လျှင်း၊ အချင်းစစ်ဖွေ၊ ကြံတုံချေက၊ မွေးရေခပင်း၊ နှလုံးတွင်း၌၊ သားညှင်းအသွင်၊ မီးဝယ်ကင်သို့၊ ပိတ်ပင်မပြန့်၊ ရှုံ့ရှုံ့တွန့်လျက်၊ ကြောက်လန့်ထိတ်စွာ၊ ဘော်သုံးရွာတွင်၊ ဝါဝါလည်းလော်၊ လူတို့ဘောင်ကား။ ။ပြောင်ပြောင် ငါ့အား ညီသတည်း။

စသည်ဖြင့် တံငါသည်နှင့် မိမိကိုယ်၊ ရေမြွေဟောက်နှင့် လောကီစည်းစိမ်တို့ကို ပုံခိုင်း၍ သုမေဓာပုဏ္ဏား စဉ်းစားကြံစည်ဟန်ကို ပြဆိုရာ၌ လွန်စွာစကားအသုံးအနှုန်း နိုင်နင်း၍ အဓိပ္ပာယ် ကွက်ကွက်ကွင်းကွင်းပေါ်အောင် စပ်ဆိုနိုင်သည်သာမက လောကီစည်းစိမ်တို့တွင် ခင်မင်တွယ်တာနေသော လောကရမ္မက်ကြီးများကို နှိမ်ချိုးရန် တစ်ဘက်တစ်လမ်းအားဖြင့်လည်း အကြံဉာဏ်ပေးသေးသည်။ စာဆိုအရှင်သည် ဤစပ်ဆုပ်ရွံရှာဖွယ်ကောင်းသော လူ့ဘဝကြီးကို များစွာအပြစ်ပြ၍ ဖွဲ့နွဲ့စပ်ဆိုသည်။ ဓမ္မကြောင်း၌ ကောင်းစွာနိုင်နင်းသည့် ပုဂ္ဂိုလ်ဖြစ်ရကား ဤစက်ဆုပ်ဖွယ်ရာ လောကကြီးကို ဖော်ပြရာ၌ လွန်စွာပေါ်လွင်ပေသည်။ ရှင်သီလဝံသပင် စပ်ဆိုအပ်သော **'သံဝေဂခန်းပျို့'** တွင်လည်း...

> ဇာတိဖျင်းသိမ်၊ သုံးစည်းစိမ်ကို၊ တင်းတိမ်မွေ့လျော်၊ အလွန်ပျော်သည်၊ သူတော်သူကောင်း၊ ကျင့်ရိုးဟောင်းတွင်၊ လမ်းကြောင်းကျယ်စွာ၊ ရှိလျက်သာကို၊ မနာမလိုက်၊ ဒုစရိုက်နှင့်၊ လေ၌မီးဆိုး၊ ပမာမျိုးသို့၊

အကျိုးမရှိ၊ လောကီချမ်းသာ၊ ဥစ္စာခင်မင်၊ ပျော်ရွှင်သောက်စား၊ မှားကြီးမှားလျက်၊ တရားလက်လွတ်၊ ငှက်တောင်ကျွတ်လျှင်၊ ကြက်ခွပ်လှိုင်းမ၊ ရေဝဲကျသို့၊ ဒါနမပြု၊ ကောင်းမှုမရ၊ သီလမရှာ၊ သည်နယ်သာလျှင်၊ ဘာဝနာသီတင်း၊ ကင်းကြီးကင်း၍၊ စိုးမင်းနှင့်ပြည်၊ အတည်တည်မှာ၊ လည်သံသာစက်၊ အကူးခက်၍၊ မထွက်နိုင်ရာ...

အစရှိသည်ဖြင့် လူ့စည်းစိမ်၊ နတ်စည်းစိမ်၊ ဗြဟ္မာ့စည်းစိမ်များတွင် ဆန်စုန်ပျော်ပါး နေကြကုန်သော သုံးဘုံသားတို့အား တရားမရနိုင်ပါတကားဟူ၍ သတိပေးပေသည်။ ရှင်သီလဝံသသည် လူအများ အသိခက်ခဲသော ပျို့တစ်စောင်ကိုလည်း ဉာဏ်ကစားရန် ရည်ရွယ်၍ ရေးသားခဲ့ဟန် တူသည်။ ထိုပျို့မှာ **'တောင်တွင်းလာပျို့'** ဟူ၍ ကျော်ကြားသည်။ အဝနေပြည်တော်ရောက်မှ စပ်ဆိုသော ပျို့ဖြစ်သည်။ တောင်တွင်းကြီးမြို့မှ အဝနေပြည်တော်သို့ ထွက်လာရခြင်း အကြောင်းများကို ရေးသားထားသဖြင့် **'တောင်တွင်းလာပျို့'** ဟူ၍ အမည်တွင်သည်။ ဤပျို့၌ စာဆိုအရှင်သည် မိမိတွေ့ကြုံရသော အဖြစ်အပျက်များကို လျှို့ဝှက်သိုသိပ်၍ ထားသော ပဟေဠိစကားများဖြင့် တန်ဆာဆင်ထားသည်ဖြစ်ရကား ရှေးပုဂ္ဂိုလ်ပညာကျော်ကြီးတို့ပင် ဆိုလိုရင်းအဓိပ္ပာယ်ကို ကျနစွာ မပြန်ဆိုနိုင်သဖြင့် ဤပျို့သည် ကတ္တီပါ စသည်ဖြင့် ဖုံးအုပ်၍ထားသော ရှင်သီလဝံသ၏ ရုပ်ပုံဓာတ်ကားနှင့် တူ၏။ ကတ္တီပါ စသည်ကို ဖွင့်လှစ်နိုင်သူသည် ရှင်မဟာသီလဝံသ၏ ရုပ်ပုံကားကို တွေ့နိုင်သကဲ့သို့ ထိုတောင်တွင်းလာပျို့ စကားလုံးတို့ကို အနက်ပေါ်အောင် ဖွင့်လှစ်နိုင်သူသည် ရှင်မဟာသီလဝံသ၏ အကြောင်းကို သနစ်ကုန် သိနိုင်မည်ဖြစ်၏။ ထိုပျို့၏အနက်ကို ၁၀၉၇–ခုနှစ်တွင် ဆားလင်းဆရာတော်က ဖွင့်လှစ်ပြဆိုခဲ့၏။ သို့သော် များစွာ မရှင်းလင်းလှပေ။ ထိုပျို့မှာ ရှင်သီလဝံသမထေရ်သည် နတ်မီးလင်း ဆရာတော်ထံမှ အဝသို့သွားရန် အခွင့်ပေးပါမည့် အကြောင်းနှင့် အခွင့်တောင်းရာ အခွင့်ရသည်ဖြစ်၍ နောက်ဆုံးတွင် အဝသို့ ကြွလာတော်မူကြောင်းကို ဖွဲ့ဆိုထားသည်။ ဤပျို့များအပြင် ဗုဒ္ဓုပ္ပတ္တိပျို့နှင့် ဓမ္မပါလပျို့တို့ကိုလည်း ရေးသားတော်မူခဲ့၏။ သက္ကရာဇ် ၈၈၀–ပြည့်နှစ် ဓမ္မပါလပျို့ကို ရေးဆဲ မပြီးမီ သက်တော် ၆၅–နှစ်တွင် ပျံလွန်တော်မူသည်။ တပည့်ဖြစ်သော ပုဂံဆရာတော်က ဆက်လက်ရေးသား၍ သက္ကရာဇ် ၉၁၁–ခုနှစ်တွင် ထိုပျို့ပြီးဆုံးသည်။

## ပျို့ဟူသော ဝေါဟာရ

ပျို့သည် လေးလုံးစပ် လင်္ကာတစ်မျိုးပင် ဖြစ်၏။ သို့သော် ရတုမော်ကွန်းချင်းများနှင့်မတူ။ ရတုကဲ့သို့ ကေပိုဒ် အဖြည့်ခံ ပိုဒ်စုံစသည်ဖြင့် အပိုဒ်အရေအတွက် စည်းကမ်းမရှိ၊ စပ်ဆိုဖွဲ့နွဲ့နိုင်သလောက် ဖွဲ့နွဲ့ရလေသည်။ သို့သော် ပျို့သည် မော်ကွန်းကဗျာများကဲ့သို့ စာရေးဆရာလက်ထက် ပေါ်ပေါက်တွေ့ရှိရသမျှ အကြောင်းအရာများကို စပ်ဆိုဖွဲ့နွဲ့ခြင်း မဟုတ်၊ ဘုရားဟော ကျမ်းဂန်လာ ဗုဒ္ဓဝင် ဇာတ်တော် နိပါတ်တော်ကြီးများမှ ကောင်းနိုးရာ ဝတ္ထုကြောင်းတို့ကို ထုတ်နုတ်၍ မြန်မာကဗျာလင်္ကာဖြင့် တန်ဆာဆင်၍ ရေးခြင်းပင်တည်း။ ပျို့သည် အဝနန်းတွင်းသူနန်းတွင်းသားတို့ စတင်ခေါ်ဝေါ် သုံးစွဲလိုက်သော စကားဖြစ်ဟန် တူသည်။ ရှင်မဟာသီလဝံသ၏ ပါရမီတော်ခန်းပျို့သည်ပင်လျှင် တောင်တွင်းကြီးမှ အဝနေပြည်တော်သို့ ယူဆောင်လာစဉ်က ပျို့ဟူ၍ မတွင်သေးဘဲ လင်္ကာဟူ၍ တွင်၏။ အဝနန်းတော်ရောက်မှ ပျို့ဟူ၍ တွင်သည်ဟု ယူဆကြကုန်သည်။ ပျို့-ဟူသည်မှာ ပို့-ဟူသော စကားမှ ဆင်းသက်ပျက်ပြားလာ၍ ပြည့်လျှမ်းခြင်း, နှစ်သက်ခြင်း, အရောင်တောက်ပခြင်း အနက်များ ရမည်ထင်၏။ တရားအဆီအနှစ်များနှင့် ပြည့်လျှမ်း၍နေသော ကဗျာသည် ပို့-မည်၏။ ဥပမာ-တောင်ပို့ဟူရာ၌ မြေကြီးများ ပြည့်လျှမ်း မို့မောက်၍ နေခြင်းကြောင့် တောင်ပို့ဟူ၍ ခေါ်သကဲ့သို့ပင်တည်း။ ပို့-ကို အသံပျော့စေရန် ယပင့်လိုက်ခြင်းကြောင့် ပို့-မှ ပျို့-ဟူ၍ ပြောင်းလဲလာသည်။ ပုဂံခေတ် ရှေးဟောင်းကျောက်စာများတွင် ဤနည်းနှင်နှင် တွေ့ရသည်။ စာချိကို စာခီဟူ၍လည်းကောင်း၊ စပါးကျိကို စပါးကီဟူ၍လည်းကောင်း၊ ချီးပင့်ကို ခီးပင့်ဟူ၍လည်းကောင်း ရေးသားသည်ကို ထောက်၍ ပို့-မှ ပျို့-ဟူ၍ မဖြစ်လာနိုင်စရာ အကြောင်းမရှိ၊ သဒ္ဒါ-လင်္ကာရ၊ အတ္ထာလင်္ကာရတို့နှင့်ပြည့်စုံအောင် ဖွဲ့နွဲ့ထား၍ နှစ်သက်ဖွယ် ကောင်းသောကြောင့်လည်း ပျို့-မည်၏။ ပီဏာသဒ္ဒါမှ ပျို့-ဖြစ်လာသည် စသည်ဖြင့်လည်း ကြံစည်ကြကုန်၏။ ပျို့-သည် တရားသဘောနွယ်သော လင်္ကာဖြစ်၏။ ပုဂံပြည်၌ နော်ရထာမင်းစောသည် သထုံပြည် မနူဟာမင်းကို တိုက်ခိုက်အောင်မြင်၍ ပိဋကတ် သုံးပုံအစုံ ၃၀-တို့ကို ပုဂံပြည်သို့ ယူဆောင်လာသည်မှ အစပြု၍ ဗုဒ္ဓသာသနာတော်ကြီးသည် ထွန်းတောက်လာခဲ့၏။ သာသနာတော်ကြီး ထွန်းလင်းစအခါ၌ ရဟန်းရှင်လူအပေါင်းတို့ကလည်း ပါဠိဘာသာဖြင့် ရှိသော ဘုရားဟောဒေသနာ ကျမ်းဂန်အမျိုးမျိုးတို့ကို နှုတ်တက်အာဂုံ

ဆောင်ကြကုန်၏။ ဘုရားစေတီများသို့လည်း ပိဋကတ်တော်များလှူကြောင်းကို ကျောက်စာများတွင် ရေးသား ထုထွင်းထားကြကုန်၏။ ပုဂံခေတ် ဘုရား၊ ဂူ၊ ကျောင်းများတွင်လည်း ၅၅၀-ဇာတ်တော်များ စဉ့်ကွင်းများ ပြုလုပ်ကိုးကွယ်ကြသေး၏။ ဤသည်များကိုထောက်သော် မြန်မာလူမျိုးများသည် ပုဂံခေတ်ကပင် ပါဠိကျမ်းဂန်များကို အရေးတယူ လိုက်စားကြကြောင်း သိရပေ၏။ မြန်မာစာပေ၏ အမှီသဟဲသည် ဤပါဠိကျမ်းဂန်ပိဋကတ်များပင် ဖြစ်ရကား ကျမ်းဂန် ပိဋကတ်များ ထွန်းကားလာသည်နှင့် တစ်ပြိုင်နက် မြန်မာစာပေများလည်း ထွန်းကားလာကုန်၏။ ကျမ်းဂန်များကို နှုက်တက်အာဂုံဆောင်၍ ထားကြပါသော်လည်း ထိုဆောင်ထားသော ပါဠိကျမ်းဂန်တို့ကို မြန်မာမှုပြုရန်ကား မလွယ်ကူသေးချေ။ ထိုပုဂံခေတ်အခါတွင် မြန်မာစာပေ၏ အသက်သည် များစွာမကြီးရင့်သေး။ မွေးဖွားစပင်ဖြစ်နေသေး၍ မြန်မာဝေါဟာရများလည်း ကောင်းစွာ လုံလောက်ဟန် မတူသေး။ အင်းဝခေတ် ပျို့ကဗျာများ ထွန်းကားလာသည့်အချိန်၌ကား နှစ်ရှည်လများသိုမှီးသိမ်းဆည်း စုဆောင်း၍ထားရသော ကျမ်းဂန်များမှ လိုရာကို အသီးသီးထုတ်နုတ်၍ ပျို့ကဗျာ လင်္ကာသွားဖြင့် စီကုံးရေးသားကြလေတော့သည်။ အင်းဝခေတ်ကား ပျို့ခေတ်စားသော အချိန်ဖြစ်၍ ကျမ်းတတ် ပုဂ္ဂိုလ်တို့သည်လည်း ဇာတ်တော် စသည်တို့ကို ပျို့ကဗျာဖြင့် ခေတ်အကြိုက်လိုက်၍ စီကုံးကြတော့သည်။ ထို့ကြောင့် အင်းဝခေတ်က ရေးသောစာများသည် ဓမ္မကြောင်းနွယ်သော စာများဖြစ်ကြ၏။ မြန်မာစကားပြေဖြင့် ရေးသားသော ကျမ်းအစောင်စောင်တို့ပင်လျှင် ဓမ္မကြောင်းနှင့် မကင်းချေ။ ရတုများသည်ကား အင်းဝခေတ်၌ အတော်အတန်ထွန်းကားကြပေ၏။ သို့သော် အလွန်တရာ ကျယ်ဝန်းနက်နဲလှသော အကြောင်းအရာများကို ရတုဖြင့် ဖွဲ့နွဲ့ရန် မလွယ်ကူချေ။ မေတ္တာဘွဲ့၊ ရာသီဥတုဘွဲ့၊ တောဆောင် ပန်းမန်တို့ကိုသာ ရတုဖြင့် ဖွဲ့နွဲ့ရန် သင့်လျော် အဆင်ပြေသည်ဖြစ်ရကား ရတုအဖွဲ့များသည် ဘုန်းကြီး ရဟန်းများနှင့် ဆန့်ကျင်ဘက် ဖြစ်နေသောကြောင့် ခေတ်စားသင့်သလောက် မစားဘဲ ရှိနေတော့သည်။

## တံတားဦးတည် မော်ကွန်း

ဤမော်ကွန်းကို ရှင်မဟာသီလဝံသသည် သက္ကရာဇ် ၈၅၈-ခုနှစ် ဒုတိယမင်းခေါင်လက်ထက်တွင် ရေးသားပြုစုစေသည်။ တံတားဦးတည် မော်ကွန်းဟူ၍ အမည်မှည့်ရခြင်းကား တံတားဦးအရပ်၌ ဒုတိယမင်းခေါင် တည်ထား ကိုးကွယ်တော်

မှုသော မင်္ဂလာစေတီတော်ကို ဖွဲ့ဆိုသောကြောင့်တည်း။ ထိုနှစ်တွင်ပင် ရှင်မဟာရဋ္ဌသာရကလည်း တံတားဦးတည် မော်ကွန်းတစ်စောင်ကို ဖွဲ့ဆိုသေး၏။ ရှင်မဟာရဋ္ဌသာရက ရှင်မဟာသီလဝံသထက် အရေးအသား စောဟန်တူ၏။ အဘယ့်ကြောင့်ဟူမူ ရှင်မဟာသီလဝံသသည် တံတားဦးတည် မော်ကွန်းကို ရေးသားပြုစု၍ ၁၂-ပိုဒ်မျှ ပြီးစီးသည့်ကာလ ထိုတံတားဦးတည် မော်ကွန်းကို ရှင်မဟာရဋ္ဌသာရ ရေးသားစီရင် ပြီးစီးကြောင်း ကြားသိရ၍ ဆက်လက် မရေးသားလိုတော့ဘဲ ပုရပိုက်ပေါ်မှာ ရေးသားပြီး ၁၂-ပိုဒ်ကို ချေဖျက်စေသည်တွင် တပည့်ရဟန်းများက ကူးယူသိမ်းဆည်းထားကြလေသည်။ ချေင်းဆရာတို့သည် မိမိအရှင်၏ ဘုန်းတော်ကို တစ်နည်းတစ်လမ်း ဖွဲ့ဆိုကြသကဲ့သို့ ရှင်မဟာသီလဝံသသည်လည်း ဒုတိယမင်းခေါင်အား ဗုဒ္ဓအလောင်းအလျာသဖွယ်ထား၍ သတ္တဝါတို့ကို ကယ်မတော်မူနိုင်သည့် ဘုရားစင်စစ် ဖြစ်မည့်အကြောင်းကို . . .

> သုံးဘုံလူနေ၊ သုံးစစ်မြေဒ္ဓ၊ ရှာဖွေပတ်ညက်၊ ပညာစက်ဖြင့်၊ နှုတ်နက်ဒေသနာ၊ ထက်စွာသံခဲ၊ လက်နက်စွဲ၍၊ ညှင်းဆဲတတ်စွာ၊ ကိလေသာဟု၊ မိစ္ဆာမသန့်၊ ရန်ကန့်လန့်ကို၊ လည်ညွန့်မတ်မတ်၊ ရှာကာဖြတ်၍၊ ပြတ်ပြတ်ပိုင်းခြား၊ တရားဖိုလ်မင်္ဂ၊ သံမှိုနှက်ပြီး၊ အောင်စည်တီး၍၊ အောင်ကြီးအောင်သူ၊ ငါလျှင်ဟူသို့၊ သုံးလူဖျားလွန်၊ အောင်တံခွန်ဟု၊ နိဗ္ဗာန် ကေရာဇ်၊ မင်းဆုံးဖြစ်လျက်၊ ချုပ်ထစ်မကွာ၊ ဘော်သုံးရှာဒ္ဓ၊ ကြမ္မာနှောင်ချည်၊ လူသုံးမည်ကို၊ ဖွေနည်စေ့ရေ၊ နှောင်ဖွဲ့ဖြေမှ . . .

စသည်ဖြင့် ခမ်းနား နက်နဲသော စကား ဥပမာ ဥပစာတို့ဖြင့် တန်ဆာဆင်ကာ ရေးသားဖွဲ့ဆိုထားလေသည်။ ထိုမျှမက ဘုရားအဖြစ်ကို ရရှိဖို့ရာ ပါရမီတော်ကို ဖြည့်ကျင့်ရန် ကြံတော်မူမည့်အကြောင်းနှင့် . . .

> မိတည်းနှောင်သာ၊ ဗျာဒိတ်ခါသော်၊ သဒ္ဒါမြေစိုင်၊ ပင်ရိပ်မြိုင်ဒ္ဓ၊ မဏ္ဍိုင်ပွင့်ခိုက်၊ ဆုတောင်းစိုက်၍၊ အကိုက်သွန်းသွန်း၊ ညွန့်လန်းလန်းလျှင်၊ ထွန်းလသောအခါ၊ ကရုဏာရေ၊ သွန်းလေလေတည့်၊ ရှင်စေကားကား၊ မေတ္တာပွား၍၊ တရားပင်စည်၊ ရှည်လတုံသော်၊ ခွဆုံသာခါ၊ စရိယာဟု၊ သုံးဖြာခက်မ၊ ဆိုင်းဆိုင်းလှ၍၊ ပဉ္စမဟာ၊ စွန့်ကြီးစွာမူ၊ ဦးရရှုတည့်၊ အယူဆန်တက်၊ ဖူးခေါင်ထွက်က၊ နှုတ်ပွက်သစ္စာ၊ ဥပေက္ခာက၊ စသည်တသွန်၊ အဓိဋ္ဌာန်ဟု၊ ချပ်လန်ကားကား၊ ပွင့်ထွား

ထွားလျှင်၊ အပြားသုံးဆယ်၊ အံ့ဘွယ်သီရိ၊ ဤသို့ရှိသည်၊ ဗောဓိသမ္ဘာ၊
ပဒေသာ၏၊ ပညာခိုင်ဖြိုး၊ အမြိုက်သီးကို၊ စောစီးဝေငှ၊ ပေးချင်းထ၍၊
ချွတ်ရခလို၊ ငါသည်ကိုယ်ဟု . . .

စသည်ဖြင့် ဆုတောင်းတော်မူသော အကြောင်းအရာများကို ရေးဖွဲ့ထားပုံမှာ ကဗျာ့ကဝိကြီး ပီသ၏။ ဥပစာတင်စား၍ သုံးပုံ၌ လွန်စွာ ကောင်းမွန်လှသည် ဖြစ်ရကား ရှင်သီလဝံသ၏ ကဗျာ့အာဘော်ကို မီအောင်ပင် နောက်ဆရာများ မလိုက်နိုင်ကြပေ။ ဤမော်ကွန်းအပြင် ရှင်သီလဝံသ ရေးသားစီရင်ခဲ့သော မော်ကွန်းများကား သျှိသျှားမိတ္ထိလာ ကန်တော်ဘွဲ့မော်ကွန်း ရွှေနန်းတည် မော်ကွန်းများ ဖြစ်ကြသည်။ ရှင်မဟာသီလဝံသသည် စကားပြေကျမ်းများကိုလည်း ရေးသားတော်မူခဲ့သည်။

## ပါရာယန ဝတ္ထု

ဤဝတ္ထုကို ရွှေနန်းကြော့ရှင်လက်ထက် သက္ကရာဇ် ၈၆၃–ခုနှစ်တွင် စီရင်ရေးသားသည်။ ပါရာယနဟူသော ပါဠိစကားမှာ **'ကမ်းတစ်ဖက်၊ သို့မဟုတ် နိဗ္ဗာန်သို့ သွားရာလမ်း'** ဟူ၍ အဓိပ္ပာယ်ရသည်။ သံသရာကမ်းတစ်ဘက်ဖြစ်သော နိဗ္ဗာန်သို့သွားစရာ ခရီးလမ်းသဖွယ်ဖြစ်သော ကျင့်ဝတ်တရားတို့ကို သက်သေသာဓကနှင့်တကွ ညွှန်ပြသော ဝတ္ထုဖြစ်သောကြောင့် ပါရာယနဝတ္ထုဟူ၍ အမည်တွင်သည်။ ဤပါရာယနဝတ္ထုသည် ဘုရားဟော ဓမ္မက္ခန္ဓာအပေါင်းတို့မှ ကောင်းနိုးရာရာတို့ကို ထုတ်နုတ်စီစစ်၍ မြန်မာစကားပြေသွားဖြင့် ဖွဲ့နွဲ့ထားသော ကျမ်းဖြစ်၏။ ဤကျမ်းစာတွင် ပါဠိဘာသာစကားများကို နည်းပါးနိုင်သလောက် နည်းပါးစေသည့်ပြင် ရွေးကောက်ထုတ်နုတ်ပြသော စကားများမှာလည်း လူအများ သတိတရားရဖွယ် သံဝေဂဖြစ်ဖွယ်များနှင့် ပြည့်နှက်နေသဖြင့် အများအကျိုးရှိမည့် ကျမ်းစာပင်ဖြစ်၏။ ထင်ရှားတွေ့ရှိရသမျှသော မြန်မာစကားပြေဝတ္ထုများတွင် ပါရာယန ဝတ္ထုသည် အဟောင်းဆုံးဝတ္ထုဖြစ်သည်။

## ရာဇဝင်ကျော်

ရာဇဝင်ကျော်ကို သက္ကရာဇ် ၈၆၄–ခုနှစ်တွင် ရှင်မဟာသီလဝံသ ရေးသားပြုစု၏။ ထင်ရှားတွေ့ရှိရသမျှသော ရာဇဝင်ကျမ်းများတွင် ဤရာဇဝင်ကျော်သည် အဟောင်းဆုံးဖြစ်သည်။ ဤကျမ်းကိုပြုစုရာ၌ ရှင်မဟာသီလဝံသသည် မိမိဉာဏ်စွမ်း

ဖြင့် စကားသစ် စီစဉ်ဝေဖန် ရေးသားခြင်းများစွာမပြုဘဲ ပါဠိဘာသာဖြင့် ရှိသော မဟာဝန်ကျမ်းကို မြန်မာဘာသာ နိဿယပြန်ဆို ရေးသားခြင်းမျှ ဖြစ်သည်။ ဤ ရာဇဝင်ကျမ်းကို . . .

၁။ မဇ္ဈိမရာဇဝင် (ကမ္ဘာဦး သမ္မတမင်းမှ ဓမ္မာသောက မင်းအထိ)။

၂။ သိဟိုဠ်ရာဇဝင် (ဝိဇယမင်းမှ မဟာနန် မင်းအထိ)။

၃။ မြန်မာရာဇဝင် (ဒွတ္တဘောင်မင်းမှ အင်းဝ မဟာသီဟသူရ မင်းအထိ)

အားဖြင့် သုံးပိုင်းခွဲခြား မှတ်သားနိုင်လေသည်။ ရာဇဝင်ကျော်ဟူသော အမည်မှာ ရှင်မဟာသီလဝံသ မှည့်ခဲ့ရင်း အမည်မဟုတ်။ နောက်မှ ခေါ်ကြသော အမည် ဖြစ်၏။ ရှင်မဟာသီလဝံသကမူကား မဟာသမ္မတဝံသကျမ်းဟူ၍သာ အမည်မှည့် ခဲ့၏။ ဤရာဇဝင်၏ လေးပုံ သုံးပုံခန့်မှာ မဇ္ဈိမရာဇဝင်အကြောင်းအရာ မျှသာ ဖြစ်၍ ကျန်တစ်ပုံမှာ သိဟိုဠ်ရာဇဝင်နှင့် မြန်မာရာဇဝင် အကြောင်းအရာများ ပါဝင်သည်။ မြန်မာရာဇဝင်ကို ရေးသားရာ၌ မင်းဆက် အစီအစဉ်များကိုသာ ဖော်ပြ၍ ထိုမင်းများလက်ထက် ဖြစ်ပျက်သော အတ္ထုပ္ပတ္တိများကိုကား မြှုပ်၍ထား၏။ ဤ **'မဟာသမ္မတဝံသကျမ်းကို တတ်ကျွမ်း၊ မှတ်ကျွမ်းသော သူတို့အား ပစ္စုပ္ပန် သံသရာ အစီးအပွားများစေချင်၍ ပြုတော်မူသည်'** ဟု ရာဇဝင်ကျော် ကျမ်းအဆုံးတွင် ရှင်သီလဝံသကိုယ်တိုင် စီရင်ခဲ့သည်ကိုထောက်သော် ဤကျမ်းသည် မြန်မာရာဇဝင် အကြောင်းကို သက်သက်ရည်ရွယ်၍ ရေးသော ကျမ်းမဟုတ်ဘဲ မဟာသမ္မတ မင်းဆက်ကို ရည်ရွယ်၍ ရေးသောကျမ်းမျှဖြစ်ကြောင်း သိရပေ၏။ ဤရာဇဝင်ကျမ်း၌ပင်လျှင် ရှင်သီလဝံသကိုယ်တိုင်က ရေးသူဟောင်းတို့ ဆိုလေပြီးသော ရာဇဝင် ကျမ်းများ ရှိပြီးဖြစ်သည်ဟု ညွှန်ပြရကား ဤရာဇဝင်ကျမ်းသည် စင်စစ်အားဖြင့် အဟောင်းဆုံး ရာဇဝင်ကျမ်း မဟုတ်၊ သို့သော် ထိုညွှန်ပြခဲ့သော ကျမ်းဟောင်းများကို ယခု ရှာမတွေ့ဖြစ်၏။

## ရှင်အုံးညို

**'ပေလေးပင်၊ ရှင်လေးပါး'** သိုက်ဝင် ရှင်အုံးဉိုသည် ရှင်မဟာသီလဝံသ၏ တပည့်ဖြစ်၍ ကဗျာကျမ်း အစောင်စောင်တို့ကို မပြုစုခဲ့သော်လည်း 'ဂါထာ ၆၀ ပျို့' တစ်စောင်တည်းဖြင့်ပင် ကျော်စောထင်ရှားသည်။ ဤပျို့ကို ရွှေနန် ကြော့ရှင်

လက်ထက်ရေးသည်။ ကျမ်းပြီး သက္ကရာဇ်ကား ၈၇၉-ခုနှစ်တည်း။ ထိုပျို့သည် ဇုဒ္ဓဝင်အဋ္ဌကထာနှင့် အပဒါန် အဋ္ဌကထာလာ ဂါထာ ၆၃-ပုဒ်ကို မြန်မာကဗျာ အလင်္ကာဆင်၍ ရေးသားဖွဲ့နွဲ့ခြင်းဖြစ်သည်။ ဇုဒ္ဓဝင်အဋ္ဌကထာအလို ဂါထာ ၆၄၊ အပဒါန် အဋ္ဌကထာ အလို ၆၃-ရှိသော်လည်း အနည်းငယ်ပိုသည်ကို ပမာဏမပြုဘဲ ဂါထာ ၆၀-ဟူ၍သာ ခေါ်ဝေါ်သုံးစွဲကြ၏။ မြတ်စွာဘုရားသခင်၏ ခမည်းတော် သုဒ္ဓေါဒန မင်းကြီးက ဘုရားသခင်ထံ တမန် ၉-ခေါက်စေလွှတ်၍ ပင့်သော်လည်း မကြွလာသောကြောင့် ဖွားဘက်တော် ကာဠုဒါယီအမတ်ကြီးကို အထက် အမတ် တို့နည်းတူ မိုလ်ခြေတစ်ထောင်နှင့်တကွ တမန်ပြု၍ ပင့်စေရာတွင် ကာဠုဒါယီနှင့် မိုလ်ခြေတစ်ထောင်တို့အားလုံး ရဟန္တာတွေချည်း ဖြစ်ကြ၏။ ထိုနောက် တပေါင်းလ ရာသီသို့ ရောက်သည်တွင် ကပိလဝတ်ပြည်သို့ ကြွတော်မူစေခြင်းငှာ ရာသီ၏ သာယာပုံ၊ သစ်သီးပန်းမန်တို့၏ နှစ်သက်ဖွယ် တင့်တယ်ပုံများကို သွားလိုသည့်ဆန္ဒ ပေါ်ပေါက်လာအောင် ဂါထာ ၆၀-တို့ဖြင့် စီကုံးလျှောက်ထားသည်တွင်မှ မြတ်စွာ ဘုရားသခင်သည် ကပိလဝတ်ပြည်သို့ ကြွတော်မူသည့် အကြောင်းများကို ကျမ်းဂန် တို့တွင် ပြဆိုသည့် အနက်အဓိပ္ပာယ်များအရ ကျနစွာ ရေးသားဖွဲ့နွဲ့လေသည်။ ဂါထာ ၆၀-ပျို့တွင် ရှင်အုံးညိုသည် **'အထွေထွေ၊ အဆွေဆွေ၊ တရွေရွေ'** စသည်ဖြင့် အစုံအစုံဖြစ်သော ယမက ချိနည်းဖြင့်ချိ၍ **'ချစ်ဆွေညာတောင့် ညာတာတည်း၊ အုံမှုံးနာတောင့် နာသာတည်း၊ ချင်းတို့ဘာသောင့် ဘာသာတည်း'** စသော အစုံအစုံ ဖြစ်သော ယမက ချနည်းဖြင့် အဖျားချသဖြင့် အခြားပျို့ အချီအချများနှင့် များစွာ ကွာခြားသည်။ ထူးချွန်သော ပင်ကိုယ်ဉာဏ်ရှိသည်မှာ ချီးမွမ်းဖွယ်ရာပင်တည်း။ ပျို့တစ်ပုဒ်လုံးမှာ သမာဓိဂုဏ် ရောက်သော အဖွဲ့အနွဲ့ အတ္တန္တ နှာသနည်းများဖြင့် ခြယ်လှယ်မွမ်းမံထားခြင်းကြောင့် လွန်စွာသာယာနာပျော်ဖွယ်ရှိ၍ စိတ်မျက်စိဒွိ အာရုံခံစားနိုင်သည်။

> တောမျောက် တောယုန်၊ မြူးခုန်ဒရယ်၊ ဦးကျယ်ပွေးဖွတ်၊ တွင်းပတတ်နှင့်၊ ချေဆတ် မည်းပြောက်၊ ချိုသင့်ရောက်သား၊ ဆီးဆောက်မင်ဘား၊ သမင်ကျားလည်း၊ ဘုရားဟူသည်၊ ဤလူ့ပြည်တွင်၊ ရောင်ခြည်အထောင်၊ ပြောင်ပြောင်ထွန်းပ၊ နေလမတူ၊ မြတ်စွဟူ၏၊ အယူမှားစွာ၊ တို့တကာလည်း၊ မိစ္ဆာဇိဝ၊ ရေးကကျင့်မှာ၊ ပါယ်လေးပါးဘုံ၊ ဖြစ်ရတုံနှင့်၊ လုံးခြုံစုနင်း၊ တရားမင်းဝယ်၊ သီတင်းမြတ်ငွေ့၊ နည်းများ တွေ့မူ၊ စတော့ စုန်ဆန်၊ ကောင်းပါပြန်အံ့...
>
> စပယ်ဦးစာပေ

စသည်ဖြင့် တိရစ္ဆာန်တို့ပင်လျှင် မြတ်စွာဘုရားကို ဖူးမြင်အံ့သောငှာ တစ်ကောင်နှင့် တစ်ကောင် ရန်သူဟူ၍ မမှတ်၊ သင့်မြတ်ချစ်ခင်ကြ၍ ငါတို့သည် နောက်နောင် ဘဝက မှားသောအကျင့်ကို ကျင့်ကြံမိသောကြောင့် ယခုဘဝ တိရစ္ဆာန်ဖြစ်ကြ ရသည်။ ယခု ဘုရားထံတွင် ဆုယူ၍ နောင်ဘဝအတွက် ကောင်းကျိုးချမ်းသာကို ရှာဖွေကြကုန်အံ့ဟူ၍ တညီတညွတ်တည်း တိုင်ပင်ပုံကြွေပုံကို ကွက်ကွက်ကွင်းကွင်း ပေါ်အောင် ရေးသားထားသည်။ ရှင်အုံးညိုသည် ပန်းများကို ဖွဲ့ရာ၌လည်း စေ့စပ် ကျနစွာ ဖွဲ့ဆိုသည်။ သစ်သီးသစ်ပင်တို့၏ သဘာဝတည်နေပုံများတွင်လည်း နှိုက်နှိုက်ချွတ်ချွတ် ကျွမ်းကျင်သူဖြစ်သည်။ တောနေ တိရစ္ဆာန်၊ ရေနေ တိရစ္ဆာန်၊ ကောင်းကင်၌ ကျက်စားသော တိရစ္ဆာန်၊ တွင်းအောင်း တိရစ္ဆာန်များအကြောင်း ကိုလည်း ချင်းတို့ အလေ့အကျင့် အမည်နာမများနှင့်တကွ လိုလေသေးမရှိအောင် သိကျွမ်းနားလည်သော ပုဂ္ဂိုလ်ဖြစ်တော့သည်။ ရှင်သီလဝံသတည်းဟူသော ဆရာ ကောင်း တပည့်မှန်စွာ စပ်ဟပ်ရာ၌ ဆရာနည်းတူ အပိုအလိုမရှိအောင် စပ်နိုင်သော ကြောင့် ဂါထာ ၆၀-ပျို့ တစ်ခုလုံးသည် ဆေးရောင်စုံဖြင့် ခြယ်လှယ်အပ်သော စိမ်းလန်းသာယာစိုပြေသည့် တော တောင် ကားကြီးသဖွယ် စိတ်မျက်စိအာရုံတွင် ထိခိုက်ငြိစွဲလှပေသည်။ စင်စစ်အားဖြင့် ရှင်အုံးညိုသည် ရှင်ဥတ္တမကျော်၏ တောလားမှ ဖွဲ့ပုံဖွဲ့နည်းကို အတုယူလိမ့်မည်ဟု ထင်မှတ်ဖွယ်ရာ ရှိသည်။ ရှင်ဥတ္တမကျော်၏ တောလားသည် ဂါထာ ၆၀-ပျို့၏ အကျဉ်းချုပ်ကဲ့သို့ဖြစ်ပေသည်။ ရှင်အုံးညိုကား ရှင်ဥတ္တမကျော်၏ တောလားကြီးကို အကျယ်ချဲ့ထွင်ကာ အမည် နာမတစ်မျိုးဖြင့် မှည့်ခေါ်ထားသကဲ့သို့ ဖြစ်ပေသည်။ ဤပုဂ္ဂိုလ်နှစ်ဦးလုံးပင် သဘာဝမေ့ဖြစ်ပေါ်သော သြကာသ လောကကြီးကို နှစ်ခြိုက်ကြသည်။ စိတ်လည်း ဝင်စားကြသည်။ ရှင်ဥတ္တမကျော်သည် ရှေးဦးထွင်သူ ဖြစ်၍ ကိုယ်ပိုင်ဉာဏ်ကို အားကိုးအားထားပြုကာ ကျမ်းဂန်ကို များစွာမမှီး၊ ရှင်အုံးညိုကား သူတစ်ပါးထံမှ မသိမသာ အတုခိုးလိုက်သော်လည်း ကျမ်းဂန်မှီး၍ ခမ်းနားပေါ်လွင်သော အဖွဲ့အနွဲ့ များကို အသုံးပြုသည်။

## ရှင်ခေမာ

'ပေလေးပင်၊ ရှင်လေးပါး' အပါအဝင်ဖြစ်သော ရှင်ခေမာသည် မြန်မာ ဘာသာဖြင့် ကဗျာလင်္ကာများကို ရေးသားပြုစုထားခဲ့သည်ဟု မတွေ့ရှိရပေ။ ရေးသား ပြုစုခဲ့လျက်နှင့်ပင် လုံခြုံစွာ သိမ်းဆည်းစုဆောင်းမည့်သူမရှိ၍ ပျောက်ပျက် တိမ်မြုပ်

ဘူးလေသလောဟူ၍ တွေးထင်ဖွယ်ဖြစ်၏။ ပိဋကတ်သမိုင်းတွင်ကား ပါဠိကျမ်းဂန် အစောင်စောင်တို့ကို ပြုစုခဲ့သည်ဟူ၍သာ တွေ့ရ၏။ ထိုကြောင့် ရှင်ခေမာ၏ အကြောင်းကို ဤကျမ်းမှာ မြှုပ်ထားသင့်သည်ဟူ၍ ထင်မြင်မိ၏။

## ရှင်မဟာရဋ္ဌသာရ

ရှင်မဟာရဋ္ဌသာရသည် သက္ကရာဇ် ၈၃၀–ပြည့်နှစ်တွင် အဝနေပြည်တော်၌ ဖွားမြင်သည်။ အဖမှာ ဟံသာဝတီဘုရင်မ ရှင်စောပု၏ တူ၊ ပုသိမ်မြို့စား သားအိမ်၏မြေး၊ ဓမ္မပါလအမတ် ဖြစ်သတည်း။ အမိမှာ အဝမြို့တည် သတိုးမင်းဖျား ၏ သမီးတော် မြစ် ဖြစ်သည်။ ငယ်မည်မှာ မောင်မောက်တွင်၍ နန်းတော်ကြီး အတွင်း၌ ကြီးပြင်းရသူဖြစ်သည်။ ငယ်စဉ်ကပင် ကဗျာလင်္ကာဖွဲ့နွဲ့စီကုံးရာ၌ လေ့လာကျွမ်းကျင်သည်။ ကျမ်းကြီးကျမ်းငယ်အစောင်စောင်တို့ကိုလည်း ငယ်စဉ် ကပင် ဆည်းပူးလေ့လာသည်။

## ဘူရိဒတ်လင်္ကာကြီး

ရှင်မဟာရဋ္ဌသာရသည် ဘူရိဒတ်လင်္ကာကြီးကို သက္ကရာဇ် ၈၄၆–ခုနှစ် သက်တော် ၁၆–နှစ်တွင် စပ်ဆိုဖွဲ့နွဲ့တော်မူသည်။ လင်္ကာဟူသည် အလင်္ကာရတည်း ဟူသော ပါဠိစကားမှ ဆင်းသက်လာသည်ဖြစ်၍ 'တန်ဆာဆင်ခြင်း' အနက်ရသည်။ ပျိုရွယ်သူ မိန်းကလေးတစ်ယောက်အား ရိုးရိုးအဝတ်အစားဖြင့် ဆင်ယင်ထားသည် ထက် ပုတီး၊ လက်ကောက်၊ ခြေကျင်း၊ နားဒောင်း စသည်ဖြင့် တန်ဆာဆင်ထားပါက ပိုမို၍ ကြည့်ကောင်းသကဲ့သို့ စာပေများတွင်လည်း တန်ဆာဆင်ထားပါက ပိုမို၍ ကြည့်ကောင်းသကဲ့သို့ စာပေများတွင်လည်း ရိုးရိုးစကားလုံးများကို နားထောင်၍ ကောင်းအောင် သုတိသာယာသော စကားလုံးကလေးများဖြင့် ညှပ်၍ ပုလဲတစ်တန့် ရွှေတစ်ကန့် စပ်ဆိုဖွဲ့နွဲ့ထားခြင်း စသော သဒ္ဒါ အဆင်တန်ဆာ၊ အနက် အဆင် တန်ဆာတို့ဖြင့် တန်ဆာဆင်ထားပါလျှင် အထူးနှစ်သက်ဖွယ် ဖြစ်လာ၏။ ဤအတူ ဘူရိဒတ်နဂါးမင်း၏ အတ္တုပ္ပတ်ကိုလည်း အဆင်တန်ဆာတို့ဖြင့် နှစ်သက် ဖွယ်ဖြစ်အောင် တန်ဆာဆင်ယင် ရေးသားဖွဲ့နွဲ့ထားသောကြောင့် ဘူရိဒတ်လင်္ကာ ကြီးဟု အမည်တွင်၏။ ဤလင်္ကာကြီးသည် အဟောင်းဆုံး လင်္ကာရှည်ကြီးဟူ၍ သမုတ်ထိုက်ပေသည်။ ဤလင်္ကာကြီးသည် မြတ်စွာဘုရားဟော မဟာနိပါတ်တော်

လာ ဇာတ်တော်ကြီး ၁၀–ဘွဲ့အဝင် ဘူရိဒတ်ဇာတ်တော်ကြီးကိုပင် အလင်္ကာအမျိုးမျိုး တို့ဖြင့် တန်ဆာဆင်၍ မြန်မာဘာသာပြန်ဆိုထားခြင်း ဖြစ်သတည်း။ ဤနေရာ၌ ရှင်မဟာရဋ္ဌသာရသည် ကိုယ်ပိုင်ဉာဏ်ကို အသုံးပြု၍ ဤလင်္ကာကြီးကို စီရင် ရေးသား၏။ ရှေးဆရာကြီးတို့သည် မြတ်စွာဘုရားဟော ဇာတ်တော်ကြီးများကို ကဗျာလင်္ကာဖြင့် ရေးသားထားသည်ကို မတွေ့ရချေ။ ပါရမီတော်ခန်း၊ ဆုတောင်း ခန်း၊ ပျို့တို့သည်လည်း စင်စစ် ပါဠိဇာတ် ကျမ်းလာ ဇာတ်တော်ကြီးများ မဟုတ် ရကား ယခုတွေ့ရှိရသမျှတွင် ရှင်မဟာရဋ္ဌသာရသာလျှင် ဇာတ်တော်ကြီးများကို ကဗျာလင်္ကာဖွဲ့နွဲ့ရာ၌ အဦးဆုံးဖြစ်သည်ဟု ဆိုရပေမည်။ ရှင်မဟာရဋ္ဌသာရသည် လောကကြောင်းဘက်၌ များစွာနိုင်နင်း၏။ မြို့တွင်း၌ ကြီးပြင်းရသူဖြစ်သောကြောင့် လူမှုရေးရာများကို သိကျွမ်းနားလည်၏။ ဘူရိဒတ်လင်္ကာကြီးကို လောကကြောင်း ဘက် နွယ်၍ ရေးသားထားသောကြောင့် များစွာကောင်းမွန်လှ၏။ ဓမ္မကြောင်း ဘက်ကား အနည်းငယ်သည့်၏။ ဘူရိဒတ်နဂါးမင်း မယ်တော်သည် သားတော်ကို မမြင်မတွေ့ရသဖြင့် လွမ်းမှိုင်တွေဝေပုံကို . . .

> တရှိုက်မက်မက်၊ တစ်သက်သက်လျှင်၊ စက်လက်မျက်ရည်၊ ဆည်းလည်း မတတ်၊ မိန်းသေပြတ်မျှ၊ ကြင်ဆွတ်လေလေ၊ အောက်မေ့ချေသော်၊ မပြေတို့နိုင်၊ ကမ်းနယ်ယိုင်လျက်၊ ရိပ်မြိုင်နန်းထဲ၊ နေစမြဲသား၊ သွေးခဲဘုန်းခေါင်၊ မယ်တော့်မောင်ကို၊ ပြောင်ပြောင်ဝင်းဝင်း၊ ဗိမာန် တွင်း၌၊ ဟင်လင်းအချည်၊ မြင်ကတည်းက၊ အူသည်းငြိမ့်ငြိမ့်၊ ကြောခြင်စိမ့်မျှ၊ နှစ်သိမ့်လွမ်းရှူ၊ ပတ်ပတ်မူးလျက်၊ အထူးရှေ့နောက်၊ တောင်မြောက်မသိ၊ မျက်စိမိုက်မိုက်၊ မှောင်တိုက်အသွင်၊ ယခုထင်ခဲ့၊ တိုင်ပင်နှိုင်းချက်၊ သာဝမ်းထွက်နှင့်၊ ဆိုတက်မနီ၊ တဖျင့်ကြီးသို့၊ ကိုယ်ထိကျန်စွာ၊ ငါကြမ္မာကား၊ ဇာတာဂြိုဟ်တန့်၊ မသန့်စန့်လက်၊ ရှေးဝိပါက်ကြောင့်၊ ရွှေငှက်ဟင်္သာ၊ ရေမဲ့ရာ၌၊ မျက်နှာအောက်ချ၊ မှိုင်လည်တသို့၊ သားလုလုလင်၊ မျိုးလွန်ကြင်ကို၊ ဖူးချင်တောင့်တ၊ မတွေ့ရ၍၊ ကြောင့်ကြည်ချုံး၊ မရွှင်ပြုံးသည်။ ။ကိုယ်လုံ သမ်းတို့စွ တကား . . .

စသည်ဖြင့် လောကကြောင်း ဘက်တွင် နောက်ဆရာများ အတုယူရလောက်အောင် ရေးသားဖွဲ့နိုင်စွမ်းရကား ရှင်မဟာရဋ္ဌသာရသည် ဘုရင်မင်းမြတ်နှင့်တကွ တစ်နိုင်ငံ

ငဲ့း၏ မြှောက်စားခြင်း ခံရပေသည်။ ဘူရိဒတ်လင်္ကာကြီးသာ မဟုတ်၊ ဘူရိဒတ် ဇာတ်ပေါင်း ပျို့ကိုလည်း ရှင်မဟာရဋ္ဌသာရမထေရ်ပင် ပြုစုတော်မူခဲ့သည်။ ထို ဇာတ်ပေါင်းပျို့ကို စာဆိုအရှင်သည် သက္ကရာဇ် ၈၅၆-ခုနှစ်၊ သက်တော် ၂၆-နှစ် ဘွင် ရေးသားပြုစုသည်။ ဇာတ်ပေါင်းသည် လင်္ကာကြီး၏ အဆက်ပင် ဖြစ်၏။ ဘူရိဒတ်လင်္ကာကြီးကို ပြုစုစဉ်က ဇာတ်ပေါင်းခန်းကို မရေးသားမိခဲ့သည့်အတွက် အသစ်တစ်ဖန် ရေးသားဖွဲ့နွဲ့ရခြင်း ဖြစ်သည်။ ဘူရိဒတ်လင်္ကာကြီးကို အသက် ၁၆-နှစ်အရွယ်က ရေးရသည်ဖြစ်ရကား ကဗျာ ဉာဏ်ရည် အာဘော်များ လွန်စွာ နုသေးသည်။ အသက် ၂၆-နှစ်တွင် ရေးသားပြုစုသော ဇာတ်ပေါင်းပျို့မှာကား ကဗျာဉာဏ်အာဘော်ရင့်သန်ပြီးမှ ရေးရသည့်ပျို့ဖြစ်၍ ကဗျာအဆင့်အတန်းသည် ဘူရိဒတ်လင်္ကာကြီးထက်ပင် သာလွန်ကောင်းမွန်သည်။ အထူးသတိပြုဖွယ်ကား ဘူရိဒတ်ဇာတ်ပေါင်းပျို့တွင် လင်္ကာကြီးမှာကဲ့သို့ လောကကြောင်း များစွာမဖက်ဘဲ ဓမ္မကြောင်း ကျမ်းဂန်ဘက်သို့ ဦးစား၍ နေသည်။

## တံတားဦးတည် မော်ကွန်း

ရှင်မဟာရဋ္ဌသာရသည် တံတားဦးတည် မော်ကွန်း တစ်စောင်ကိုလည်း ရေးသားပြုစုတော်မူခဲ့၏။ ထိုမော်ကွန်းကို ရှင်မဟာသီလဝံသ မရေးသားမီ ဦးစွာ ရေးသားပြုစုခဲ့သည်။ ရေးသက္ကရာဇ်ကား ၈၅၈-ခုနှစ်တည်း။

**မှတ်ချက်။** ။ဤနေရာ၌ စဉ်းစားဖွယ်ရာ များစွာရှိသည်။ အချို့ဆရာ များက ရှင်မဟာရဋ္ဌသာရသည် ဤတံတားဦးတည်မော်ကွန်းကို အသက် ၁၂-နှစ် အရွယ် သက္ကရာဇ် ၈၄၂-ခုနှစ်တွင် ရေးသားပြုစုသည်ဟု ဆိုကြသည်။ ထိုအဆို သည် ခိုင်လုံသော အဆိုမဟုတ်။ အကြောင်းမူကား အခြားပျို့ မော်ကွန်း နိဂုံး များတွင် အသက် ၁၂-နှစ်အရွယ်က တံတားဦးတည် မော်ကွန်းစပ်ဖွဲ့ခဲ့ကြောင်းနှင့် မဖော်ပြသောကြောင့်တည်း။ ဤမျှမကသေး တံတားဦးမင်္ဂလာစေတီကို ဒုတိယ မင်းခေါင်သည် သက္ကရာဇ် ၈၄၂-ခုနှစ်တွင် တည်သည်ဟူ၍ ရာဇဝင်ကျမ်းများတွင် လာရှိသောကြောင့် ထိုဘုရားတည်သည့်နှစ်တွင်ပင် စာဆိုပုဂ္ဂိုလ်သည် မော်ကွန်းကို ရေးသားရာသည်ဟု ကြံဆပြီးလျှင် သက္ကရာဇ် ၈၄၂-ခုနှစ်တွင် တံတားဦးတည် မော်ကွန်းကို စပ်သည်ဟူ၍ ဆိုကြကုန်၏။ စင်စစ်အားဖြင့် ဒုတိယမင်းခေါင်တည် မင်္ဂလာစေတီတော်ကို သက္ကရာဇ် ၈၄၂-ခုနှစ်တွင် တည်သော်လည်း ဌာပနာများ

မရှိသောကြောင့် ဘုရားကို ပြီးအောင် မတည်ရသေးဘဲ တစ်ပိုင်းတစ်စ ကျန်ရှိနေသည်တွင် သက္ကရာဇ် ၈၅၈–ခုနှစ်ရောက်မှ ဌာပနာများရ၍ ပြီးဆုံးအောင် တည်ရကြောင်းကို ရာဇဝင်များမှာ ဖတ်ရှုသင့်သည်။ ထိုကြောင့် တံတားဦးတည် မော်ကွန်းကိုလည်း ၈၅၈–ခုနှစ်၌ပင် စီရင်ရေးသားမည်ဖြစ်ကြောင်း ယုံမှားဖွယ်မရှိ။ ထို့ပြင် တစ်ရပ်လည်း **'သုံးဆယ့်နှစ်ပါး'** ချိ မင်္ဂလာစေတီ မော်ကွန်းပိုဒ်ရေ ၅–၌ပင် . . .

> မြတ်စော ခီးလျှင်၊ ပြည်ကြီး နိဗ္ဗာန်၊ လွန်သည်နှစ်မှ၊ ကာလမြင့်ခေါင်၊
> တွက်ကျုံးဆောင်သော်၊ နှစ်ထောင်လေးဆယ်၊ ရောက်ကြိုက်ဝယ်တည့်၊
> အလယ်ဌာပနာ၊ ပြုခါမူးမူး . . .

ဟူ၍ စပ်ဆိုထားသဖြင့် သက္ကရာဇ် ၈၅၈–ခုနှစ်တွင် စပ်ဆိုကြောင်း ထင်ရှားသည်။ ပုဂံဝန်ထောက်မင်း ဦးတင်ကမူ ရှင်မဟာရဋ္ဌသာရ စပ်ဆိုသော တံတားဦးတည် မော်ကွန်းသည် တစ်စောင်တည်း မဟုတ်၊ နှစ်စောင်ဖြစ်ကြောင်း၊ ထိုမော်ကွန်းတို့သည် ၁၂–နှစ်အရွယ်တွင် စပ်ဆိုသော **'ကြားပိမ့်နတ်ရှင်'** ချိ မော်ကွန်းနှင့် ၂၈–နှစ်အရွယ်တွင် စပ်ဆိုသော **'သုံးဆယ့်နှစ်ပါး'** ချိ မော်ကွန်းများဖြစ်ကြောင်း၊ ၁၂–နှစ်အရွယ်က စပ်ဆိုသော မော်ကွန်းမှ ကောက်နုတ်ချက်ဟူ၍ စာပိုဒ်တစ်ပိုဒ်ကိုလည်း ကဗျာဗန္ဓသာရကျမ်းတွင် ပြဆိုထားသေးသည်။ သို့သော် ဦးတင်၏ အဆိုလည်း ခိုင်လုံစွာ တစ်စောင်လုံး မဖော်ပြနိုင်သောကြောင့် အတည်မပြုထိုက်သေးပေ။

ရှင်မဟာရဋ္ဌသာရ အသက် ၂၈–နှစ်တွင် စပ်ဆိုဖွဲ့နွဲ့သော တံတားဦးတည် မော်ကွန်းသည် ဖွဲ့စပ်ပုံ လွန်စွာပြေပြစ် ကောင်းမွန်လှသော်လည်း ရှင်မဟာသီလဝံသ မော်ကွန်း၏ စာပေအဆင့်အတန်းကို မမီချေ။ အဖွဲ့နှစ်ခုကို နှိုင်းယှဉ်၍ ကြည့်သော် ရှင်မဟာသီလဝံသ၏ ဘုန်းတော်ဖွဲ့ပုံများနှင့် ရှင်မဟာရဋ္ဌသာရ၏ ဘုန်းတော်ဖွဲ့ပုံများသည် ကွာခြားလှသည်။ ရှင်သီလဝံသကမူ ဦးစွာ ကမ္ဘာကို ဖွဲ့သည်။ ထို့နောက် စကြဝဠာ ဇမ္ဗူဒီပါကျွန်း၊ မြန်မာပြည်နိုင်ငံ၊ ထို့နောက် ဒုတိယမင်းခေါင်တို့ကို အသီးအသီး အစီအစဉ်ဖြင့် ဖွဲ့၏။ ရှင်မဟာရဋ္ဌသာရ၌ကား ဤသို့ ခမ်းနားကြီးကျယ် ယဉ်ကျေးဖွယ်ရာ စာဖွဲ့ရန် စိတ်ကူးမပေါ်ပေါက်ချေ။ ဒုတိယမင်းခေါင်၏ ဘုန်းတော်ကိုအား ၅–ပါး၊ ရတနာ ၇–ပါးတို့ဖြင့်သာ ဖွဲ့ဆိုရကား ခမ်းနားပုံချင်း ကွာခြား၏။ ရှင်သီလဝံသ၏ အဖွဲ့များကား နက်နဲကြီးကျယ်လှ၏။

> ကျောင်းတော်ရပ်သီး၊ တည်လပြီးသော်၊ ဝှဲခြီးတမာ၊ အံ့အဲရာလျှင်၊
> မင်္ဂလာစေတီ၊ သညီတွင်ခေါ်၊ ပုထိုးတော်ကို၊ နှိုးဆော်စေပါ၊ မအပ်စွာသား၊

သဃ်ာတို့အား၊ ဘို့ဝန်ထား၍၊ တစ်ပါးမင်းနယ်၊ မစင်ကြယ်တည့်၊
ပြီးလွယ်ဆန်းမူ၊ မပြုလျှင်ဘဲ၊ ကိုယ်တော်ကဲလျက်၊ ထက်မြက်စေတနာ၊
အမတ်ရာနှင့်၊ သာသာလျော့ကျ်လျော့ကျ်၊ လုပ်တုံမြော်ကမ်မှ၊ မြေအောက်
ရှေးဖျား၊ ဓာတ်ဘုရားနှင့်၊ တစ်ခြားဌာပနာ၊ အလယ်မှာမူ၊ နတ်ရွာသဘင်၊
သိကြားဆင်သို့၊ လူတွင်နှစ်ဦး၊ မမြင်ဘူးအောင်၊ ပွဲကြီးဆောင်အံ့၊
မင်းခေါင်မောင်နှံ၊ ငါတို့ကြံက၊ ဘုန်းတေဇဖြင့်၊ ထိုမျှကြိယာ၊
သို့သောခါဝယ်၊ မကြာပြည့်စုံ၊ နေခြင်းကုံလိမ့်၊ ကြေးမုံမျက်ရှု၊
သဗ္ဗညု၏၊ ဓာတုစစ်သာ၊ ကြိုက်ခဲ့စွာဟု၊ သကျ်ာမဲ့ထွန်၊ ကျော်စော
ဝှန်သား၊ ကေနိစတေ၊ ရှင်တော်မွေကို၊ ရှာဖွေသော့အား၊ မြင့်ရှည်လျား
သည်။ ။**နှစ်ပွားကာလ ကြူးသတည်း။**

သည်ဖြင့် စကားပြေပြစ် ကျစ်လျစ်ပါသော်လည်း ရှင်သီလဝံသ၏ မော်ကွန်းလောက်
ခမ်းနားခြင်းမရှိ။ စကားလည်း သိပ်သည်းခြင်းမရှိလှပေ။ ဆိုလိုသည့်အရာကိုကား
ကွင်းကွင်းကွက်ကွက်ပေါ်အောင် စကားကျဲကျဲဖြင့် ဖော်ပြခဲ့ပေသည်။

## ကိုးခန်းပျို့

**'ကိုးခန်းပျို့'** သည် ရှင်မဟာရဋ္ဌသာရ၏ အကောင်းဆုံးပျို့ဟူ၍ မှတ်တမ်း
တင်သင့်သည်။ ဤပျို့ကို အသက်အရွယ်ကြီးမှ ရေးသားပြုစုသည်ဖြစ်ရကား
ဗဟုသုတ လောကံ ပြည့်စုံပြီးဖြစ်သောကြောင့် ကဗျာအာဘော် အဆင့်အတန်းသည်
ငယ်ငယ်က ရေးသားသော စာပေများထက် သိသိသာသာမြင့်၍ ကောင်းမွန်လှပေ
သည်။ ကိုးခန်းပျို့ နိဂုံးလင်္ကာ အပိုဒ် ၄–၏ အဆုံးတွင်...

မင်းခေါင်ဒုတိယ၊ တို့မွေးဖလျှင်၊ နားဝငြိမ့်ငြိမ့်၊ နှစ်သိမ့်ကြည်စွာ၊
တောင်းပန်ထွာသည်။ ။တန်ဆာဆင်စိမ့်သောကြောင့်တည်။

ဟူ၍ ကိုးခန်းပျို့ကို ဒုတိယမင်းခေါင် တောင်းပန်၍ ရေးသားရကြောင်းကို ပြဆို
သဖြင့် ဒုတိယမင်းခေါင် လက်ထက်မှာမှ ကိုးခန်းပျို့ကို စတင် ရေးသားသည်ဟု
မှတ်ယူသင့်သည်။ နိဂုံးလင်္ကာ အပိုဒ် ၈–တွင် ပါသည့်...

အစွန်းငါးခု၊ ပဿူအဋ္ဌ၊ ဒီဃသက္ကရာဇ်၊ ရောက်လစ်သောခါ၊ ...
တပို့တွဲ၌၊ ရောင်ကဲပဝင်း၊ လမင်းဖြူစင်၊ ထွန်းထင်ပြိုပြို၊ တစ်ဆယ့်

နှစ်ရက်၊ စနေနေ့ဝယ်၊ အပြီးသတ်၍၊ ရေးမှတ်ပုရပိုက်၊ တင်တုံ
လိုက်မှ . . .

ဟူသော စကားရပ်များကို ထောက်သဖြင့် သက္ကရာဇ် ၈၈၅–ခု၊ တပို့တွဲလဆန်း ၁၂–ရက်၊ စနေနေ့ ရွှေနန်းကြော့ရှင်လက်ထက်မှာ ပုရပိုက်ပေါ်တွင် ရေးသားပြီးစီးကြောင်း သိသာ၏။ သက္ကရာဇ် ၈၈၆–ခုနှစ်တွင် မိုးညှင်းစော်ဘွား စလုံသည် မြန်မာပြည်အတွင်းသို့ ချဉ်းနင်းကာ စစ်ကိုင်း၊ ကနီ စသည်ဖြင့် ဧရာဝတီမြစ်စဉ် တစ်လျှောက် သရက်မြို့တိုင်အောင် ပေါက်ရောက်လေ၏။ ထိုအခါ ပြည်ဘုရင် သတိုးမင်းစောလည်း မိုးညှင်း စလုံနှင့် သင့်တင့်အောင် ပေါင်းပြီးလျှင် ပြည်ဘုရင်က ရေကြောင်း၊ မိုးညှင်း စလုံက ကုန်းကြောင်းချီတက်၍ အင်းဝကို တိုက်ခိုက်ကြရာ အင်းဝဘုရင် ရွှေနန်းကြော့ရှင်လည်း မြို့မှထွက်ပြီးလျှင် အရှေ့ဆင်ကောင်း ဝက်ဝင် အရပ်၌ တိမ်းရှောင်၍ နေရလေ၏။ ထိုအခါ မိုးညှင်း စလုံက ပြည်ဘုရင် သတိုးမင်းစောကို အင်းဝမှာ နန်းတင်၍ မိမိမူကား ဆင်ကောင်း မြင်ကောင်းတို့ကို သိမ်းယူ၍ ပြန်လေ၏။ မိုးညှင်း စလုံပြန်လျှင် ပြည်ဘုရင်လည်း အင်းဝမြို့ရှိ လူကြီးလူကောင်းအချို့တို့နှင့်တကွ ရှင်မဟာရဋ္ဌသာရကိုပါ ပင့်၍ ပြည်သို့ပြန်လေ၏။ ရှင်မဟာရဋ္ဌသာရလည်း ရုတ်တရက် လိုက်ပါသွားရသဖြင့် ရေးသားပြီးစီး ပြီးဖြစ်သော ဟတ္ထိပါလပျို့ကို တစ်ခန်းစီ တစ်ခန်းစီ အသီးအသီး ဖတ်ရှုနေကြသော တပည့်များထံမှ ရှေ့ရှစ်ခန်း ကိုသာ စုဆောင်းရရှိ၍ မိမိနှင့်အတူ ဆောင်ယူသွားနိုင်သည်။ နောက်ဆုံး ဇာတ်ပေါင်းခန်းမူကား မည်သည့် တပည့်ထံမှာရှိသည်ဟူ၍ပင် မသိနိုင် ဖြစ်နေတော့၏။ ပြည်မြို့သို့ရောက်၍ ၂–နှစ်ကျော်သည့်တိုင်အောင် ဇာတ်ပေါင်းခန်းကို စုံစမ်းရှာဖွေ၍ မရသဖြင့် အသစ်ထပ်မံ ရေးသားသည်ကလည်း ပြီးစီး၊ မူလအဟောင်း ပျောက်နေသည့် အချိန်ကလည်း သုံးနှစ်ပြည့်ခါနီး ၈၈၈–ခုနှစ်ရောက်သောအခါ စစ်ကိုင်းမြို့နေ တပည့်များထံမှ ရှေ့က ရေးသားပြီးစီးနေသော ဇာတ်ပေါင်းခန်းကို ပြန်၍ရပြန်သည်။ သို့ဖြစ်၍ ဤဇာတ်ပေါင်းခန်း ဖြစ်ရပုံသည် ဗုဒ္ဓဃောသုပ္ပတ္တိကျမ်းလာ ရှင်ဗုဒ္ဓဃောသ၏ ဝိသုဒ္ဓိမဂ်ကျမ်းနှင့် တူနေသည်။ ရှင်ဗုဒ္ဓဃောသသည် ဝိသုဒ္ဓိမဂ်ကျမ်း ကို ပထမရေးသား ပြီးစီးရာ သိကြားက ဝှက်ထားသည်။ ဒုတိယလည်း ဝှက်ထားသည်။ တတိယရေးသားပြန်၍ ပြီးစီးသောအခါ သိကြားက ပြန်၍ပေးသည်။ ဤအဓိပ္ပာယ်ကို ရည်၍ . . .

ဗုဒ္ဓဃောသာ၊ ဆရာထေရ်မြတ်၊ ကဝိထွတ်လျှင်၊ ပိဋကနှုတ်၊
နက်စံထုတ်အာ၊ ဝိသုဒ္ဓိမဂ်၊ သစ်စက်စက်ကို၊ သိုဝှက်သိကြား၊

ကွယ်ရာ ထားမှ၊ စီးပွားရှာရှာ၊ နှင်းပြန်လှာသို့၊ ဤစာ ဇာတ်ပေါင်း၊ သုံးနှစ် အောင်း၍၊ အကြောင်း မသိ၊ ပျောက်ဖွယ်ရှိလိုက်၊ ဇာတိ ရိုက်ရာ၊ နန်းပွင့် ခါနှင့်၊ မကြာ ချိန်သင့်၊ ... မင်းရိုး မင်းသား၊ မင်းတရား၏၊ ရွှေနားတန်ဆာ၊ ရတနာဟု၊ သဒ္ဓါနှိုး ဆော်၊ နတ်များ ဖော်သည်။ ။ဘုန်းတော် အတုမဲ့တောင်းတည်း။

ဟူ၍ နိဂုံးလင်္ကာ ၉-နံပါတ်အပိုဒ်တွင် ပြဆိုထားလေသည်။

ဤကိုးခန်းပျို့သည် ဘုရားဟော ဝိသတိနိပါတ် ဟတ္ထိပါလ ဇာတ်တော်ကြီးကို မြန်မာဘာသာ ပြန်ဆို၍ စကားတန်ဆာ ဆင်ယင်ကာ ရေးသားထားသော ပျို့ဖြစ်သည်။ ထိုကြောင့် ဤပျို့ကို...

၁။ ဟတ္ထိပါလဇာတ်တော်ကို ဖွဲ့ဆိုခြင်း ကြောင့် ဟတ္ထိပါလပျို့။

၂။ ညီနောင်လေးပါး ဟောကြားအပ်သော တရားအဆီအနှစ်နှင့် ပြည့်စုံ ခြင်းကြောင့် စတုဓမ္မသာရပျို့။

၃။ အခန်းကြီး ကိုးခန်းဖြင့် ဖွဲ့နွဲ့ထားခြင်းကြောင့် ကိုးခန်းပျို့ဟူ၍ အမည်သုံးမျိုးဖြင့် ခေါ်ဝေါ် ပညတ်ကြသတည်း။

ရှင်မဟာရဋ္ဌသာရသည် မင်းသားလေးပါး တောထွက်ခန်း၌ မိမိအစွမ် ကုန် မွမ်းမံခြယ်လှယ်၍ ရေးသာ ဖွဲ့နွဲ့ထား၏။ ထိုကြောင့်ပင်လျှင် မင်းသားလေးပါး တို့၏ တရားများသည် လွန်စွာအနှစ်သာရနှင့် ပြည့်စုံ၍ တရားကြောင်း ဖွဲ့နွဲ့ပုံများမှာလည်း တစ်ခုနှစ်တစ်ခု မတူစေဘဲ တစ်မျိုး တစ်သီးတစ်ခြား စီ အာဘော်သစ် လဲလှယ်၍ ဖွဲ့နွဲ့ထား၏။ ထိုကြောင့် ဤပျို့သည် ဓမ္မကြောင်း၊ လောကကြောင်း၊ ရာဇကြောင်း အဘက်ဘက်တွင် စုံလင်သော ကျမ်းဖြစ်သတည်း။ ကိုးခန်းပျို့တွင် ရှင်မဟာရဋ္ဌသာရ အာ ချီးမွမ်းလောက်သော ဂုဏ်ကျေးဇူးများကား မိမိဖွဲ့ဆိုလိုသော အကြောင်း အရာ များကို ဥပမာ ဥပစာတို့ဖြင့် ဖွဲ့နွဲ့၍ ပြဆိုနိုင်ခြင်းများပင် ဖြစ်၏။

အာပေါ်ကမ္ဘာ၊ ဖျက်ပြုန်းခါ၌၊ ရူပါဝစရ၊ သောဠသတွင်၊ သုဘကိဏှာ အောက်၊ ဘုံတစ်လျှောက်ကို၊ လင်းပျောက်နိုင်အောင်၊ ပြည့်လျှမ်းဆောင် သည်၊ ရေတောင်မောက်ဖြိုး၊ ရှာသည့်မိုးထက်၊ ထမ်းပိုးလှင်ကန်၊ အပြန်ပြန်တည့်၊ သည်းထန်လှစွာ၊ ကိလေသာဟု၊ မဟာမေဃ၊

ဖြိုးဖြိုးကျလျက်၊ သောကစိမ့်ဧ၊ ယိုသားဘေးမှ၊ ဟန့်ထေးလို့ငှာ၊ ဘာဝနာဉာဉ်၊ သံပြားပျဉ်တီ၊ မြဲယှဉ်ပတ်ကုံး၊ လွှမ်းပိတ် ဖုံးသား၊ နှလုံးသခ်မ်း၊ ကျောင်းသာ ဝှမ်း၍၊ စွတ်ချမ်းဆိုးတောင်း၊ မကျဉ်း မြောင်းသည်၊ မြတ်ပေါင်းသဃ်ာ၊ အရိယာတို့ . . .

စသည်ဖြင့် ကိလေသာတည်း ဟူသော မိုးကြီး စီးယိုကျသည့်ဘေးမှ လွတ်မြောက် အောင် ဘာဝနာဉာဏ် တည်းဟူသော သံပြား ပျဉ်ပြားများဖြင့် ကာကွယ်ထားသည့် စိတ်နှလုံးတည်.ဟူသော ကျောင်းသခ်မ်းဟူ၍ ပြဆိုလေသည်။ ရှင်မဟာရဋ္ဌသာရသည် လောကအကြောင်းဘက်တွင် ရှင်သီလဝံသထက် နိုင်နင်းသည် ဖြစ်ရကား ဓမ္မကြောင်း နှင့်၊ လောကကြောင်းကို စာတစ်ပိုဒ်တည်းတွင် ယှဉ်၍ သုံးစွဲကာ ဉာဏ်စွမ်းပြလို သောကြောင့် . . .

တောရပ်သမီး၊ အိမ်ထောင်ကြီးလျှင်၊ သစ်သီးထမင်း၊ သစ်သီး ဟင်းဖြင့်၊ စင်းလျှင်း လုပ်ကျွေး၊ ဖြည့်သိမ်း မွေးလျက်၊ ညစ်ကြေး လောဘ၊ ဒေါသမောဟာ၊ ဆေးတတ်စွာသား၊ ပညာချိုးရေ၊ သွန်းပြီး စေမှ၊ ပြေပြေပြစ်ပြစ်၊ ဆံကျစ်ဥသျှောင်၊ လှအောင် ပတ်ထုံး၊ ပန်းကုံး သဒ္ဒါ၊ ဆင်ပြီးစွာမှ၊ ကြေညာ လှိုင်ခြင်း၊ သီတင်း စန္ဒန၊ ဧမြချမ်းကြည်၊ နှင်းရည် မွေးဖျော်၊ အကျော် လိမ်းသပ်၊ ထက်ကြပ်ဝတ်စား၊ တရား ပုဆိုး၊ အဖိုးခဲအင်၊ ငါပြုပြင်အံ့ . . .

စသည်ဖြင့် ဓမ္မကြောင်းကို လောကကြောင်းဖြင့် အမွှမ်းတင်၍ တစ်ပါတည်း ဖွဲ့ဆိုသွားနိုင်သည်။ ထိုကြောင့် ရှင်မဟာရဋ္ဌသာရအား လွန်စွာ ချီးမွမ်းထိုက်ပေသည်။

## ဂမ္ဘီသာရပျို့

ဂမ္ဘီသာရပျို့ကို ရှင်မဟာရဋ္ဌသာရသည် မည်သည့် သက္ကရာဇ်၌ ရေးသား ပြုစုခဲ့သည်ဟူ၍ အသေအချာ မသိရှိရပေ။ ရွှေနန်းကြော့ရှင် လက်ထက်တွင် ပြုစု ကြောင်းကိုသာ သိရ၏။ ဂမ္ဘီသာရဟူသည်မှာ အမျိုးလေးပါးတို့အား သွန်သင်ဆုံးမ သြဝါဒစကား မှာကြားခဲ့ရန် ကျင့်ဖွယ်ရာ ဝတ္တရာအမျိုးမျိုးတို့ကို ကျမ်းအစောင်စောင် တို့မှ ထုတ်နုတ်၍ အလွန်နက်နဲစွာလှ အနှစ်သာရနှင့် ပြည့်စုံအောင် စကားတန်ဆာ ဆင်ကာ ရေးသားထားသော ဆုံးမစာကျမ်း ဖြစ်ပေသည်။ ထိုပြင်လည်း ဆုံးမစာဟု

ခေါ်ဆိုအပ်သော ပျို့များတွင် ဤဂမ္ဘီသာရပျို့သည် အကောင်းဆုံးကျမ်းပင် ဖြစ်သည် သာမက အမျိုးလေးပါးတို့အား ကိုယ်ကျင့်တရား ကောင်းမွန်ရေးကို ပြုပြင်ပေးရာ၌ ခရီးရောက်သော ပျို့လည်း ဖြစ်သည်။

## သံဝရပျို့

သံဝရပျို့သည် ရှင်မဟာရဋ္ဌသာရ နောက်ဆုံး ရေးသားပြုစုသော ပျို့ဖြစ်ပေသည်။ ရေးသက္ကရာဇ်ကား ၈၉၁-ခုနှစ်တည်း။ ပြည်ဘုရင်ထွေးအား ဆက်သသော ပျို့ဖြစ်သည်။ ကောဒသနိပါတ် သံဝရဇာတ်တော်လာ ဗာရာဏသီပြည် ဗြဟ္မဒတ်မင်း၏ သားတော် တစ်ရာတွင် အငယ်ဆုံး သံဝရမင်းသားသည် ဘုရားလောင်း အမတ်ကြီး၏ ဩဝါဒကို ခံယူကာ အရာရာ၌ လုံ့လပြုခြင်းကြောင့် ခမည်းတော် အမွေကို ဆက်ခံ၍ မင်းပြုရကြောင်း၊ အခြားနောင်တော်တို့က အားလုံး ကျေနပ်ကြကြောင်းတို့ကို ဖွဲ့နွဲ့ရေးသားထား၏။ ပျို့တစ်ခုလုံးတွင် အဖိုးထိုက်တန်သော စာသားများကား ဆုံးမစကားများပင် ဖြစ်သည်။ သို့သော် ဂမ္ဘီသာရပျို့လာ ဆုံးမစကားများကဲ့သို့ လောကကြောင်း မနွယ်ဘဲ သံဝရပျို့မှာ ရာဇကြောင်း နွယ်၍ ရေးသားဖွဲ့နွဲ့သည်။ ကိုယ်တိုင်က နန်းတွင်း၌ ကြီးပြင်းသူဖြစ်ရကား ရာဇကြောင်း ဘက်တွင် များစွာကျွမ်းကျင်ပြီးဖြစ်သောကြောင့် ဤပျို့သည် အပြစ်ဆိုဖွယ်မရှိအောင် ကောင်းမွန်လှပေသည်။ ရှင်မဟာရဋ္ဌသာရသည် ဤကျမ်းကို ပြုစုပြီး နောက်တစ်နှစ် သက္ကရာဇ် ၈၉၂-ခု၊ သက်တော် ၆၂-နှစ်တွင် ပျံလွန်တော်မူ၏။

ဤပျို့များမှအပ ရှင်မဟာရဋ္ဌသာရ ပြုစုခဲ့သော ကျမ်းများသည် ပုံတောင်နိုင်မော်ကွန်း၊ ဝတ်ရုံကျောင်းဖွဲ့ မော်ကွန်း၊ ရတနာပူရမြို့တည် မော်ကွန်း၊ မိတ္ထီလာကန်တော်ဖွဲ့ မော်ကွန်း၊ ရဲရည်တက်မော်ကွန်းများနှင့် ရတုကဗျာများ ဖြစ်သည်။ စပ်ဆိုသော ရတုကဗျာများသည် မယ်ဘွဲ့ မောင်ဘွဲ့ ရတုများ မဟုတ်ပေ။ ပြည်မြို့ ဝံတောင်လယ် ဘုန်းတော်ကြီးနှင့် အပြန်အလှန် အမေးအဖြေပြုကြသော ရတုများ ဖြစ်သည်။

## ဝံတောင်လယ် ဘုန်းတော်ကြီး

ဤဘုန်းတော်ကြီးသည် ရတုအဖွဲ့အနွဲ့ လွန်စွာကောင်း သည်။ ပြည်မြို့ဇာတိ ဖြစ်၍ ဘွဲ့တော်မှာ သဒ္ဓမ္မဓေတဖြစ်သည်။ ရှင်မဟာရဋ္ဌသာရ ပြည်မြို့သို့ရောက်သော်

ဤဘုန်းတော်ကြီးနှင့် အပြန်အလှန် ရတုဖွဲ့ဆိုကြသည်။ ဖွဲ့ဆိုသော ရတုများမှာ တရားဒေသနာများ၏ ခဲရာခဲဆစ်အကြောင်းအရာများ ဖြစ်သည်။ ဘုန်းတော်ကြီးသည် ရှင်မဟာရဋ္ဌသာရကို အမှီသဟဲပြု၍ နာမည်ကြီးရလေသည်။

## ရှင်မဟာသီလဝံသနှင့် ရှင်မဟာရဋ္ဌသာရ ပုဂ္ဂိုလ်နှစ်ပါးကို နှိုင်းယှဉ်ချက်

ရှင်မဟာသီလဝံသ ရေးသားပြုစုခဲ့သော ကျမ်းများကိုလည်း အတော်အတန် ဖော်ပြပြီးခဲ့ပြီ။ ရှင်မဟာရဋ္ဌသာရ ဖွဲ့နွဲ့စီကုံးအပ်သော ကျမ်းများကိုလည်း မယုတ်မလွန် ခွဲခြားဝေဖန်ပြီးခဲ့ပြီ။ ဤပုဂ္ဂိုလ်နှစ်ပါးသည် တစ်ခေတ်တည်း ပေါ်ပေါက်၍ တစ်ဘုရင် တစ်မင်းတည်းက ချီးကောက်မြှောက်စားခြင်း ခံရသည်သာမက တစ်ပါးနှင့် တစ်ပါးလည်း ပြိုင်ဆိုင် စာဆိုဘက်ဖြစ်သောကြောင့် ဤပုဂ္ဂိုလ်နှစ်ပါး၏ ကဗျာဉာဏ်အာဘော်ကို ခွဲခြားဝေဖန် သိရှိနားလည်ထိုက်လှပေသည်။ စာပေဖွဲ့နွဲ့စီကုံးရာတွင် ဓမ္မကြောင်း၊ လောကကြောင်း၊ ရာဇကြောင်းဟူ၍ရှိရာ ရှင်မဟာသီလဝံသသည် ဓမ္မကြောင်းဘက်တွင် အားသန်သည်။ ကျမ်းဂန်များတွင် သူမတူအောင် သိမြင်နှံ့စပ်သော ပုဂ္ဂိုလ်ဖြစ်ရကား တရားအဆီအနှစ်ကို ထုတ်နုတ်သုံးစွဲရာ၌ ရှင်မဟာရဋ္ဌသာရထက် ဉာဏ်ရည်သာသည်။ တရားပြည့်ဝသူဖြစ်၍ စိတ်သဘောထားလည်း နူးညံ့သည်။ ရှင်မဟာရဋ္ဌသာရသည်ကား မင်းမျိုးမင်းနွယ်မှ ဆင်းသက်၍ နန်းတွင်း၌ ကြီးပြင်းရသူဖြစ်သည့်ပြင် ရှင်သီလဝံသထက် ငယ်ရွယ်သူဖြစ်ရကား စိတ်ခက်ထန်သည်။ မာန်မာနကြီးသည်။ ကိုးခန်းပျို့နိဂုံး၌ . . .

> ငါနှင့်ငါသာ၊ နှိုင်းစရာဟု၊ ပညာမုန်ယို၊ အရွယ်ပျိုက၊ မဆိုစလောက်၊ မာန်စောင်မြှောက်၍၊ နှုတ်ငေါက်လွန်မိ၊ ဒေါသရှိလည်း၊ နောက်ပြိုတစ်ခါ၊ ရိုသေစွာလျှင်၊ ဤစာကိုးခန်း၊ ပုလဲပန်းဖြင့်၊ စိတ်ကျန်းမာန်လျော့၊ ငါ ကန်တော့၏။

ဟူ၍ မာနပင် ငယ်စဉ်က တက်ခဲ့သော်လည်း ကြီးမှ နောင်တရ၍ မာနကို ချိုးနှိမ်ခဲ့လေသည်။

ရှင်မဟာရဋ္ဌသာရ ရေးသာ စာများမှာကား ရာဇကြောင်းနှင့် လောကကြောင်းဘက်တွင် အာ သန်၏။ နန်းတွင်းအဖြစ်အပျက် အကြောင်းအရာများ၊ လောက

ထူးခြားသည်ကား ထိုသို့ကျော်ကြားသော ရှင်မဟာရဋ္ဌသာရ၏ စာများသည် ရှင်မဟာသီလဝံသ စာများလောက် မနက်နဲ၊ နုရုံ ယဉ်ရုံမျှသာ ရှိ၏။ ထို့ကြောင့် ရှေးဆရာကြီးများက ရှင်မဟာရဋ္ဌသာရ၏ စာများမှာ တူရိယာ ၅-ပါးကို တစ်ပြိုင်နက်တည်း တီးသကဲ့သို့ ကြားရသူတို့၏နား၌ လွန်စွာ သာယာနာပျော်ဖွယ် ဖြစ်ပေ၏။ သို့သော် မလေးနက်လှ၊ အဝေးသို့လည်း မရောက်၊ ရှင်မဟာသီလဝံသ၏ စာများကား စည်တော်ကြီး ရွမ်းသည်နှင့် တူလှစွာ၏။ နား၌ သာယာနာပျော်ဖွယ် မဖြစ်လှသော်လည်း နက်နဲလှ၏။ အဝေးသို့လည်း ရောက်၏။ ရှင်မဟာသီလဝံသ သည် စကားများကို တန်ဆာဆင်ခြင်း၌ အချက်ကျကျ ခမ်းနား ပြေပြစ်အောင် ဆင်နိုင်၏။ ရှင်မဟာရဋ္ဌသာရက အကျဉ်းချုပ် ပါဠိအဖွဲ့အနွဲ့များကို အကျယ်ဖွင့်၍ ရေးသားနိုင်၏။ ကျေးသားကဲ့သို့ စကားတတ်ပွန်ကြွယ်ဝလှ၏။ သို့ပါသော်လည်း နက်နဲသိမ်မွေ့ခြင်းများစွာမရှိ။ ထို့ကြောင့်ပင် ရှေးပညာရှိကြီးများက . . .

တောင်ကိုမဖောက်၊ တောင်းကိုဖောက်သည်၊ စူးဆောက်ပမာ၊ ရဋ္ဌသာ . . .

ဟူ၍လည်းကောင်း . . .

တောင်းကိုမဖောက်၊ တောင်ကိုဖောက်သည်၊ စိန်ကျောက်အသွင်၊ သီလဝင် . . .

ဟူ၍လည်းကောင်း . . .

စကားချီးကျူးခြင်း ပြုကြသည်။ ဒုတိယမင်းခေါင်သည် ရှင်သီလဝံသကို ပိုမိုမြှောက်စားပေ၏။ တိုင်းသူပြည်သားများကမူ အင်းဝသား ဇာတိမဟုတ်၍ မမြှောက်စားချင်ကြပေ။ ဒုတိယမင်းခေါင်ကိုယ်တိုင်က ရှင်မဟာရဋ္ဌသာရထက် ကျော်လွန်၍ မြှောက်စားသည်ကို ထောက်လျှင် ရှင်မဟာသီလဝံသသည် နေပြည်တော် ဆရာ ရှင်မဟာရဋ္ဌသာရထက် ဉာဏ်ရည်သာလွန်သည်ဟု ဘုရင်မင်းမြတ် ယုံမှတ်တော်မူကြောင်း ထင်ရှား၏။ ဘုရင်မင်းခေါင်သည် ရှင်သီလဝံသအား မြှောက်စားလွန်း၍ ရှင်မဟာရဋ္ဌသာရက စိတ်နာနာနှင့် ရေးသားဆက်သွင်းသော **"ပိတိပြောဟုံ"** ချီ ရတုတတိယအပိုဒ်တွင် . . .

ပင်္ဂိသနွေ၊ ပညာထွေဖြင့်၊ ကြံလေသမျှ၊ မိုးကြိုးကျ၍၊ ဆိုကဖောက်ထွင်း၊ ထဲနက်ချင်း၏၊ လျှပ်ပြင်း ပညာ၊ ဆန်းလင်္ကာနှင့်၊ သဒ္ဒါပရမတ်၊

လောကဝတ်လည်း၊ ပတ်ပတ်လျှင်လျှား၊ ရဟတ်ချားသို့၊ စကားချဲ့ချုံ၊ နှလုံးနှုတ်လျှာ၊ လိုတိုင်းပါသား၊ ညာရောင်ဖိတ်၊ ပုရောဟိတ်သို့၊ ကရဝိက် ဥဒေါင်း၊ ကျူးသံညှောင်းကို၊ စောလောင်းဘုန်းဝှန်း၊ နာလိုက် တန်လျက်၊ သားငှက် မည်မည်၊ တွန်လေသည်ကို။ ။ချစ်ကြည် လွှန်နှမြော၏တည်း။

ဟူသော ကဗျာဖြင့် မိမိကိုယ်ကိုကား ကရဝိတ် ဥဒေါင်းငှက်အသွင်၊ ရှင်မဟာသီလဝံသကိုမူ သာမညသားငှက်အသွင်ထား၍ ကြားနာသူ ဘုရင်မင်းခေါင်အား သိမြင်စေခဲ့လေသည်ကိုထောက်လျှင် ရှင်မဟာရဋ္ဌသာရသည် ရှင်သီလဝံသကို ကျော်လွှန်ဖို့ မိမိဉာဏ်ရည် မစွမ်းနိုင်ကြောင်းကို သိလျက်နှင့် အရွဲ့တိုက်နေကြောင်းကို ထင်ရှား တော့၏။

## ကန်တော် မင်းကျောင်း ဆရာတော်

ဤပုဂ္ဂိုလ်သူမြတ်သည် သက္ကရာဇ် ၈၄၂–ခုနှစ်၊ အင်းဝရွှေနန်းကို သိမ်းမြန်း စိုးစံတော်မူသော ဒုတိယမင်းခေါင်၏ အရီးတော် စစ်ကိုင်းမြို့စား မင်းလှထွတ်၏ ဆရာဖြစ်သည်။ ၈၆၃–ခုနှစ် နန်းတက်သော ရွှေနန်းကြော့ရှင်၏ အရီးတော် ဘိုးတော် ဘွားရှင်၏ ဆရာလည်း ဖြစ်သည်။ ဘိုးတော် ဘွားရှင်သည် မင်းလှထွတ်၏ တူမလည်း ဖြစ်၊ ချွေးမလည်း ဖြစ်သည်။ မင်းလှထွတ်လက်ထက်မှ စ၍ ဘိုးတော် ဘွားရှင်တို့ လက်ထက်တိုင် ဆက်လက်ကိုးကွယ်သော ဆရာဖြစ်တော်မူသည်။ စစ်ကိုင်းစီရင်စု မြင်းမူမြို့မှ ၂–တိုင်ခန့်ကွာဝေးသော ထီးဆောင်းရွာ မြောက်ဘက် ကန်တော်ရွာတွင် ဖွားမြင်တော်မူသည်။ မိဘမည်ရည်နှင့် ဖွားသက္ကရာဇ်ကိုကား သေချာစွာ မသိရပေ။ ဒုတိယမင်းခေါင် လက်ထက်တော်နှင့် သားတော် ရွှေနန်းကြော့ရှင် လက်ထက်တွင် လောကဓမ္မနှစ်ဝသော ကျမ်းဂန်တို့ကို တတ်မြောက်၍ ထင်ရှား ကျော်စောသော ဆရာတော်ဖြစ်သည်။ ကန်တော်မင်းကျောင်း မေတ္တာစာသည် ထိုပုဂ္ဂိုလ်သူမြတ် ပြုစုသောစာဖြစ်သည်။ ကန်တော်ရွာအနီး မင်းဆောက်လုပ် လှူဒါန်းတော်မူသော ကျောင်းတွင် သီတင်းသုံးသည်ကို အစွဲပြု၍ ကန်တော်မင်းကျောင်းဘုန်းကြီးဟု တွင်သည်။ ဤစာသည် လောကဒ္ဓ တွေးထောက်ဆင်ခြင်၍ ကျင့်အပ်နည်း ယူ မှတ်သားအပ်သော စကားပုံထုံးတီးနည်းနာများကို ပြသဆုံးမရန် ရေးသား၍ ဒုတိယမင်းခေါင်ထံသွင်းအပ်သော မေတ္တာစာဖြစ်သည်ဟု ဆိုကြ၏။ ဤမေတ္တာစာ

အချို့စကားတွင် **'ရွှေဂူဒါယကာ မဟာဓမ္မရာဇ်'** ဟု လာရှိသည်ကို ထောက်သော် ရွှေဂူဒါယကာအမည်ခံ မင်းထံ တင်သွင်းသည်ဟု ဆိုရမည် ဖြစ်၏။ ရာဇဝင်များမှာ ဒုတိယမင်းခေါင်၏ ကောင်းမှုစာရင်းတွင် ရွှေဂူဥမင်တည်ထားခဲ့ကြောင်း မတွေ့ရ၊ ရွှေနန်းကြော့ရှင်၏ ကောင်းမှုစာရင်းမှာသာ တွေ့ရသဖြင့် ရွှေနန်းကြော့ရှင်သာ ရွှေဂူဒါယကာ အမည်ခံထိုက်သောကြောင့် ရွှေနန်းကြော့ရှင်ထံသွင်းသော မော်ကွန်းစာ ဖြစ်သည်ဟု ဆိုသင့်လေသည်။

> မပေးဘဲကို မလိုလင့်၊ မမေးဘဲကို မဆိုလင့်၊ မခေါ်ဘဲကို မသွားလင့်၊ မမြိန်ဘဲကို မစားလင့်၊ မမှည့်ဘဲကို မဆွတ်လင့်၊ မတင့်ဘဲကို မဝတ်လင့်၊ တိတ်တိတ်နေသော် ထောင်တန်၏၊ လူလိုက နတ်လိုကာ၊ လူကြိုက်က နတ်ကြိုက်ကာ၊ မပေါ့မလေး၊ မနေးမလျင်၊ ရွှေချိန်ခွင်သို့၊ မတင်းမလျှော့၊ လှေဖောင် ဖော့သို့၊ မလျှော့ ပညာ၊ တံငါလုလင်၊ မျှားကြိုးငင်သို့၊ ပညာရှိမှ ခွင့်သိသည်...

စသည်ဖြင့် လွန်စွာလွယ်ကူသော စကားဥပမာများဖြင့် ရိုးရိုးသားသားပင် ဖွဲ့နွဲ့ ထားကာမူ အဓိပ္ပာယ်မှာ လွန်စွာကျယ်ဝန်း၍ လေးနက်လှပေသည်။ **'သတိမမူ ဥမမြင်'** ဟူသကဲ့သို့ ကျွန်ုပ်တို့ နေ့စဉ်နေ့တိုင်း သွားလာနေထိုင် လုပ်ကိုင်စားသောက် ရာများတွင် ဆင်ခြင်ရန်၊ တိုင်းထွာရန် သတိပေးသော စကားလုံးများဖြစ်၍ လွန်စွာမှ နက်နဲလှ၊ အဖိုးလည်း ထိုက်တန်လှပေသည်။ အလွန်ရှည်လျားသော အဆုံးမစကားများကို အကျဉ်းရုံး၍ လေးနက်ပေါ်လွင်စွာ စပ်ဆိုထား၏။ ဇာတ်နိပါတ် တော်များ၊ ရာဇဝင်ကျမ်းများမှလည်း တရားသံဝေဂဖြစ်ဖွယ်၊ ထုံးနည်းဥပဒေသ ယူဖွယ်များကို ကောင်းနိုးရာရာ ထုတ်နုတ်၍ ပြဆိုသောစာဖြစ်သည်။ ဤမော်ကွန်းစာ သည် အဟောင်းဆုံး မော်ကွန်းစာ မဟုတ်သေး။ သက္ကရာဇ် ၇၆၆–ခုနှစ်၊ အင်းဝ ပထမမင်းခေါင်ကြီးလက်ထက် တလိုင်းမင်း ရာဇာဓိရာဇ်နှင့် စစ်ဖြစ်ပွားရာတွင် ငကြိုသူမြတ်က ရာဇာဓိရာဇ်သို့ ဆက်သသော မော်ကွန်းစာ စကားပြေသည် တွေ့ရ သမျှတွင် အဟောင်းဆုံး ဖြစ်သည်။ ထိုနောက် ဒုတိယမင်းခေါင်လက်ထက် ရှင်မဟာရဋ္ဌသာရ ဆက်သွင်းသော မော်ကွန်းစာနှင့် ရှင်မဟာသီလဝံသ၏ ကေပိုဒ် မော်ကွန်းစာ၊ ရှင်တေဇောသာရ မော်ကွန်းစာများသည်လည်း ဤကန်တော်မင်းကျောင်း မော်ကွန်းစာထက် စော၏။ ဘုရင်မင်းမြတ်၏ မော်ကွန်းတော်ကို ခံယူလို၍ ဘုရင်မင်းမြတ် အား တောင်းပန်သော စာများဖြစ်ကြ၏။ ကန်တော်မင်းကျောင်း မော်ကွန်းစာကား မော်ကွန်းကို ပို့သ၍ ဘုရင်မင်းမြတ်အား ဆုံးမသွန်သင်သောစာ ဖြစ်၏။

မေတ္တာစာနှင့် ဆုံးမစာ ကွဲပြားခြားနားသည်ကိုလည်း သတိပြုရာသည်။ အင်းဝခေတ်တွင် ဘုန်းတော်ကြီး ရဟန်းတော်များသာ မေတ္တာစာ ရေးသားကြသည်။ လူပုဂ္ဂိုလ်များ မရေးကြ။ ထို့ကြောင့် ရဟန်းတော်များက ဂုဏ်ကြီးသူအတွက် ရေးလျှင် မေတ္တာစာ၊ ဂုဏ်ငယ်သူအတွက် ရေးလျှင် ဆုံးမစာဟူ၍ ခေါ်ကြသည်။ ပုံစံမှာ ဘုရင်မင်းမြတ်အား ဆုံးမသော စာဖြစ်လျှင် ဘုရင်မင်းမြတ်သည် ဂုဏ်ကြီးသူဖြစ်၍ ဆုံးမစာဟု မခေါ်ဘဲ မေတ္တာစာဟု ခေါ်တွင်၏။ စာရေးဆရာသည် မိမိထက် ငယ်ရွယ်သူ ဂုဏ်ရည်နိမ့်သူအတွက် ဆုံးမပဲ့ပြင် သွန်သင်သောစာဖြစ်လျှင် ဆုံးမစာဟု ခေါ်ဆိုနိုင်၏။

(တစ်နည်းအားဖြင့်ကား အရင်းက အချီစကားမှာ မေတ္တာသွန်းလောင်းကြောင်း ပါလျှင် မေတ္တာစာ၊ မေတ္တာသွန်းလောင်းကြောင်း မပါဘဲ မှတ်သားဖွယ်ရာများကိုသာ ရေးသားထားပါလျှင် ဆုံးမစာဟူ၍ မှတ်ယူအပ်၏။)

ထို့ကြောင့် ကန်တော်မင်းကျောင်း ဆရာတော်သည် ငယ်ရွယ်သူအတွက် ရည်မှန်း၍ **'လောကသာရ'** ဆုံးမစာပျို့ကို ရေးသားပြုစုသေးသည်။ ဤပျို့သည် ရှင်မဟာရဋ္ဌသာရရေး **'ဂမ္ဘီသာရ'** ဆုံးမစာပျို့ကဲ့သို့ပင် လောကကြောင်း ပုံသက်သေများကို ထုတ်နုတ်ပြသသည်။ ဘုရင်မင်းမြတ်အား ဆုံးမသည့် မေတ္တာစာမျိုးကဲ့သို့ ကျမ်းဂန် ရာဇဝင်များမှ ကိုးကား၍ မပြချေ။

## ရှင်တေဇောသာရ

ဤပုဂ္ဂိုလ်သည် အင်းဝမြို့သားဇာတိဖြစ်၍ ရှင်မဟာရဋ္ဌသာရ၏ တပည့်ရင်း ဖြစ်သည်။ ရှင်သီလဝံသနှင့် ရှင်ရဋ္ဌသာရတို့သည် အပြိုင်စာဆိုသကဲ့သို့ တပည့်ဖြစ်ကြသူများ ရှင်အုံးညိုနှင့် ရှင်တေဇောသာရတို့သည်လည်း အပြိုင် စာဆိုကြသည်။ သက္ကရာဇ် ၈၇၁-ခုနှစ် ရှင်တေဇောသာရ ရေးသားဖွဲ့နွဲ့သော **'ဓတရဋ္ဌသုဝဏ္ဏဟံသပျို့'** သည် ဘုရားဟော အသီတိ နိပါတ် မဟာဟံသဇာတ်တော်လာ ဘုရားလောင်း ဟသ်ာမင်း၏ အကြောင်းကို ကဗျာတန်ဆာ ဆင်ထားခြင်းပေတည်း။ ဤကဗျာတွင် ရှင်တေဇောသာရသည် အခြားပျို့ဆရာများနှင့် သိသိသာသာထူးကွာခြားသည်။ ပျို့ကဗျာလင်္ကာဆရာတို့မည်သည် ပျို့ကဗျာများကို ရည်ရွယ်ချက်တစ်ခုစီထား၍ ရေးသားကြသည်။ ရှင်တေဇောသာရ၏ ရည်ရွယ်ချက်သည် အခြားဆရာများ ရည်ရွယ်ချက်ကဲ့သို့ တိုက်ရိုက်မကျလွန်း၊ မသိမသာ သွယ်ဝိုက်၍

ဘွဲ့လည်း၍ မိမိလိုရင်း ရည်ရွယ်ချက် အထမြောက်အောင် ရေး သည်။ ရှင်သီလဝံသ၊ ရှင်ရဋ္ဌသာရတို့ ရေးသောစာများ သည် ဓမ္မကြောင်းနွယ်သည်ဖြစ်၍ ထိုပုဂ္ဂိုလ်တို့သည် ထိုခေတ် အမျိုးလေးပါးတို့အာ ကုသိုလ်တရား ပွားများ စေရန်၊ စိတ်နှလုံး သိမ်မွေ့နူးညံ့စေရန်နှင့် သာသနာတော်ကြီးကို ထွန်းပစေရန်ကို ရည်ရွယ် ရေး သားတော်မူကြသည်။ ရှင်တေဇောသာရကား ရာဇကြောင်း သက်သက်ဘက်သို့ နွယ်၍ ရေးသောကြောင့် အရှင်သခင်မင်း၏ ကျေးကျွန်ဖြစ်ကြကုန်သော အမတ်လုလင် အရာရှိဟူသမျှတို့သည် ကျေးဇူးသစ္စာတရားကို စောင့်ထိန်းစေရန် ရည်ရွယ်၍ ဧွှေဟသာ်ပျို့ကို ကောက်နုတ်ထုတ်ယူဟန် ရှိသည်။ ဤပျို့တွင် ရွှေဟသာ်မင်း သည် ဒွတ်ကွင်းတွင် မိသည့်အခါ သုမုခ ဟသာ် ဗိုလ်မှူးကြီး နှင့် အပြန်အလှန် ပြောဆိုသော စကားများကို ရှင်တေဇောသာရသည် များစွာ အမွှမ်းတင်၍ ရေး ခဲ့ရာ၌ . . .

> ဆိုဖွယ်တစ်ထွေ၊ ပမာသွေအံ့၊ ရေး၏ကျေးဇူး ၊ အထူးမသိ၊ အညှိမစို၊ အကိုယ်ခြောက်ခြောက်၊ အိုခြမ်းကျောက်ကာ ၊ ခေါက်ခေါက်မာချော်၊ ခက်တရော်လျှင်၊ မပေါ်ရေထဲ၊ မြင့်မြဲတာရှည်၊ ရေဋ္ဌတည်လျက်၊ မရည်မကိုး၊ အကျိုးမထင်၊ အတိုင်ပင်သို့၊ အကြင်လူ့ဘော်၊ သူမတော် လည်း၊ မမြော်တရား၊ သူတော်အားကိုး၊ စီးပွားမဆောင်၊ တောင်နှင့် အတိ၊ ကျေးဇူးရှိလည်း၊ မသိလေဘဲ၊ လွန်စဉ်းလဲခဲ့၊ မဲ့ညစ်မညှိုး၊ ကြာပန်းမျိုးနှင့်၊ စိုစိုးစိမ်းစိမ်း၊ ရှိမ်းရှိမ်းမြမြ၊ လန်းလန်းထသား၊ ရေစနီးပါး၊ မြက်နေဇာကာ၊ တစ်ခါတစ်ရံ၊ ရေနှင့်ဆံက၊ ပင်တံ ဖွံ့ထွား၊ သိုးသိုးသားလျှင်၊ ဖွားဖွားရွက်နု၊ မြသေတ္တာသို့၊ မရှုကျင်ရှု တင့်လွန်ကဲ၏။

ဟုသည်ဖြင့် ကျေးဇူးမဲ့သူနှင့် ကျေးဇူးသိတတ်သူနှစ်ဦးကို ဥပမာ ဖွဲ့ဆိုနှိုင်းယှဉ်၍ ဖော်ပြခြင်းသည် ရှင်တေဇောသာရ၏ ဝက်ဝတ္တိ ကဗျာညာဏ်ပင် ဖြစ်၏။ မင်းမှူး မတ်တို့အား **'အသင်တို့သည် ကျေးဇူးတရားကို သိကြကုန်လော့'** ဟူ၍ တိုက်ရိုက် မဆိုဘဲ **'စစ်သူကြီး သုမုခသည် တိရစ္ဆာန်ငှက်ပင် ဖြစ်လင့်ကစား အရှင်သခင်၏ ကျေးဇူးတရားကို သိသေး၏။ လူသို့မူကား အဘယ်ဆိုဖွယ်ရာ ရှိတော့အံ့နည်း'** ဟူ၍ စိတ်ဓာတ်၌ ဖြစ်ပေါ်လာအောင် ကဗျာလင်္ကာဖြင့် ဖွဲ့နွဲ့တတ်ခြင်းသည် ချီးမွမ်းဖွယ်ရာပင်တည်း။ ထိုအခါက ရှမ်းမင်း စလုံတို့သည် အင်းဝရွှေနန်းကို သုယူရန် ကြံစည်ချောင်းမြောင်းနေကြကြောင်းကို ရှင်တေဇောသာရ ရိပ်မိလေသလား

မသိ၊ ကျေးတော်မျိုး ကျွန်တော်မျိုးတို့သည် မိမိအရှင်သခင်၏ ကျေးဇူးကြီးကြောင်းကို **'အကောင်ထင်ကြစေရန် အရိပ်ပြခဲ့'** သည်။ ထိုမှျမက ကဗျာလင်္ကာဖွဲ့ရာတွင်လည်း ပင်ကိုယ်ဉာဏ်ကို သုံး၍ အဆန်းထွင်တတ်သည်။ ရှေးပျို့အဖွဲ့တို့ကား ရိုးလေကုန်ပြီ။ ထိုကြောင့် ဖတ်ရှုသူတို့ ငြီးငွေ့ကြတော့မည် ဟူ၍ လူ့သဘောကို ကြိုတင်သိထာ သကဲ့သို့ ရွှေဟင်္သာပျို့၏ အပိုဒ်အဖျားချများတွင် ရှေးဆရာများ ဖွဲ့စပ်နည်းမျိုးနှင့် ထပ်တူမရှိရအောင်...

သူတော်မွန်တို့၊ ကျင့်ဟန်နည်းယူ၊ ငါ့မူခိုးခိုး၊ အကျိုးမြင်မြင်၊ ကောင်းစေချင်၍၊ ငါလျှင်နေ့ည၊ မစသို့ပင်။ ။လက်ထပ်သင်သည် သင်ရသို့...

ဟူ၍လည်းကောင်း။

ဆိုတွေ ကြောင်းလမ်း၊ စူးစမ်းသည်သာ၊ ထဲမလာသည်၊ သစ္စာမြဲတည်၊ မောင့်အရည်ကား၊ လူ့ပြည်တစ်လွှား၊ ရှာသော်ရှား၏၊ သနားချစ်ခင်။ ။ငါလျှင် ကြင်သည် ကြင်ရသို့...

ဟူ၍လည်းကောင်း။

နှစ်ခြိုက် ချစ်ကြည်၊ အရည်အလျောက်၊ သူကောင်း မြှောက်၍၊ လက်အောက်သိမြင်။ ။ကြီးရာတင်သည် ထင်ရသို့...

ဟူ၍လည်းကောင်း။

ဤသို့ စသည်ဖြင့် သုံးပိုဒ် သုံးပိုဒ် တစ်တွဲစီ အချဆန်း အချသစ်များဖြင့် တန်ဆာဆင်ထားသည်မှာ နှစ်သက်ဖွယ်ပင် ဖြစ်တော့သည်။ ဤအဖျားချများကိုပင် ပြည်နဝဒေးကြီးသည် မိမိ၏ရတုများတွင်...

ဖြူရွှင်းရောရှ၊ နောင်သက်စုကို၊ နှိုင်းရှုချေမှု၊ ထွားပြာဖြူသည်။ ။မတူ၏သို့ တူ၏သို့...

မယ့်ဆီတူရှု၊ သည်မိုးဖြူသည်။ ။ကလူ၏သို့ မြူ၏သို့...

စသည်ဖြင့် အတုယူကာ ဖွဲ့နွဲ့စပ်ဆိုသေးသည်။ ရွှေဟင်္သာပျို့ ရေးပြီး၍ တစ်ဆယ့်ခုနစ်နှစ်အကြာတွင် ရှမ်းမိုးညှင်းစလုံ၏ ရန်မီးစနက်ကြောင့် အင်းဝထီးကနက်ကြီး

ပျက်စီးယိုယွင်းသည်သာမက သိုဟန်ဘွားက သာသနာစောင့် ဖြစ်ကြကုန်သော ရဟန်းတော်များကိုပင် ပရိယာယ်ဖြင့် ဖမ်းယူကွပ်ညှပ်၊ ဓာတ်တော်မွေတော်တို့ ကိန်းဝပ်ရာ ဘုရားစေတီများကို ဖြိုဖျက်သုံးစွဲခြင်းဖြင့် သာသနာတော်ကြီး ညှိုးနွမ်း ပျက်စီးနေသည့် အချိန်တွင် အင်းဝမြို့မှ အသက်မသေကျန်ရှိသော ရဟန်းတော် များသည်လည်း တောင်ငူသို့ တစ်လီ၊ ပြည်သို့တစ်ပိုင်း၊ စစ်ကိုင်းတို့တစ်ဝ၊ ပြေးအောင်ခိုဝင်၍ နေကြရသည်တွင် ရှင်တေဇောသာရလည်း ပြည်သို့ စုန်ဆင်း လေသည်။ ရှမ်းမင်း သိုဟန်ဘွား၏ ရက်စက် ကြမ်းကြုတ်ပုံကို တွေးတောလိုက်တိုင်း စိတ်နာလျက်ရှိသော ကနီမြို့စား သီရိဇေယျနော်ရထာက စာဆိုသူ ရှင်တေဇောသာရ အား သိုဟန်ဘွား၏ မိစ္ဆာဒိဋ္ဌိအယူနှင့် ဘုရားမှန် တရားမှန်ဖြစ်သော ဗုဒ္ဓဘာသာ အယူကို ခွဲခြားနိုင်းယှဉ် တရားဆင်၍ ညှိုးရော်နေသော သာသနာကြီးကို ပြုစု ပျိုးထောင်ရန် ကဗျာလင်္ကာတစ်စောင် ဖွဲ့နွဲ့ရေးသားပါဟု တောင်းပန်သည့်အလျောက် ပြာဒိုဟာခန်းပျို့ကို ကောက်နုတ်ရေးသား ဖွဲ့နွဲ့ရလျှင် ကာလဖြစ်ချက်နှင့် သဘော ကိုက်ညီပေလိမ့်မည်ဟု ထင်မြင်၍ သက္ကရာဇ် ၈၉၈-ခုနှစ်တွင် **'ပြာဋိဟာခန်းပျို့'**ကို ပြုစုလေသည်။ ပြာဋိဟာခန်းဆိုသည်မှာ ဂေါတမမြတ်စွာဘုရားလက်ထက် သိဋ္ဌည်း အစရှိသော တိတ္ထိခေါင်းဆောင်ကြီးများက မြတ်စွာဘုရားနှင့် တန်ခိုးပြိုင်မည်ဟူ၍ အုတ်အော်သောင်းသဲ ကြော်ငြာလျက် ရှိသောကြောင့် သာဝတ္ထိပြည် ကဏ္ဍမ္ဗမည်သော သရက်ဖြူပင်ရင်း၌ ဝါဆိုလပြည့်နေ့တွင် ရေမီးအစုံတန်ခိုးပြာဋိဟာ ပြတော်မူကြောင်း ကို ကဗျာလင်္ကာဖြင့် ဖွဲ့နွဲ့စီကုံးထားခြင်းပင် ဖြစ်သည်။ ဤပျို့တွင် စာဆိုသူ၏ ရည်ရွယ်ချက်ကား ရွှေဟင်္သာပျို့မှာကဲ့သို့ပင် သွယ်ဝိုက်၍ သိစေလိုသော ရည်ရွယ် ချက်ပင်တည်း။ ရှမ်းလူမျိုးတို့ကို တိတ္ထိတက္ကတွန်းတို့၏ သဏ္ဌာန်ထား၍ ဘုရား သာသနာတော်ကြီးကို ချင်းတို့ မည်မျှပင် ဖျက်ငြားသော်လည်း သာသနာတော်ကြီး ပျက်မည် မဟုတ်ကြောင်း၊ နောင်တစ်နေ့တွင် ချင်းတို့ပင်လျှင် ပျက်စီးဆုံးပါးရမည့် အကြောင်း၊ အမျိုးလေးပါးတို့သည်လည်း ဗုဒ္ဓသာသနာတော်၌ ယုံကြည်လေးမြတ်စွာ နေထိုင်ကြရန် အကြောင်းများကို သွယ်ဝိုက်သည့် ဝက်ဝုတ္တိနည်းဖြင့် ပြောဆို ဆုံးမပေသည်။ ဤသို့ ရှင်တော်မြတ်ဘုရား၏ သာသနာတော်ကို ချီးပင့်ရခြင်း အကျိုးကြောင့် . . .

ပြည်ကျော် ကျယ်ဝန်း၊ မြန်တိုင်းခန်းလည်း၊ ငြိစွန်းမဲ့လျှင်း၊
ပျောက်ကင်း ရန်မာန်၊ ရှေးအဟန်သို့၊ တစ်ဖန်သာသနာ၊ ကောင်းပြန်

စပယ်ဦးစာပေ

> ပါ၍၊ ကြေညာမင်းများ၊ တစ်မိသားသို့၊ ရိုးရာနွဲ့လျှ၊ လိုက်ကြ
> လျော့လျား၊ စီးပွား ချမ်းသာ၊ လိုချင်ရာဖြင့်၊ မေတ္တာနွယ်ကြိမ်၊
> ကြိုးနှယ် လိမ်လျက်။ ။စည်းစိမ် ကြီးစေကုန်သတည်း...

ဟူ၍ နိဂုံးတွင် ဆုမွန် ဆုကောင်းကို တောင်းခဲ့ပြီးလျှင် မိမိသဘောထားကြီးပုံကို သိစေလိုပြန်ရကား...

> ပါးရှားရပ်ဝေး၊ မြေးနှင့်ဘိုးဘွား၊ သားနှင့်မိဘ၊ နှမနှင့်မောင်၊ ညီနောင်
> မကြွင်း၊ ကွာလေကွင်းလည်း၊ ချစ်ခြင်းတစ်ဖန်၊ ဖူးတွေ့ပြန်လျက်၊
> ရှည်လွန်အသက်၊ ခန္ဓာပျက်လည်း၊ မြတ်ထက်ကောင်းကြွယ်၊ လူ့ဝယ်
> နတ်ပြည်။ ။ကျင်လည်လေထွန်၊ ဖြစ်ဆုံးစွန်မှ၊ နိဗ္ဗာန်ခေါ်မည်၊
> မြို့ရွှေပြည်ဝယ်။ ။အောင်စည်တီးစေကုန်သတည်း...

ဟူ၍ မြင့်မြတ်သော ဆုတောင်းနှင့်တကွ သင်္ဂါရ သဘောတရားကြီးကို မလွန်ဆန်နိုင်သောကြောင့် တွေ့ဆုံကြုံကွဲကြရကြောင်းကို ဆုံးမခဲ့သေးသည်။ ဤပျို့၏ဖွဲ့နွဲ့ပုံသည် အခြားပျို့များ ဖွဲ့နွဲ့ပုံနှင့် များစွာမကွာခြားပေ။ ပျို့စာကိုယ် ပိုဒ်ရေ ၁၁၂ ပိုဒ်အနက် အားလုံးကိုပင် '**ကောင်းကြီး ပြီးစေကုန်သတည်း။ ခင်မင်ချစ်သနား၏တည်း။ နှစ်သိမ့်သဒ္ဒါ ပွား၏တည်း**' စသည်ဖြင့် တည်း ဟူသော စကားလုံးဖြင့်သာ အဆုံး ချသွားသည်မှာ မှတ်ဖွယ်ပင်တည်း။ ထိုပြင်လည်း စာဆိုသူသည် ဤပျို့မှာ အကုံရနတ်သားနှင့် ဣန္ဒကနတ်သားတို့တွင် အကုံရနတ်သားသည် သာသနာတော် အပဝယ် အလှူဒါန ပေးကမ်းရက်ရောခဲ့သော်လည်း မြတ်သော အလှူခံနှင့် မတွေ့ကြိမ်သောကြောင့် တမလွန်ဘဝတွင် အကျိုးပေးနည်းပါးခဲ့ရပုံများကို အချက်ကျကျ ဖွဲ့နွဲ့ရေးသားလေသည်။ ရှမ်းမိစ္ဆာတို့၏ ရန်ကြောင့် တိုင်းပြည်တွင် ဒါန သီလ ချို့တဲ့နွမ်းပါး၍ နေသည့်အဖြစ်ကို တိုင်းသူပြည်သားတို့အား သိစေပြီးလျှင် ဖော်ပြခဲ့သော နတ်နှစ်ပါးကို အကြောင်းပြု၍ သာသနာတော်တွင်း အလှူခံမြတ် ပုဂ္ဂိုလ်တို့အား ဒါနပြုရခြင်း၏ အကျိုးမြင့်မြတ်ပုံတို့ကို ဆွယ်၍ တရားဟောလိုက်ခြင်းဖြစ်သတည်း။ ထိုကြောင့်လျှင် အခြားသူတို့ ရရှိနိုင်ခဲသော ဤစာဆို၏ ဝမ်းတွင်းပါ ဝင်္ကဝုတ္တိဉာဏ်ကို ကျွန်ုပ်တို့ ချီးမွမ်းထိုက်လှပေသည်။ ဤပျို့များအပြင် ရှင်တေဇောသာရရေး ပျို့များကား '**ဗျာဒိတ်တော်ခန်း ပျို့၊ အာဒါသမုခ ပျို့**' များ ဖြစ်သတည်း။

## ရှင်အဂ္ဂသမာဓိ

အင်းဝပျက်ပြီး၍ ရှင်တေဇောသာရနှင့် တစ်ခေတ်တည်း ကျော်ကြားခဲ့သူ ပုဂ္ဂိုလ်တစ်ပါးသည်ကား ရှင်အဂ္ဂသမာဓိ ဖြစ်ပေသည်။ ထိုပုဂ္ဂိုလ်သည် ဒီပဲရင်းမြို့ အရှေ့တောင်ဘက် ခရီးငါးရာတွင်းကွာ ကန်ဖျားရွာတွင် သက္ကရာဇ် ၈၄၁-ခုနှစ်၌ ဘွားမြင်သန့်စင်သော မောင်နီး ဖြစ်သည်။ အဖကား နတ်မောက်မြို့စား၏ သား ဘယကျော်သူအမတ်ဖြစ်၍ (အချို့စာမှာကား ဘယကျော်သူကိုပင် နတ်မောက် မြို့စားဟု ဆိုသည်။) ရွှေနန်းကြော့ရှင် နရပတိလက်ထက် မိုးညှင်းစလုံသား သိုဟန်ဘွားနှင့် သက္ကရာဇ် ၈၈၉-ခုနှစ် တောင်ပလူတပ်တွင် စီးချင်းတိုက်ခိုက်ရာ မိုးညှင်းစလုံ၏တူ စမော်ခန်းက ကူသောကြောင့် ရဲမြတ်လှပူသော ဆင်ထက်မှ ကျဆုံးချေသည်။ အင်းဝပြည်ကြီး စည်ထီးခရိုင်နှင့်တကွ ကျိုးပေါက်ပျက်စီးသည့် နှစ်တွင် ရှင်အဂ္ဂသမာဓိသည် မြေတူးမြို့သို့ ပြောင်းရွှေ့နေထိုင်ခဲ့၍ သက္ကရာဇ် ၈၉၉-ခုနှစ်တွင် သုဝဏ္ဏသျှံသူဌေးခန်း၊ လေးပစ်ခန်း၊ သစ္စာခန်းများကို ရေးသား ပြုခဲ့သည်။ ဇာတ်တော်ကြီး ၁၀-ဘွဲ့လာ ဘုရားလောင်း သုဝဏ္ဏသာမ ဝတ္ထုကို အလင်္ကာတန်ဆာဆင်၍ ရေးသည့်ပျို့များ ဖြစ်သည်။ ဤပုဂ္ဂိုလ်သည် အင်းဝ ရွှေနန်းစည်ထီး ရုတ်တရက် ကျိုးပေါက်ခဲ့ရသည်များကို ဝမ်းနည်း ပင်ပန်း စိတ် ချမ်းမသာ ဖြစ်ရသောကြောင့် ဤသုဝဏ္ဏသာမ ပျို့ကို ဖွဲ့နွဲ့စပ်ဆိုလေသလောဟု ထင်မြင်စရာ တောဖွယ်ဖြစ်သည်။ ဤသို့ဖွဲ့ဆိုရာ၌ ရတနာအပေါင်းနှင့် ကုံလုံကြွယ်ဝသော အင်းဝပြည်ကြီးကို သုဝဏ္ဏသျှံ၊ သူဌေးခန်းထား၍ ဒုကူလနှင့် ပါရိကာ ရသေ့ ကျောင်းနှံကို အင်းဝဘုရင်သဖွယ် တန်ဆာဆင်ပြီးလျှင် ပီဠိယက္ခမင်းကြီးကို ရှမ်းမင်းသားသဏ္ဌာန်ပုံဆောင်ကာ တင်စားဖွဲ့ဆိုသည်ဟု ထင်မြင်ဖွယ် ရှိပေသည်။ ဤပျို့တွင် သုဝဏ္ဏသာမ မြားမှန်ခန်းကို အမွှမ်းတင်၍ ရေးသားသည်။ ဤကား လွမ်းခန်းမျှသာ ဖြစ်၍ ရှင်အဂ္ဂသမာဓိသည် လွမ်းခန်း၌ မည်မျှနိုင်နင်း ကြောင်းကို ထင်ရှားစွမ်းကုန် ပြသသည်မှာ ယခုခေတ် ဇာတ်သဘင်တွင် အလွမ်း ကောင်းသော မင်းသားကြီးသဖွယ် ဖြစ်သည်။ ဤပျို့၏ ဇာတ်ခန်း ဇာတ်လမ်း ဖွဲ့ပုံသည် ကောင်းမွန်လှသောကြောင့် ဘိုးတော်ဘုရားလက်ထက် ဇာတ်တော်ကြီး များကို စကားပြေဖြင့် ရေးသားဖွဲ့နွဲ့သော မင်းဘူးဆရာတော် ဦးသြဘာသသည် ဤသုဝဏ္ဏသာမ ဇာတ်တော်ကိုပင် မရေးတော့ဘဲ ခြွင်းချန်ထားသည်။ ဘူရိဒတ် ဇာတ်ကိုလည်း ရှင်မဟာရဋ္ဌသာရ ဖွဲ့ပြီးရှိသောကြောင့် ခြွင်းချန်ထားသည်ဟု

ဆိုလိုက ဆိုစရာဖြစ်တော့၏။ ဤသုဝဏ္ဏသာမ ပျို့တွင် အချို့အပိုဒ်များ၏ အဖျားချပုံမှာ ရှင်တေဇောသာရ၏ ရွှေဟင်္သာမင်းပျို့မှာကဲ့သို့ပင် . . .

> ဖူးချင်အာရုံ ဆွေတစ်စုံ။ သွားလိမ့်မှန်ယုံ မနေတုံ။ နေချေ လတုံ မှုမကုံ . . .

ဟူ၍လည်းကောင်း။

> မျက်နှာကြည့်ဝံ့ မကြည့်ဝံ့။ သဘောတည်ခံ့ မတည်ခံ့။ တို့ကို လှည့်ဝံ့ မလှည့်ဝံ့ . . .

ဟူ၍လည်းကောင်း။

ဤသို့ စသည်ဖြင့် အဆန်းထွင်သေးသည်။ ဤပျို့ကို ရေးသားပြီး၍ နောက် တစ်နှစ်ခန့်အကြာ သက္ကရာဇ် ၉၀၀–ပြည့်တွင် နေမိရေခန်းကို ရေးသား ပြုစု၍ သက္ကရာဇ် ၉၀၄–ခုနှစ်တွင် ဘုံခန်း၊ သက္ကရာဇ် ၉၀၇–ခုနှစ်တွင် မဃဒေဝဝိခန်းကို ပြုစုသည်။ အလောင်းတော် နေမိမင်းကြီးကို မာတလိနတ်သားသည် ဝေဇယန္တာ ရထားဖြင့် ခေါ်ဆောင်၍ ငရဲပြည်ကို ပြသည့်အကြောင်းဖြစ်သော ဤနေမိငရဲခန်းကို ရေးသားပြုစုရာ၌ ရှင်အဂ္ဂသမာဓိမှာ လွန်စွာ ဆန်းကြယ်သော ရည်ရွယ်ချက်တစ်ခု ရှိဟန်တူသည်။ အင်းဝပြည်ကြီးတွင် ရှမ်းမင်းတို့၏ စနက်မီးကြောင့် ကနက်ထီး ပျက်ကျိုး၍ သာသနာတော်ညှိုးခဲ့ရာ အမျိုးလေးပါးတို့မှာ ဒါန, သီလ စသော ကုသိုလ်တရား နည်းပါးကြသည်။ ဤသို့ ကုသိုလ်တရားနည်းပါး၍ ဘုရား တရား ကိုပင် မေ့လျော့နေကြကုန်သော သူတို့အား သတိတရား ရစေရန် တိုက်ရိုက် သဘောအားဖြင့် သွန်သင် ဆုံးမခြင်းမပြုဘဲ ငရဲခန်းကို ပြကာ ခြောက်လှန့်ရသည် ရှိသော် ကြောက်လန့်သံဝေ၊ စိုးရိမ်ထွေဖြင့်၊ ရာဖွေ ကုသိုလ်၊ ချမ်းရိပ်ခိုကြလိမ့် မည်ဟု တွေးတော မှန်းဆလျက် ပါဠိဘာသာဖြင့် ရှိသော လွန်စွာကျဉ်းသည့် ငရဲခန်းကိုပင် ချဲ့ထွင်ရေးသားရာ ခြောက်လှန့်ပုံ ထင်ရှားလွန်းလှသောကြောင့် **'ငရဲခန်းလည်း ခြောက်လွန်းသည်'** ဟူ၍ စကားဆိုထုံး ပြုကြလေသည်။ ဤနေရာ၌ မိခင်သည် သားသမီးတို့ကို ခြောက်လှန့်၍တစ်ဖုံ၊ မြှောက်ပင့်တုံတစ်ဖြာ၊ လိမ္မာ ရေးခြားမှုကို ပြုပြင် ဖန်တီးပေးသကဲ့သို့ ရှင်အဂ္ဂသမာဓိသည်လည်း အမျိုးလေးပါး တို့အား ကလေးသူငယ်များသဖွယ် သဘောထား၍ ဤငရဲခန်းဖြင့် ခြောက်လှန့် ပြီးလျှင် ကုသိုလ်ရေးကို ပွားများစေလိုသည့်အတွက် . . .

တထိန်ထိန်လျှင်၊ တောက်ရှိန်မည်၊ ဆင်းရဲခံလည်း၊ သွေးသံမကျေ၊ ကိုယ်မသေလျှင်၊ ဖြစ်ထွေလွန်မင်း၊ တာရှည်ပြင်းခဲ့၊ သီးတင်းကောင်းထွတ်၊ ဘယ်သူမြတ်သည်၊ ချွတ်ပေလာ၍၊ ကန်ကြီးတွေ့သို့၊ မီးငွေ့မသည်း၊ ငြိမ်းခနည်းလျှင်၊ ဖြင်ပည်းများစွာ၊ လွတ်ကုန်ပါအံ့၊ ဟာဟာမီးဝယ်၊ အသူဆယ်လိမ့်၊ အဘယ်မုန်းထား၊ မတရားသား၊ မူထားညစ်ဘိ၊ ကျင့်မှားမိ၍၊ ထိထိနာနာ၊ သည်းအူချာက၊ မီးသာပြောင်ပြောင်၊ တောကြီးလောင်သို့၊ ဥဿျှောင်ဆံထုံး၊ တုံရရုံးလျှင်၊ ပတ်ကုံးနိုင်နင်း၊ ရှင်သေမင်းကို၊ ခြေရင်းဝပ်ကျိုး၊ ရှိလျှင်ခိုးလျက်၊ ကိုယ်ဘိုးနက်လေး၊ ရွှေငွေပေးလည်း၊ အရေးမယူ၊ ခံစေဟူ၍၊ ကလူညည်းကျင်၊ ဘယ်နံလျှင်တည့်၊ မမြင်ဝံ့ဘဲ၊ ဤဖြင်ပြိသည်။ ။ငရဲလွတ်ပါလတ္တံ့နည်း . . .

ဟူ၍ ကြောက်ခမန်းလိလိ သွေးတိချောက်ချား တုန်လှုပ်ရှားအောင် ဖော်ပြဖွဲ့ဆိုလေသည်။ ရှင်အဂ္ဂသမာဓိ၏စိတ်၌ နောက်တစ်ဖန် ဖြစ်ပေါ်လာသည်ကား ဤသို့ အမျိုးလေးပါးတို့အား ငရဲခန်းဖြင့် ခြောက်လှန့်၍ စိတ်နလုံးတုန်လှုပ်ခဲ့လေပြီ။ ဘုံခန်းကို တစ်ဖန်ပြ၍ မြှောက်ပင့် ချီးမွမ်းရသော် လောကီဘုံသားတို့မှာ ဘုံခန်းစည်းစိမ်ကြီးသို့ ရောက်လိုသော အာသီသဆန္ဒ ပေါ်ပေါက်လာခြင်းဖြင့် ကုသိုလ်တရား ပွားများကာ သာသနာတော်ကြီးကို ပြုစုပျိုးထောင်ကြပေမည်ဟု မိခင်သည် သားငယ်အား မုန့်သားရေစာကို ပြသကာ ချော့မော့သကဲ့သို့ စာဆိုအရှင်လည်း အမျိုးလေးပါးတို့အား ဘုံခန်းဖြင့် ဖြားယောင်းလိုသောကြောင့် . . .

အဆန်းအဆန်း၊ ရွှေကျီ ရန်းနှင့်၊ မကန်းခံတွင်း၊ ခြသေ့်နင်းမူ၊ ပြောင်ကွင်းရေးချဲ့၊ နွံ့ရွှဲ့တုံ၊ ကယ်ကဲ့ရောင်ထွေ၊ ခြူးညွှန့်ခွေလျက်၊ ရဝေစိုက်ထား၊ မိုက်မှောင်တားလည်း၊ ဝန်းလျားနံညီ၊ ပဋ္ဌမီဝယ်၊ ရူလီရူလာ၊ မသာရဂလ်၊ ကျောက်မွန်မြခဲ၊ သန္တာဆွဲလျက်၊ ပုလဲပျစ်ရှက်၊ ဗိတာန်ကြက်လည်း၊ အတက်ရောင်သွယ်၊ တဖျင်နွယ်လျှင်၊ သာကျယ်ဝင်းဝင်း၊ သလင်းထောင်စိပ်၊ ရွှေအိမ်အိပ်သား၊ ချမ်းရိပ်စံနေ၊ ထောင်ရံရွှေလည်း၊ သန္ဓေကျစ်လျစ်၊ ချစ်လည်း ချစ်တုန်း၊ သွေးစုန်းမျက်မည်း၊ ခြည်းရရည်းလျှင်၊ စုလည်းငုံသစ်၊ ကုံးသွယ်

> နစ်လျက်၊ သရစ်ရွှေညွန့်၊ တွန့်ရှုန့်တည့်၊ စီတန့်မျက်ကောင်း၊ ရွှေနားဒှောင်းလည်း၊ ရောင်မောင်းပြက်ပြက်၊ ဘယက်သရဖူ၊ ရွှေချူ သင်တိုင်း၊ ဘယ်နှင့်ခိုင်း၍၊ နှိုင်းရာပလိမ့်၊ ငြိမ့်ရရိမ့်မျှ၊ ရွှေအိမ့်တင့်အပ်၊ ရွှေဘုံတပ်သို့၊ ရံထပ်ချီခြယ်၊ နတ်မိမယ်ကား...

စသည်ဖြင့် လွှန်စွာသာယာလှသော ဘုံနန်းဗိမာန်ကြီး နှင့်တကွ ဇီရဏီနတ်သမီး၏ အလွန်တင့်တယ် လှပပုံတို့ကို ဖွဲ့နွဲ့ထားလေသည်။ မာတလိနတ်သားသည် ဝေဇယန္တာ နတ်ရထားဖြင့် နေမိမင်းကြီးအား နတ်ပြည်သို့ ခေါ်ဆောင်ကာ ဘုံအဆောင်အဆောင် ပြသခန်းများနှင့် စပ်လျဉ်း၍ ကျမ်းဂန်၌ စကားအနည်းငယ်သာ လာရှိသော်လည်း စာဆိုအရှင်သည် မိမိဉာဏ်ဖြင့် အဆမတန်အောင် ချဲ့ထွင်မြှောက်ပင့် ချီးမွမ်းဖွဲ့နွဲ့ထားရကား 'ဘုံခန်းလည်း မြှောက်လွန်းသည်' ဟူ၍ ရှေးပညာရှိများက ကဲ့ရဲ့သလိုလိုနှင့် ချီးမွမ်းကြလေသည်။ ရှင်အဂ္ဂသမာဓိသည် ရှင်ဥတ္တမကျော်၊ ရှင်အုံးညိုတို့ကဲ့သို့ပင် ပန်းမန်သစ်သီး၊ ရေ, မြေ, တော, တောင် စသော ဩကာသ လောကကြီးကို နှစ်ခြိုက်ရကား...

> ဂနိုင်တောလုံး၊ သီးမျိုးရုံးသား၊ ပအုံးဟင်းစား၊ သခွားငပြွတ်၊ မြောက်လုပ်ဖအောင်း၊ ပင်ပေါင်းမည်းပြာ၊ ဖာလာ ကရဝေး၊ ကျွေးနှင့် ခရမ်း၊ စင့်ပြွမ်း သတွတ်၊ ချဉ်ပြွတ်လင်းရော၊ ကလောခံစပ်၊ သနပ်နရွဲ၊ ပိန္နဲသရက်...

စသည်ဖြင့် သီးမျိုးစုံများအပြင် ငုံအာဖူးပွင့် ခူးမည့်သူများကို မျှော်လင့်လျက် ရှိကြသော...

> စကားရွှေစက်၊ ပုန်းညက် ရွှေလျော်၊ ကံ့ကော် ရွှေသွေး၊ မုလေး ရွှေပြုံး၊ ကြက်ရုံးရွှေသား၊ ချရားရွှေဝါ၊ ဇလတ္တာ ရွှေပေါက်၊ ပိတောက် ရွှေသင်း၊ အင်ကြင်းရွှေထူ၊ ပျဉ်းဖြူရွှေရောင်၊ လယ်ခေါင်ရွှေစွန်း၊ အနန်း ရွှေလျော်...

စသည်ဖြင့် ပန်းမျိုးစုံသာမက ဇီရဏီနတ်သမီး၏ ရေကန်ကြီးထဲတွင် ဝမ်းဘဲသောင်းတင်း၊ ပိန်ညင်းကြိုးကြာ စသော ငှက်မျိုးစုံ ပျော်မြူးလူးလာလျက် ရှိကြကြောင်းကိုလည်း ပန်းချီကားကြီးများတွင် ဆွဲထားဘိသကဲ့သို့ စိတ်မျက်စိထဲ၌ အကွင်းအကွက်ပေါ်အောင် စပ်ဆိုနိုင်သည်ဖြစ်ရကား ရှင်အဂ္ဂသမာဓိ၏ စာများသည်

သာယာငြိမ့်ညောင်းလှသော စောင်းတူရိယာ ၅-ပါးကို တစ်ပြိုင်နက် တီးမှုတ်နေသည့် အခါဝယ် အဆင်းအင်္ဂါ ပြေပြစ်လှပစွာသော နတ်သမီးကလေးသည် အနီး၌ သုပ်လုံ့လုပ်လီ သီချင်းသီကာ ကမြူး၍ နေလှာသည်နှင့် လွန်စွာတူပေသည်။ ဤ့ကြောင့် လောကကြောင်းသက်သက်တွင် ရှင်အဂ္ဂသမာဓိသည် ရှင်ရဋ္ဌသာရထက်ပင် ကျော်လွန်ကောင်းမွန်အောင် ဖွဲ့ဆိုစီကုံးနိုင်သည်ဟူ၍ ပညာရှိပုဂ္ဂိုလ်များ ဆုံးဖြတ်ယုံကြည်ကြသည်။ စာဆိုအရှင်သည် လောကကြောင်းသက်သက်ကိုသာ နိုင်နင်းသည် ဖြစ်သောကြောင့် တရားကြောင်း ခေတ်စားနေသော အင်းဝခေတ်တွင် ရှင်သီလဝံသ၊ ရှင်မဟာရဋ္ဌသာရတို့ကို မတိုးနိုင်ရာ ထိုပုဂ္ဂိုလ်ကြီးများ လွှမ်းမိုးနေသောကြောင့် မိမိအမည် တိမ်မြုပ်နေရသည့်အထဲတွင် အင်းဝပြည်ကြီးသည် ရှမ်းတို့လက်ချက်ကြောင့် ပျက်စီးပြုန်းတီးသွားပြန်လေရကား ငရဲခန်း နိဂုံးတွင် . . .

> ရွှေပြည်အင်းဝ၊ ပုဂံ စသား၊ မြန်မာ့လက်နက်၊ ပျက်သောအခါ၊
> ကြိုက်မိပါ၍၊ ငါ့စာ မကျော်၊ ငါတုံသော်လည်း၊ ရှင်တော်ဟောရွတ်၊
> ပိဋကတ်ကို၊ နှုတ်မှတ်ခံနား၊ တပည့်သားတို့၊ တည်ငြားနိစ္စ၊
> မသင်ရတည့်၊ ဘာဘ မသိ၊ ဒိဋ္ဌိဝင်ကြုံး၊ နှလုံးယွင်းဖည်၊ ကဒူးပြည်ဝယ်၊
> ခွန်ရည်ကောင်းများ၊ ပတ္တမြားကို၊ ဖလားဆန်ခွက်၊ အဖိုးတွက်သို့၊
> နိူင်းချက်လေဟန်၊ တို့ကိုယ်မွန်လည်း၊ လွန်ရှာစနိုး၊ ကြိုးတပြီးကား၊
> သံရှင်ထားနှင့်၊ လွှားလွှားစင်ကျ၊ ဖြတ်ချင်လှ၏။

ဟူ၍ ရှမ်း ကဒူးတို့ အပေါ်တွင် မည်မျှစိတ်နာခဲ့ကြောင်းကို ပေါ်လွင်ထင်ရှားအောင် စပ်ဆိုတော့သတည်း။

## ရှင်ဉာဏဂုတ္တ

ဤသို့ ပျို့ကဗျာများ ထွန်းကားလာသည့်အချိန်၌ ဘာသာပြန်ဘက်တွင်လည်း အားပေးပြုစုသည့် ပုဂ္ဂိုလ်များ ပေါ်ပေါက်လာကြသေး၏။ သက္ကရာဇ် ၉၁၀-တွင် ရှင်မဟာသီလဝံသ၏ တပည့် တိလောကခင်ကြီးခေါ် ရှင်ဉာဏဂုတ္တ မထေရ်သည် သင်္ကရိုက်ဘာသာဖြင့် ရှိသော နီတိကျမ်းတစ်စောင်ကို အမှီပြု၍ **'နဝရတ်ပျို့'** ကို ရေးသားပြုစုသည်။ ရှင်မဟာသီလဝံသကိုယ်တိုင်ပင်လည်း မဟာရဟနီတိကျမ်းတစ်စောင်ကို ပါဠိဘာသာဖြင့် စီရင်ပြုစုဖူးလေပြီ။ နဝရတ်ပျို့ဟု အမည်တွင်

ကြောင်းကား သမ္မတမင်းအနွယ်ဖြစ်သော သီရိကြမ္မာတိတျာမင်းလက်ထက် ပညာရှိရသေ့များဖြစ်ကြသည့် . . .

၁။ ဓနုဒ္ဒြီ၊
၂။ ချပန၊
၃။ အမြသိခ်၊
၄။ သိခ်၊
၅။ ပေတာလ၊
၆။ ဆာရိကပ္ပ၊
၇။ ကာလိဒါသ၊
၈။ ဝရာဟ၊
၉။ မဟိရ၊

တို့က မင်းကြီးအား ပေါင်းသင်းဆက်ဆံရေး၊ တိုင်းရေးပြည်ရေးနှင့် ကြီးပွားချမ်းသာရေးတို့ကို တစ်ကိုယ် တစ်ဂါထာစီ ၉-ဂါထာဖြင့် ညွှန်ကြားပြသသည်။ ထို ၉-ဂါထာတို့သည် အဖိုးထိုက်တန်သော ကိုးပါးသော ရတနာနှင့်တူသည်။ ထိုရတနာနှင့်တူသော ကိုးဂါထာတို့ဖြင့် ပြအပ်သော အနက်အဓိပ္ပာယ်စုကို စီကုံးဖွဲ့နွဲ့ထားသည်ကို အစွဲပြု၍ နဝရတ်ပျို့ဟု အမည်တွင်သည်။ ရှင်ဥတ္တမဂုတ္တ၏ အရေးအသားသည် ခက်ခဲနက်နဲသည် မဟုတ်ချေ။ လောကနီတိပျို့၊ လောကသာရပျို့များကဲ့သို့ အဓိပ္ပာယ်ရှင်းလင်း ပြတ်သားပေါ်လွင်သည်။ ဤကဲ့သို့ လွယ်ကူရှင်းလင်းစွာ ဖွဲ့ဆိုထားသည့်အတွက် အဖွဲ့အနွဲ့ ညံ့သည်ဟူ၍ မဆိုသာချေ။ မှတ်သားဖွယ်ရာ အကြောင်းအရာများကို လွယ်ကူစွာ မှတ်သားစေလိုသည့် သဘောဖြင့် ရေးထားဟန်တူ၏။ ဤပျို့၌ ဗုဒ္ဓတရားတော်နှင့် ပတ်သက်သော အကြောင်းအရာများ မပါ။ ရသေ့ကိုးပါးတို့သည် မိမိတို့ ထိုးထွင်းဉာဏ်ဖြင့် မှန်ကန်ဖြောင့်မတ်သော နည်းလမ်းကို မင်းကြီးအား ရှာကြံပြသ ညွှန်ကြားကြသည်များကို တစ်ဂါထာလျှင် ပျို့စကားတစ်ရပ်ဖြင့် ရေးသားထားသောကြောင့် ရာဇကြောင်းသက်သက် ဆက်နွယ်သောစာဖြစ်ကြောင်း ထင်ရှားသည်။ ရှင်ဥတ္တမဂုတ္တ၏ ရည်ရွယ်ချက်သည် သိသာလွယ်ကူ၏။ စစ်ကိုင်းတွင် ကြီးစိုးလျက်ရှိသော စည်သူကျော်ထင်မင်းကို အမှူးပြု၍ နောက်ပါခြွေရံများအား နည်းလမ်းညွှန်ပြလို၍ ဤပျို့ကို ရေးသား၏။ ဤပျို့ကို ဖတ်ခြင်းအားဖြင့် ရေးကာလ ဘုန်းကြီးများပင်လျှင် တိုင်းရေးပြည်ရေး စီးပွားရေးများတွင် ဝင်ရောက် နည်းပေး လမ်းပြ ပြုလုပ်ကြောင်း ထင်ရှားစွာ တွေ့မြင်နိုင်၏။ ပုံစံကား . .

နိစ္စကြံတတ်၊ သူလျှိုမြတ်ဖြင့်၊ လောကတ်စရိတ်၊ နိမိတ်တွေးယူ၊
သိအောင်မှူလျက်၊ ထီးဖြူဆောင်းခြင်း၊ ထိုထိုမင်း၏၊ ဝမ်းတွင်းကြံစည်၊

ဖြောင့်ကောက်သည်ကို၊ ဖွေနည်ဆင်ခြင်၊ အမြဲပင်လျှင်။ ။ကြံအင်
စူးစမ်းရာသတည်း။

ဟူ၍ သူလျှိုထားရန်ကိုပင် အကြံပေးခြင်းများ ဖြစ်၏။ ဤပျို့သည် စကားအသုံး အနှုန်း သိပ်သိပ်သည်းသည်း မရှိ။ အဓိပ္ပာယ်လည်း ကျယ်ဝန်းလှသည် မဟုတ်။ နီတိကျမ်းကို အမှီပြု၍ ရေးသားရသောကြောင့် ကောင်းသင့်သလောက် မကောင်းချေ။ အကယ်၍ နီတိကျမ်းကို အမှီမပြုဘဲ မိမိထိုးထွင်းဉာဏ်ဖြင့် သိရှိကာ ရေးသားခြင်း ဖြစ်လျှင်ကား အထူးတလည် ချီးမွမ်းထိုက်ပေမည်။ သို့ပါသော်လည်း သင်္ကရိုက် ဘာသာကို မှီငြမ်းပြုခြင်းကား ဘာသာပြန်ကို အားပေးသည်ပင် မည်သောကြောင့် ရှင်ဣန္ဒဂုဏ္ဏကို ကျေးဇူး အထူးတင်ထိုက်ပေသည်။

## မိညိုနှင့် မိဖြူ

အင်းဝပြည်ကြီး ပျက်စီးယိုယွင်းပြီးသည့်နောက်မှ ပေါ်ပေါက်လာကြကုန်သော အမျိုးသား စာဆိုတော်တို့နှင့်အတူ အမျိုးသမီး စာဆိုတော်များလည်း ထက်ကြပ် မကွာ ပေါ်ပေါက် ထွန်းကားလာကြလေသေးသည်။ အမျိုးသမီးများသည် ယောကျ်ား များနှင့် တန်းတူ ပခုံးချင်းယှဉ်၍ အလုပ်လုပ်ကိုင်ကြရန် ဆူပူနေကြသော ယခု ကျွန်ုပ်တို့၏ လောကကြီးသည် ဆန်းကြယ်လှသည် မဟုတ်။ အင်းဝခေတ်တွင် ယောကျ်ားများနှင့် ရင်ပေါင်တန်း စာဆိုလျက် ရှိကြကုန်သော နန်းတွင်းသူ မိညို၊ မိဖြူတို့သည် စာဆိုလောကတွင် ထင်ရှားသော အမျိုးသမီးစာဆိုတော်များ ဖြစ်ကြသည်။ မိညိုသည် ရခိုင်သူဖြစ်၍ အင်းဝရွှေနန်းတွင် သက္ကရာဇ် ၉၁၃-ခုနှစ်၌ နရပတိစည်သူအမည်ဖြင့် နန်းတက်သော စစ်ကိုင်း စည်သူကျော်ထင် လက်ထက် နန်းတွင်းစာဆိုတော် ဖြစ်သည်။ ထိုမင်း လက်ထက်တွင်ပင် နန်းတွင်းသူ အင်းဝသူ မိဖြူသည် မိညိုနှင့် စာဆိုပြိုင်ဘက် ဖြစ်သည်။ ထိုသူနှစ်ဦးတို့ ဖွဲ့ဆိုကြသော ကိုယ်ရည်သွေး ရတုပိုဒ်စုံ ၂-ပုဒ်သည် ထင်ပေါ်ကျော်စောသော ရတုစာကိုယ်များ ဖြစ်သည်။ တောင်အပေါင်းတို့တွင် မြင်းမိုရ်တောင်မင်းသည် အထွတ်အထိပ်ဖြစ် သကဲ့သို့ လည်းကောင်း၊ စည်ကြီးများတွင် ပဟိုရ်စည်ကြီးသည် အထွတ်အထိပ် အမြတ်ဆုံး ဖြစ်သကဲ့သို့လည်းကောင်း၊ နန်းတွင်း၌လည်း ကျွန်မ မိညိုသည် စာဆိုရာ၌ လွန်စွာ ကျွမ်းကျင်လိမ္မာရကား အထွတ်အထိပ် အကျော်စောဆုံးပင် ဖြစ်သည်ဟူသော အကြောင်းအရာများကို နားဝင်ချိုသာအောင် ဆန်းနှယဉ်ကျေး

လှသော စကားလုံးတို့ဖြင့် ပုလဲလုံးကလေးများကို စီကုံး၍ ထားသကဲ့သို့ ဖွဲ့ဆိုသည်။

နန်းတွင်းမိညို၊ ကျွန်ုပ်ဆိုသား၊ မှောင်ကိုပယ်လင်း၊ ဆီမီးဝင်းသို့၊ သီတင်းငါးမည်၊ သီလတည်လျက်၊ လှရည်ညက်သေး၊ ပြေး၍မဆို၊ သူ့ကိုနှိပ်စက်၊ မာန် မထွက်တည့်၊ ဝှန်းတက် ပညာ၊ လင်္ကာရတု၊ ဆိုမှုရှုရှု၊ ကြားကစိတ်ဝမ်း၊ သူ့နားချမ်းလိမ့်၊ စွဲလမ်းထိုတွင်၊ တောင်နယ် ထင်သည်။ ။နန်းတွင်း မိညိုသာတကား...

ဟူ၍ ဖွဲ့နွဲ့ထားသည်တွင် မိညို၏ ကဗျာဉာဏ် လေးနက်ပုံကို သိသာရရုံမျှမက စိတ်နေသဘောထား အရည်အချင်းကိုလည်း ပေါ်လွင်စေသည်။ မိညိုနှင့် စာဆို ပြိုင်ဘက် အင်းဝသူ မိဖြူ၏ ကိုယ်ရည်သွေး ရတုမှာလည်း ကျွန်းကြီး လေးကျွန်းတွင် ဇမ္ဗူဒီပါကျွန်းသည် မြတ်သကဲ့သို့လည်းကောင်း၊ ပန်းများတွင် မဥ္ဇူသကပန်းသည် အထွတ်အထိပ်ဖြစ်သကဲ့သို့လည်းကောင်း၊ နန်းတွင်း စာဆိုသူ ကျွန်မ မိဖြူသည်လည်း နန်းတော်တွင်. စာဆိုသူများတွင် အထွတ်အထိပ် အကျော်ဆုံး ဖြစ်သည်ဟူသော အကြောင်းအရာကို စီကုံးဖွဲ့နွဲ့ကာ မိညိုကဲ့သို့ပင် မိမိကိုယ်ကို ကိုယ်ရည်သွေးဖြင့် မြှောက်ပင့်လိုပြန်ရကား...

နန် တွင်းမိဖြူ၊ ကျွန်ုပ်ဟူသား၊ ကြီးထူပညာ၊ ဥစ္စာရည်သွား၊ မျိုးမည်အားနှင့်၊ သားလည်းစုံအင်၊ ကြယ်သို့ထင်လျက်၊ မြင်မြင်သမျှ၊ သိပ္ပခေါင်ထွတ်၊ တတ်ပါစေ့ချည်း၊ ဖွဲ့နည်းကဗျာ၊ လင်္ကာရတု၊ ဆိုမှုရှုရှု၊ ကြားကပြေပြစ်၊ ကညစ်ငုံချွန်း၊ ရေးသူပန်းလိမ့်၊ ရွှေနန်းစံတင်၊ ဘက်မမြင်သည်။ ။နန်းတွင်း မိဖြူသာတကား...

ဟူ၍ မိမိ၏ ဂုဏ်ရည်ကို ချီးကျူးသည်။ ဤရတု ၂-ပိုဒ်ကို နှိုင်းယှဉ် ဝေဖန်ရမည် ဆိုသော် မိဖြူ၏ ရတုများက မိညို၏ ရတုများထက် ကောင်းမွန်သည်ဟု ဆိုရပေမည်။ မိညို ဥပမာပေးသော မြင်မိုရ်တောင်၊ ပဟိုရ်စည်များသည် မိဖြူ ဥပမာပေးသော ဇမ္ဗူဒီပါကျွန်း၊ မဥ္ဇူသက ပန်းများလောက် မလေးနက်၊ မိဖြူသည် မိမိအမည်နှင့် ကာရန်တူ ကောင်းမွန်သော အချက်များကို ရှာဖွေရာ ဘုရားပွဲ့စွေက ဗုဒ္ဓါ၊ စကြာမင်းတို့ ပွင့်ရာဖြစ်ရာ မှန်သည့်ပြင် နိဗ္ဗာန်ကူးတို့ဆိပ်လည်း ဖြစ်သော ဇမ္ဗူဒီပါကျွန်းကို အမြတ်တင်ထားရန် တွေ့ရှိ ဖွဲ့နွဲ့နိုင်လေသည်။ ဤသို့ ဖွဲ့နွဲ့

ခြင်းသည် ရှင်မဟာသီလဝံသ၏ တံတားဦးတည် မော်ကွန်းအဖွဲ့နှင့် တူညီနေ၏။ ထို့ကြောင့် မိဖြူ၏ စာက ဤပထမပိုဒ်တွင်ပင် မိညို၏ စာထက် များစွာ သာလွန်ပေသည်။ မိဖြူ ဥပမာပေးသော မဉ္ဇူသကပန်းနှင့် မိညို ဥပမာပေးသော ပဟိုရ်စည်များကို နှိုင်းယှဉ်ကြည့်ပြန်လျှင် ပဟိုရ်စည်သည် တစ်ပြည် တစ်မင်း၏ အသုံးအဆောင်မျှသာ ဖြစ်၍ မဉ္ဇူသကပန်းမှာ ဇမ္ဗူဒီပါ တောင်ကျွန်း တစ်ခုလုံး၏ အထွတ်အမြတ်ပြုရာ ဘုရား ပစ္စေကဗုဒ္ဓါတို့၏ ကိန်းအောင်း နိမ့်ရာအရပ်ပတ္တမြား လိုဏ်ဂူဝတွင် ပေါက်သော ပန်းဖြစ်၍ ဤနေရာတွင်လည်း မိဖြူက အနိုင်ယူလိုက်ပြန်သည်။ တတိယအပိုဒ်တွင် မိညိုက မိမိ၏စိတ်သဘောထားကို ဖော်ပြ၏။ မိဖြူကို စောင်းမြောင်း၍ ရေးသားဟန်တူ၏။ မိမိမှာ ငါးပါးသီလလည်း မြဲပါ၏။ သူတစ်ပါး အကျိုးမဲ့လည်း မဆိုတတ်ပါ၊ သူများကိုလည်း မနှိပ်စက်တတ်၊ မာန်မာန မထားပါ ဟူသော စကားများသည် မိဖြူအား မသိမသာ ခတ်လိုက်ခြင်းဖြစ်၏။ မိဖြူကမူ မိမိမှာ ဥစ္စာလည်း ပြည့်စုံကြွယ်ဝပါ၏။ အမျိုးကောင်းသမီးလည်း ဖြစ်ပါ၏။ သားသမီးနှင့်လည်း စုံစုံလင်လင် ရှိပါ၏ဟု ဆိုထားသောကြောင့် မိညိုကို စောင်းမြောင်း ဖွဲ့ဆိုဟန် တူပြန်၏။ မိမိရွတ်ဆိုသော ရတုများသည် ပြေပြစ် ကောင်းမွန်လွန်း၍ ရေးကူးယူလိုသော သူများပင် မရေးကူးနိုင်တော့ဘဲ ပင်ပန်း မေ့မောနေကြပေလိမ့်မည်။ သို့မဟုတ် ရတုကဗျာများကို တစ်ခါတည်း နှုတ်က တောက်လျှောက် အလျင်အမြန် ဖွဲ့နွဲ့ စပ်ဟပ် ရွတ်ဆိုသွားနိုင်သောကြောင့် လိုက်၍ရေးသူများမှာ မမိနိုင်သဖြင့် ပင်ပန်းနေကြပေလိမ့်မည်။ ရွှေနန်းတော်တွင် စံနမူနာ တင်ထားအပ်၍ အဘက်မရှိသော စာဆိုကျွန်မ မိဖြူပင် ဖြစ်ပါသည် ဟူ၍ မိဖြူက နောက်ဆုံးပိတ်လိုက်သော စကားများသည် မိညို နလံမထူနိုင်အောင် ထိခိုက်သော စကားများပေတည်း။

## အင်းဝခေတ် နိဂုံးချုပ်

နဝရတ်ပျို့ကို ရေးသားစီရင်သော ရှင်ဥတ္တမဂုတ္တ မထေရ်နှင့် အမျိုးသမီးစာဆိုတော် နှစ်ဦးတို့ အကြောင်းအရာ အပြီးတွင် ပထမအင်းဝခေတ်ပိုင်းကို နိဂုံးချုပ်ရန် သင့်ပေသည်။ သက္ကရာဇ် ၇၂၆-ခုနှစ် အင်းဝမြို့ကို သတိုးမင်းဖျားတည်ထောင်သည်မှ သက္ကရာဇ် ၉၀၀-ကျော် အတောအတွင်း အင်းဝမြို့နယ်တစ်ဝိုက်ပေါ်ပေါက်ထွန်းကားကြသော စာဆိုတော်များသည် ရဟန်းပုဂ္ဂိုလ်များနှင့် လူပုဂ္ဂိုလ်များ ဖြစ်ကြ၏။ ထိုပုဂ္ဂိုလ်နှစ်စားတွင် ရဟန်းပုဂ္ဂိုလ်များက မြန်မာမှုကို လွန်စွာ

အားပေးပြုစုခဲ့ကြသည်။ အင်းဝခေတ် တစ်ခေတ်လုံးကို ခြုံ၍ကြည့်မည်ဆိုသော် ပျို့၊ မော်ကွန်း၊ ချောင်း၊ မေတ္တာစာ၊ လင်္ကာ၊ ရတုများအနက် ပျို့နှင့် မော်ကွန်းသည် ထိုအခါတွင် အတွင်ကျယ်ဆုံး ဖြစ်သည်။ ထို့ကြောင့် ထိုအခါ သမယကြီးကို ပျို့နှင့် မော်ကွန်းတံခွန် စိုက်သောခေတ် ဟူ၍ မှတ်တမ်းတင်သင့်ပေသည်။ ပျို့များကို ရေးဖွဲ့ရာ၌လည်း ရဟန်းစာဆိုတော်များကို တုပယှဉ်ပြိုင်၍ လူပုဂ္ဂိုလ်များသည် ရေးသားနိုင်စွမ်း မရှိကြချေ။ ပိဋကတ် သုံးပုံလာ ကျမ်းဂန်နိပါတ်တော်များမှ ရဟန်း စာဆိုတော်များ ကောင်းနိုးရာရာတို့ကို ထုတ်နုတ်ရေးသားဖွဲ့ဆိုကြသော ပျို့ မော်ကွန်းတို့သည် အတိုင်းထက်အလွန် ကောင်းပေတော့သည်။ မြန်မာနိုင်ငံသို့ ဗုဒ္ဓဘာသာ ခြေခြေမြစ်မြစ် စတင်ရောက်သည့်အချိန်ကား အနော်ရထာမင်းစောသည် သထုံပြည် မနူဟာမင်းကို တိုက်ခိုက်အောင်မြင်ပြီး၍ ပိဋကတ်သုံးပုံ အစုံ ၃၀ ကို ပုဂံသို့ ယူဆောင်လာသော အချိန်ကာလမှ အစပြုသတည်း။ ထိုအခါ၌ ပုဂံပြည်တွင် အသစ်အဆန်းဖြစ်သော ဘာသာကျမ်းဂန်များကို အရေးတယူ ပြုကြကုန်၏။ ဘုန်းကြီး ရဟန်းတော်များလည်း အစပြု၍ ဖတ်ရှုသင်ကြား လိုက်စား ဆည်းပူး ကြကုန်သည်။ သို့သော် ပုဂံခေတ် သာသနာတော် မျိုးစေ့ချရုံသာ ရှိသေး၏။ လုံလောက်စွာ အများသိရှိ နားလည်အောင် မထွန်းကားသေးရကား သာသနာတော် ကြီးသည် ပွင့်အံ့သော ပန်းငုံ ပန်းဖူးကြီးကဲ့သို့ ကာလကို ငံ့လင့်နေခဲ့သည်တွင် အင်းဝခေတ်သို့ ရောက်သောကာလ နေအရဏ်ကို တွေ့သော ကြာပန်းကဲ့သို့ စွင့်စွင့်ငွားငွား ပွင့်ကား၍ လာသတည်း။ ထိုအခါကစ၍ အင်းဝခေတ်ပေါ် ရဟန်း ပုဂ္ဂိုလ်များသည် သာသနာတော်၏ အသက်ဖြစ်သော ကျမ်းဂန် ဒေသနာတော်များကို လက်ဝါးကြီးအုပ်၍ လာခဲ့လေသည်။ လူပုဂ္ဂိုလ်များမှာကား ရဟန်းတော်များကဲ့သို့ ကျမ်းဂန် ဒေသနာတော်များကို စိတ်ရှိလက်ရှိ မဆည်းပူးနိုင်ကြပေ။ အကြောင်း မူကား အိမ်ယာထောင်သူ လူအပေါင်းတို့သည် လောကခြင်းရာ နေထိုင်စားသောက် ရေး၊ စစ်မက်ရေးများအတွက် စိတ်၏ အနှောင့်အယှက်ရှိနေကြသဖြင့် ဘုန်းတော် ကြီးများကဲ့သို့ အေးချမ်းလွတ်လပ်စွာ စာပေ၏ အရသာများကို မသုံးဆောင်နိုင်ကြပေ။ ဘုန်းတော်ကြီးများမှာကား စာပေ ကျမ်းဂန်များကို သင်အံ့ခြင်းမှာတစ်ပါး အခြား ပူပန်ရန်ကိစ္စ ကင်းငြိမ်းပြီးဖြစ်သဖြင့် စာပေကျမ်းဂန်အတွင်း၌ စိတ်ဇောအာရုံ စုန်ဆန်လှည့်လည်၍ နေလိုသမျှ နေနိုင်ကြပေသည်။ သို့ဖြစ်ရကား ရှင်ဥတ္တမကျော်၊ ရှင်မဟာသီလဝံသ၊ ရှင်အုံးညို၊ ရှင်မဟာရဋ္ဌသာရ၊ ရှင်ဣန္ဒဂုတ္တ စသော ရဟန်း ပုဂ္ဂိုလ်တို့သည် ပါဠိကျမ်းဂန် သဒ္ဒါကရိုက် ကျမ်းဂန်များကို ဆည်းပူးလေ့လာ၍

**ဆိ**တို့တတ်ကျွမ်းသမျှကို ဝမ်းတွင်း၌ သိုသိပ်ဖုံးကွယ်၍ မထားကြဘဲ အမျိုးလေးပါး တို့အား တရား၏ အမွေအနှစ်ကို ပေးဝေကမ်းလှမ်း ခွဲခြမ်းစိတ်ဖြာ၍ သုံးဆောင်စေလို ရကား ပါဠိကျမ်းစာ အစောင်စောင်တို့ကို မြန်မာမှု ပြုကြကုန်သည်။

ဖတ်ပြန်သော်ကား၊ ဖတ်ဖန်များက၊ သားမယားပင်၊ မိုက်မှားခဲ့စွာ၊
မလိမ္မာလည်း၊ စာပေစကား၊ နေ့တိုင်းကြားက၊ ထူးခြားလိမ္မာ၊
ရှိသည်သာတည့်...

ဟူသော သဘောကို ဝမ်းတွင်း၌ ဖြောင့်စင်းစွာ နှလုံးသွင်း၍ အမျိုးလေးပါးတို့၏ လိမ္မာရေးခြား ဖြစ်ဖွယ်ရာများကို လွန်စွာလိုလားကြသည် အားလျော်စွာ...

အသင့်အသင့်၊ လူရှင်ကျင့်ကို၊ လင်းပွင့်စေအောင်၊ စောဘုန်းခေါင်၏၊
များမြောင်ဆန်းကြယ်၊ ငါးနိကာယ်ဟု၊ ဝန်းကျယ်ဟောဖော်၊ ရင်နို့
တော်ကို၊ ဆီပေါ်ထောပတ်၊ ဉာဏ်ဖြင့်ဖွပ်လျက်၊ ဆိုမှတ် ဘာသာ၊
လူ့ပျူငှာဟု၊ သကာချေမြက်၊ အဖျော်ဖက်၍၊ နံ့သက်မွှေးမွှေး၊
ချိုဆိမ့်လေးသား၊ တည်ကျွေးစားငှာ၊ ဤသည့်စာကို...

စသည်ဖြင့် ရှင်လူအပေါင်းတို့အား တရားအမြိုက်ဆေး တိုက်ကျွေးလို၍ ရေးသား ပြုစုခြင်း ဖြစ်ပါသည်ဟု ရှင်မဟာသီလဝံသ ပုဂ္ဂိုလ်သည် ပါရမီတော်ခန်း နိဂုံးတွင် မှတ်ဖွယ်စကား မှာထားတော်မူသည်။ ဤရဟန်းပုဂ္ဂိုလ်တို့ ပြုစုခဲ့သော ပျို့ကဗျာ များသည် ပထမတန်းစားကြီးများဖြစ်၍ နောက်ပုဂ္ဂိုလ် ပညာရှိတို့သည် မည်ကဲ့သို့ ကျမ်းဂန်တတ်ကျွမ်းစေကာမူ ဤရဟန်းပုဂ္ဂိုလ်တို့၏ စာပေအဆင့်အတန်းကို မီအောင် မရေးသားနိုင်ကြ၊ ဤသို့သော ရဟန်းပုဂ္ဂိုလ်တို့သည် လောကုတ္တရာရေးနှင့် ဘင်းတိမ်ပြီး နေဖို့သင့်လျက် မနေနိုင်ကြ၊ ကိုယ်ကျိုးကိုမျှ မငဲ့ဘဲ အပတ်တကုတ် ကြိုးစားကာ ပါဠိသက္ကတ ကျမ်းဂန်များမှ ခမ်းနားလေးနက်သော မှတ်သားဖွယ် တွေကို မြန်မာမှု ပြုလုပ်ပေးတော်မူကြသည့်အတွက် ဤပုဂ္ဂိုလ်တို့အား လွန်စွာ ကျေးဇူးအထူးတင်စရာ ကောင်းသော်လည်း ထိုမြန်မာမှုတို့မှာ ဗုဒ္ဓတရားတော်နှင့် ဆန့်ကျင်သည်ဟု အထင်ရောက်ကြသော အင်းဝခေတ် ပညာရှိများ၏ ကဲ့ရဲ့ပစ်တင် ငြိုငြင်ခြင်းကိုပင် ခံခဲ့ရဟန် တူသည်။ သက္ကရာဇ် ၈၄၂–ခုနှစ်၊ ရှမ်းဈေးလမ်းမ၊ အရှေ့မနော်ရမံ ဥယျာဉ်နှင့် မနီးမဝေးတွင် ဒုတိယမင်းခေါင် သိမ်သမုတ်သည်။ သိမ်မြောက်ဘက်တွင် ဘုရားတည်သည်။ သိမ်သမုတ်သည့်ကာလ အခြားဆရာတော်

များက သာချင်းသည်တို့ပါလျှင် ငါတို့ မလာမလိုက်ပြီ ဆိုသောကြောင့် ရှင်သီလဝံသနှင့် ရှင်ရဋ္ဌသာရတို့ကို သိမ်သမုတ်ရာတွင် မပါမဝင်စေရဟူ၍ အစဉ်အဆက် ဥဒါန်းစည်ရှည် ပြောဆိုကြကြောင်းကို သာသနာလင်္ကာရ စာတမ်းတွင် ဖတ်ရှုမှတ်သားရပေသည်။ ထိုကြောင့် အင်းဝခေတ် ရဟန်းပုဂ္ဂိုလ်များ၏ ကျေးဇူးသည် လွန်စွာကြီးပေစွ၊ ရဟန်းပုဂ္ဂိုလ်တို့နှင့်အတူ ထပ်ကြပ်ကပ်၍ ပေါ်ပေါက်ထွန်းကားလာကြသော လူပုဂ္ဂိုလ်များကား ရှင်သူရဲနှင့် ရှင်ထွေးညိုတို့ ဖြစ်ကြသည်။ ထိုပုဂ္ဂိုလ်တို့၏ ကဗျာအဖွဲ့အနွဲ့များသည် ရဟန်းပုဂ္ဂိုလ်များ၏ အဆင့်အတန်းကို မမီသော်လည်း မြန်မာမှုကို လူပုဂ္ဂိုလ်များထဲမှ ရှေးဦးစွာ အားပေးပြုစုသူများ ဖြစ်ကြ၍ ရှေ့ဆောင်လမ်းပြသဖွယ် ပုံစံပြခဲ့ကြသောကြောင့် နောင်ခေတ်များတွင် မြန်မာစာပေကို လိုက်စားကြသော လူပုဂ္ဂိုလ်များ ပေါ်ပေါက်ကြသည်။ ထိုပုဂ္ဂိုလ်တို့သည် ရဟန်းစာဆိုများကဲ့သို့ ပျို့ မော်ကွန်းများတွင် မကျော်စော မထင်ရှားကြသော်လည်း ချေင်း၊ ရတု၊ မယ်ဘွဲ့၊ မောင်ဘွဲ့များတွင် ကျော်စော ထင်ရှားကြသည်။ ပထမ အင်းဝခေတ်တွင် မြန်မာမှုသည် တစ်ရှိန်တည်း တိုးတက်ထွန်းကားလာသည်။ အကြောင်းမှုကား ဘုရင်မင်းမြတ်များ ကိုယ်တိုင်ကပင် မြန်မာမှုကို အားပေးသည့်ပြင် စာဆိုပုဂ္ဂိုလ်တို့သည်လည်း တစ်ဦးနှင့် တစ်ဦး အပြိုင်ရေးသားပြုစု၍ ဉာဏ်ရည်ပြကြသောကြောင့်ပင် ဖြစ်သည်။ ထိုကြောင့် အင်းဝခေတ်တွင် ပထမတန်းစား စာကြီးပေကြီးများကို အမြောက်အမြား တွေ့ရှိရလေသည်။ လူပုဂ္ဂိုလ်စာဆိုများတွင် အမျိုးသမီး စာဆိုတော် ၂–ဦးကိုလည်း တွေ့ရှိရပေသည်။ ထိုပုဂ္ဂိုလ် ၂–ဦးတို့သည် အမျိုးသမီးများထဲမှ ရှေးဦးစွာ ယောကျာ်းများနှင့် ရင်ဘောင်တန်းလိုက်သော စာဆိုတော်များ ဖြစ်ကြသည်။ ထိုအမျိုးသမီးတို့၏ စာများသည် ထူးခြားကောင်းမွန်သော စာများ မဟုတ်လှသော်လည်း မိန်းမသားပြီပြီ ဂုဏ်တုဂုဏ်ပြိုင် ရေးကြသော ကိုယ်ရည်သွေးစာများ ဖြစ်၍ အထိုက်အလိုက် ချီးမွမ်းထိုက်ပေသည်။



# ၄။ တောင်ငူခေတ်

သက္ကရာဇ် ၈၀၀–ကျော်လောက်ကပင် တောင်ငူ ခြားနားစပြု၍ ဘုန်းလက်ရုံးနှင့် ပြည့်စုံတော်မူသော မင်းကြီးညိုသည် သက္ကရာဇ် ၈၄၇–ခုနှစ်တွင် မဟာသီရိဇေယျသူရဘွဲ့ကို ခံယူတော်မူ၍ ကေတုမတီပြည်၌ မင်းပြုတော်မူသည်။ တောင်ငူတွင် မင်းကြီးညိုသည် သက္ကရာဇ် ၈၄၇–ခုနှစ်မှ ၈၉၂–ခုနှစ်တိုင် စိုးအုပ်တော်မူရာ ၈၈၈–ခုနှစ်တွင် အင်းဝရွှေနန်းကို ရှမ်းမင်း သိုဟန်ဘွား ဖျက်ဆီး၍ ရဟန်းတော်များကို နှိပ်စက်ကလူပြုရာတွင် ကျမ်းတတ်ပုဂ္ဂိုလ်တို့သည် လွတ်ရာလွတ်ကြောင်းကို ရှာကြံ၍ ထွက်ပြေးစုန်ဆင်းလာကြသည်။ တစ်ချို့သည် ပြည်ဘုရင် ထွေးထံသို့ ပြေးအောင်းခိုလှုံကြ၍ တစ်ချို့မှာ တောင်ငူ မင်းကြီးညို၏ စောင့်ရှောက်ခြင်းကို ခံယူကြရရှာသည်။ ထို့ကြောင့် တောင်ငူဘက်တွင်လည်း ကျမ်းတတ်ပုဂ္ဂိုလ်များ အတော်အတန် စုမိကြသည်။ နန်းတွင်းစာဆိုတို့မည်သည် မိမိတို့၏ လင်္ကာရတုများဖြင့် နန်း၏ ကျက်သရေကို ဆောင်ကြကုန်၏။ အလံမဲ့သော ရထားသည် မတင့်တယ်သကဲ့သို့ စာဆိုမဲ့သော နန်းတော်ကြီးသည်လည်း အဆင်မပြေ မတင့်မတယ် ရှိချိမ့်မည့် အကြောင်းများကို တွေးခေါ် သိမြင်ဟန်တူသော မင်းကြီးညိုသည် ဝင်ရောက်၍ ဘုန်းတော်ရိပ်ကို ခိုလှုံလာကြသော စာဆိုများကို မြှောက်စားခြင်း ပြုသောကြောင့် ဤတောင်ငူခေတ်သည် စာဆိုလောကကြီးအတွင်း ထင်ရှားသော ခေတ်တစ်ခေတ်ပင် ဖြစ်လာတော့သတည်း။

## လော်ကား ၃၀၀၀ မှူး

အင်းဝမှ ပြေးလာသူ အပေါင်းတို့တွင် လော်ကား ၃၀၀၀ မှူးသည်လည်း တစ်ယောက် အပါအဝင် ဖြစ်၏။ သက္ကရာဇ် ၈၆၃–ခုနှစ် ရွှေနန်းကြော့ရှင် နရပတိလက်ထက် ရွှေနော်ရထာ၏ အရေးတော်နှင့် ပတ်သက်၍ ရွှေနော်ရထာကို ရေမှာဖျောက်သည်တွင် ကျွန်တော်ရင်းဖြစ်သော လော်ကား ၃၀၀၀ မှူး ရှင်ထွေး နာသိန်တို့သည် တောင်ငူသို့ ပြေးလာကြရသည်ဟု ဆိုကြသည်။ တောင်ငူသို့ ရောက်လျှင် သက္ကရာဇ် ၈၄၇–၈၉၂ ခုနှစ်အတွင်း မင်းပြုသော ကေတုမတီဘုရင် မင်းကြီးညိုထံ ဝင်ရောက်၍ စာဆိုတော်အဖြစ်ဖြင့် ခစားသည်။ ထိုသို့ ခစားရာ ရေတပ်ဖွဲ့ စစ်သည်တော် ၃၀၀၀ အပေါ်တွင် အကြီးအမှူးအဖြစ် ခန့်ထားချီးမြှင့်ခြင်း ခံရသောကြောင့် လော်ကား ၃၀၀၀ မှူး တွင်သည်။ လော်ကား ၃၀၀၀ မှူးသည် တောင်ငူရောက်မှ စာဆိုသည်မဟုတ်၊ အင်းဝတွင် ရှိစဉ်ကပင် ရတု မော်ကွန်း များကို ဖွဲ့ဆိုသည်။ မင်းကြီးညိုလက်ထက်တွင် သားတော် မင်းတရား ရွှေထီး ချောင်း ၃ စောင်ကို ဆိုသည်။ ထို့နောက် ၂၈–စီး မြင်းယာဉ်တက် လင်္ကာ ဘုန်းတော်ဘွဲ့ ရတုများနှင့် အင်းဝဘုရင် သတိုးမင်းစော၏ ဆင်တော် သန်မြင်စွာ ကိုလည်း မော်ကွန်း ဖွဲ့ဆို၏။ ထိုမင်းလက်ထက်တွင်ပင် ရာဇဒေဝဘွဲ့၊ ရာဇဗလဘွဲ့၊ ရာဇာဗာဟုဘွဲ့များကို သနားခြင်း ခံရသည်။ ရာဇဒေဝဘွဲ့နှင့် မင်းရဲသိခ်သူ ချောင်းကို ဆိုသည်။ ရာဇဗာဟုဘွဲ့နှင့် မင်းရဲကျော်စွာစုန် ချောင်းကို ဆိုသည်။ ထို ဘွဲ့များအပြင် တောင်ငူ နဝဒေးဘွဲ့ကိုလည်း ရသေးသည်။ သို့သော် နဝဒေးဘွဲ့နှင့် များစွာ မကျော်ကြားပေ။

## မင်းတရားရွှေထီးချောင်း

သက္ကရာဇ် ၈၇၈–ခုနှစ်တွင် မင်းတရား ရွှေထီးချောင်းကို လော်ကား ၃၀၀၀ မှူး ဆိုသည်။ ဤ ချောင်းသည် ပုဂံ၊ မြင်စိုင်း၊ စစ်ကိုင်း၊ ပင်းယတို့၌ ထင်ရှားကုန်သော ရှေး ဘေးလောင်းတော် ဘိုးလောင်းတော် မင်းမြတ်တို့၏ ဘုန်းတန်ခိုး တေဇာ အာဏာတော် တက်ထွန်းကြောင်းကို ဖွဲ့ဆိုသည့် ချောင်း ဖြစ်သည်။ ဤ ချောင်းတွင် စာဆိုတော်သည် ဘေးလောင်းတော်၊ ဘိုးလောင်းတော် တို့၏ ဘုန်းတော်များကို အဓိကထား၍ ဖွဲ့ဆိုသည်။ ကေတုမတီ တောင်ငူမြို့ကြီး ကိုလည်း ခမ်းနားပေါ်လွင်သော စကားများဖြင့် ဖွဲ့ဆိုစီကုံးသည်။

ပရမေလျှံပြောင်၊ စက်ဘုန်းရောင်ဖြင့်၊ အခေါင်တုလွတ်၊ ဓာတိမြတ်၍၊ လူနတ်အပုံ၊ မေတ္တာရုံက၊ ကြင်စုံမက်မော၊ မျက်ခြည့်ပြောမျှ၊ ဖြူစော သဖွယ်၊ အရွယ်ရောင်ဆင်း၊ ရှင့်ဘမင်းကို၊ သနင်းစောထီး၊ ရှင့် ဘေးကြီးနှင့်၊ ဝေးနီးကြေညာ၊ သခ်ယာဟု၊ မည်သာကျော်ဟိုး၊ ရှင့် ချစ်ဘိုးလည်း၊ တန်ခိုးကြွးဝါး၊ တမွတ်ထားလျက်၊ ငါ့သားရန်ငူး၊ တန်ခိုးမြူးဟု၊ ကျေးဇူးမိုးမြင့်၊ မြင်းမိုရ်ဆင့်သို့၊ တို့ရှင့်မျိုးစုံ၊ စံတုံ့ရမည်၊ မှတ်တော်ရည်ရှင့် . . .

စသည်ဖြင့် ဘေးတော်၊ ဘိုးတော်များ၏ ဘုန်းတော်ကို ဖွဲ့နွဲ့ရာ၌ လွန်စွာခမ်းနား သည်။ ဤ ချေင်းတွင် ချေင်းအဖွဲ့ခံ မင်းသား၏ ဘေးတော်၊ ဘိုးတော်တို့ကို ဖွဲ့ဆိုပြီးလျှင် မင်းတရားရွှေထီး ဖွားတော်မူသောအခါ ဖြစ်ပေါ်၍ အတိတ်နိမိတ် ပြကြသော အကြောင်းအရာများကို . . .

ရတုသုံးထွေ၊ တစ်တွေတွေလျှင်၊ သန်နွေမခန့်၊ မတန့်ဆွာချောင်း၊ မြစ်ပေါင်းလောင်းနှင့်၊ ခပေါင်း ခရိုင်၊ စိုးပိုင်တရီး၊ တုံ့ဝပ်ကျိုးမှ၊ သိနီးမောင်ကြင်၊ ကရင်ရှမ်းတော၊ ရွာမိုင်းမောက၊ ဖြင်ပေါလက်ဆောင်၊ ယုန်ပြောင်ချေဆတ်၊ ရောက်ပွတ်တူးလေ၊ ရစ်ဝေငှက်နီ၊ စုံစီမြင်းကောင်း၊ ပျားဖယောင်းတည့်၊ ကြေးမောင်းကြေးစည်၊ ရှေးတည်ဆက်ကြိုက်၊ ရှစ်တိုက် နီးဝေး၊ ပြည်ရေးရွာမူ၊ တစ်ခုမကြွင်း၊ ပြီးစီးလျှင်းဟု၊ ဝင်းဝင်း ပြောင်မွန်း၊ စက်ရောင်ထွန်းလျက်၊ ရိုက်ဖြန်းအိုင်အိုင်၊ ထစ်ကာချိုင်တည့်၊ ရွှေစိုင် ငွေခဲ၊ နတ်တို့ကြဲ၍၊ အံအဲဖွယ်သာ၊ ရတနာမိုးကြီး၊ ရွာဆုံးပြီး၍၊ ရွှေထီးစကြာ၊ ဖြန့်မိုးကာလျက်၊ စည်သာ မုရိုး၊ စိန်တံပိုးဖြင့်၊ ရိုက်ကြိုးလက်မြှောက်၊ ထိန့်ချောက်ပဲ့တင်၊ သံလွင်ကျူးဖြား၊ ရှင့်ကိုဖွားသည်။ ။ချစ်အားတည့်ကြင်လေး၊ နတ်ရှင်သွေး . . .

ဟူ၍ စပ်ဟပ်ဖွဲ့ဆိုသည်။

ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ဘုန်းတော်ဘွဲ့များကို ဖွဲ့ဆိုရာ၌ စာဆိုတော်သည် အခြား ချေင်းဆရာများထက် ခမ်းနားအောင် ဖွဲ့ဆိုနိုင်ကြောင်း သိရသည်။ လွန်စွာကျယ်ဝန်းသည့် အကြောင်း အရာများကို တစ်ပိုဒ် နှစ်ပိုဒ်တွင် အကုန်ပါဝင်စေ၍ ဩဇဂုဏ် မြောက်အောင် အတိုချုံ့ကာ ဖွဲ့ဆိုနိုင်သော သတ္တိလည်း

ရှိသည်။ ဤ ချေင်းကို စပ်ဆိုဖွဲ့နွဲ့ပြီးလျှင် များမကြာမီပင် မင်းတရား ရွှေထီး၏ ဆွေတော် မျိုးတော်စဉ်များကို အချက်ကျကျ သိစေလို၍ **'တဝေးမပြား'** ချီ မျိုးတော်စဉ် ချေင်းကို စပ်ဆိုဆက်သပြန်သည်။ မင်းတရားရွှေထီး ချေင်းတွင် ပုဂံ မြင်စိုင်း၊ စစ်ကိုင်း၊ ပင်းယတို့၌ စိုးစံတော်မူကြကုန်သော ဘေးလောင်းတော် ဘိုးလောင်းတော်တို့၏ အကြောင်းများကို ချီးကျူးခဲ့ပြီး၍ အင်းဝပြည်ကြီးကို တည်ထောင်တော်မူသော သတိုးမင်းဖျားသည် စစ်ကိုင်း၊ ပင်းယ နှစ်ပြည်လုံးကို ချုပ်၍ မင်းပြုတော်မူကြောင်း၊ ထိုနောက် မင်းကြီးစွာစော်ကဲမှစ၍ သရက်မင်းမျိုး ၆–ဆက်၊ မိုးညှင်းမင်းတရားမှစ၍ မိုးညှင်းမင်း ၆–ဆက်၊ ပေါင်း ၁၂–ဆက်တို့၏ မြေးဖြစ်တော်မူသော ခမည်းတော် ကေတုမတီမြို့တည် မဟာသီရိဇေယျသူရ မင်းတိုင်အောင် ပုဂံမင်းတို့မှ တစ်စုတဝေး မကွဲမပြား မင်းမျိုးနွယ်ဆက်ကြောင်းကို လျှောက်ဆိုသော ချေင်း ဖြစ်သည်။ ဤ ချေင်းသည် မင်းတရားရွှေထီး ချေင်းသစ် ဟူ၍လည်းကောင်း၊ မင်းတရားရွှေထီး မျိုးတော်စဉ် ချေင်းဟူ၍လည်းကောင်း အမည်နှစ်မျိုးဖြင့် ကျော်ကြားသည်။

ဤ ချေင်း၏ အဓိကရ အချက်သည် အမျိုးတော် အဆွေတော်များကို အစဉ်အလိုက် ခုနှစ် သက္ကရာဇ်နှင့်တကွ ဖော်ပြခြင်းဖြစ်သည်။ ထိုကြောင့် ဘုန်းတော်ဘွဲ့၊ မြို့တော်ဘွဲ့များကို လည်းကောင်း၊ မင်း အဆက်ဆက်တို့ လက်ထက် ဖြစ်ပျက်သော အကြောင်းချင်းတ များကိုလည်းကောင်း၊ စုံလင်အောင် မဖွဲ့ဆိုချေ။ ဤ ချေင်း၌ မှတ်သားဖွယ်ကား ဘေးတော် ဘိုးတော်တို့၏ မျိုးရိုးစဉ်ဆက်ကို ဖော်ပြရာ၌ အပေါ်ယံက သိသာလွယ်ရုံ မဖွဲ့ဘဲ မင်းအသီးသီးတို့နှင့် သင့်မြတ်ကြသော မိဖုရား၏ အကြောင်းစုများကိုပါ ဖွဲ့နွဲ့ခြင်း ဖြစ်သဖြင့် ရာဇဝင်ဆရာများအဖို့ အဖိုးမဖြတ်နိုင်သော ချေင်း ဖြစ်သည်။

## မင်းတရားရွှေထီး နားတော်သွင်း

မင်းတရားရွှေထီးသည် သက္ကရာဇ် ၈၉၂–ခုနှစ်တွင် တောင်ငူ ရွှေနန်းကို သိမ်းမြန်းတော်မူသည်။ ထိုအခါ၌ သက်တော် ၁၄–နှစ်မျှသာ ရှိသေးသည်။ ဤ နန်းတက်တော်မူသည့် ၈၉၂–ခုနှစ်၌ပင် လျော်ကား ၃၀၀၀ မှူးသည် နားတော်သွင်း ချေင်းကို ဆိုသည်။

စပယ်ဦးစာပေ

နားတော်သွင်းနှင့် ချောင်းတို့သည် အနည်းငယ် ကွာခြားကြ၏။ မွေးဖွားသည့် နေ့ကမှစ၍ ပုခက်တွင်း အရွယ်ဖြစ်သော မင်းသား မင်းသမီးများကို ဖွဲ့ဆိုသော ကဗျာဖြစ်လျှင် ချောင်းဟူ၍ ခေါ်၏။ ပုခက်တွင်းအရွယ်ကို လွန်သည်မှစ၍ အိမ်ရှေ့မင်းအဖြစ်တိုင်ရောက်သော မင်းသားကို သော်လည်းကောင်း၊ တစ်ပင်တိုင် မင်းသမီးအဖြစ်တိုင် ရောက်သော မင်းသမီးကို သော်လည်းကောင်း ဖွဲ့ဆိုသော ကဗျာဖြစ်လျှင် နားတော်သွင်းဟူ၍ ခေါ်၏။

ချောင်းသည် ကလေးချော့ သီချင်းမျှသာဖြစ်၍ ပုခက်တွင်းအရွယ် ကလေးများ အတွက်သာ စပ်ဆိုသည်။ ရွှေနားတော်သွင်းမှာကား သိတတ်သောအရွယ် ရှေ့ နောက် ဆင်ခြင် တိုင်းထွာ တတ်သောအရွယ် မင်းသား၊ မင်းသမီးတို့ကို နား တော် လျှောက်ကြားခြင်း ဖြစ်သောကြောင့် ရွှေနားတော်သွင်း ဟူ၍ အကျဉ်းချုပ် မှတ်သား သင့်သည်။ ရွှေနားတော်သွင်း ဒုတိယအပိုဒ်တွင်...

မင်းဝယ် မင်းမြတ်၊ လေးကျွန်း ပတ်သည်၊ မန္ဒာတ်သည် ချာ၊
ရတနာသို့၊ တေဇာထွန်းဝင်း၊ ပွင့်လျာခင်းသည်၊ မကြွင်းသိအောင်၊
နားတော်ထောင်လော့၊ ကျော်ခေါင်သီဟ၊ ရှင့်ချစ်ဖ၏၊ မူလစွမ်းရဲ၊
နိုင်သည့်ပွဲကား၊ ပွင့်လဲချိန်သင့်၊ ရွှေနန်းမြင့်ကို၊ လှည့်ဖွင့်လင်းလင်း၊
ရန်ထိပ်နင်း၍၊ မကြွင်းကျွန်းလုံး၊ ကျုံးအုံ့ကြဲချောင်း၊ မင် လျာလောင်းက၊
ကျော်သောင်း ညာကြေ၊ ထိန့်ထိန့်ဝေမျှ။

သည်ဖြင့် ခမည်းတော်၏ စွမ်းရည်များကို သိနားလည်အောင် မင်းတရားရွှေထီး၏ နားတော်သို့ သီဆိုလျှောက်ကြားသော ကဗျာဖြစ်ရကား ဤရွှေနားတော်သွင်းသည် အခြားချောင်းများနှင့်မတူ တစ်မူကွဲပြား ခြားနားကြောင်း ထင်ရှားလှပေသည်။

ချောင်းတို့တွင်ကား မင်းဆက်မျိုးနွယ်များကို အကျယ်ချဲ့၍ ရေးသားထား သောကြောင့် ချောင်းအဖွဲ့ခံ မင်းသားကလေး၏ ဇာတိသွေး ဇာတိမာန် တက်ကြွရန် ရည်ရွယ်ချက်များသည် ရှုပ်ထွေးလှသော အစဉ်အဆက်များကို ဖော်ပြနေသည့် အကြား၌ပင် ပျောက်ကွယ်တိမ်မြုပ်သွားတတ်လေသည်။ ဤနားတော်သွင်းမှာကား မင်းဆက်များကို အကျယ်မချဲ့တော့ဘဲ ခမည်းတော်၏ ရဲစိတ်ရဲမာန် ဘုန်းတန်ခိုး သာဇာ အာဏာတော်များကိုသာ ဖွဲ့ဆိုထားခြင်းကြောင့် နားထောင်ရသူ၏စိတ်၌ ရှုပ်ထွေးခြင်းမရှိဘဲ ရှင်းလင်းပြတ်သားစွာ နာယူနိုင်သည့်အပြင် သွေးအနီးကပ်ဆုံး ဖြစ်သော ဖခမည်းတော်၏ ဂုဏ်များကို ကြားရဖန်များသဖြင့် အဖ၏ ခြေရာ

နှင်းချင်သော စိတ်တို့သည် တဖွားဖွား တိုးတက်လာတတ်ပေသည်။ ထို့ကြောင့် နားတော်သွင်းသည် ချောင်းထက်ပင် ခရီးရောက်နိုင်ပေသည်။

ဤ ချောင်းများအပြင် လော်ကား ၃၀၀၀ မှူးသည် ရတုများကိုလည်း ဆိုသေးသည်။ ထိုရတုများအနက် **'မေရုပဟို'** ချီ ဘုန်းတော်ဘွဲ့ ရတုသည် အကောင်းဆုံး ရတုဖြစ်သည်။ ဤရတုတွင်လည်း ချောင်းများမှာကဲ့သို့ပင် ဘေးဘိုးများ၏ ဘုန်းတော်ကို ဖွဲ့ဆိုထား၏။ ရတုရေးရာတွင် ပထမ နဝဒေးကြီးနှင့် လော်ကား ၃၀၀၀ မှူးတို့သည် တစ်ခေတ်တည်းတွင် ပေါ်ပေါက်သော စာဆိုများ ဖြစ်ကြသည်။ နဝဒေးကြီး၏ ရတုများက လွှမ်းမိုးနေသောကြောင့်သာ လော်ကား ၃၀၀၀ မှူး၏ ရတုများသည် ကျော်စောသင့်သလောက် မကျော်စောခဲ့ပေ။ အာဘော်ချင်းမှာကား မတိမ်းမယိမ်းရှိ၏။ အချို့ အဖွဲ့အနွဲ့များတွင် လော်ကား ၃၀၀၀ မှူး၏ ရတုများကပင် နဝဒေးကြီး၏ ရတုများထက် သာမယောင်ယောင် ရှိသည်။ နဝဒေးကြီးနှင့် လော်ကား ၃၀၀၀ မှူးတို့ ဖွဲ့ဆိုထားသော ရတုများ ကောင်းခဲ့လေသမျှ နောက်လိုက် ရတုများ အကျိုး ရှိဖို့ ဖြစ်တော့သည်။ အဘယ်ကြောင့် ဟူမူ နောက်လိုက် ရတုဆရာများသည် **'လမ်းရိုးဟောင်းတွင်၊ ဆင့်ကာထွင်၊ သုတ်သင်ခါမျှ၊ လွယ်ကာရ'** ဟူဘိသကဲ့သို့ ဤစာဆိုတော်နှစ်ဦး၏ နောက်လိုက် ဖြစ်ပြီးလျှင် စာဆိုတော်နှစ်ဦး၏ ကဗျာများမှပင် ကောင်းသော အပိုဒ်များကို ကူးယူ၍ ဖွဲ့နွဲ့ကြသောကြောင့် ဖြစ်သည်။

## ရှင်ထွေးနာသိန်

လော်ကား ၃၀၀၀ မှူးနှင့်အတူ အင်းဝမှ တောင်ငူသို့ ပြေးလာခဲ့သော ရှင်ထွေးနာသိန်သည် တောင်ငူသို့ ရောက်ပြီလျှင် ဇာတိချက်ကြွေဖြစ်သော အင်းဝမြို့ကိုသာ တမ်းတနေတော့သည်။ တောင်ငူသို့ရောက်သော် မင်းကြီးညိုထံ၌ ဝင်ရောက်ခစားသည်။ တောင်ငူရောက်၍ များမကြာမီပင် အနိစ္စရောက်ရာ ခေါင်းအုံးအောက်၌ အင်းဝမြို့သို့ တမ်းတရတုပိုဒ်စုံ တစ်စုံကို တွေ့ရသည်။

နတ်တော်ဆန်း၍၊ လျှံထွန်းရောင်ဝါ၊ သူရိယာလျှင်၊ အဝါမမူ၊ အဖြူအနီ၊ စုံစီခြယ်လွင်၊ ပြင်ထပ်တွင်၍၊ နေဝင်မြင်သည်၊ ဝရွှေပြည် ကား၊ ဆီးရည် ပတ်ချုပ်၊ မှိုင်းအုပ်ပျပျ၊ ပုညတောင်ဆီ၊ ရီလျက်

မလင်း၊ မဝင်းအုံ့မှိုင်း၊ စစ်ကိုင်းတစ်ဘက်၊ သန်လျက်ပေါ်ထွန်း၊
ကျွန်းများတံခွန်၊ နန်းဗိမာန်မှာ။ ။လေသွန်ပြည့်လှည်းလိမ့်
တကား...

ဟူ၍ စပ်ဆိုရာ၌ ညနေဝင်ရီတရောတွင် တွေ့မြင်ရသော အင်းဝပြည်ကြီးကို အုံ့မှိုင်းလျက်ရှိသော ဆီးနှင်းတို့အောက် ပုညရှင် ဘုရားစေတီနှင့် မနီးမဝေးအရပ်တွင် တည်ရှိနေပုံတို့သည် ဓာတ်ပုံကားကြီးသဖွယ် ပေါ်လွင် ထင်ရှားလှသည်သာမက ရာသီအချိန်ကို ဖော်ပြရာ၌လည်း စာရေးသူ၏ စိတ်သဘောကို မဆိုထားသိ ဖတ်ရှုမိသော ကျွန်ုပ်တို့၏ စိတ်ကိုပင် ထိခိုက်စေတော့၏။ ဤရတုကို ဆိုသူသည် အကယ်စင်စစ် မျက်ရည်ဖြိုင်ဖြိုင်ကျ၍ အလွမ်းမိုး ရွာစွေစဉ် ရေးသားဟန် တူ၏။

## ပြည်နဝဒေးကြီး

အင်းဝခေတ်တွင် လူပုဂ္ဂိုလ် စာဆိုတော်များ ရှားပါးသလောက် တောင်ငူခေတ်တွင် ပေါများကြသည်။ သက္ကရာဇ် ၈၈၈-ခုနှစ်၊ ရှမ်းတို့၏ စနစ်ရန်မီးကြောင့် ရဟန်းစာဆိုတို့သည် အင်းဝ ရွှေမြို့တော်မှ တိုင်းတစ်ပါးသို့ ထွက်ပြေးတိမ်းရှောင်နေကြရစဉ် စာဆိုလောကကြီး အတွင်းသို့ ရဟန်းပုဂ္ဂိုလ်များကိုယ်စား လူပုဂ္ဂိုလ်များ ဝင်ရောက်၍ အသုံးတော်ခံကြသည့် အထဲတွင် ပထမ နဝဒေးကြီးလည်း အပါအဝင် ဖြစ်၏။ ဤ စာဆိုတော်သည် သက္ကရာဇ် ၈၉၄-ခုနှစ်၊ ပြည်မြို့တွင် မင်းပြုသော ဘုရင်နရပတိ၏ ယောက်ဖ (နှမတော် နရပတိ မယ်တော်၏ ကြင်ရာတော်) မင်းဘစော၏ အထိန်းတော်သား ဖြစ်သည်။ မင်းဘစောကို ပွတ်လယ်ရွာတွင် ဘုရင်နရပတိ ကွပ်မျက်၍ နှမတော်ကို စလင်းစည်သူကျော်ထင်သို့ ပေးလျှင် နှမတော်နှင့်အတူ နဝဒေးသည် စလင်းသို့လိုက်၍ နေသည်တွင် 'မင်းလကျာ' ဘွဲ့ကို ရသည်။ ထိုနောက် စလင်းမြို့ပျက်၍ စစ်ကိုင်းတွင် စည်သူကျော်ထင် သက္ကရာဇ် ၉၀၇-ခုနှစ်၌ မင်းပြုလျှင် စစ်ကိုင်းသို့ မင်းလကျာ လိုက်ပါ ခစားရပြန်၍ ထောင်သင်းကို ကြီးမှူးရသည်။ ထိုတွင်မှ 'ထောင်သင်းမှူး' တွင်ပြန်သည်။ ထိုနောက် သက္ကရာဇ် ၉၁၃-ခုနှစ်တွင် စစ်ကိုင်းစည်သူကျော်ထင်သည် နရပတိစည်သူ အမည်ဖြင့် အင်းဝရွှေနန်းကို သိမ်းမြန်းစိုးစံ၍ ၆-နှစ်အကြာ ဟံသာဝတီ ဆင်ဖြူများရှင် လုပ်ကြံ၍ အင်းဝပျက်လျှင် ပြည်ဘုရင် သတိုးဓမ္မရာဇာက

ဆင်ဖြူများရှင်ထံ ထောင်သင်းမှူးကို တောင်းယူ၍ ပြည်မြို့သို့ ခေါ်ဆောင်သွားရာ ပြည်တွင် 'နဝဒေး' ဘွဲ့ကို ရသည်။ ထို့ကြောင့် 'စစ်ကိုင်းထောင်သင်း၊ စလင်း လကျာ၊ ပြည်မှာ နဝဒေး' ဟူ၍ အမှတ်သညာ ပြုကြကုန်သည်။ နဝဒေးဟူသည် ကဗျာ လင်္ကာတို့ကို ဖွဲ့ဆိုရာမှာ အပြစ်ဆိုစရာမရှိသော စာဆိုတော်ဟူ၍ အဓိပ္ပာယ် ရသည်။ အသက် ၁၀-နှစ်အရွယ်ကပင် ကဗျာ လင်္ကာများကို လိုက်စား၍ ရတုများ စပ်ဆိုသည်။ နဝဒေးကြီး စပ်ဆိုသော ရတုများသည် ပုဒ်အရေတွက် အားဖြင့် သုံးရာကျော်ခန့် ရှိသည်။ ထို့ကြောင့်လျှင် ရတု နဝဒေးကြီးဟူ၍ အခြား နဝဒေးဘွဲ့ခံ စာဆိုတော်များမှ ခွဲခြားမှတ်သားထားကြသည်။ သက္ကရာဇ် ၁၁၄၄-ခုနှစ် အမရပူရမြို့တည် ဘိုးတော်ဘုရားလက်ထက်တွင် ပေါ်ပေါက်သော နဝဒေးကို ဒုတိယ နဝဒေးဟု ခေါ်တွင်သည်။ နဝဒေးကြီး စပ်ဆိုသော ရတုများအနက် မိုးဘွဲ့၊ တောဘွဲ့၊ ပန်းဘွဲ့၊ ပြည်ဘွဲ့၊ နန်းဘွဲ့၊ စစ်ချီမောင်ဘွဲ့၊ ဘုရားတိုင် မယ်ဘွဲ့၊ မောင်ဘွဲ့၊ (အမေး-အဖြေ) ရတု၊ ကျေးစေရတု၊ သိကြားတိုင် ရတု တို့မှာ လွန်စွာ ကျော်ကြား ထင်ရှားသည်။ နဝဒေးသည် ဘုရားတိုင် ရတုများကို အခြားရတု ဆရာများထက် သာလွန်ကောင်းမွန်အောင် စပ်ဆိုနိုင်သည်။ ပုံစံပြရ မည်ဆိုသော်...

> ယှက်လျှံမှောင်လည်၊ ချမ်းကြေည်သား၊ မြရည်စတော၊ ပတ်ခွေရံဝန်း၊
> မြင်းမိုရ်ထွန်းသို့၊ အောင်ကျွန်းသန့်လျက်၊ မင်းဝံချက်၌၊ ရှေးဆက်
> မြင့်ရှည်၊ မင်းဖျားတည်သည်၊ နတ်ပြည်မယွန်း၊ ရွှေဝနန်းဝယ်၊
> ရိုက်မွန်း အာဏာ၊ မင်းကြီးစွာဟု၊ သစ္စာလေးဆင့်၊ ပွင့်အံ့အမှန်၊
> ထွတ်ဘုန်းဗုန်လျှင်၊ ငါးမာရ်ပယ်ချွေ၊ ရှင်တော်မွေကို၊ စံရွှေသိင်္ဂါ၊
> ကိုးဖြာ မျက်စုံ၊ ယှက်ရုံ ရစ်လည်၊ တင့်ကြောင်းတည်သည်။ ။
> ခြောက်မည်ရောင်စုံ ရွှေစည်းခုံ...

စသည်ဖြင့် မိမိဖွဲ့လိုသော ဘုရား၏တည်ရာဌာန၊ တည်သူ ဒါယကာ၊ ဘုရား၏ ဘွဲ့အမည် အစရှိသော သမိုင်း အတိုချုပ်ကလေးများကို သုံးပိုဒ် တစ်စုံရှိရာတွင် ပထမ အပိုဒ်တိုင်း၌ပင် ထည့်ဆိုဖွဲ့နွဲ့ ခြယ်လှယ်ထားသောကြောင့် ဘုရားတိုင် ရတုများသည် ပထမတန်းစား ရတုများ ဖြစ်ကြသည်။ စစ်ချီ၊ မယ်ဘွဲ့၊ မောင်ဘွဲ့ ရတုများသည်ကား အခြားရတု ဆရာများ၏ အဆင့်အတန်းနှင့် ရင်ပေါင်တန်း လိုက်သည်။ စစ်မက်ဖြစ်ပွားနေသည့်အခါ စစ်ဆင်စစ်တက်ပုံ စစ်သည်တော်များအား

နှစ်စိတ်ရဲမာန် ဖြစ်စေသော အဖွဲ့များကို စပ်ဆိုသင့်ပါလျက် စစ်ချီရာတွင် အိမ်နေကြင်ဖော်အား လွမ်းဆွတ်တသသည့်သဘော သက်ဝင်သော ရတုအဖွဲ့များကိုသာ ဖွဲ့သောကြောင့် စစ်ချီ ဟူသော အမည်နှင့် ဆန့်ကျင်လျက် ရှိသည်။ မိမိကိုယ်တိုင် ဘပင် နန်းတွင်းသားဖြစ်၍ သိမ်မွေ့နူးညံ့သော သဘောနှင့် ပြည့်ဝလေရကား ပြည်ဘွဲ့၊ နန်းဘွဲ့၊ မင်္ဂလာအခမ်းအနားဘွဲ့များ စပ်ဆိုရာ၌ အခြားဆရာတို့ထက် သာလွန် ကောင်းမွန်အောင် ဖွဲ့ဆိုနိုင်ပြန်သည်။ ဘုရားတိုင် ရတုများကို ကောင်းမွန်စွာဖွဲ့ဆိုနိုင်ခြင်းကား မိမိအရှင်သခင်နှင့်အတူ စလင်း၊ စစ်ကိုင်း၊ ပင်းယ၊ အင်းဝစသော ဌာနရပ်ရွာများသို့ အရောက်အပေါက်များသဖြင့် ဒေသန္တရ ဗဟုသုတပြည့်ပ ကုံလုံသည့်ပြင် ကိုယ်တိုင်ကလည်း ဘုရားတရားတွင် ကြည်ညိုဟန်တူ၍ ဘုရားစေတီများကို ဖူးမြင်ရာ၌ သေချာနှံ့စပ်သောကြောင့် ဖြစ်သည်ဟူ၍ ယူဆသင့်၏။ ထိုကြောင့် ဘုရားဖွဲ့များမှာ ပိုမိုကောင်းမွန်သည်။ မိုးဖွဲ့ ရတုများတွင်ကား သူတစ်ပါး၏ စိတ်နှလုံးကို စွဲငြိထိခိုက်အောင် စပ်ဆိုနိုင်ပုံ မပေါ်။

ချစ်တင့်နိုးလွန်၊ ဘုန်းချင်းညွန့်၍၊ နတ်ဟန်ရုပ်ရည်၊ မြတ်မူနည်ကို၊
မည်သည်ဖြစ်အင်၊ ဆံမျှင်မခြား၊ သစ်သစ်ပွား၍၊ သည်းဖျား ဝှန်လှိုက်၊
လွမ်းစဉ်ကြိုက်ဝယ်၊ တိမ်တိုက်ထက်ဆိုင်၊ ကြူးကာအိုင်လျက်၊ သံပြိုင်
သံပြို၊ လူလျှင်သီသို့၊ မိုးချိုသန်လျက်၊ ဆင်းသက်ဘနန်း၊ လှည့်ဝန်း
အာကာ၊ ရင့်သန်ဝါနှင့်။ ။ဗျာပါစိမ့်မည် ဆင်ဘိသည်...

အစရှိသည်ဖြင့် မိုးကို ရိုးရိုးသားသား စကားများဖြင့်သာ အပြစ်တင်သည်။ သို့သော် တောင်ငူခေတ် ရတုဆရာများက နဝဒေးကြီးနည်းကို ခံယူကြကြောင်း အထောက်အထားများကို တွေ့ရှိရသည်။ နဝဒေးကြီးသည် ရတုအမျိုးမျိုးကို ရှေးဦးစွာ ထွင်သူလည်း ဖြစ်သည်။ အခြား ရတုဆရာများအဖို့ ရတုလမ်းကြောင်းကြီးကို ရှင်းလင်း ခုတ်ထွင်ပေးသူလည်း ဖြစ်သည်။ အခြား ရတုဆရာများကဲ့သို့ ခေတ်ကောင်းကိုလည်း မမိခဲ့ချေ။ ထိုခေတ်သည် စစ်မက်အင်္ဂါများသော ခေတ်လည်း ဖြစ်၏။ အရှင်သခင် ကိုယ်တိုင်ကလည်း စစ်မက် ဝါသနာပါ၍ တစ်နေရာ တစ်ရပ် တစ်ဒေသတည်း၌ အတည်အမြဲ နေထိုင်ရသည် မရှိ။ မကြာခဏ ကူးပြောင်း နေထိုင်ရသောကြောင့် စိတ်ထင်တိုင်း မပေါက်ခဲ့ချေ။ အေးချမ်းသော ခေတ်နှင့် ကြုံကြိုက်ခဲ့ပါက နဝဒေးကြီး၏ ကဗျာဉာဏ် အဆင့်အတန်းသည် ထိုထက် ကောင်းမွန်စရာ ရှိပေ၏။ ပထမ နဝဒေးကြီးသည် ရတုသာ မဟုတ်၊

ဘုရင့်နှမတော် ချောင်းခေါ် ယိုးဒယားမိဖုရား ချောင်း၊ မင်းတရားမယ်တော် ချောင်း နှင့် ဆင်ဖြူရှင်မယ် ချောင်းများကိုလည်း ရေးသားပြုစုသေးသည်။

## မင်းတရားမယ်တော် ချောင်း

ဤ ချောင်းအဖွဲ့ခံ မင်းတရား မယ်တော် အမည်ရှိသော မင်းသမီး၏ အကြောင်းကား ဟံသာဝတီ ဆင်ဖြူများရှင် မင်းတရားကြီးသည် သက္ကရာဇ် ၉၁၂–ခုနှစ်၌ ကေတုမတီမြို့တွင် ဘိသိက်ခံတော်မူပြီးနောက် ရှေးဦးစွာ ပြည်မြို့ကို တိုက်ခိုက်ရာ သက္ကရာဇ် ၉၁၃–ခုနှစ်တွင် အောင်မြင်တော်မူ၍ ညီတော်ရင်း သတိုးဓမ္မရာဇာကို ပြည်မြို့တွင် ဘုရင်ခံ ပြုစေသည်။ သတိုးဓမ္မရာဇာသည် ပြည်မြို့တွင် အထက်က မင်းဖြစ်ခဲ့ဖူးသော ဘုရင်ထွေး၏ သမီးတော် စလင်းမိဖုရားကို မိဖုရား မြှောက်ရာတွင် ၁–ဆင်ဖြူရှင်မယ်၊ ၂–မင်းတရား မယ်တော် ဟူသော သမီးတော် ၂–ပါးကို မြင်သည်။ မင်းတရားမယ်တော်သည် သက္ကရာဇ် ၉၁၂–ခုနှစ် တွင် ဖွားမြင်သည်ဖြစ်၍ ၉၁၂–၁၃ ခုနှစ်လောက်တွင် ချောင်းကို ဖွဲ့ဆိုလိမ့်မည်ဟု ထင်မြင်ယူဆဖွယ် ဖြစ်သည်။ ဤ ချောင်းသည် ချောင်းဟောင်းများ ဖြစ်ကြကုန်သော သခင်ထွေး၊ ရခိုင်မင်းသမီး ချောင်းတို့ထက် ဖွဲ့နွဲ့ပုံရှည်လျား၍ စာရေး စာသား တိုးတက် ခမ်းနားသည်။ ချောင်းအဖွဲ့ခံ မင်းသမီး၏ ဆွေတော် မျိုးတော် စာရင်း များကို ဖွဲ့ဆိုရာ ဘေးလောင်းတော် ဘိုးလောင်းတော်များကိုသာ ကောက်ယူ၍ မဖွဲ့နွဲ့ဘဲ ဒွတ္တဘောင်မင်း၊ ပြူမင်းတို့မှ အစပြု၍ အစီအစဉ်အာ.ဖြင့် ဖွဲ့ဆိုသည်။ ချောင်းဆရာတို့၏ သဘောကား ချောင်းအဖွဲ့ခံသူ၏ ဘေးလောင်းတော်၊ ဘိုးလောင်း တော် ဖြစ်ကြကုန်သော ဘုန်းကြီးသည့် မင်းများကိုသာ ကောက်နုတ်ဖွဲ့ဆိုရန် လိုလားကြသည့်အားလျော်စွာ ဒွတ္တဘောင်၊ ဖြူစောထီး၊ အနော်ရထာမင်းများသည် ချောင်းဆရာများ၏ ကန့်ကူလက်လှည့်ရာ ဖြစ်တော့သည်။ ထိုချောင်းဆရာများတွင် နဝဒေးကြီးလည်း ပါဝင်ရကား...

> ရှင်ပင်တို့မျိုး၊ ဆက်နွယ်ရိုးကား၊ တန်ခိုးလျှံပတ်၊ အရိမဒ်၌၊ နေနတ် သားရင်း၊ ပြူမင်းဖြစ်စ၊ ဖြူဆွမာတင်၊ ငါးစီးရှင်ဟု၊ ကျော်ထင် ကြေညာ၊ တေဇာထန်ပြင်း၊ မိုးညှင်းသတိုး၊ ဘေးတော်ဘိုးလျှင်၊ ဥမျိုနှစ်ပါး၊ ဘုန်းတော်အားဖြင့်၊ သိကြား သူရဿတီ၊ အညီဆိုလှာ၊ မော်ကွန်းစာကား၊ နရာဒိဗ္ဗ၊ လောက တန်ဆောင်၊ မျိုးဘောင်ဆွေစုံ၊

လုံးမြို့များစွာ၊ ဖြစ်ခြင်းရာနှင့်၊ ဇာတာစန်းလက်၊ ချင့်တွက်အားလုံး၊ ဆိုရိုးကျူးမှ၊ လက်ရုံးတော်စက်၊ ပွဲအောင်ချက်လည်း၊ ရှေးစက်မင်းဖျား၊ ရထားထမ်းစင်၊ ဆင်လည်းစီးချင်း၊ မြင်းလည်းယှဉ်ပူး၊ သတ်ကြဖူးရှင့်...

–ဟု၍ အမျိုးဂုဏ်ရည်ကို ပြုမြင်းမှ အစတည်၍ ထုတ်ဖော် ဖွဲ့ဆိုထားသည်။

## ဘုရင်နှမတော် ချေင်း

မင်းတရားမယ်တော် ချေင်းကို စပ်ဆိုပြီး၍ သက္ကရာဇ် ၉၄၀–တွင် **'ယိုးဒယားမိဖုရား ချေင်း'** ခေါ် **'ဘုရင်နှမတော် ချေင်း'** ကို စပ်ဆို ဖွဲ့နွဲ့ပြန်သည်။ ဤချေင်း အဖွဲ့ခံ သမီးတော်၏ အကြောင်းကား ဟံသာဝတီ ဆင်ဖြူရှင်မင်းတရားကြီးသည် စတုဂါမဏိသမီး ရှင်ထွေးလှကို ရာဇဒေဝီအမည်နှင့် မိဖုရားမြှောက်ရာတွင် သားတော် နော်ရထာစောကို မြင်သည်။ ထိုနောက် ဇင်းမယ်ပြည်ကို သိမ်းယူပြီးလျှင် ထိုသားတော် နော်ရထာစောကို ဇင်းမယ်တွင် ဘုရင်ပြုစေ၍ ဇင်းမယ်ဘုရင် တွင်သည်။ ထိုဇင်းမယ်ဘုရင် နော်ရထာစောတွင် သားတော် ၃–ပါး၊ သမီးတော် တစ်ပါး ထွန်းကားသည်။ ဤသမီးတော်ကား ချေင်းဘွဲ့ခံ သမီးတော်တည်း။ နောင် ယိုးဒယားမင်းနှင့် သင့်၍ မိဖုရား မြှောက်တင်ခြင်း ခံရသောကြောင့် ယိုးဒယား မိဖုရားဟု တွင်သည်။ နော်ရထာစော မရှိလျှင် ဇင်းမယ်ဘုရင် သားတော် ၃–ပါးအနက် သားတော်ကြီး နန်းတက်သည်တွင် ယိုးဒယား မိဖုရားသည် ထိုသားတော်ကြီး ဇင်းမယ်ဘုရင်၏ နှမဖြစ်သည်ကို အစွဲပြု၍ ယိုးဒယား မိဖုရားကိုပင် ဘုရင့် နှမတော်ဟူ၍ ခေါ်ပြန်သည်။ ဤ ချေင်းကို နဝဒေးအမတ်ကြီးသည် သက်ရွှယ်အိုမင်းမှ ရေးသား ဖွဲ့နွဲ့ရသောကြောင့် သက္ကရာဇ် ၉၁၃–ခုနှစ် လောက်က ရေးသော မင်းတရားမယ်တော် ချေင်းထက် ဖွဲ့နွဲ့ပုံ ခမ်းနားသည်။ တိုတိုတုတ်တုတ်နှင့် စကားပေါ်လွင်သည်။ ထိုချေင်းတွင်လည်း...

ဖြူရောင်ပိတ်လှပ်၊ ရင်ထပ်သလင်း၊ ပျံ့ရှင်းထုံခိုး၊ သွယ်ကြိုးတမုတ်၊ ဖော်ထုတ်အစ၊ သမ္ဘတနှင့်၊ သကျွန္တယ်ရင်း၊ ပြုမြင်းတို့ရိုး၊ ချစ်ဘိုးချစ်ဘွား၊ နန်းတက်များကို၊ ရွှေနားဖြည့်သွင်း၊ မင်းတို့ရတု၊ ရှင်မှုကျူးမျှ၊ မှတ်စေရသည်။ ။ရှင်မတည့်ပျော်မွေးစက်ဘိလေး...

ဟူ၍ စပ်ဆိုထားသည့် အတိုင်းပင် ပြုမြင်းထိုးမှစ၍ အစဉ်အဆက် ထီးနန်းဆက်ခံ စိုးစံတော်မူကြကုန်သော ဘေးလောင်းတော် ဘိုးလောင်းတော်တို့ကို ဖွဲ့ဆိုသည်။

စာသား ခမ်းနားရုံမှတစ်ပါး ဖွဲ့ပုံဖွဲ့နည်းများသည် ငယ်စဉ်က ဖွဲ့သော မင်းတရားမယ်တော် ချေင်းမှာကဲ့သို့ပင် ရှိသည်။ ဤချေင်း နှစ်စောင်ကို ရခိုင်မင်းသမီး ချေင်း၊ သခင်ထွေး ချေင်းများနှင့် နှိုင်းယှဉ်သော် ဤချေင်းများတွင် မင်းစဉ် မင်းဆက် သင့်မြတ်ပုံ၊ ဆင်းသက် ပေါက်ပွားလာပုံများကို ရှေးဟောင်းချေင်းများမှာထက် သာ၍ ကျနသေသပ်စွာ ဖွဲ့နွဲ့၍ ထားသည်။ အမျိုးအစဉ်အဆက်ကို ထင်ရှားအောင် သစ်ပင်ပေါက်ပြရန် လွယ်ကူလှသည် မဟုတ်ချေ။ ရာဇဝင် တစ်စောင်လုံးကိုလည်း မျက်စိနှစ်လုံးအောက်၌ ကွင်းကွင်းကွက်ကွက် ပေါ်နေအောင် ရေးသားထားသည်။ ရခိုင်မင်းသမီး ချေင်းသည် မျိုးရိုးစဉ်ဆက်အကြောင်း ဖွဲ့နွဲ့ရာ၌ နဝဒေးဆို ချေင်းများလောက် ပြည့်ပြည့်စုံစုံ မရှိ။ ချေင်းဆိုသည့်အတိုင်း ပုခက်တွင်းရှယ် ကလေးကို အိပ်ပျော်စေရန်သာ ရည်ရွယ်ပြီးလျှင် သုတိသာယာသော အိပ်မွေ့ဆေးနှင့်တူသော စကားလုံးကလေးများဖြင့် ရွေးချယ်စိစစ်၍ ဖွဲ့နွဲ့သည်။ မင်းသား၊ မင်းသမီးများကို ချေမ်းသာယာစွာ အိပ်ပျော်သွားအောင် ပြုလုပ်ရန်ထက် ဇာတိသွေး ဇာတိမာန် တက်ကြွလာအောင် ပြုလုပ်ရန်က ပိုမိုအရေးကြီးသည်။ ဇာတိသွေး ဇာတိမာန် တက်ကြွမှသာလျှင် ကြီးပြောက်လာသောအခါ မင်းသား မင်းသမီးများသည် မိမိတိုင်းပြည်ကို ချစ်မည်။ ချစ်မှသာလျှင် တိုင်းပြည်ကြီး၏ အနစ်အနာကို ကြည့်ရှုဆိတ်မည်မဟုတ်။ ထိုအခါ ချေင်းအဖွဲ့ခံ မင်းသား မင်းသမီးများသည် လူစွမ်းကောင်းကြီးများ ဖြစ်လာကြမည်မှာ မလွဲနိုင်။ ထို့ကြောင့် ဇာတိသွေး ဇာတိမာန် တက်ကြွအောင် ဖွဲ့ဆိုထားသည့် ဤ မင်းတရားမယ်တော် ချေင်းနှင့် ယိုးဒယား မိဖုရား ချေင်းများကို ပိုမိုအရေးယူဖို့ သင့်ပေသည်။

## မနော်ဟာရီပျို့

ဤ ချေင်းများအပြင် နဝဒေးကြီးသည် ပျို့တစ်စောင်ကိုလည်း ရေးသေးသည်။ မနော်ဟာရီပျို့ဖြစ်သည်။ ဤပျို့သည် များစွာကျော်ကြားခြင်း မရှိ။ ဖွဲ့နွဲ့ပုံအတန်းအစားမှာ ရှင်အဂ္ဂသမာဓိ၊ ရှင်ရဋ္ဌသာရတို့၏ စာများကို မမီ။ လောကအကြောင်းကို နွယ်၍ ဖွဲ့နွဲ့သော်လည်း နဝဒေးကြီးထက် သာလွန်သော ရှင်အဂ္ဂသမာဓိ၏ ဘုံခန်း၊ ငရဲခန်းများက လွှမ်းမိုး၍ နေသည်သာမက တောင်ငူဘက်တွင် ရတု

များက ခေတ်စားနေ၍ ပျို့ခေတ်သည် ကုန်သွားပြီဖြစ်သောကြောင့် ဤမနော်ဟရီ ပျို့သည် ခေတ်၏ ဝါးမျိုခြင်းကို ခံရရှာတော့သတည်း။

## ဗညားဒလ

အင်းဝဘက်တွင် မြန်မာ ကဗျာ လင်္ကာစာပေ အရေးအသား ထွန်းကား နေသည့်အချိန်၌ ဟံသာဝတီပြည်ဘက်တွင်လည်း မြန်မာစာပေ ထွန်းကားလျက် ရှိလေသည်။ သို့သော် ဓမ္မကြောင်း၊ လောကကြောင်း နွယ်သော စာများမဟုတ်။ ရာဇကြောင်း နိုင်ငံရေးနှင့် ပတ်သက်သော စာများသာ ဖြစ်ကြသည်။ သို့ဖြစ်၍ ဟံသာဝတီပြည်ဘက်က စာဆိုခေတ်ကို အသစ်အဆန်းထူထောင်သည်ဟု ဆိုရ ပေမည်။ အင်းဝခေတ်တွင် ရေးသမျှ စာများမှာ တရားကြောင်းဘက် နွယ်လျက် ရှိသည်။ ထိုပြင်လည်း အမျိုးလေးပါးတို့အား လိမ္မာရေးခြားရှိစေရန် ဆုံးမသော စာများ၊ မင်းတစ်ပါး တစ်ပါးလက်ထက် အဖြစ်အပျက်များကို ရေးသားထားသော မော်ကွန်းများ၊ ကလေးချော့ သီချင်းဖြစ်သော မျိုးဂုဏ်ရည်ဘွဲ့ ချင်းများသာလျှင် ခေတ်စားလျက် ရှိနေရာ နိုင်ငံရေးနှင့် ပတ်သက်သော စာပေများ မပေါ်သေး သောကြောင့် တိုင်းပြည်မျက်စိပွင့်ခြင်း မရှိ။ မျက်စိမပွင့်လင်းသေးသမျှ လူမျိုး ခြား၏ အနှိပ်အစက်ကို ခံရမည်မှာ မလွဲဟူ၍ အမြင်ကျယ်လာသော ဟံသာဝတီ ဆင်ဖြူများရှင်လက်ထက် တလိုင်းအမတ်ကြီး ဗညားဒလသည် မြန်မာအမျိုးသား နိုးကြားပွင့်လင်းရေးကို အားပေးရန်အလို့ငှာ ရှေးဆရာများ မွန်ဘာသာဖြင့် ရေးသားထားရှိခဲ့သော ရာဇာဓိရာဇ် အရေးတော်ပုံကျမ်းကို မြန်မာဘာသာဖြင့် ပြန်ဆိုရေးသားသည်။ ဟံသာဝတီ ဆင်ဖြူများရှင် လက်ထက် ရေးသည်ဟူ၍ သိရသည်မှာတစ်ပါး ရေးသက္ကရာဇ်ကို အသေအချာ မသိရပေ။ မြန်မာပြည်တွင် အရေးတော်ပုံကျမ်း ၅-စောင် တွေ့ရှိရသည့်အနက် ရာဇာဓိရာဇ် အရေးတော်ပုံသည် ဘစ်စောင် ဖြစ်သည်။ ပဲခူးဘုရင် ဆင်ဖြူရှင် သားတော် ရာဇာဓိရာဇ်မင်းနှင့် ရတနာပူရ အင်းဝကြငှန်း ရွှေနန်းသခင် ဘုရင်မင်းကြီးစွာစော်ကဲ သားတော် ပထမမင်းခေါင်တို့၏ စစ်မက်ရေးရာ အတ္ထုပ္ပတ္တိများကို ရေးသားထားသော ကျမ်းဖြစ်သည်။ ဤကျမ်းသည် ရာဇဝင်ဆရာများ လွန်စွာ အထောက်အပံ့ရသော ကျမ်းဖြစ်သည်။ ပထမမင်းခေါင်လက်ထက် ဖြစ်ပေါ်သော အရေးကိစ္စ အားလုံး လိုလိုပင် ဤကျမ်း၌ တွေ့မြင်ရသည်။ ဦးကုလား ရာဇဝင်ကြီး၊ မှန်နန်းရာဇဝင် ဘို့တွင်လည်း မင်းခေါင် မင်းရဲကျော်စွာ တို့၏ အတ္ထုပ္ပတ္တိများကို ရာဇာဓိရာဇ်

အရေးတော်ပုံကျမ်းမှ ကိုးကားထုတ်နုတ် ဖော်ပြကြသည်။ ထိုကြောင့် ဤကျမ်းသည် ရာဇဝင်ကျမ်းကြီးတစ်စောင် ဖြစ်ပေသည်။ ဤကျမ်းကို ဗညားဒလ အမတ်ကြီးသည် မြန်မာဘာသာဖြင့် တိုတိုတုတ်တုတ်နှင့် ပေါ်လွင်အောင် ပြန်ဆိုထားနိုင်ခြင်းသည် ချီးမွမ်းဖွယ်ရာဖြစ်သည်။ မြန်မာလူမျိုးတို့သည် မင်းတရားရွှေထီး၊ ဘုရင့်နောင်တို့ လက်ထက်တွင် စစ်မက်ရေးရာ၌ လွန်စွာလိုက်စားလာကြောင်း သိရသည်။ ထိုကြောင့်လျှင် မအောင်မြင်ခဲ့ဘူးသော ယိုးဒယားပြည်ကို အောင်မြင်ခဲ့သည်။ စစ်မက်ရေးရာများတွင် လိုက်စားအောင် အားပေး တိုက်တွန်းသူတို့တွင် ဗညားဒလ အမတ်ကြီးလည်း အပါအဝင်ဖြစ်သည်။ အကြောင်းကိုဆိုသော် ရာဇာဓိရာဇ် အရေးတော်ပုံသည် လွန်စွာ ခရီးရောက်ခဲ့သည်။ ဤကျမ်းကို မြန်မာများ ဖတ်ရှု၍ ရေးအခါ တလိုင်းများနှင့် တိုက်ခိုက်စဉ်အခါက မိမိတို့ဘက်က ချွတ်ယွင်းနေသော အချက်များ၊ လိုနေသော အရာများကို ကွက်ကွက်ကွင်းကွင်း မြင်နိုင်သဖြင့် နောင်အဖို့ ဆင်ခြင်နိုင်သည်။ တိုင်းထွာနိုင်သည်။ အမှားများ တွေ့လျှင်လည်း နောင်အမှန်သို့ ရောက်အောင် ပြုပြင်ပြင်ဆင်နိုင်သည်ဖြစ်၍ ဤအရေးတော်ပုံကျမ်းသည် မြန်မာများ၏ ခေတ်သစ်ကို ပြုပြင်ပေးသော ပြုပြင်ရေးစက်ကိရိယာကြီးနှင့် တူသည်။ ဤကျမ်းတွင် အမတ်ကြီး၏ ရေးသားပုံ စကားအသွားအလာတို့သည် တိုတိုတုတ်တုတ်နှင့် လွန်စွာထိခိုက်လှသည်။ ဤကဲ့သို့ ဝါကျတိုကလေးများဖြင့် ဖွဲ့နွဲ့ထားသောကြောင့် စာသည် ပြတ်သားရှင်းလင်း၏။ ဆိုလိုသော အရာများမှာလည်း မကွယ်မထောင့် ပေါ်လွင်၏။ ပုံစံ ပြရမည်ဆိုသော်...

> မဂဒူလည်း နေ့ညမဟူ မအိပ်မနေ ဆော်ဘန်၏။ နောင်ပြည့်ရှင်မင်း လာတော်မူလျှင် မဂဒူကို မြင်၏။ ပြည့်ရှင်မင်း ငုံသည့်လက်ဖက်ကို ထုတ်၍ ခံတွင်း ဆေးတော်မူရာတွင် ကြွေပေါက်တစ်လုံး ရုတ်ချည်း ပေါ်လာသည်ကို မြင်လျှင် မဂဒူကို ခေါ်၍ ညွှန်ပေ၏။ မဂဒူလည်း ဦးခိုက်ပြီးမှ ကောက်ယူ၏။ ပြည့်ရှင်မင်း ပြန်တော်မူမှ မဂဒူသည် ကြံ၏။

အစရှိသော အပိုဒ်များတွင် ဝါကျတိုကလေးများနှင့် ပြည့်နှက်လျက်ရှိ၏။ သို့သော်ငြားလည်း ဤ ဝါကျတိုကလေးများကြောင့် အဖွဲ့အနွဲ့ ထိခိုက်ပျက်ပြယ်၍ မသွားပေ။ ရှင်းလင်းပြတ်သား၍သာ လာတော့၏။ ဤကျမ်းတွင် ဗဟုသုတဖြစ်ဖွယ်ရာ အကြောင်းအရာများ များစွာပါဝင်သည်။ ဤကျမ်း၌ ပါရှိသည့် စကား

ရာ၌ လွန်စွာ ကျွမ်းကျင်သော စကြိုသူမြတ် သူရဲကောင်း အင်းပဲသူကြီး စသော ဗိုလ်တို့၏ အာဘော်များကား လွန်စွာမှတ်သားစရာ ကောင်းလှပေသည်။

## မဟာပညာကျော်

အမတ်ကြီး မဟာပညာကျော်သည် သက္ကရာဇ် ၉၁၅–၉၅၅ အတွင်း ဓညဝတီ ပြည်၌ မြောက်ဦး ရွှေမြို့တော် ရွှေထီးရွှေနန်းကို သိမ်းမြန်းစိုးအုပ်တော်မူသော မင်းဖလောင်းလက်ထက် ထိုဘုရင်မင်းမြတ်အား အမျိုးမျိုး လမ်းမှန်အောင် လျှောက်ထား၍ တရားလမ်းမှန်အောင် စောင့်ရှောက်ခဲ့ပြီးလျှင် သားတော် ဘုရင် မင်းရာဇာကြီး လက်ထက်တိုင်အောင် ထင်ရှား တည်ရှိသည်။ မင်းရာဇာကြီး လက်ထက်တော်မှာကား မြန်မာနိုင်ငံတော် တောင်ငူဘုရင်က ဟံသာဝတီဘုရင် ငါးဆူဒါယကာကို ဝိုင်းဝန်းကူညီတိုက်ခိုက်ပါ။ ဟံသာဝတီကို အောင်လျှင် ဆင်ကြီး၊ မြင်းကြီး၊ သမီးကညာတို့ကို ပေးပါမည်ဟူ၍ တောင်းပန် တိုက်တွန်းသဖြင့် ဝိုင်းဝန်းကူညီတိုက်ခိုက်ရန် များစွာသော စစ်သည်တော်တို့ကို စေလွှတ်တော်မူသည့် အခါ အမတ်ကြီး မဟာပညာကျော်လည်း လိုက်ပါရလေသည်။ ဟံသာဝတီကို အောင်မြင်၍ ငါးဆူဒါယကာ၏ ဆင်၊ မြင်း၊ သမီးကညာတို့ကို သိမ်းပိုက်၍ အပြန်တွင် အမတ်ကြီး မဟာပညာကျော် ကွယ်လွန်သဖြင့် အလောင်းကို မော်တင်စွန်း စေတီတော်၏ အနီးတွင် သဂြိုဟ်ခဲ့ကြလေသည်။ ထိုအမတ်ကြီးကား အခြား တရားသူကြီးတို့ မှန်ကန်အောင် မဆုံးဖြတ်နိုင်သည့် အမှုများကို တရားနှင့်ညီစွာ မှန်ကန်ရာရောက်အောင် ဆုံးဖြတ်နိုင်သော ပညာအရည်အချင်းရှိ၏။ တိုင်းရေး ပြည်ရေး စစ်မက်ရေးမှ စ၍ မင်းရေးမင်းရာ အဖြာဖြာတို့ကို အမတ်ကြီး မဟာ ပညာကျော်နှင့် တိုင်ပင်၍ အမတ်ကြီး လျှောက်ထားချက်အတိုင်းသာ ဘုရင်မင်းမြတ် ရွက်ဆောင်တော်မူရလေသည်။ အမတ်ကြီး၏ လျှောက်ထုံးများသည် မြန်မာစာပေ ဘောင် လွန်စွာ အရေးပါ အရာရောက်သော ကျမ်းဖြစ်၏။ အမတ်ကြီးသည် ရာဇရေး၌ လွန်စွာကျွမ်းကျင်သည် ဖြစ်ရကား အမျိုးလေးပါးတို့အား ဗဟုသုတ ဖြစ်စေရန် အလို့ငှာ...

ဘိသက်ကို ခံတော်မူရာ ကျမ်းဂန်၌ လာသည်နှင့်အညီ အမတ်ကြီး မဟာပညာကျော် စီရင်သော ထုံးနည်းကား နှစ်ဦးလကုန် ကဆုန် လဆန်း တစ်ဆယ့်ငါးရက်နေ့၌လည်းကောင်း၊ ဘိသက်ခံ မဏ္ဍပ်

သုံးဆောင် ဆောက်ရာ ဂင်္ဂါမြစ်နား၌ သေလောဒက ရေစပ်သော မြေ၌လည်းကောင်း၊ ဘုရားကျောင်းကို လှူဖူးသော မြေလွတ်စေခြင်း ငှာလည်းကောင်း၊ ယင်းသို့ မင်္ဂလာရှိရာ အဠနဒီဠမြို့မြစ် ကျက်သရေ ရှိသော ဘုမ္မိအရပ်ဝယ် မင်္ဂလာပြုသော အဠနနဒီလေးမြို့ဖြစ်၊ ဘုမ္မိအရပ် ဝယ်၊ မင်္ဂလာပြုသော မဏ္ဍပ်သုံးဆောင် ဆောက်ရာတွင်မူကား၊ ကလိန် တောင်မြေ၊ အမရာတောင်မြေ၊ အောင်သာမြို့မြေ၊ သီရိဂုတ်တောင်ခြေ၊ ကတည့တောင်မြေ၊ နီလာတောင်မြေ၊ မေရုပဗ္ဗတတောင်မြေတို့ကို ဆောင်ယူထားရလေ၏။ မင်္ဂလာမဏ္ဍပ်ဆောက်ရန် သစ်၊ ဝါး၊ ကြိမ် တို့ကို အသည်သားတို့က ရင်းဖျား မမှားစေရ၊ မှတ်သားခုတ်ယူ၍ ပေးရလေ၏။ အမိုး၊ ကန့်လန့်ကာ ရွက်တို့ကို တလိုင်း မြောက်စည် သားတို့ ပေးရလေ၏။

ယင်းသို့ သစ်ဝါး အမိုးစုံလင်သော မင်္ဂလာမဏ္ဍပ် ဆောက်ရာ အရပ်၌ ရွှေထွန်၊ ငွေထွန်၊ သံထွန် သုံးရပ်။ ရွှေထွန်မှာ အမျိုးအရိုး သူဌေးမှန်၏ သား၊ ဝါမောင်းသော တန်ဆာကို ဆင်လျက် ထွန်ရ၏။ ငွေထွန်မှာ အမျိုးစဉ်ဆက် သူကြွယ်မှန်သော သူ၏သား၊ နီမောင်းသော တန်ဆာကို ဆင်လျက် ထွန်ရ၏။ သံထွန်မှာ အမျိုးစဉ်ဆက်ကြီးသော တောင်သူကြီးသား၊ စိမ်းသော တန်ဆာကို ဆင်လျက် ထွန်ရ၏။ ထိုသုံးရပ်သော ထွန်တို့၌သော်ကား နွားလား ဥသဘနှင့် တစေထွန်ရ၏။ ယင်းသို့ ပြီးလတ်မူ နွားနို့ရည်ကို အနံ့ဖျန်းရလေ၏။ ယင်းသို့ ပြီးလတ်သော် နွားချေးမှုန့်ဖြင့် အနံ့ ဖြူးရလေ၏။ ယင်းသို့ပြီးလတ်သော် မုယော၊ နှံး၊ ဝါ၊ ပြောင်း၊ ပဲ၊ လူး၊ ဆပ်၊ စပါး များကို ကြဲရလေ၏။

ထိုသို့ပြီးလျှင် စောင်ရန်း လုံခြုံစွာကာလျက် နတ်ပူဇော်သော ပုဏ္ဏား တို့က စန္ဒီ၊ ပရမိသွာ၊ မဟာပိန္နဲ၊ ဗိဿနိုး စသော နတ်တို့ကို လှည်းရထားဖြင့် တင်၍ ရာဇမတ္တန် စသော ကျမ်းလာမန္တန်တို့ကို ရွတ်ဖတ် ပူဇော်ရ၏။ ယင်းသို့ ပြီးလတ်သော် သင်္ဃာတော် ပုရောဟိတ် တစ်ကျိပ် နှစ်ပါးတို့နှင့် သင်္ဃာဂိုဏ်းပြည့် ဘုမ္မိဇာလ စသော အောင်ခြင်းရှစ်ပါး၊ မင်္ဂလသုတ်၊ ရတနသုတ် စသော ပရိတ်တော်တို့ကို ရွတ်ဖတ်ပြီးမှ ကမ္မဝါစာလည်း ဖတ်ရ၏။ ယင်းသို့ ပြီးလတ်သော်

နတ်ပူဇော်သော ပုဏ္ဏားတို့က သိရိန္ဒဘုမ္မိဇာလ ဂါထာတို့ကို ရွတ်လျက် ခရုသင်းသံပေး၏။ ယင်းသို့ပြီးလတ်မှ မင်္ဂလာမဏ္ဍပ်တော် ဆောက်ရန် သစ်၊ ဝါး၊ ကြိမ်၊ အမိုးအကာတို့၌ ပရိတ်တော်ရေ၊ ခရုသင်းရေဖြင့် ဖျန်းရလေ၏။

အစရှိသည်ဖြင့် ရှေးမင်းများ ရာဇဘိသိက် ခံတော်မူသော နည်းစနစ်များကို စကားအပိုအလို မရှိ၊ စေ့စေ့စပ်စပ် ရေးသားထားသည်။

## ရဝေရှင်ထွေး

ရဝေရှင်ထွေးသည် သက္ကရာဇ် ၉၄၆–၉၇၁ ခု ကေတုမတီ တောင်ငူ ရွှေနန်းတည် မဟာဓမ္မရာဇာမင်း၏ နန်းတွင်းကိုယ်လုပ်တော် ဖြစ်သည်။ တောင်ငူမြို့ကို အနောက်ဘက်လွန် မင်းတရားကြီး အလိုတော်ပြည့်လျှင် ရဝေရှင်ထွေးကို အင်းဝမြို့သို့ ခေါ်ဆောင်သွား၍ အင်းဝတွင် နန်းတွင်းစာဆိုအဖြစ် ခစားရသည်။ ရဝေရှင်ထွေးဟူသော အမည်သည် အင်းဝသို့ ရောက်မှ ရသောအမည် ဖြစ်သည်။ ရဝေ–နန်း၊ ရှင်ထွေး–မထွေး၊ နန်းတွင်းသူ မထွေးဟူသတည်း။

**မှတ်ချက်။** ။စာဆိုသူ မထွေး၏ အမည်သည် ရဝေရှင်ထွေးမဟုတ်။ ရေဝေရှင်ထွေးဖြစ်ကြောင်း။ ရေဝေရွာ ဇာတိဖြစ်သည်ကို အစွဲပြု၍ ရေဝေရှင်ထွေးဟု ခေါ်သည်။ စာဆိုတော် ဦးမင်းသည်လည်း ရေဝေရွာသားပင် ဖြစ်သည်။ စလေရွာ ဇာတိ ပညာရှိကို စလေဦးပုည၊ ကျည်းကန်ရွာဇာတိ ကျည်းကန်ရှင်ကြီး၊ ဝန်တောင်လယ် ဘုန်းကြီးတို့ကဲ့သို့ ဇာတိကို လိုက်၍ တွဲခေါ် မှည့်ဆိုသော အမည်မျှဖြစ်ကြောင်း ပညာရှိတစ်ဦးထံမှ ကြားနာရဖူးသည်။

ရဝေရှင်ထွေးသည် အနောက်ဘက်လွန် မင်းတရား၏ လက်ထက် ၉၆၇–၉၉၀ တွင် အဏ်ချင်းတစ်ပုဒ်ကို စပ်ဆိုသည်။ ထိုအဏ်ချင်းသည် ရှေးပုဂံမင်းတို့ လက်ထက် အသုံးပြုသော ဥဿျှောင်ထုံးနည်း ၅၅–မျိုးကို ကဗျာ လင်္ကာဖြင့် ဖွဲ့ဆိုခြင်းပင်တည်း။

အစောတို့လေ၊ ရတာနာတွေ၊ ရွှေမိုးစွေ၍၊ သပြေမည်ခံ၊ ပြည်ပုဂံ ဝယ်၊ နိုင်ငံကျယ်ပြော၊ ရှေးမင်းစောတို့၊ မုနောဇမ္ဗူ၊ ခံတော်မူက၊ မြိတ်ဖြူ (၁)၊ မြိတ်စို့ (၂)၊ သွယ်ညိုမြိတ်လွတ် (၃)၊ ရစ်ပတ်စု

လည်း (၄)၊ ရှေ့ရည်းထုံးဖွဲ့ (၅)၊ တုမဲ့ရွှေရောင်– တိမ်တောင်တက်သက် (၆)၊ လျှပ်စစ်ပြက်သို့ (၇)၊ စဝ့ကဲ့ရောင်ပြေး (၈)၊ နှင်းသွေးမစို့ (၉)၊ ကြာညို့ဝတ်ဆံ (၁၀)၊ ရူဝံနိုင်းရှည့်–ရှုကြည့်မငြီး (၁၁)၊ ဦးဖြီးရှင်ပျော် (၁၂)၊ ဇင်ယောတန်းဝဲ (၁၃)၊ ပုလဲကိုးပုန်း (၁၄)၊ ဂမုန်းငုံအာ (၁၅)၊ လေသာဝေ့လည် (၁၆)၊ မြူခြည် မတင်–ယကင်ထုံးထုံး (၁၇)၊ လုံးတင် (၁၈)၊ ခရချောင် (၁၉)၊ ထုံးကြောင် (၂၀)၊ ထုံးကြား (၂၁)၊ ငါးပါးမြိတ်စို့ (၂၂)၊ အောင်မျို့ နိမိတ်–မြိတ်ရစ်လှပ (၂၃)၊ ကရဝိက်နှုတ်သီး (၂၄)၊ ဆိတ်သွီးနှင့် (၂၅)၊ ပြန်ပြီးဆယ်တွေ (၂၆)၊ နေအရဏ်ခံ (၂၇)၊ ညဉ့်ယံသောက်ရှုး (၂၈)၊ တိမ်ဦးနဂါး (၂၉)၊ လေးပါးရာသီ (၃၀)၊ နှိုင်းပြီ စံလွတ် (၃၁)၊ နဂါးပတ်ကြော့ကွင်း (၃၂)၊ နန်းတွင်းမဥ္ဖူ (၃၃)၊ ထွက်ပြူမုတ်ဝ (၃၄)၊ ပဒုမသိဒ္ဓိ (၃၅)၊ မဏိကိုးပါး (၃၆)၊ ချယားပွင့်သေး (၃၇)၊ ယုန်ရေးလဝယ် (၃၈)၊ နေလယ်ဥဒေါင်း (၃၉)၊ သုံးချောင်းခြူးရက် (၄၀)၊ စဝ့ကဲ့ရောင်ချော (၄၁)၊ သဘော်တံခွန် (၄၂)၊ အနန္တ ဖုသျှ–မောရဂီဝ (၄၃)၊ ဟသင်္ာစာခွဲ့–ထုံးအုံ့ တစ်ကွင်း (၄၄)၊ ပုဇင်းတောင်ဖြန့် (၄၅)၊ သည်းညွှန့်လက်သင် (၄၆)၊ ကွမ်းလင် (၄၇)၊ နောက်တွဲ (၄၈)၊ မုတ္တာရွဲနှင့် (၄၉)၊ ပုလဲကွန်ချာ (၅၀)၊ ရတနာမဏ္ဍိုင် (၅၁)၊ ပွင့်ဆိုင်ပုဏ္ဍာရိက် (၅၂)၊ နဂါးအိတ်လေးထောင့် (၅၃)၊ ရှစ်မြောင့် (၅၄)၊ ပြန်ကာဘက် (၅၅)၊ ပန်းရုက်ခေါင်ဗွေ–နန်းလုံးဝေမျှ–မြကေစံကျော် နှိုင်းမမြော်ကို။ ။လွမ်းတော် မမူလှည့်ပြီလော၊ ဖော်ချင်းတို့လေ၊ ဖော်ခြင်းတို့ . . .

အထက်ပါ အဏ်ချင်းကို ကြည့်ရှုခြင်းအားဖြင့် ပုဂံခေတ်က ဆံထုံးထုံးနည်းများသည် ယခု ကျွန်ုပ်တို့ခေတ် ဆံထုံး ထုံးနည်းနှင့် များစွာ ကွာခြားကြောင်း တွေ့ရသည်။ ရှေးခေတ် ရှေးအခါက အပြုအမူများကို မေ့ပျောက်တိမ်မြုပ်၍ မသွားအောင် အမှတ်တရ တရိတသေ ကဗျာ လင်္ကာဖြင့် ဖွဲ့ဆို၍ ထားခဲ့သောကြောင့် ကျွန်ုပ်တို့မှာ လွန်စွာ ဗဟုသုတဖြစ်ရသည်။ ပုဂံခေတ်က သီချင်းဂီတများ ရှိခဲ့ရာ ထိုသီချင်းနှင့် ဂီတများကို ခေတ်မီသူတို့က တရိတသေ ဆည်းပူးစုဆောင်း၍ နောက်လူများ၏ အကျိုးကို မြော်ကိုးပြီးလျှင် မှတ်တမ်းတင်ထားခြင်း မရှိသောကြောင့်

ကျွန်ုပ်တို့သည် ပုဂံခေတ်က သီချင်းများ ပေါ်ပေါက်ထွန်းကားခဲ့မှန်း သိလျက်နှင့်ပင် သီချင်းအပိုင်းအစကိုမျှ ရှာဖွေမရ၊ မတွေ့ မဖတ်ရဖြစ်တော့သည်။ ရဝေရှင်ထွေးသည် ပုဂံခေတ် ဆံထုံး ထုံးနည်းများ တိမ်ကော ပပျောက်သွားမည်ကို တင်ကြို၍ သိမြင်ဟန်ရှိသည်။ ထိုကြောင့်ပင်လျှင် ကဗျာဖြင့် ဖွဲ့နွဲ့ထားခဲ့ခြင်းဖြစ်သည်။ စင်စစ်အားဖြင့် ရဝေရှင်ထွေးသည် ရှေးခေတ်ဟောင်းကို ပြန်ပြောင်း တွေးတောပြီး လွမ်းဆွတ်နေဟန် တူသည်။ ဆံထုံးနည်း ၅၅–မျိုးကို ပဒအပို မပါရအောင် စေ့စပ်စွာ ချုံး၍ ဖွဲ့ဆိုသည်။

## အဲချင်း

အဲချင်း ဟူသည်မှာ အဏ္ဏဝ သဒ္ဒါပျက် ဖြစ်သည်။ အဏ္ဏဝတွင် ဏ–သဒ္ဒါ၊ ဝ–သဒ္ဒါ နှစ်လုံးကို ချေကာ ဏ–အက္ခရာထက် တံခွန်တင်ပြီးလျှင် အဏ်ဟု ခေါ်ဝေါ်၏။ အဏ္ဏဝ သဒ္ဒါသည် သမုဒ္ဒရာကို ဟော၏။ ဤအရာ၌ ရေကြောင်းခရီးဟု ဆိုလိုသည်။ ရာဇဝင်များတွင်လည်း သက္ကရာဇ် ၇၅၉–ခုနှစ်၌ မင်းကြီးစွာစောကဲ တကောင်းမြို့သို့ ရွှေဖောင်တော်ဖြင့် ရေကြောင်း ဆန်တော်မူစဉ်အခါ ဖောင်ခတ်သူတို့ သီဆိုရန် စပ်ဆိုသီကုံးသည့် အရာဖြစ်၍ ရေကြောင်းနှင့် စပ်ဆိုင်သည်ကို အစွဲပြုပြီးလျှင် ဖောင်ငင်သံကို အဏ်ဟု ခေါ်သည်။

ရဝေရှင်ထွေးသည် ဤဖောင်ငင်သံ အဲချင်းမှ အတုယူကာ ဆံထုံး ထုံးနည်းအဖွဲ့ကို စပ်ဆိုသည်။ အဲချင်းများတွင် **'မင်းချင်းလေ–အစောလေ–နတ်မင်းလေ'** စသည့် အာလုပ်သံဖြင့် အစချီပြီးလျှင် အဆုံးတွင်လည်း **'ဖော်ချင်းတို့လေ–မင်းချင်းတို့'** စသော အာလုပ်သံဖြင့်ပင် အဆုံးပြန်ဟပ်ရသည်။ အထက်ဖော်ပြသည့်အတိုင်း ဤအဲချင်းသည် အဟောင်းဆုံး မဟုတ်နိုင်စေကာမူ ထင်ရှား တွေ့ရှိရသမျှတို့တွင်ကား ခေတ်အဦးဆုံး ဖြစ်သည်။

**မှတ်ချက်။** ။အနောက်ဘက်လွန် မင်းတရားကြီးသည် တောင်ငူမြို့ကို အလိုတော်ပြည့်လျှင် နတ်သျှင်နောင်ကိုပင် လက်အောက် ဘုရင်ခံအဖြစ် ထားခဲ့၍ အင်းဝသို့ ပြန်တော်မူ၏။ နတ်သျှင်နောင်လည်း အနောက်ဘက်လွန် မင်းတရားကြီးသို့ ကောင်းနိုးရာရာ လက်ဆောင်တော်များ ဆက်သမည်ဟု ရှာဖွေရာ မင်းတရားကြီး၏ ညီတော်က သီချင်းအဲအဏ်များတွင် ကျွမ်းကျင်သူများကို အလိုရှိပါသည်ဆို၍ နန်းတွင်းစာဆိုတော်အများထဲမှ ကြိုက်ရာကို ရွေးကောက် ခေါ်ယူသွားစေသည်တွင် ရဝေရှင်ထွေးလည်း ပါသွားလေသည်ဟု အချို့စာများတွင် ဆိုသည်။

## နတ်သျှင်နောင်

စာဆို လောကကြီးအတွင်း ရတုတံခွန်စိုက်ခဲ့သူ နတ်သျှင်နောင်သည် သက္ကရာဇ် ၉၄၆–ခုနှစ်တွင် တောင်ငူရွှေနန်းကို သိမ်းမြန်း အုပ်စိုးတော်မူသော မဟာဓမ္မရာဇာဘွဲ့ခံ တောင်ငူ ရွှေနန်းတည်မင်း၏ သားတည်း။

သက္ကရာဇ် ၉၄၀–ပြည့်နှစ်တွင် ဖွားမြင်၍ သက်တော် ၃၁–နှစ်တွင် တောင်ငူ ရွှေနန်းကို ဆက်ခံ သိမ်းပိုက်သည်။ သက္ကရာဇ် ၉၇၂–ခုနှစ်တွင် ညောင်ရမ်းမင်းတရား၏ သားတော်ဖြစ်သော အနောက်ဘက်လွန် မင်းတရားကြီးသည် တောင်ငူမြို့ကို ချီတက်တိုက်ခိုက်ရာ အောင်မြင်၍ တောင်ငူဘုရင် နတ်သျှင်နောင်ကို လက်အောက် ဘုရင်ခံငယ် ထားပြီးလျှင် အင်းဝသို့ ပြန်တော်မူသည်။ သက္ကရာဇ် ၉၇၄–ခုနှစ်တွင် သန်လျင်မြို့စား ကုလား ဇေင်ကာသည် မုတ္တမမြို့စား ဗညားဒလနှင့် တောင်ငူသို့ ချီတက်တိုက်ခိုက်ရာ အိမ်ရှေ့မင်း မင်းရဲကျော်စွာသည် စစ်ပွဲ၌ ကျသည်။ တောင်ငူဘုရင် နတ်သျှင်နောင်လည်း သန်လျင်သို့ ပါသွားလေသည်။ အင်းဝဘုရင် မင်းမြတ်သည် ထိုအကြောင်း ကြားတော်မူ၍ ထိုနှစ်တွင်ပင် သန်လျင်မြို့ကို ချီတက်တိုက်ခိုက်ရာ အောင်မြင်၍ ကုလား ဇေင်ကာကို စစ်မေးလျှင် နတ်သျှင်နောင်က လာပါလှည့်ခေါ်၍ တောင်ငူသို့ ချီတက်ရကြောင်း ထွက်ဆိုသောကြောင့် ဇေင်ကာနှင့် နတ်သျှင်နောင်တို့ကို ကွပ်မျက်တော်မူသည်။

### ရတုများ

ရတုများကို ရေးရာ၌ နတ်သျှင်နောင်သည် အခြားဆရာများနှင့် အလျဉ်းမတူ၊ ဖွဲ့နွဲ့ပုံ လွန်စွာ ဆန်းပြားသည်။ စကားလည်း ကြွယ်ဝလှသောကြောင့် မိမိအလိုရှိသော စကားလုံးများကို ရေလဲနှင့် သုံးနိုင်သည်။ မိမိ စကားကြွယ်ဝပုံကို ပြလိုသောကြောင့် . . .

> တစ်သောင်း ရှစ်ပြန်၊ လေးထောင် လွန်သား၊ ယုဂန်လှည့်သွား၊
> လ ရထားနှင့်၊ နတ်သားနီးကြ၊ သောကာလတွင်၊ သောကဓမ္မာ၊
> ဌာပနာသား၊ သစ္စာဉာဏ်ပေါင်း၊ မရှုတောင်းသည်၊ ညီနှောင်းနောင်စော၊
> မြတ်မုဋ္ဌော။ ။ကြာမောနေ့ရက် သက်ဆက်သည့်ချည်း၊ မနည်း
> ကုံးသီ၊ များလေပြီတည့်၊ နွဲ့မှီတူစုံ၊ ဘုန်းချင်းဆုံကို၊ ကြေးမုံအသွင်၊

ရှုမြင်နေကျ၊ ပါချင်လှ၍၊ ထိန်းယရွှေဖော်၊ လျှောက်ပါသော်လည်း၊
နားတော်မညွှတ်၊ ဆင်းကြာနတ်သည်။ ။နှုတ်လွတ်မပါ မြွက်
သောကြောင့်...

ဟူ၍ အခံရတုတစ်ပိုဒ်ကို စပ်ဆိုသီကုံးလိုက်ပြီးလျှင်...

တစ်သောင်း ရှစ်မည်၊ လေးထောင် တည်ကို၊ ရစ်လည် လှည့်ပတ်၊
လပြာသာဒ်နှင့်၊ ရန်နတ်နီးခိုက်၊ သောစဉ်ကြိုက်ဝယ်၊ ထိန့်ရိုက်သပြေ၊
အာဏာမွေသား၊ သရေစမ္ပ၊ သောကရွှေမှောက်၊ တည်ခဲ့မြောက်သည်၊
ကျောက်ဆောက်လျှံပြောင်၊ မိတည်းနောင်။ ။ရည်စောင်လ–နှစ်၊
အသစ်အသင့်၊ ကြားဆင့်လေသံ၊ မပျံ့စဘူး၊ အမူးအမော်၊ ကြိုးသည်
သော်ကား၊ နာတော်ပျံ့ညောင်း၊ ညွတ်ချင်ကောင်းဟု၊ ရွှေပေါင်း
လှည့်ဖြား၊ လျှောက်ပါငြားလည်း၊ ရွှေသားမြလျှံ၊ မွတ်ညက်စံ
သည်။ ။ချစ်သံမြွက်မ ခြည်သောကြောင့်...

ဟူ၍ အလိုက်ရတုကို စီကုံးပြန်သည်။

ဤရတုနှစ်ပိုဒ်တွင် အဓိပ္ပာယ်မှာ အတူတူပင် ဖြစ်သော်လည်း စကားလုံးချင်း မထပ်မတူရအောင် သုံးစွဲနိုင်ခြင်းကို ထောက်၍ နတ်သျှင်နောင်၏ စကားကြွယ်ဝပုံကို သိရ၏။ ဤအခံရတု၊ အလိုက်ရတုမျိုးကို နတ်သျှင်နောင် စတင်ဖွဲ့နွဲ့ပြီးသည့်နောက် အခြားရတု ဆရာများ နောက်လိုက် ဖွဲ့ဆိုကြကုန်၏။ နတ်သျှင်နောင်သည် မိန်းကလေး တစ်ဦးတစ်ယောက်ကိုပင် အမျိုးမျိုး အမည်မည်ဖြင့် ချီးကျူးဖွဲ့နွဲ့ စပ်ဆိုတတ်သည်။ ပုံစံပြရမည်ဆိုသော် **'လှခေါင်ငြိမ့်၊ လှခေါင်ထွတ်၊ ခြောက်ယောက်နောင်း၊ ယဉ်ရွှန်းမြ၊ ညိုနွဲ့နောင်း၊ ယဉ်မျိုးစု'** စသည်ဖြင့် တစ်မျိုးနှင့် တစ်မျိုး ထပ်တူမရှိရအောင် ဖွဲ့ဆိုသည်။ နတ်သျှင်နောင်၏ ဘုရားတိုင် ရတုများသည် မင်းနဝဒေးကြီး၏ ဘုရားတိုင် ရတုများနှင့် များစွာ ကွာခြားသည်။ မင်းနဝဒေးကြီးသည် ဘုရားတိုင် ရတုများကို စပ်ဆိုသည့်အခါ၌ ဘုရားသမိုင်းတို ကလေးများပါအောင် ဖွဲ့ဆိုသည်။ နတ်သျှင်နောင် ဘုရားတိုင်များတွင်ကား ဘုရား၏ အကြောင်းကို အဓိကမထားဘဲ အခြားလိုရင်း အချက်များသို့ အာဘော်ပြောင်းကာ စပ်ဆိုသည်။

ဤနေရာ၌ ဗဟုသုတအရာတွင် မင်းနဝဒေးကြီးက နတ်သျှင်နောင်ထက် သာလွန်ကြောင်း သိရသည်။ မယ်ဘွဲ့၊ မောင်ဘွဲ့ ရတုများတွင် နတ်သျှင်နောင်၏

အာဘော်ကို မီအောင် လိုက်နိုင်သော ရတု ဆရာများ ရှိမည်မထင်။ နတ်သျှင်နောင်သည် နဂိုကပင် စောင်းညှင်းအတတ်ကို ကောင်းစွာ သိဆိုတီးမှုတ်တတ်သည့်အတွက် ရတုကဗျာ စပ်ဖွဲ့ရေးတွင် ဤဂီတပညာ၏ အထောက်အပင့်ကို ရလေသည်။ ထိုပြင်လည်း နတ်သျှင်နောင်သည် ရတုကို စပ်ဆိုဖွဲ့နွဲ့စဉ်က လူပျိုဘဝပင်ရှိသေး၍ ကဗျာဉာဏ် အာဘော် ရင့်သန် ပြည့်ရွှမ်းသည်။ ဖင်းမယ်ဘုရင်၏နမတော် ရာဇဓာတုကလျာကို များစွာနှစ်ခြိုက် သဘောတော် ကျနေပြန်၍ မိမိဖွဲ့လိုက်သမျှ မယ်ဘွဲ့များတွင် ထို ရာဇာဓာတုကလျာ မင်းသမီးကို ရည်ရွယ်ဖွဲ့သောကြောင့် နတ်သျှင်နောင်၏ စာများသည် အတိုင်းထက်အလွန် ကောင်းမွန်ပေသည်။

ဤနေရာ၌ လူပျို ကာလသားတို့၏ဘဝ ဝမ်းတွင်းမေတ္တာ အရင်းခံ ရင့်သန်နေသောကြောင့် လှိုက်လှိုက်လှဲလှဲ အချစ်မေတ္တာ၏ စွဲလန်းရာသို့ ဖွဲ့လိုက်တိုင်းဖွဲ့လိုက်တိုင်းသော စကားလုံးကလေးများသည် အသည်းနှလုံးကြားမှ တရွေ့ရွေ့တိုးထွက် လိမ့်ဆင်းလာတော့သည်။ ထိုကြောင့် ဤမေတ္တာဓာတ်က နတ်သျှင်နောင်အား ရတုတံခွန်စိုက် ဘွဲ့ရအောင် ချီးပင့်ပေသည်။ အကယ်၍ နတ်သျှင်နောင်သည် ရာဇဓာတုကလျာအပေါ်၌သော ရွှေစိတ်တော်ညွတ်နူး၍ အချစ် ပလူးချင်သည့်စိတ်များ မကိန်းအောင်းခဲ့လျှင် နတ်သျှင်နောင်၏ ရတုများသည် ယခုလောက် ကောင်းချင်မှ ကောင်းပေမည်။ အချစ်၏ သွေးဆောင်ရာသို့ လိုက်၍နေရသော စိတ်တွင် ရာဇဓာတုကလျာ၏ ရူပါရုံကို မြင်သောကြောင့်...

> တင့်လှပေဟန်၊ ဘက်မရံတည့်၊ ခြောက်တန်နတ်ရွာ၊ ဘုံက လာသို့၊ ပြာပြာလတ်လတ်၊ မွတ်မွတ် ရေးချေ၊ ထုံးနေမကြော့၊ ပတ်လျော့ဆံကြာ၊ ကျတိုင်းသာလျှင်၊ ရွှေဝါပိတ်ရှင်း၊ ထည်ချင်းစံပယ်၊ နံ့ကြွယ် လိုင်ကြူ၊ မဥ္ဇူမျက်မည်း၊ ပေါ်ထပ်စည်းနှင့်၊ မရည်းမထင်၊ ဖြုတ်ခြည်း မြင်က၊ နတ်ပင်ယိုးမှား၊ ဝိုးဝါးတွေးချွတ်၊ စိတ်လုံးညွတ်သည်။ ။ဘုံထွတ် နတ်တောင်နေတို့လော...

ဟူ၍ စပ်ဆိုသည်။

နတ်သျှင်နောင်၏ စစ်ချီရတုများသည် အခြား ဆရာများ၏ ရတုတို့ထက် စုံစုံလင်လင် ရှိ၏။ သို့သော် ဖွဲ့ရိုး ဖွဲ့စဉ်အတိုင်း အိမ်နေကြင်ဖော်ကို လွမ်းဆွတ်ရပုံ၊ ပန်းရာသီပွဲတော်များကို မမီနိုင်တော့မည်ကို စိုးရိမ်ပုံများကိုသာ ဖွဲ့ဆိုသည်။

မှီ၊ တော ရတုများတွင် နတ်သျှင်နောင်သည် နဝဒေးကြီးထက်ပင် စိတ်နှလုံး သိမိုက်အောင် စပ်ဆိုနိုင်သည်။ မိုးမင်းအား အပြစ်တင်ရာ၌...

ဆွတ်ပျံ့ဖွယ်အောင်၊ ယုဂန်တောင်က၊ ဝေမှောင်အုံ့ပျ၊ နွေနှောင်းလကို၊
ခြိမ်းမျှသံလေး၊ ရင့်ရှုကြွေးက၊ နီးဝေးပတ်ကုံး၊ တိုင်းအလုံးဝယ်၊
ညွတ်ရုံးကြာတူ၊ ဖော်နည်းသူကို၊ သည်းအူပြတ်ခေါင်၊ ကြွေလွယ်
အောင်လျှင်၊ လေဆောင်ပြင်းထန်၊ ကြောက်ဖွယ် လွန်စွ...

စသည်ဖြင့် သဘာဝဓမ္မအတိုင်း အလိုလိုရွာသွန်းသော မိုးကိုပင် မိမိကို သက်သက် ညှဉ်းဆဲလိုသော သဘောဖြင့် ရွာသွန်းထစ်ချုန်းသကဲ့သို့ ဖွဲ့နွဲ့စပ်ဆိုထားသည်။ အချို့နေရာများ၌ ဖွဲ့လိုဆိုလိုသည်များကို ပေါ်လွင်အောင် မဖွဲ့ဆိုပေ။ ထိုကြောင့် ပညာလိုလားသူ သုတေသီပုဂ္ဂိုလ်များသည် နတ်သျှင်နောင်၏ စကားအဓိပ္ပာယ်ကို ခဲယဉ်းစွာ ကောက်ယူကြရသည်။ ပုံစံပြရမည်ဆိုသော် **'ဆွတ်ပျံ့ဖွယ်အောင်'** ချီ စာတော်တွင်...

ဘုန်းအင်ကြီးလှ၊ ဆင်ထိုက်ရသား၊ မမျှပန်းချင်း၊ မွေးတုကင်းကို၊
မယွင်းသတိ၊ ရှုမိမိသည်။ ။မျက်စိမူးလည် သီတော့သည်။

ဟူ၍ ဖွဲ့ဆိုရာ၌ မွေးတုကင်းဟူသည် ထီးဖြူကို ဆိုလိုသည်။ ဘုရားစေတီကို ဆိုလိုသည်။ စသည်ဖြင့် မည်သည့်အရာကို ဆိုလိုကြောင်း သေချာဂနစွာ မသိရပေ။

လော်ကား ၃၀၀၀ မျှ၊ မင်းနဝဒေးကြီးတို့သည် နတ်သျှင်နောင်ထက် အနှစ် သုံးဆယ်ခန့် စာဆိုဦးသည် ဖြစ်ရကား ထိုပုဂ္ဂိုလ်ကြီးများထံမှ နတ်သျှင်နောင်သည် ကောင်းမွန်သော အဖွဲ့အနွဲ့စကား အသုံးအနှုန်းများကို အတုခိုးတန်က ခိုးယူလိမ့် မည်ဟူ၍ ခန့်မှန်းဖွယ် ရှိ၏။ ပုံစံပြရမည်ဆိုသော် မင်းနဝဒေးကြီး၏ အင်းဝ နဂါးရုံဘုရားတိုင် ရတု တတိယပိုဒ်တွင်...

ညက်စင်မွတ်ကြည်၊ ဘုံခြောက်မည်၌၊ ပြစ်ခြည်ကင်းလွတ်၊ အားလုံး
နတ်လျှင်၊ တုမှတ်ဘက်မျှ၊ ပြိုင်လာကြလည်း၊ တော်တာ့ရောင်တွင်၊
ကြယ်နယ်ထင်လိမ့်...

ဟူ၍ ဖွဲ့စပ်ထားသည်ကို နတ်သျှင်နောင်က **'ရှစ်ဆိုင်ရွှက်ကြာ'** ချီ စာတော် တွင်...

နှစ်ပြိုင်ဘက်ရှာ ဝတိ'သာက၊ စံရာစံထား၊ ရွှေးခဲ့ခြား၍၊ သိကြားတမျှ၊
ပြိုင်လှာသလည်း၊ သော်တာ့ရောင်တွင်၊ ကြယ်နှယ်ထင်ဟု၊ သခင်ကကို၊
များမိန့်ဆိုလိမ့်...

အစရှိသည်ဖြင့် နဝဒေးကြီး၏ စာကိုလိုက်၍ အဆင်တူ ကူးယူသည်။ **'အကြံတူက၊ နောက်လူကောင်းစမြဲ'** ဟူသည့်အတိုင်း ရတုအဖွဲ့ချင်း အကြံတူနေစေကာမူ မင်း နဝဒေးကြီးသည် အရင်လူ၊ နတ်သျှင်နောင်မှာ နောက်လူမျှဖြစ်၍ နဝဒေးကြီး လမ်းကြောင်းခဲ့သော အဖွဲ့များမှ တူရာကို ရွေးထုတ်စိစစ်၍ စိတ်တွင်း အရင်း ခာတ်ခံ၏ ကူညီချက်အရ ပေါ်ထွက်၍လာသော စကားလုံးကလေးများဖြင့် တစ်ဖန် ထပ်မံ ပြုပြင်ဖွဲ့နွဲ့ကာ ဤစာဆိုလောကကြီးတွင် ပညာရှင်တို့ အကဲဖြတ်ရန် တင်သွင်းထားသည်ဖြစ်ရကား နတ်သျှင်နောင်၏ ရတုများမှာ ယဉ်ပေါင်းစု၊ နပေါင်းခရာ၊ ပထမတန်း စာတော်ကြီးအဖြစ်သို့ ရောက်ရှိတော့၏။

ထိုမှတစ်ပါး နတ်သျှင်နောင်သည် နောင်လာနောက်သားတို့အဖို့ ဗဟုသုတ ဖြစ်ဖွယ်ရာ ရတုများကိုလည်း စပ်ဆိုသေး၏။ ထိုရတုများသည် ထိုးကွင်းဘွဲ့ ,,တုများနှင့် ဂူလီသဘင်ဘွဲ့ ရတုများ ဖြစ်ကြ၏။ ရတုအဖွဲ့တိုင်း၌ နတ်သျှင်နောင် သည် မယ်မောင်တို့၏ မေတ္တာအရိပ်အငွေ့ မကင်းအောင် စပ်ဆိုနေကျဖြစ်သည် အားလျော်စွာ ထိုးကွင်းဘွဲ့ ရတုများတွင်လည်း နမတော် မင်းသမီးကလေးက မောင်တော် မင်းသားကလေးအား ထိုးကွင်းမရှိသေးသောကြောင့် ယောကျ်ား မပီသပုံနှင့် ထိုးကွင်း မရှိသေးလျှင် မကြိုက်နိုင်သေးကြောင်းတို့ကို ပေါ်လွင်အောင်...

နေဝန်းသွင်ရုပ်၊ လုခေါင်ချုပ်သို့၊ ကျွန်ပ်စေသည်၊ လျှောက်ခြေထံ
အောက်၊ ရွံမကြောက်နှင့်၊ ဖြိုဖျောက်မဆင့်၊ ပတ်မပြင့်တည့်၊ ရှေ့နှင့်
နောက်သာ၊ နံမှာဖြူရောင်၊ သလင်းတောင်ကို၊ မည်းအောင်ဖြည့်လေ၊
ပြည့်မှစေလော့...

စသည်ဖြင့် မင်းသမီးလေးက မင်းသားကလေး၏ ရွှေကျေးတမန်ကို ပြန်၍ မှာကြားလေဟန်ဖြင့် စပ်ဆိုသည်။

နေမင်းနွယ်ရင်း၊ မင်းထက်မင်းလျှင်၊ သလင်းအုတ်စီ၊ နန်းမြေညီဝယ်၊
ဂူလီသဘင်၊ မြင်းနှင့်ရှင်၏၊ သိချင်အမှန်၊ ရှုံးနိုင်ဟန်ကို၊ ယမန်
ကြောင်းရေး၊ စေသည့် ကျေးလျှင်၊ ဖင့်နှေးရှောင်လွှဲ၊ မရောက်ဘဲနှင့်၊

ဆင့်ကဲပြန့်ခေါက်၊ ဖွတ်လျှာလျှောက်သည်။ ။ဝမ်းမြောက်သာထွေ ပြည့်ရှာလေ။

သည်ဖြင့် မိန်းကလေးများပင် ဂူလီသဘင်ပွဲ၌ စိတ်ဝင်စား၍ ကြည့်ရှုရန် စေခိုင်း ကောင်းသော ကျေးတမန် မလာရောက်သေးသည်ကိုပင် အပြစ်တင်နေဟန် ဖွဲ့ဆို သည်။ ဂူလီကစားပုံကို စိတ်ဝင်စားအောင် ဖွဲ့ဆိုသည်ကား . . .

တိမ်တိုက်မြင့်မတ်၊ မြ-ပြာသာဒ်က၊ မျှော်မှတ်သာထွေ၊ မျှော်ရှုနေသား၊ ရှုံးချေမနှောင်း၊ နိုင်ကြောင်းအားကိုး၊ တစ်ဖန်ကြိုး၍၊ သတိုးမင်းကျော်၊ ဘက်တော်ကိုပင်၊ သူထင်မိလျက်၊ လိုက်လံဖက်သော်၊ တောင်ဘက် ပို့မြဲ၊ မပို့ဘဲလျှင်၊ မင်းရဲကျော်စွာ၊ ရိုက်တုံပါလည်း၊ မြောက်မှာ စက်ပါး၊ တစ်ဖန်ခြားခဲ့၊ ကြိုးစားပန်းရှု၊ သီဟသူလျှင်၊ ဖမ်းယူ မြောက်ချီး၊ ဂူလီသီးကို၊ မြေကြီးတွင်သာ၊ ယာလိုက်ကာတည့် . . .

စရှိသည်ဖြင့် ကစားပုံ ကစားနည်းကို အကွက်ကျကျ ဖော်ပြထားသည်မှာ များစွာပင် ဗဟုသုတ ဖြစ်ဖွယ်ရာပေတည်း။ ထိုမှတစ်ပါး နတ်သျှင်နောင်သည် နှန်စွာ ရန့်ရင်းကြမ်းတမ်း၍ ဂါမ္မ ဒေါသ သင့်ဖွယ်ရာ ဖြစ်သော စကားများကိုပင် နှန်စွာ ယဉ်ကျေးပြေပြစ်အောင် ဖွဲ့ဆိုနိုင်ပေ၏။

**'ချောင်းမမွေတော်'** ချီ ရတုတွင် မောင်တော်ဘုရားသည် နှမတော်အား . . .

ထားပြည့်ဝန်းရုံ၊ ဆင်ပုံမြင်းထွေ၊ စောင့်လျက်နေလည်း၊ ရဝေခန်းချောင်၊ သလွန်ညောင်ဝယ်၊ သုံးမြောင်ရံကာ၊ နေလှည့်ရာကို၊ စကြာလက်ရုံး၊ ကြိုးပြီးဆုံးမ . . .

စသည်ဖြင့် အကျင့်ဖောက်ပြန်၍ မသင့်လျော်ကြောင်းများကို မြတ်စွာဘုရားသခင် အံတော်၌ တိုင်ကြားပါသည် ဟူ၍ အနက်သဘော ကြမ်းတမ်းသောအရာကိုပင် နှန်စွာ နူးညံ့သိမ်မွေ့ ယဉ်ကျေးအောင် စပ်ဆိုနိုင်ပေသည်။ ထိုပြင်လည်း . . .

ကြံ့ခိုင်ရပ်ဝါ၊ ကေသရာသို့၊ နန်းလျာအလတ်၊ ခါးမပတ်က၊ လေးမြတ်ခြင်းရာ၊ မိန့်တော်စာနှင့်၊ မေတ္တာချစ်ကြည်၊ ရစ်လာသည်ကို၊ ရှိမည်မချန်၊ လျှောက်လိုက်ဟန်မူ၊ ပျို့အန်ဖွယ်အောင်၊ သလင်း ပေါင်နှင့်၊ မြရောင်တစ်ဝက်၊ နန်းပွင့်ဆက်ကို။ ။နှစ်ချက်ကြံစည် တွေးသေးသည် . . .

စသည်ဖြင့် ရွှေကျေးတမန်ကို မောင်တော်မင်းသားအား လျှောက်ထားစေရန် မှာကြား၍ နေသည်များကို ထောက်လျှင် ရေးအခါက မိန်းကလေးများသည် ယောကျ်ားပိသသူများကိုမှ ချစ်ခင်အားကိုး လိုကြသည်။ ထိုးကွင်းမရှိသူသည် မိန်းကလေးများ၏ ကဲ့ရဲ့ရှုတ်ချခြင်းကို ခံကြရသည်ဟူ၍ ယူဆဖွယ် ဖြစ်၏။

**မှတ်ချက်။** ။ဤထိုးကွင်း အကြောင်းနှင့် ပတ်သက်သော ရတုများမှာ နတ်သျှင်နောင်သည် ချစ်လှစွာသော ညီတော်ထွေး မင်းရဲကျော်စွာအား ဖွဲ့ဆိုသော ရတုများဖြစ်၍ မင်းရဲကျော်စွာ လူလားမြောက်သည့်တိုင်အောင် ထိုးကွင်းမထိုး၍ ပြောင်လှောင်ကဲ့ရဲ့ဟန် တူကြောင်း။

## မင်းဧယျရန္တမိတ်

မင်းဧယျရန္တမိတ်ကား လော်ကား ၃၀၀၀ မှူး၏ သားဖြစ်၍ ကဗျာ လင်္ကာ အရာတွင် အဖ၏ခြေရာကို နင်းနိုင်သော ပုဂ္ဂိုလ်ဖြစ်သည်။ တောင်ငူမြို့တွင် သက္ကရာဇ် ၉၄၀ ပြည့်နှစ်တွင် ဖွားသည်။ တောင်ငူ ရွှေနန်းတည်မင်း မဟာဓမ္မရာဇာ လက်ထက်တွင် သက္ကရာဇ် ၉၄၆–၉၇၁ ခုနှစ်အတွင်း အမတ်ဖြစ်၍ ကောင်းစစ်ဒိုင်း အစုကို မှူးရသည်။ ထိုကြောင့် ကောင်းစစ်ဒိုင်းမှူး ဟူ၍လည်း ခေါ်သည်။ မင်းရဲနရာ ချောင်း၊ ဘုန်းထွန်းပ ဆင်တော်မော်ကွန်းနှင့် ရတုများကို ဆိုသည်။ သက္ကရာဇ် ၉၇၂–ခုနှစ်တွင် ညောင်ရမ်းမင်းတရား၏ သားတော် အနောက်ဘက်လွန် မင်းတရားကြီးသည် တောင်ငူမြို့ကို ချီတက်တိုက်ခိုက် အောင်မြင်တော်မူ၍ အင်းဝသို့ ပြန်ကြွတော်မူရာတွင် မင်းဧယျရန္တမိတ် လိုက်ပါသွားရသည်။ အင်းဝတွင် ထိုမင်း၏ ဘုန်းတော်ဘွဲ့များနှင့် **'ဥတေန သာချင်း၊ ပဋာစာရီ သာချင်း၊ စိဥ္စမာဏဝိကာ သာချင်း'** များကို ရေးသား ဆက်သွင်းသည်တွင် ဆုလာဘ်များစွာ ရသည်။

## မင်းရဲနရာ ချောင်း

ဤချောင်းသည် သက္ကရာဇ် ၉၄၆–၉၇၁ ခုနှစ် တောင်ငူ ရွှေနန်းတည်မင်း လက်ထက် မြေးတော် မင်းရဲနရာကို ဖွဲ့ဆိုသော ချောင်းဖြစ်၍ အခြား ချောင်းများမှ အနည်းငယ် ထူးခြားသည်။ ဖွဲ့ရိုးဖွဲ့စဉ်အတိုင်း ရှည်လျား ကျယ်ဝန်းသော မင်းစဉ်

မင်းဆက်များကို မဖော်ပြတော့ဘဲ တောင်ငူဘက်ဆိုင် မင်းများ၏ ဘုန်းတော်များကိုသာ ဖွဲ့ဆိုသည်။ တောင်ငူခေတ် ဧချင်းများတွင် အဓိကထား၍ ရေးကြသော အချက်များကား မြို့ဘွဲ့၊ ဘုန်းတော်ဘွဲ့များ ဖြစ်သည်။ မင်းရဲနရာ ဧချင်းတွင် ဆောင်ငူမြို့၏ သာယာပုံ အကြောင်းများကို ဖွဲ့ဆိုထားသည်မှာ လွန်စွာ ခမ်းနားသည်။ တောင်ငူ ပတ်ဝန်းကျင်ရှိ ဘုရားစေတီများ၊ သီတာ ရေ၊ မြေ၊ တော၊ တောင်၊ ဥယျာဉ်များနှင့် ကျုံး၊ မြောင်း၊ ပစ္စင်၊ ရင်တားတို့၏ တည်နေပုံများကို ဒွန်တွဲထားပုံသည်လည်း စာဖတ်သူများ၏ စိတ်နှလုံးကို ထိခိုက်အောင် စွမ်းဆောင်နိုင်တော့သည်။

ပိုမိုထူးခြားသော အချက်တစ်ခုကား မင်းဧယျရန္တမိတ်သည် ဤဧချင်းတွင် ဆောင်ငူမြို့ကို ဖွဲ့ဆိုသည့်အခါ၌ သာမည ဆရာများ ဖွဲ့ဆိုသကဲ့သို့ မြို့၏ ကြီးကျယ်ခမ်းနားပုံကိုသာ မဖွဲ့ဘဲ တစ်ဆယ့်နှစ်ရာသီပတ်လုံး မြို့တွင်း မြို့ပြင်၏ သာယာပုံများကို ရာသီအပိုင်းအခြားနှင့်တကွ ဖော်ပြလို၍...

လျှံမောင်း လျှံမောင်း၊ ဆန်လေ ညောင်းနှင့်၊ တပေါင်းသာခေါင်၊
ပဒ္မုန်ဆောင်က၊ ညီနောင်မွေစစ်၊ သီတာရစ်သည်၊ သျှင်ချစ်တိုင်မျှ၊
ရွှေနန်းကပင်၊ ချိုကြွလမ်းခွင်၊ မင်းမှတ်သင်မှ၊

စသည်ဖြင့် တပေါင်းလကို ဖွဲ့ပြီးလျှင်...

အုံ့မှိုင်း အုံ့မှိုင်း၊ မင်းလွင်ဆိုင်းက၊ ပင်တိုင်း ညှာကူး၊ တန်ခူး
သာလွန်း၊ တာလဆန်းသော်၊ ရေသွန်းသဘင်၊ ဆင်လည်း တစ်ချက်၊
မြင်းဆက်ချပ်ကာ၊ မြူတာကြိုင်ထွက်...

စသည်ဖြင့် တန်ခူးလကို ဖွဲ့ပြီး၍ ကဆုန်လကို ဖွဲ့အံ့သောငှာ...

မှိုင်းပျ မှိုင်းပျ၊ တန်ခူးကသည်၊ မိဿရာသီ၊ ပြိသ်သို့ ချီ၍၊ တိမ်ဆီ
အာကာ၊ ဝိသာခါနှင့် သော်တာမိုးလ၊ တူပြိုင်ပသော်...

စသည်ဖြင့် ၁၂-ရာသီဘွဲ့များကိုပင် ဖွဲ့ဆိုထားသောကြောင့် အားလုံးသော ၁၂-ရာသီဘွဲ့များ၏ ရှေ့ပြေးလမ်းပြ ဖြစ်၏။ နောင်ပေါ်လတ္တံ့သော အင်းဝမြို့ဘွဲ့လုတား ၁၂-ရာသီဘွဲ့များသည် မင်းရဲနရာ ဧချင်းလာ ၁၂-ရာသီဘွဲ့ နောက်မှ အကြံရသူတို့၏ ကဗျာများ ဖြစ်သောကြောင့် ရှေးဦးစွာ အကြံရ၍ ပင်ကိုယ်ဉာဏ်ကြီးသူ မင်းဧယျရန္တမိတ်ကိုသာလျှင် ပိုမိုချီးမွမ်းထိုက်၏။ ဤဧချင်းတွင် စာဆို

သူသည် ရှင်အုံးညို၏ ဂါထာ ၆၀–ပျို့ကို အတုယူ၍ ရေးလေသလား မသိ။ ချောင်း၏ အချို့သော အချီပိုဒ်များတွင် **'တစ်ဟုန် တစ်ဟုန်၊ လျှံမောင်း လျှံမောင်း၊ အုံ့မှိုင်း အုံ့မှိုင်း၊ မှိုင်းပျ မှိုင်းပျ၊ မြူးကွန့် မြူးကွန့်'** စသော ယမကချီနည်းဖြင့် အစုံအစုံချီ၍ ထားသည်။ ချောင်းများတွင် ဤချောင်းတစ်ခုတည်းသာ ဤသို့ ချီ၏၊ မင်းဧယျရန္တမိတ်သည် အင်းဝသို့ လိုက်ပါသွားရာ၌ တောင်ငူတွင် မပျော်၍ပင်လော၊ သို့တည်းမဟုတ် မင်းမိန့် မင်းအာဏာဖြင့် အတင်းအကြပ် ခေါ်ခြင်းကြောင့်ပင် လိုက်သွားရလေသလောဟူ၍ တွေးတောစရာ ဖြစ်တော့သည်။ အင်းဝရောက်မှ ရတု၊ မော်ကွန်း၊ သာချင်းများကို ဆိုသည်ဖြစ်ရာ အင်းဝရောက်မှ စာဆိုတော်အဖြစ် ကျော်ကြားကြောင်း ထင်ရှားသည်။ အင်းဝရောက်မှဆိုသော ရတုများသည် ဘုန်းတော်ဘွဲ့ ရတုများ၊ ဘုရားတိုင် အင်းဝမြို့ဘွဲ့ ရတုများ၊ စစ်ချီရတုများ ဖြစ်သည်။ ဘုန်းဟော်ဘွဲ့ ရတုများကို စပ်ဆိုရာ၌ မင်းဧယျရန္တမိတ်သည် ပထမတန်းစား ရတုဆရာကြီးဖြစ်သည်။ မိမိကိုယ်တိုင်က နန်းတွင်း၌ ကြီးပြင်းရသူဖြစ်၍ အရှင်သခင်၏ ဘုန်းတော်ကို မည်သို့မြှောက်ပင့် ဖွဲ့နွဲ့ရမည်ကို အချက်ကျကျ သိသည်။

> ဘုန်းနေ ကွန့်၍၊ ဖြူညွန့် ဆယ်ကျိပ်၊ မင်းဖျားထိပ်ကို၊ စက်ရိပ်ခေါင်မွန်း၊ ပြောင်ပြောင်ထွန်းသော၊ ပြိုင်ကျွန်းမည်ထား၊ ကြံမိမှားက၊ သိကြားမျက်ရှိန်၊ ဝရဇိန်သို့၊ ပြင်းရှိန်ရိုက်ကြိုး၊ အာဏာမိုးထိ၊ ရန်မျိုးမပြူ၊ စက်မဥ္စူကို၊ ဇမ္ဗူတသွန်၊ မင်းတို့ပန်သား၊ ကြီးအန် တေဇတ်၊ ရဲနေနတ်လျှင်၊ သဟာသရောင်၊ ကမ္ဘာမှောင်ကို၊ ပြောင်ပြောင်လျှံထစ်၊ ဝက်ဝက်လှစ်သို့၊ ရန်မြစ်သံလျှင်၊ ပျောက်စဲတွင်မှ၊ ပြည်ဟသ်ာ၌၊ ဘိုးတော်ရိုက်ဝယ်၊ မြူမှိုက်ပယ်လျက်၊ လင်းအောင် ဖျက်၍၊ ရှေ့ဘက်တစ်သွန်း၊ ဝံ့မကျန်းသည်။ ။တစ်သန်းနေသို့ ထွန်းထိန်သောဝ် . . .

ဟူ၍ စပ်ဆိုထားရာ၌ အရှင်သခင်၏ ဘုန်းတော်ကို မည်မျှကြီးကျယ်အောင် မြှောက်ပင့်ထားသနည်း။ အမြှောက်ကြိုက်သော ဘုရင်ဖြစ်ပါက ဤနေရာတွင်ပင် မိမိစည်းစိမ် တစ်ဝက်ကို ခွဲဝေပေးတန်ရာ၏။ စာဆိုတော်သည် အမြှောက်သမားကြီးသာ မဟုတ် တစ်ခါတစ်ရံတွင်လည်း အလွမ်းသမားကြီး ဖြစ်ပေသေးသည်

> လွမ်းစရာပင်၊ သည်မှာရှိ၏၊ ညှိနှင့်လှည့်သို့၊ လော်မှည့်တစ်ခဲ၊ မြသင်းတွဲထက်၊ ပေါက်လဲအင်ဖူး၊ ဘိက္ခူးသန္တာ၊ ဂိဝါထွန်းချက်၊

ရဲရဲစက်သား၊ ဆယ်ရက်ပဲထွေး၊ စုဝေးဖိုးခေါင်၊ တမ်းယောင် ငှက်တော်၊ တစ်ဖော် ရင့်နှော၊ ဥသြသံလွှဲ၊ နွဲ့နွဲ့နှဲ့က၊ ဝမ်းကွဲထပ်လောင်း၊ စိတ်လုံးပျောင်းမျှ၊ တပေါင်းသံနစ်၊ သာသည့်ဖြစ်ကို၊ စိစစ်ပြန်မိ၊ မျက်စိမလပ်၊ ထင်ထိမ်းမပ်မျှ၊ ရှစ်ရပ် မြောက်တောင်၊ လွမ်းဝေ မှောင်သည်။ ။တ–ယောင်ဖြေမတတ်ရှာသောဝ်။

ဟူ၍ သြကာသလောကကြီး၏ ဆန်းကြယ်သာယာပုံကို ကြည့်ရှုမိန်းမောကာ လွမ်းဆွတ်ဖွယ်ရာ ဓာတ်လမ်းကို ခင်းကျင်းပြသခဲ့၏။ ဘုရားတိုင်ရတုများတွင်ကား မင်းဧယျရန္တမိတ်သည် ပထမ နဝဒေးကြီး၏ အဆင့်အတန်းသို့ရောက်အောင် မလိုက်နိုင်။ အဖွဲ့တွင်လည်း ပြည့်ပြည့်စုံစုံ မရှိလှပေ။

## သာချင်းများ

မင်းဧယျရန္တမိတ်သည် သာချင်းဟူသော အဖွဲ့အနွဲ့ကို ရှေးဦးစွာ ထွင်သူဖြစ်သည်။ အင်းဝသို့ ရောက်သည့်ကာလ သာချင်း သုံးပုဒ်ကို ဆိုသည်။ ဥတေန သာချင်း၊ ပဋာစာရီသာချင်း၊ စိဥ္စမာဏဝိကာသာချင်းများ ဖြစ်ကြ၏။ ရှေးအဖြစ်အပျက် အကြောင်းချင်းတများကို သာယာချေင်စွာ ဖွဲ့ဆိုထားသောကြောင့် သာချင်းဟု ခေါ်သည်။ သာချင်းဟူသော အမည်သည် မင်းဧယျရန္တမိတ်က စတင်၍ မှည့်ခေါ်သော အမည်မျှသာ ဖြစ်သည်။ ရှေးခေတ် ရှေးအခါကလည်း သာချင်းနှင့် ဆင်တူသော အဖွဲ့အနွဲ့များ ရှိတန်ရာသည်။ သို့သော် တွေ့ရှိရသမျှသော သာချင်းများတွင် မင်းဧယျရန္တမိတ်၏ သာချင်းများသာလျှင် အဟောင်းဆုံး ဖြစ်သည်။ ဥတေန သာချင်းတွင်...

ဤစာ သက္ကရာဇ်၊ ဘုန်းတော်သစ်၍၊ နှစ် ၂၀–ကျော်၊ ရာကပေါ် လျက်၊ သက်တော်ရှည်မှူ၊ ပန်ထွာပြုသည်၊ အောင်ဆုဆင်မှ၊ မင်္ဂလာကြီး။ ။ဟောစာကြီယာ၊ သြဘာကျူးဟိတ်၊ ဇမ္ဗူဒိတ်တွင်၊ နိမိတ်အရှည်၊ နိုင်ငံစည်သည်ဟု၊ နတ်ပြည်ကြွညောင်း၊ ဘေးတော်လောင်းတို့၊ ဖောင်းစလွယ် အပ်၊ စွဲရွှေယပ်နှင့်၊ ခဝပ်ကြည်ရှင်၊ မင်းယင်ပြင်မှာ၊ လျှောက်တင်ချီရသည်။

ဟူ၍ ဆိုရသော စကားများကို ထောက်လျှင် ဟောစာနှင့် သာချင်းသည် အတူတူ ဖြစ်တန်ရာသည်။ လက်ဦးမဆွ ဟောစာဟူ၍ ရှိရာမှ သာချင်းဟူသော အမည်သို့

ပြောင်းလာဟန်တူ၏။ စာရေးဆရာ လက်ထက်မတိုင်မီ ဖြစ်ပေါ်သော အကြောင်းချင်းတ ဇာတ်ဝတ္ထုများကို သာချင်း ဖွဲ့ဆိုနိုင်သည်။ သာချင်း၏ ဖွဲ့ပုံ ဖွဲ့နည်းများမှာ…

ဆင်ဖြူနာဂ၊ ဆဒ္ဒန္တလည်း၊ နတ်သစက်အောက်၊ လစဉ်ရောက်၍၊ နတ်လောက်ကညာ။ ။တိုင်းအတည်တည်၊ ပြည်အစိုစို၊ ထီးတိုင်းတို့က၊ ဆက်ပို့နိယံ၊ သစ္စာနှံ၍၊ ကျွန်ခံလာသည်။ ။ရတနာပူရ၊ သားတော်မြေးမြစ်၊ ညွှန့်သစ်စည်ပင်၊ ရာဇဝင်အခေါင်၊ တပေါင်ကြွေးဟစ်၊ ထွန်းရာဖြစ်သည်၊ အောင်သေဋ္ဌဟု။ ။ရွှေဝပြည်ကြီး…

စသည်ဖြင့် ကာရံ အအုပ်အခဲ ကန်၍ သွားသောကြောင့် ရကန်အဖွဲ့နှင့် အနည်းငယ်ဆင်တူသည်။ ထိုပြင်လည်း ရကန်ကဲ့သို့ပင် အခြားဆရာများကို ကန်ပုံ၊ ရန်ပျိုးပုံကား ဥတေန သာချင်းတွင်…

အတွင်းမဝင်။ ။ရိုင်းပြရန့်ရင်း၊ နန်းသံကင်းသည့်၊ တောတွင်းလွင်က၊ ဈေးပြင်ကန္တား၊ အညာရပ်မြေ၊ ချင်းတောင်မြေနှင့်၊ မန်းရွှေမြို့ဝေး၊ မယဉ်ကျေးသည့်၊ တေးများမှသာ၊ ။စကားသုခ၊ ။အင်တန်အင်တန်၊ စွမ်းဉာဏ်နှင့်လျော်၊ အကြောင်းတော်ရာ၊ ဂုဏ်ဖော်ကြွရှင့်၊ ။လောကကျက်သရေ၊ ။အရှင်စံမြန်း၊ အံ့မခန်းသည့်၊ နန်းရဝေသို့၊ ။ပုဗ္ဗေကတ၊ ။ကံမစီမံ၊ ဉာဏ်မလိမ္မာ၊ ပညာဂုဏ်အင်၊ မပေါ်ထင်သည့်၊ ပြင်ဇကများ၊ ရောက်ရမည့် ခဲလော်၊ ။ကြီးတော်သည့်တိုင်း၊ အို၍သာ ကိုင်းရော့မည်၊ ပြိုင်နိုင်းဘက်ကင်း၊ ရွှေနန်းတွင်းက၊ သာချင်းဆက်ရမည် မခေါ်တော်…

ဟူ၍ ရကန်နှင့် တစ်သဝေမတိမ်း တူရကား ဤသာချင်းမှပင် ရကန်ဟူသေအဖွဲ့အနွဲ့ ပေါက်ပွားလာလေသလောဟူ၍ တွေးတောဖွယ် ဖြစ်သည်။ အဘယ်သို့ပဖြစ်စေကာမူ သာချင်းသည် ရကန်၏ ရှေ့တော်ပြေး ဖြစ်ကြောင်းကား စာဂသက်သေခံလျက် ရှိပြီ။ ဥတေန သာချင်းတွင်ပင်…

ဆရာ့လက်ရွေး၊ ရှင်ဆယ့်လေးကပဲ၊ ကံကျွေးဖြန့်ချိ၊ ။ကောက်သိမ်းခေါ်ငင်၊ နန်းပွဲဝင်၍၊ နတ်သျှင်သိသည်၊ ။ဇာတိယဉ်ကျူး၊ မြို့မြေတူးက၊ ကျေးဇူးသခင်၊ သင့်အောင် ဆင်၍၊ စီရင်ပြုပြူး၊ မိဟ္ဂာယ်ရစ်တဲ၊ ယဉ်ဝစ္ဆံကို၊ တင်အံ့ကျူးခဲ့သည်။

ဌ၍ ဆိုထားသောကြောင့် ဓေယျရန္တမိတ်သည် ရှင်သာမဏေအဖြစ် ၁၄–နှစ် အရွယ်ကပင် မြေတူးမြို့ ဆရာတော်ထံ၌ ပညာသင်ကြားခဲ့၍ ကဗျာ လင်္ကာအတတ် ဘွင် တစ်ဖက်ကမ်းခပ်သောကြောင့် ငယ်စဉ်ကပင် နန်းတော်မှ ကောက်ယူ မြှောက်စားခြင်း ခံရကြောင်း သိရသည်။ စာဆိုတော်သည် အင်းဝရောက်မှ မင်းဓေယျရန္တမိတ် ဟူသော ဘွဲ့ကို ခံယူရဟန် တူသည်။ ဥတေန သာချင်းကို မစိန်အရပ်တွင် စပ်ဆိုကြောင်း ပြဆိုလိုရကား...

ရွှေနန်းရိပ်ခို၊ ။ဓေယျရန္တမိတ်၊ ပဏ္ဍိတ်ထင်ပေါ်၊ ပြည်တိုင်း ကျော်သည့်၊ စာဆိုတော်လျှင်။ ။အလိုအလျောက်၊ ။ချင်းတွင်း ရေညိုဲ၊ ။တိုးယိုရစ်ဆို့၊ မစိန်မြို့သို့၊ နတ်ပို့ရောက်သနှင့်၊ ။အထောက် မရှည်၊ အင်းကျယ်မည်တွင်၊ ရေရှင်ချောင်းကန့်၊ နဖူးပြန့်ငယ်၊ လေးတန့်စက်နေ၊ ရွှေသမင်တောင်၊ ဝေမှောင်ခြိမ့်အက်၊ တောင်ထိပ် ထက်တွင်၊ ရေးကွက်ခြယ်ခြီး၊ စားလွယ်ခုတ်လှီးခဲ့သည်၊ နတ် တီးစည်...

ဟူ၍ ဖွဲ့နွဲ့သည်။ မင်းဓေယျရန္တမိတ်၏ ငယ်မည်သည် မောင်ထွန်းဟု ထင်မှတ်ဖွယ် ရှိသည်။ ဥတေန သာချင်း၌ပင်...

မင်းဥတိန်ကို၊ စည်းစိမ်ဝေလျှံ၊ ဖ–ရာခံ၍၊ စံသည့်များကို။ ။ စကားအသစ်။ ။ကိုရွှေထွန်း နှုတ်သီးမှာ၊ ငွေနေ့တိုင်း နီးတဲ့အောင်၊ စာဆိုတော်ကြီး နန်းတော်ပြန်၊ မင်းသုံးခံ တက္ကသိုလ် နည်းစုံဆိုသည်၊ သျှိုမျက်ချစ်ကဲ့သို့...

ဟူ၍ တွေ့ရပေသည်။ ဥတေန အတ္ထုပ္ပတ္တိကား ဓမ္မပဒအဋ္ဌကထာ အပ္ပမာဒဝဂ်၊ သာမာဝတီ ဝတ္ထု၌ လာရှိသည်။ ဥတေန သာချင်းအပြင် ပဋ္ဌာစာရီ သာချင်းနှင့် ဧဋ္ဌမာဏဝိကာ သာချင်းတို့ကိုလည်း ဖွဲ့ဆိုသေးသည်။ အင်းဝမြို့တွင် ဘုန်းထွန်း ပ ဆင်တော် မော်ကွန်းကိုလည်း ရေးသေးသည်။ များစွာ မထူ ခြားပေ။ တောင်ငူ ခေတ်တွင် မော်ကွန်းများ ဖွဲ့ဆိုရာ၌ ဆင်တော်များကိုသာ ဖွဲ့ဆိုသည်များကြသော ကြောင့် အင်းဝခေတ် မော်ကွန်းများနှင့် ကွဲပြားခြားနားကြောင်း သတိပြုရာသည်။

## ရှင်သံခို

နတ်သျှင်နောင် မရှိသည့်နောက်တွင် ရတုစာဆိုတော်အဖြစ်ဖြင့် ကျော်ကြား သူကား ဤစာဆို လောကကြီးတွင် နတ်သျှင်နောင်၏ အမွေကို ခံယူသူ ရှင်သံခို ဖြစ်သည်။ ဤစာဆိုသည် လှော်ကား ၃၀၀၀ မှူး၏ မြေး (မင်းဇေယျရန္တမိတ် နှမ၏ သား)ဖြစ်၍ သက္ကရာဇ် ၉၆၀-ပြည့်နှစ်တွင် တောင်ငူမြို့၌ ဖွားမြင်သည်။ အဘိုး၊ ဦးရီးတို့မှာ နန်းတွင်းစာဆိုတော်များ ဖြစ်ကြသည့်အတိုင်း ရှင်သံခိုသည်လည်း အဘိုး၏ ခြေရာနှင့် ဦးရီး၏ ခြေရာတို့ကို နင်းတော့သည်။ အသက် တစ်ဆယ့် နှစ်နှစ် အရွယ်ကပင် ကဗျာ လင်္ကာများကို ဖွဲ့ဆိုသည်။ တောင်ငူနန်းတွင် နတ်သျှင်နောင် စံမြန်းတော်မူကြိုက် ထိုမင်း၏ အမတ်အဖြစ်ဖြင့် ခစားထမ်းရွက် သည်။ သက္ကရာဇ် ၉၇၂-ခု အနောက်ဘက်လွန် မင်းတရားကြီးသည် တောင်ငူကို အလိုတော်ပြည့်လျှင် ဘုန်းတော်ဘွဲ့ ရတုများကို ရေးသား ဆက်သွင်းသည်။ ထိုနောက် နတ်သျှင်နောင်ကို ဘုရင်ခံအဖြစ်နှင့် တောင်ငူတွင် အုပ်စိုးစေ၍ အင်းဝ နေပြည်တော်သို့ မင်းတရားကြီး အပြန်တွင် ရှင်သံခိုသည်လည်း မင်းတရားကြီး နှင့် အတူ လိုက်ပါသွားသည်။ ထိုမင်းလက်ထက် လက်ဆောင်ယူမှူး ရာထူးကို ပေးအပ် သနားခြင်း ခံရသည်။

## မင်းရဲဒိဗ္ဗ ချေင်း

ဤချေင်းကား လက်ဆောင်ယူမှူး ရှင်သံခိုသည် သက္ကရာဇ် ၉၆၇-ခုနှစ်တွင် အင်းဝရွှေနန်းကို သိမ်းမြန်း စိုးစံတော်မူသော အနောက်ဘက်လွန် မင်းတရားကြီး၏ သားတော် မင်းရဲဒိဗ္ဗကို ဖွဲ့ဆိုသော ချေင်း ဖြစ်သည်။ ဤချေင်းကို ရှင်သံခိုသည် သက္ကရာဇ် ၉၇၀-ကျော် ၉၇၅-၉၈၀ လောက်တွင် စပ်ဆိုဟန်တူ၏။ ၉၇၀-ပြည့် နှစ်ကား မင်းရဲဒိဗ္ဗ မွေးဖွားသော နှစ်တည်း။ ရှင်သံခိုသည် သက္ကရာဇ် ၉၆၀-တွင် မွေးဖွားသူ ဖြစ်၍ ချေင်းဖွဲ့ဆိုသည့်ကာလ အသက် ၁၆-၂၀ တွင်းလောက် ရှိတန် ရာသည်။ ဤသည်ကို ထောက်လျှင် ငယ်စဉ်ကပင် ကဗျာဉာဏ် အာဘော် ရင့်သန် လာသော ပုဂ္ဂိုလ်ဖြစ်ကြောင်း ခိုင်လုံသော သက်သေတစ်ခု ဖြစ်သည်။ မင်းရဲဒိဗ္ဗ ချေင်း အဖွဲ့အနွဲ့သည် ကောင်းမွန်ပြည့်စုံသည်။ ချေင်းဟောင်း ၁၂-စောင်တို့တွင် အကောင်းဆုံး ချေင်း ဟူ၍ ဆိုနိုင်၏။ ချေင်းတို့ စည်းမျဉ်း အတိုင်း ဘုန်းကြီးသော

ဘားလောင်းတော်၊ ဘိုးလောင်းတော်တို့၏ အကြောင်းချင်းတများကို သနစ်ကုန် ထုတ်ဖော် ချီးမွမ်းခြင်းပြုသည် မှန်သော်လည်း ဤ ချေင်းတွင် ဘေးလောင်းတော်၊ ဘိုးလောင်းတော်တို့၏ စစ်မက်တိုက်ခိုက်ရေးကိုသာ အစဉ်တစိုက် မဖွဲ့ဘဲ...

ပိတ်သိုင်းရှေ့နောက်၊ တောင်မြောက် မသိ၊ တောဖြစ်ပြီ့လျှင်၊ ဟောမိစေတီ၊ သရီရဓာတ်၊ မွေမြတ်ဂူကျောင်း၊ ထောင်းထောင်း ပြိုအက်၊ ရှင်းရှင်းပျက်လည်း၊ တစ်ချက်တည်းခြင်း၊ ပြီးစေလျှင်း၍၊ ဝင်းဝင်းထွန်းဝါ၊ သာသနာလျှင်၊ ဟံသာပတ်လည်၊ သိကြားတည်သို့၊ စိုပြည်ဝပြော၊ မော်ဓော ဒဂုံ၊ ရောင်စုံလျှံလွတ်၊ ခေါင်ထွင့်သကျ၊ ဟူသမျှကို၊ ဘဝသခင်၊ ရွှေထီးတင်လျက်...

သည်ဖြင့် မဟာကုသိုလ်တော်ကြီးများ အကြောင်းတွေကိုပါ စပ်ဆိုဖွဲ့နွဲ့သည် ဖြစ်ရကား ရေးချေင်းများထက် အဘက်ဘက်တွင် ပိုမိုပြည့်စုံသည်။ ထိုမျှမကသေး ရှင်သံခို၏ ဖွဲ့နွဲ့ပုံများသည် လွန်စွာ လေးနက်ပေ၏။ ချေင်းတွင် ရှင်သံခိုသည် ရာဇဝင်ကြောင်းကို အဓိက အချက်ကြီးထား၍ ရေးသားဟန် မတူ။ ဖွဲ့နွဲ့ပုံကိုသာ အလေးပြုဟန် တူသည်။ မိမိ အရှင်သခင်၏ ဘုန်းတော်ကို ဖွဲ့ဆိုရာ၌ အထူး သလနက် ခမ်းနားအောင် ဖွဲ့နိုင်၏။

နတ်ဖက်တမျှ၊ ရှင့်ဘမင်းဖျား၊ စံကျောင်းများကို၊ ကိုယ်ပွားထောင်ဖြစ်၊ ဖန်ဆင်းလှစ်၍၊ ရာနှစ်ရှည်ကျော်၊ ချီးကျူးသော်လည်း၊ ကျွန်တော် လုံးခြုံ၊ လျှောက်မကုန်ခဲ့...

သည်ဖြင့် ရိုးရိုးကလေးနှင့် ခမ်းနား ပေါ်လွင်အောင် ဖွဲ့ဆိုနိုင်ပေသည်။

## ရှင်သံခို၏ ရတုများ

တောင်ငူခေတ် စာဆိုတော်များတွင် ရှင်သံခိုသည် မိမိအထက် စာဆို ဆရာများထံမှ အမွေများများ ရလိုက်သူ ဖြစ်သည်။ ရတုစာဆိုတွင် အတော်အတန် နောက်ကျသော်လည်း စာဆို နောက်ကျသလောက် အဖွဲ့အနွဲ့များတွင်လည် လွန်စွာ ခမ်းနား ဖွယ်ရာပေသည်။ မိမိဆရာ နတ်သျှင်နောင်၊ ဦး ရီ မင် ဓေယျရန္တမိတ်၊ အဘိ လော်ကာ ၃၀၀၀ မှူးတို့၏ ဉာဏ်ရည်အာဘော်များကို ဝာစ်သဝေမတိမ်.

မိအောင်လိုက်နိုင်သူဖြစ်သောကြောင့် ထိုပုဂ္ဂိုလ်၏ ရတုများကို နဝဒေး၊ နတ်သျှင်နောင် တို့၏ ရတုများကဲ့သို့ များစွာ မတွေ့ရသော်လည်း တွေ့ရသမျှတို့သည်ကား ပထမ တန်း ထားသင့်သော ကဗျာများပင် ဖြစ်သည်။ ရှင်သံခိုသည် ကျေးစေရတုများကို စပ်ရာ၌ ဆရာနတ်သျှင်နောင်၏ အာဘော်နှင့် မတိမ်းမယိမ်းလိုက်သည်။ ကျေး ကလေးကို အာလုပ်စကား ဖွဲ့ရာ၌ပင်...

> စေထိုက်တင့်လည်၊ မြပွင့်ရောင်ခြည်၊ ဆယ့်နှစ်မည်တည့်၊ မည်သည် ခြယ်သန်း၊ မပြောက်စွန်းသား၊ မိန္ဒန်းဘုန်းခေါင်၊ နေမှတ်တောင်၌၊ စက်မြောင်ရစ်သန်း၊ သိုက်ရွှေနန်းဝယ်၊ ရံဝန်းညွှတ်ခ၊ စံကြိုက်ရသည်၊ နန်းလျှာကျွန်ယုံ ကျေးမြင့်...

စသည်ဖြင့် လွန်စွာ ခမ်းနား ယဉ်ကျေးအောင် ဖွဲ့ဆိုနိုင်သည်။ ဘုရားတိုင် ရတု များတွင်ကား နတ်သျှင်နောင်၏ အာဘော်ကို လိုက်နာဟန်မတူ။ မင်းနဝဒေးကြီး၏ အာဘော်ကိုသာ လိုက်နာဟန်တူ၏။ ထိုပြင် မင်း နဝဒေးကြီးကဲ့သို့ပင် ဘုရားဘွဲ့ များကို ဘုရားသမိုင်းချုပ်ကလေးများဖြင့် တန်ဆာဆင်ကာ ဖွဲ့တတ်သည်။ သို့ပါ သော်လည်း မင်း နဝဒေးကြီး၏ ဘုရားတိုင် ရတုအာဘော်ကို မီသည်ဟု တထစ်ချ မမှတ်သင့်ပေ။ ပုံစံပြရမည်ဆိုသော်...

> ပြင်ထိပ်ကျွန်းထက်၊ ဦးစွန်းသနင်း၊ မင်းလည်းနှစ်ဆက်၊ ကိုးမည် မျက်တည့်၊ စီလျက်သင့်ရန်၊ တင့်ကြောင်းဖန်၍၊ စိတ်သန်ကြည်စွာ၊ ဌာပနာက၊ အံ့ရာလည်းဖြစ်၊ လူတစ်ရစ်ကို၊ အသစ်နှစ်ဆင့်၊ ညဥ့်နတ် မြင့်၍...

စသည်ဖြင့် ရွှေစည ခုံ၏ ဘုရားသမိုင်းတော်ကို ဖွဲ့နွဲ့ရာ၌ ဖွဲ့နွဲ့ပုံ စေ့စပ်ပါသော် လည်း နဝဒေးကြီး ဖွဲ့သကဲ့သို့ စုံစုံလင်လင် မရှိလှပေ။ မယ်ဘွဲ့ မောင်ဘွဲ့ ရတု များတွင်ကာ ရှင်သံခိုသည် နတ်သျှင်နောင်၏ နည်းများကို ရလိုက်ဟန် တူသည်။ နတ်သျှင်နောင်၏ အာဘော်ကို တစ်သဝေမတိမ်း လိုက်၍ ဖွဲ့နွဲ့စပ်ဆိုပုံ၌လည်း နတ်သျှင်နောင်ကဲ့သို့ပင် စကားသိပ်သိပ်သည်းသည်း ရှိသည်။ သို့သော် ရှင်သံခို သည် နတ်သျှင်နောင်ကဲ့သို့ မေတ္တာဘက်ကို များစွာအားမသန်ဘဲ အလွမ်းဘက်ကို အာ သန်သည်။ ရှင်သံခို စပ်ဆိုသော **'သာလွတ်ထွတ်တင်'** ချီ ရတုကာ စာဆို တော်၏ အသက်ကို ရန်ရှာသော ရတုပင်တည်း။ ဤရတုကာ အင် ဝရောက်မှ

ဧပ်ဆိုသော ရတုဖြစ်၏။ အနောက်ဘက်လွန် မင်းတရား၏ မိဖုရားနှင့် နတ်သျှင်နောင် ဘို့သည် ငယ်စဉ်ကတည်းက ရည်ငံချစ်ခင်လျက် ရှိခဲ့ကြလေဟန် ထို **'သာလွတ် ဆွတ်တင်'** ချီ ရတုတွင် စောင်းပါးရိပ်ခြည် အဓိပ္ပာယ်မျိုး ပါဝင်အောင်...

> ပြာထွတ်မွတ်စင်၊ နှောင်းသာ ကြင်သား၊ ကေရှင်မြခက်၊ ဖြာစရွက် လည်း၊ နားထက်မချွေ၊ စုလည်းပြေနှင်၊ တင့်နေကျစ်လစ်၊ ဆယ်ကျော် နှစ်က၊ ကျွမ်းချစ်ရအောင်၊ ကြိုးသည့်နှောင်မူ၊ ခေါ်ယောင်ခေါ်မှား၊ ကိုယ်ကားတည်မှာ၊ မေတ္တာအသက်၊ ပုံလျက်ဝေမှိုင်း၊ အဆိုင်းဆိုင်းတည့်၊ နေ့တိုင်း တန့်ဆည်၊ မခန့်သည်ကို၊ ရွှေပြည်မှာ နတ်၊ သိပါတတ်လိမ့်၊ ဆွတ်လွတ် ပျောင်းယိမ်း၊ ဖန်ရာကြိမ်းသည်။ ။တောင်တိမ်းကဲ့သို့ ညွတ်ကာသောဝ်...

ဟူ၍ စပ်ဆိုလိုက်ရာ **'နှောင်းသာကြင်သား၊ ကြိုးသည့်နှောင်မူ'** စသော စကားဖြင့် နတ်သျှင်နောင်၏ အမည်ကို နှောင်ဟူ၍ အဖျားဆွတ် ခေါ်ဝေါ်ရေးသားလိုက်သည်ကို အနောက်ဘက်လွန်မင်း ရိပ်မိပြီးလျှင် ရာဇမာန်တော်ရှ၍ ရှင်သံခိုအား ကွပ်မျက်မည် ပြုရာ ပြည် ထေင်ငယ် လျှောက်ထားမှ အသက်ဘေး ချမ်းသာရာရလေသည်။ ရှင်သံခိုသည် ရတနာပြောင်မွန် ဆင်တော်မော်ကွန်းကိုလည်း ရေးသေးသည်။ သို့သော် စေဥ့်ကူးလက်ထက် ဦးညို ရေးသော ရွှေမင်းဘုန်းဆင်တော်မော်ကွန်း၏ အဆင့်အတန်းကို မမီချေ။ ဤကဲ့သို့ ရတုကဗျာတွင် ပါရမီ ရင့်သန်သည့်အလျောက် ထူးခြားကောင်းမွန်အောင် ဖွဲ့ဆိုနိုင်သည့် ပုဂ္ဂိုလ် ဖြစ်ပါလျက် မင်းနဝဒေးကြီးကဲ့သို့ စာတစ်အုပ် တစ်စောင်ဖြစ်အောင် ရတုပုဒ်ပေါင်း များစွာတို့ကို စပ်ဆိုခဲ့ခြင်း မရှိသဖြင့် ရှိသမျှသော စာအရသာတို့ကို မြိစမ်း ကြည့်ရကာမျှဖြစ်၍ အားမရနိုင် အောင်ပင် ရှိတော့သည်။

## တောင်ငူခေတ် နိဂုံးချုပ်

ရှင်သံခိုမှအပ တောင်ငူခေတ်တွင် ပေါ်ပေါက်ထွန်းကား၍ စာဆိုလောကကြီး အတွင်းသို့ ဝင်ရောက်ခဲ့သူများလည်း ရှိပေသေးသည်။ ထိုသူတို့သည်ကား ဇင်းမယ် ဘုရင် နှမတော် ရာဇဓာတုကလျာ၊ ကျည်ထောင်သား၊ ဆီးကိုင်းစားနှင့် အခြား မထင်ရှားလှသော ပုဂ္ဂိုလ်တစ်ဦးနှစ်ဦးတို့ ဖြစ်ကြသည်။ တောင်ငူခေတ် တစ်ခေတ်

လုံးကို ခြုံ၍ကြည့်မည်ဆိုသော် ရတုနှင့် ချေင်း ထွန်းကားသော ခေတ်ဖြစ်သည်။ ဤခေတ်တွင် ပို့ူ.များသည် ကွယ်ပျောက်လုမတတ် ရှိတော့သည်။ အဘယ်ကြောင့် ဟူမူ ဤခေတ်ကား စစ်မက်ရေးရာ များသောခေတ်ဖြစ်၍ ဘုရင်မင်းမြတ်တို့ ကိုယ်တိုင်လည်း စစ်မက်ရေးတွင် ဝါသနာပါကြသည်။ စစ်မက်တိုက်ခိုက်ရေးကို လည်း အားပေးကြသည်။ ထိုကြောင့် ဘာသာရေး၊ သာသနာရေးတွင် တစ်ဘက်သတ် ချွတ်ယွင်းလျက် ရှိတော့သည်။ စစ်မက်တွင် လုံးပန်းနေရသောကြောင့် စစ်မက်ရေး နှင့် ပတ်သက်သော ဇာတိမာန် တက်ကြွစေမည့် ချေင်းများ အများအပြား ပေါ် လာကြသည်။ တောင်ငူခေတ် စာဆိုတော်များသည် အင်းဝခေတ်ကကဲ့သို့ ရဟန်း ပုဂ္ဂိုလ်စာဆိုများ မဟုတ်သောကြောင့် ဓမ္မကြောင်းနွယ်၍ ရေးသားဖွဲ့နွဲ့ရန် အလို မရှိကြ။ မိမိတို့သည် လူငယ်လူရွယ်များ ဖြစ်ကြသည်တစ်ကြောင်း၊ အမိမြန်မာပြည် ကြီးကို ချစ်သော စိတ်ဓာတ် ဇာတိမာန်တို့က ချေင်းများ၏ ပယောဂကြောင့် လှုံ့ဆော်တက်ကြွ၍ နေသည်တစ်ကြောင်း၊ ဤအကြောင်းများကြောင့် ပို့ူ. ကဗျာ မော်ကွန်းတို့၏ ခေတ်သည် မှေးမှိန် တိမ်ငုပ်၍ သွားရတော့သည်။

အင်းဝခေတ် စာဆိုရဟန်း ပုဂ္ဂိုလ်များသည် ရတု အဖွဲ့အနွဲ့များကို စပ်ဆို လိုပါသော်လည်း ဘုရားတရားနှင့် ပတ်သက်သော အကြောင်းများကို ရတုဖြင့် ဖွဲ့နွဲ့ရန် မပြည့်စုံမည်စိုး၍ မဖွဲ့နွဲ့လိုကြပေ။ ထိုပြင်လည်း ရတုအဖွဲ့အနွဲ့များဖြင့် မယ်ဘွဲ့ မောင်ဘွဲ့ စသော စိတ်၏သာယာခြင်းကို ဖြစ်စေတတ်သည့် အကြောင်း အရာများကို ဖွဲ့နွဲ့မှ အဆင်ပြေသည် ဖြစ်ရကား ဤအဖွဲ့မျိုးသည် ရဟန်းပုဂ္ဂိုလ် တို့နှင့် မသင့်၊ ဝိနည်းနှင့် ဆန့်ကျင်ဘက်ဖြစ်နေသောကြောင့် ရတုစာများ အစပ် အဟပ်နည်းခြင်း ဖြစ်လေသည်။

တောင်ငူခေတ် စာဆိုများသည်ကား လူငယ်များလည်း ဖြစ်ကြသည့်ပြင် နန်းတွင်းတွင် ကြီးပြင်းရသူတို့ ဖြစ်ကြပြန်သောကြောင့် စာများသည် မဟာဆန်သည်၊ နုသည်၊ ယဉ်သည်။ ထိုပြင်လည်း နတ်သျှင်နောင်ကဲ့သို့ မေတ္တာဓာတ် လှုံ့ဆော်ရာသို့ စိတ်ညွတ်လျက်ရှိသူများ ဖြစ်သောကြောင့် အခြားရတု ဆရာများကဲ့သို့ လွမ်းယောင် ဆွေးယောင်နှင့် အယောင်ဆောင်ကာ စပ်ဆို ဖွဲ့နွဲ့ရခြင်းမဟုတ်။ အကယ်စင်စစ် ဝမ်းတွင်းမှ လှိုက်လှိုက်လှဲလှဲ လွမ်းခြင်း၊ ဆွေးခြင်း၊ ချစ်ခြင်း၊ ကြိုက်ခြင်း တို့ကို မျိုသိပ်အောင့်အည်းမထားနိုင်တော့ဘဲ ကန်ထွက်၍ ပေါ်ပေါက်လာသော စိတ်ဓာတ် များဖြင့် စကား အသုံးအနှုန်းကို ခြယ်လှယ်ဖန်တီး၍ ဖွဲ့နွဲ့စပ်ဆိုရခြင်း ဖြစ်သော

ကြောင့် ဤတောင်ငူခေတ် ရတု ဆရာများသည် ကိုယ်တွေ့အဖြစ် အပျက်များကို ကိုယ်ပိုင်ဉာဏ်ဖြင့် အထူးစိမ် ဖွဲ့နွဲ့ကြသည်။

တောင်ငူခေတ်၏ အထူးမှတ်သားဖွယ် အချက်တစ်ခုကား တောင်ငူခေတ် တဗျာဆရာတို့သည် မိမိတို့၏ ဧချင်း၊ မော်ကွန်း အစရှိသော ကဗျာများတွင် တောင်ငူမြို့ဘွဲ့ကို မျှူးစွာ ချီးကျူး၍ ဖွဲ့နွဲ့ကြခြင်းဖြစ်သည်။ မြို့ဘွဲ့များတွင်လည်း မြို့တော်၏ သာယာခမ်းနားပုံ၊ ၁၂–ရာသီပွဲတော်များ ကျင်းပပုံတို့ကို ပါဝင်အောင် စပ်ဆိုကြသည်။ ထိုပြင်လည်း မိမိတို့ အရှင်သခင်ဖြစ်သော ဘုရင်ကို အလွန်အကြူး ချီးမြှောက်ကြသည်။ ဤသည်တို့ကို ထောက်၍ တောင်ငူပြည်သားတို့သည် မျိုးချစ်စိတ် မွေးမြူလာကြဟန် တူသည်။ အင်းဝပြည်ကြီး ပျက်စီး၍ လူမျိုးခြားအောက် ရောက်ရသော်လည်း မြန်မာလူမျိုးတို့အား တစ်နည်းတစ်လမ်းအားဖြင့် ကြံဆောင် ကယ်တင်မည်ဟူဘိသကဲ့သို့ တောင်ငူပြည်ဘက်က ဇာတိသွေးကို ဝံ့ဝံ့ရဲရဲပြကာ တကဲကဲနှင့် ရှိကြလေသည်။ ထိုကြောင့် တောင်ငူပြည်သားတို့မှာ တိုင်းပြည်ကို ချစ်ခြင်း၊ အမျိုးကို ခင်မင်ခြင်း၊ အရှင်သခင်အပေါ်၌ သစ္စာတရားရှိကြခြင်းတို့သည် ထင်ရှားတော့သည်။



# ၅။ ညောင်ရမ်းခေတ်

သက္ကရာဇ် ၈၈၈–ခုနှစ်တွင် အင်းဝရွှေနန်းကို ရှမ်းမင်းသိုဟန်ဘွား သိမ်းမြန်းသည်ကစ၍ အင်းဝနေပြည်တော်ကြီး၏ တန်ခိုးရှိန် တဖြည်းဖြည်း မှေးမှိန်လာခဲ့ပြီးသည့်နောက် ညောင်ရမ်းမင်းတရားကြီးသည် အင်းဝရွှေပြည်ကို ထပ်မံဖန်ဆင်း၍ ကြွေနန်းဖွင့်တော်မူပြန်သည်။ ထိုကြောင့် ထိုမင်း မင်းပြုရန် စ၍ ကြံစည်သော သက္ကရာဇ် ၉၅၉–ခုနှစ်မှ သက္ကရာဇ် ၁၁၁၃–ခုနှစ် အင်းဝရွှေပြည်ကြီး တစ်ဖန် ထပ်မံပျက်စီးသည့်တိုင်အောင်သော နှစ်ပရိစ္ဆေဒအတွင်းရှိ ခေတ်ကို ဒုတိယ အင်းဝခေတ်ဟု ခေါ်အပ်သော **'ညောင်ရမ်းခေတ်'** ဟူ၍ အမည်ပေးသင့်၏။ အဘယ်ကြောင့်ဟူမူ ဤခေတ်တစ်ခုလုံးတွင် ဆက်ခံစိုးစံကြသော မင်းအပေါင်းတို့သည် ညောင်ရမ်းမင်းတရားကြီး၏ အဆက်အနွယ်များသာ ဖြစ်ကြသောကြောင့်ပေတည်း။ ညောင်ရမ်းခေတ်၏ ချီးမွမ်းဖွယ်ကား ရှေးအင်းဝ၊ တောင်ငူခေတ်တို့က ပြုစုပျိုးထောင်ခဲ့သော စာပေတည်းဟူသော အပင်များကို ထပ်မံရေလောင်းရာ၌ စာဆိုသူပုဂ္ဂိုလ်တို့၏ မဆုတ်မနစ်သော လုံ့လရှိခြင်းများပင်တည်း။ ဤညောင်ရမ်းခေတ်ကား စကားပြေများ သာ၍ ထွန်းကားသော ခေတ်ဖြစ်သောကြောင့် စကားပြေခေတ်ဟူ၍လည်းကောင်း ခေါ်ထိုက်ပေသည်။ ကျင်လည် စုန်ဆန်နေရသော ဤသံသရာကြီးမှာ ဘဝဇာတိသာလျှင် ကျင်လည် စုန်ဆန်သည် မဟုတ်။ စာပေခေတ်သည်လည်း စုန်ဆန် ကျင်လည်လျက် နေ၏။

အင်းဝခေတ်တွင် ရဟန်းပုဂ္ဂိုလ်များ ထွန်းကား၍ တောင်ငူခေတ်တွင် ရဟန်းပုဂ္ဂိုလ်များ အလျဉ်းမရှိလောက်အောင် ပပျောက်သွားကြ၏။ နောက်တစ်ဖန်

ညောင်ရမ်းခေတ်တွင် ရဟန်းပုဂ္ဂိုလ်ကျော်များ ပေါ်ပေါက်လာပြန်သည် ဖြစ်သော ကြောင့် ဤစာဆိုလောကကြီးတွင်လည်း ရဟန်းပုဂ္ဂိုလ်နှင့် လူပုဂ္ဂိုလ် စာဆိုတော် များသည် အမြဲမတည် တစ်လှည့်စီ လှည့်လည် ပေါ်ပေါက်ကြသည်ဟု ဆိုရပေမည်။ ရဟန်းပုဂ္ဂိုလ်ကျော်များတွင် မှတ်တမ်းတင်လောက်သော ပုဂ္ဂိုလ်ကား မဏိကုဏ္ဍလ ဝတ္ထုကို စီရင်ရေးသားပြုစုသော **'ဝရာဘိသင်္ဃနာထ ဆရာတော်'** ဖြစ်ပေသည်။ ဤဆရာတော်သည် ကျော်လေးပါး အပါအဝင် ပုဂ္ဂိုလ်ကြီး ဖြစ်သည်။ ဆရာ အစဉ်အဆက် ပြောဆိုမှတ်သားကြကုန်သော မြန်မာနိုင်ငံ ကျမ်းတတ် ပုဂ္ဂိုလ်ကျော်ကြီး လေးပါးဟူသည်ကား . . .

၁။ ပုဂံသဒ္ဒနီတိ ဆရာတော် ရှင်အဂ္ဂဝံသ၊

၂။ စစ်ကိုင်း ရှင်အရိယာဝံသ ဆရာတော်၊

၃။ အင်းဝ ဝရာဘိသင်္ဃနာထ ဆရာတော်၊

၄။ တောင်ဘီလာဆရာတော် ရှင်မုနိန္ဒဃောသ။

တို့ ဖြစ်ကြသည်။ မဏိကုဏ္ဍလ ဝတ္ထုကို စီရင်ရေးသားပြုစုသော ဆရာတော်သည် သက္ကရာဇ် ၉၆၇–ခုနှစ် အင်းဝ၌ မင်းဖြစ်သော အနောက်ဘက်လွန်မင်းတရာ လက်ထက် လွန်စွာကျော်စောသော ပုဂ္ဂိုလ်ဖြစ်သည်။ ကျမ်းဂန်များတွင် မ–တစ်လုံး ကြသော ဆရာတော်ဖြစ်သည်။ ပါဠိ သဒ္ဒါကရိုက်ကျမ်းများတွင်လည်း လွန်စွာ နှံ့စပ်သည်။ စာအုပ်စာတမ်းများ များစွာပြုစုခဲ့လျှင် လွန်စွာကောင်းမည်ဖြစ်၏။ သို့သော် ကျမ်းများစွာ မပြုစုခဲ့ချေ။ မဏိကုဏ္ဍလဝတ္ထု တစ်ကျမ်းကိုသာ ရေးသား ခဲ့သောကြောင့် ထိုပုဂ္ဂိုလ်ထံမှ ကျွန်ုပ်တို့ အမွေများစွာ မရလိုက်ပေ။ ဤဝတ္ထုသည် အသီတိနိပါတ်တော်လာ မဟာသုတသောမ ဇာတ်ကို တန်ဆာဆင်ကာ ရေးသား ဖွဲ့နွဲ့ထားသော ကျမ်းဖြစ်သည်။ ကျမ်းအများ မပြုစုခဲ့သော်လည်း ဤကျမ်း တစ်စောင် ဆဲ၌ပင် ၅၅၀–ဝတ္ထုဇာတ်တော်များ အားလုံးလိုပင် ပါဝင်အောင် စီစဉ်ဖွဲ့ဆိုထား သည်။ ကျမ်း၏ ခမ်းနားပုံ အစီအစဉ် နေရာကျပုံမှာ လွန်စွာ ချီးမွမ်း ဖွယ်ကောင်း ၍ စကားပြေကျမ်းများတွင် ပထမတန်းစား ကျမ်းကြီးဖြစ်ပေသည်။

ကျမ်းဂန်၌ လွန်စွာ တတ်ကျွမ်းသောကြောင့် အနောက်ဘက်လွန် မင်းတရား ကြီး၏ ကိုးကွယ်မြှောက်စားခြင်းကို ခံရသည်။ အင်းဝမြို့ လေးထပ်ကျောင်းကြီးကို ဒါန်းပူဇော်ခြင်း ခံရသည်။ ဤဆရာတော် ရေးသားဖွဲ့နွဲ့ပုံသည် ရှင်မဟာသီလဝံသ

စိရင်ရေးသားသော ပါရာယန ဝတ္ထု၊ ရာဇဝင်ကျော် စသည်တို့နှင့် မတူ။ ဝါကျ စီစဉ်ပုံ စကားသုံးနှုန်းပုံတို့ ကွဲပြားခြားနားသည်။ ပါရာယန ဝတ္ထုနှင့် ရှည်ရှယ်ချက် အာဘော်များကား တူညီ၏။ ရှင်သီလဝံသကဲ့သို့ ရေးကျသော ဝေါဟာရ အသုံး အနှုန်းများကို မသုံးဘဲ ၍–လျှင်–ဖြင့်–သော် ဟူသော စကားများဖြင့် ဆက်စပ် ထားသော ဝါကျရှည်ကြီးများကို များစွာ အသုံးပြုတတ်သည်။ ရှင်သီလဝံသ၏ ပါရာယနဝတ္ထု အာဠဝက ဘီလူးကို ချွတ်ခန်း၌ လာသည့်...

> ဘီလူးလည်း ပါသရွေ့ ဝန်နှင့်တကွ ငါ့အစာ ဖြစ်ပြီးသတည်း။ ဘယ်ကြောင့် လွတ်ချင်ကာလျှင် စဉ်းလဲမှုနှင့် ကိုယ်ကို လုယ်သနည်းဟု မလွတ်...

အစရှိသော စကားများကဲ့သို့ ရေးကျသော အသုံးအနှုန်းများကို မဏိကုဏ္ဍလ ဝတ္ထု၌ မတွေ့ရ။

> ငါတို့ နှစ်ယောက် စုံသည် မင်းသားနှင်နှင် ဖြစ်ကြ၏။ တစ်ယောက် တည်းသော ဆရာထံ၌ အတတ်ပညာ သင်ကြအံ့ဟု ချိန်းချက်၍ အဆွေခင်ပွန်း ဖွဲ့ကြပြီးသော် မြို့တွင်းသို့ဝင်၍ ဒိသာပါမောက္ခ ဆရာ အိမ်သို့ သွား၍ ဆရာကို ရိုသေစွာ ရှိခိုး၍ လျောက်ပတ်စွာ နေကြ ပြီးသော် ဆရာအား ဥစ္စာထောင်ထုပ်ကို နှင်း၍ အမျိုးအမည် ကြား၍ အတတ်ပညာ သင်မည်လာသော အကြောင်းကို ဆို၍ အတတ်ပညာ သင်ကြကုန်၏။

သည်ဖြင့် ၍–နှင့် ဆက်စပ်သော ဝါကျရှည်ကြီးများကို တွေ့ရ၏။ ဤသို့ ရှည်လျားသော ဝါကျကြောင့် စာ၏အဖို့ အရသာ ပျက်၍ မသွားပေ။ စကားမှာ ရှင်းလင်းပြတ်သား၍ အဓိပ္ပာယ်ပေါ်လွင်သည်။ စကားများသည်လည်း ခေတ်သုံး စကားများသာ ဖြစ်သောကြောင့် အများလူတို့ အလွယ်တကူနှင့် နားလည်နိုင်ပါသည်။ ပါရာယနဝတ္ထု၏ အစီအစဉ်သည် စင်စစ်အားဖြင့် မဏိကုဏ္ဍလဝတ္ထု၏ အစီအစဉ် နှင့် မတူ။ ပါရာယနဝတ္ထုတွင် ဝတ္ထုကြောင်းကိုသာ အဓိကထား၍ ရေးသည်။ ဘုရားဟောဇာတ် နိပါတ်တော်များကို ဘာသာပြန်ခြင်းမျှသာ ဖြစ်သည်။ မဏိကုဏ္ဍလ ဝတ္ထုတွင်ကား ဇာတ်ကြောင်းကို အလေးဂရုပြု၏။ သို့သော် ဇာတ်ကြောင်းထက် ကျင့်ဝတ်ကျင့်ထုံးများကို အလေးဂရု ပိုမိုပြုဟန် တူသည်။ ဤသို့ကျင့်ဝတ် ကျင့်ကြံ

ဒွယ်ရာ ထုံးတမ်းနည်းနာ ဥပဒေသများကို အလေးဂရုပြု၍ အမျိုးလေးပါးတို့အား လိမ္မာရေးခြား ရှိစေလိုသောကြောင့် ရေးသားဖွဲ့နွဲ့ရခြင်းဖြစ်သဖြင့် မဏိကုဏ္ဍလ ဝတ္ထုသည် လောကီ၊ လောကုတ္တရာ နှစ်ဖြာသော အကျိုးကို ဖြစ်စေသော ဝတ္ထု ဖြစ်ရကား ကျမ်းပြု **'ဝရာဘိသယံနာထ ဆရာတော်'** ကို များစွာ ချီးမွမ်းသင့် ပေသည်။

## တောင်ဘီလာ ဆရာတော်

ဤဆရာတော်သည်လည်း ကျော်လေးပါး အပါအဝင် ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ် ဖြစ်ပေသည်။ ဆရာတော်သည် သက္ကရာဇ် ၉၄၀-ပြည့်နှစ်တွင် စလင်းမြို့၌ ဖွားတော်မူသည်။ သက်တော် ၁၄-နှစ်၊ သက္ကရာဇ် ၉၅၄-ခုနှစ်တွင် ဝေဿန္တရာ ပျို့ဟောင်းကို စပ်ဆိုတော်မူသည်။ ထိုဆရာတော်ကို ၉၅၆-ခုနှစ်တွင် ပြည်မြို့ ဘုရင် ရန်နိုင်မှူးက ပဥ္စင်း ဒါယကာခံသည်။ ရဟန်းဘွဲ့မှာ **'ရှင်မုနိန္ဒဃောသ'** ဖြစ်သည်။ အနောက်ဘက်လွန် မင်းတရားကြီးလက်ထက် ပြည်မြို့မှ ပင့်ဆောင်၍ အင်းဝတွင် ကိုးကွယ်တော်မူသည်။ သက္ကရာဇ် ၉၉၁-ခုနှစ် အင်းဝနန်းကို သိမ်းမြန်းသော သာလွန်မင်းတရားကြီးလက်ထက် စစ်ကိုင်းတွင် ဗိမာန်ရတနာမည်သော လေးထပ်ကျောင်းတော်ကြီးကို ဆောက်လုပ် ပူဇော်တော်မူသည်။ ထိုပူဇော်သည့်နေ့၌ပင် **'တိပိဋကာလင်္ကာရ'** ဘွဲ့တံဆိပ်တော်ကို ကပ်လှူတော်မူခြင်း ခံရသည်။ သက္ကရာဇ် ၁၀၀၀-ပြည့်နှစ်၊ အလုံးစုံ စွန့်ပစ်ခဲ့ပြီးလျှင် မင်းဝံတောင်ကြား ချောက်ကြီး တောင်ဘီလာ ဆီးကာနေသော နေရာသို့ အရညဝါသီ ဓုတင်ဆောင်လျက် တောမှီခိုဝင် အောင်းတော်မူသောကြောင့် သီတင်းသုံးသည့် နေရာကို အစွဲပြု၍ တောင်ဘီလာ ဆရာတော်ဟူ၍ ကျော်ကြားတော်မူသည်။ ထိုနောက် သက္ကရာဇ် ၁၀၁၃-ခုနှစ်၊ သက်တော် ၇၃-နှစ်တွင် ပျံလွန်တော်မူသည်။

ထိုဆရာတော်သည် ဝေဿန္တရာ ပျို့ဟောင်း၊ အနောက်ဘက်လွန်မင်းတရားကြီး အမေးတော်ပုံ၊ သာလွန်မင်းတရားကြီး အမေးတော်ပုံ၊ ဝမ်းဘဲအင်းစံ မင်းတရားကြီး အမေးတော်ပုံ၊ ယသဝဍ္ဍန ဝတ္ထုများကို ရေးသားစီရင်သည်။ သာလွန်မင်းတရားကြီး လက်ထက် ကိုင်းရှာစား မနုရာဇာနှင့် မနုသာရ ဓမ္မသတ်ကို ညှိနှိုင်း ပြင်ဆင်တော် မူသည်။ ဆရာတော်သည် ဝေဿန္တရာ ပျို့ဟောင်းကို ရေးတော်မူကြောင်းကား

သာသနာဝံသ စာတမ်း စသော စာတမ်းများတွင် လာရှိသည်ဖြစ်၍ ထင်ရှားလှ၏။ သို့သော် ဤဝေဿန္တရာ ပျို့စာကို ယခု မတွေ့ရှိရချေ။ ဤသို့ မတွေ့ရခြင်းသည် အစဉ်အဆက် ကူးယူသိမ်းဆည်းထားသူ မရှိ၍ပင်လော၊ သိမ်းဆည်းထားကြပါလျက် ပိုးမွှား၊ ခြပုံးတို့၏ ရန်ကြောင့် ပျက်စီး ယိုယွင်းသွား၍ပင်လော ဟူ၍ တွေးတောဖွယ် ရှိသည်။

ဤကဲ့သို့ ကျမ်းဂန်တွင် လွန်စွာကျော်ကြားသော ပုဂ္ဂိုလ်တစ်ဦး၏ ပျို့ကို ရေးသားဖွဲ့နွဲ့ပြီး ဖြစ်လျက်နှင့် ယခု မတွေ့ရှိရသည်မှာ ဝမ်းနည်းဖွယ် ဖြစ်ပေတော့သည်။ ကျမ်းဂန်များတွင် ဤမျှ နံ့စပ်သော ပုဂ္ဂိုလ်သည် ပျို့ကဗျာများ ဖွဲ့နွဲ့ရာတွင်လည်း မည်မျှ ကောင်းမွန်ချိမ့်မည်ကို တွေးတောချင့်ချိန်ရန်သာ လိုတော့သည်။ ဤပျို့မှအပ ရေးသားစီရင်ခဲ့သော အမေးတော်ပုံများသည်ကား ရာဇကြောင်း၊ ဓမ္မကြောင်းများနှင့် ပတ်သက်၍ အမျိုးလေးပါးတို့ သိနိုင်ခဲသော ခဲရာခဲဆစ်များကို ဖွင့်လှစ်ဖြေဆိုထားသော ကျမ်းများဖြစ်သောကြောင့် ဗဟုသုတ လိုလားသူတို့အတွက် များစွာအကျိုးဖြစ်ထွန်းဖွယ်ရာ ဖြစ်သည်။ တောင်ဘီလာ ဆရာတော်သည် မှတ်သား အပ်သော အကြောင်းအရာတို့ကို ဇ၈ဝ–ခုနှစ်၌ ရေးသားအပ်သော ယသဝဍ္ဎန ဝတ္ထုတွင် . . .

> သတိလွတ်၍၊ မစူးမစမ်း၊ ခုံခုံမင်မင်၊ သွားချေငြားမူကား ချောက်ကမ်းပါးတွင် ကျ၍ သေသော်လည်း သေရာ၏။ မသေသော်လည်း သေလောက်သော အနာတွေ့ခြင်း၊ အင်္ဂါချို့ခြင်း၊ ဥစ္စာ ပရိက္ခရာ ပျောက်ခြင်း၊ သူ ကဲ့ရဲ့ခံရခြင်းသို့ ရောက်ရာ၏။ ထို့အတူလည်းကောင်း မင်းထံနီးသော သူတို့သည် နေ့ညမပြတ် သတိသမ္ပဇဉ်ပြု၍ မလျှပ်မပေါ်သဖြင့် စူးစမ်းဆင်ခြင်၍ မင်းရိပ်မင်းခြည်ကို သိအောင်ပြု၍ မြဲစွာသော်သာလျှင် အရှင်မင်း၏ အကျိုးခံရာ၏။ သတိ သမ္ပဇဉ်ကို လွတ်၍ မေ့မေ့လျော့လျော့ သောက်ကြူး လောင်းကြူးဖြစ်လျက်လျှင် လျှပ်လျှပ်ပေါ်ပေါ် မတည်မကြည်ဖြစ်မူကား အရှင်အစိုးရမင်း၏ ကျေးဇူးစားရမည်ကိုထား၍ ကြီးစွာသော အပျက်အစီးသို့ ရောက်ရာ၏။

စသည်ဖြင့် သတိတရားနှင့် အမြဲယှဉ်ရန် စကားပြေ ချောမောစွာ ဩဝါဒပေးတော်မူခဲ့သည်။

## ရှင်ကရဝိက

ရှင်ကရဝိကသည် ပုခန်းကြီးမြို့ ကျေးပိုက်သင်ရွာ ဇာတိ၊ ပထမကျော်အောင် စံထား ဆရာတော်၏ တပည့် ဖြစ်သည်။ အင်းဝရွှေနန်းရှင် သာလွန်မင်းတရားကြီး လက်ထက် သက္ကရာဇ် ၉၉၆–ခုနှစ်တွင် 'တက်ထွန်းလျှံဝါ' အစချီသော ပိုဒ်စုံရတု သုံးပိုဒ်ကို ဆက်သွင်းသည်။ ဤရတုတွင်...

> ဖြူရိပ်ဖြန့်လွှား၊ လူ့ဘုရားလျှင်၊ လေးပါးတန်ခိုး၊ နေ့တိုင်း တိုးလျက်...

စသည်ဖြင့် ရှင်ဘုရင်ကို လူ့ဘုရားဟု ထောမနာလျက် ထမ်းရွက်ညွှန့်ရှည်တွင် ရေးသား ဆက်သွင်းသည်ကို ဘုရင်မင်းမြတ် သဘောတော် နှစ်ခြိုက်၍ ရွှေကျည် တောက်တွင် သွင်းနှံပြီးလျှင် ခေါင်းရင်း၌ အမြဲထားရုံမက နှုတ်ရ အာဂုံဆောင် တော် မူ၍ အလိုက်ရတုများကိုပင် လေ့ကျက် ရေးသားတော်မူကြောင်း ပြောဆိုစဉ် ရှိသည်။ ရေးသားသော စာများကား ပုဂံဘွဲ့ လူးတား၊ နရပတိ ရေလား၊ မင်းလှ ယဉ်န ပျို့၊ မင်းရဲကျော်စွာ လေးထပ်ကျောင်းတည် မော်ကွန်းများနှင့် ရတုအမျိုးမျိုး ဖြစ်သည်။

## မင်းလှယဉ်န ပျို့

ဤပျို့မှာ ဝိသတိနိပါတ်လာ ဘလ္လာတိယ ဇာတ်တော်ကို တန်ဆာဆင်၍ ရေးသားထားသည်။ ဟတ္ထိပါလပျို့၊ သံဝေရပျို့များကဲ့သို့ ဇာတ်တော်အမည်ကို လိုက်၍ မိမိပြုစုထားသော ကျမ်းကို မမှည့်ခေါ်ဘဲ အဆန်းထွင်ကာ မင်းလှယဉ်န ပျို့ ဟူ၍ မှည့်ခေါ်ခြင်းဖြစ်သည်။ ရှင်ကရဝိကသည် ရတုများကို စပ်ဆိုရာ၌ ဤပျို့ကို စပ်ဆိုသည့်အခါကကဲ့သို့ အလေးဂရုပြုဟန် မတူ။ ဤပျို့တွင် အဖွဲ့အနွဲ့ များသည် ရတုအဖွဲ့အနွဲ့များထက် များစွာကောင်းမွန်ကြောင်း တွေ့ရသည်။ ပန်း များကို ဖွဲ့ရာ၌ ရှင်ကရဝိက,က အဆန်းထွင်၍...

> ကိုးပါးမျက်ပြွန်၊ ဇေတဝန်ထာ၊ ဘုန်းဗုန်ရတနာ၊ မယ့်သည်းချာသည်၊ ကြွလာစေသား၊ ရှင်ဘုရားဟု၊ ဆပွားသဒ္ဒါ၊ စေတနာဖြင့်၊ သစ္စာ မိဋ္ဌာန်၊ ဆုယူပန်လျက်၊ စိတ်သန်တောင့်တ၊ ရှိရည်သ၍၊ သော်က

ထွတ်ထွတ်၊ ဖက်ဆွတ်လတ်လတ်၊ ရင်ခတ်ရွှေရွှေ၊ မိုးစွေနီနီ၊ သရဖီ ထပ်ထပ်၊ ဇလပ် မွှေးမွှေး၊ မုလေး ဆင့်ဆင့်၊ ကြာပွင့် ဝါဝါ၊ ယင်းမာ လန်းလန်း၊ အနန်း ရှားရှား၊ စကား ဝင်းဝင်း၊ အင်ကြင်း ရှင်ရှင်၊ သဇင် လူလူ၊ မဥ္ဇူ လှိုင်လှိုင်၊ ပန်းခိုင်ခိုင်နှင့်...

စသည်ဖြင့် မစုရတာ ဂုဏ်မြောက်၍ ပန်းများ၏ ဂုဏ်ဝိသေသတွေကို တစ်ပွင့်နှင့် တစ်ပွင့် မတူရအောင် စကားလုံးကြွယ်ဝစွာနှင့် စပ်ဆိုနိုင်သည်မှာ ချီးမွမ်းဖွယ်ရာ ပင်တည်း။

ရှင်ကရဝိကသည် နရပတိရေလား ပိုဒ်စုံရတုကိုလည်း ရေးသေးသည်။ ရေလားရတုဆိုသည်မှာ ရေကြောင်းခရီးဖြင့် သွားရာတွင် ရေ၏ အလားအလာ အရပ်ပတ်ဝန်းကျင်၌ တွေ့မြင်ရသော တော၊ တောင်၊ ပန်းမန်၊ သစ်သီး၊ ငှက်ကြီး၊ ငှက်ငယ်များနှင့် ရေဝယ် ပျော်ကြူး လူးလားမြူးပြီးလျှင် ရေတွင် ကျက်စားလျက် ရှိသည့် တိရစ္ဆာန်များကို ဖွဲ့နွဲ့စပ်ဆိုထားသော ရတုပင် ဖြစ်သည်။

ရှင်ကရဝိက၏ ရေလားရတုသည် အဟောင်းဆုံး မဟုတ်ပေ။ အင်းဝခေတ် ကုန်လောက်ကပင် မင်း နဝဒေးကြီးသည် 'မြစ်ရတုလျှင်' ချီ ရေလားရတုပိုဒ်စုံကို စပ်ဆိုဖွဲ့နွဲ့ထားပြီး ဖြစ်သည်။ ရှင်ကရဝိက ရေလားရတုနှင့် နဝဒေးကြီး၏ ရေလား ရတုတို့ကို နှိုင်းယှဉ်သော် နဝဒေးကြီး၏ ရတုသည် ရှင်ကရဝိကထက် ပြည့်ပြည့်စုံစုံ ရှိ၏။ အဖွဲ့အနွဲ့ စကားအသုံးအနှုန်းများ၏။ ယဉ်ကျေးပုံမှာကား ရှင်ကရဝိက ရတုက သာသည်ထင်ရ၏။ နဝဒေးကြီးသည် ရေလားရတုတွင် သက်ဆိုင်ပါဝင်သော ငှက်ဘွဲ့၊ တောဘွဲ့၊ သောင်ကမ်းဘွဲ့များကိုသာ ဂရုစိုက်ဟန်တူ၏။ ရှင်ကရဝိကကား သက်ဆိုင်သော အရာများကို တော်သင့်ရုံပင် ထည့်သွင်း၍ စကားတန်ဆာဆင်ရာ၌ များစွာ ဂရုစိုက်သည်။

ဤရတုများအပြင် ရှင်ကရဝိကသည် ပုဂံမြို့ဘွဲ့ လူးတားကိုလည်း ရေ သေ သည်ဟု အဆိုရှိသည်။ ဤလူးတားကို ရှင်ကရဝိက ရေးခဲ့ကြောင်း ထင်ရှာ သော်လည်း ယခုအခါတွင် ဤလူးတားစာကိုယ်ကို မတွေ့ရသည်မှာ ဝမ် နည် ဖွယ်ပင်တည်း။ စင်စစ် ရှင်ကရဝိကသည် ဤပုဂံမြို့ဘွဲ့ လူးတာ ကို ရေ သည်ဖြစ်အံ့၊ ဤလူ တာ သည် အဟောင်းဆုံး လူးတားဟူ၍ပင် ခေါ်ဆိုရပေတော့မည်။ ရှင်ကရဝိက၏ ပျို့အရေးအသား ရတုအရေးအသားများ သည် အတော်အတန် ကောင် မွန်သည်ကို

ထောက်လျှင် ရှင်ကရဝိက၏ တိမ်မြုပ်နေသော လူးတားသည်လည်း အခြား လူးတားဆရာတို့၏ စာပေအဆင့်အတန်းနှင့် တန်းတူ လိုက်တန်ရာသည်ဟု ချင့်ချိန် မိတော့၏။

## သဒ္ဓမ္မာ လင်္ကာရ ဆရာတော်

ဤညောင်ရမ်းခေတ်တွင် ဝတ္ထုကျမ်း ရေးရာ၌ မှတ်သားအပ်သော ကျမ်းပြု ဆရာတစ်ဦး ကျန်သေး၏။ ထိုပုဂ္ဂိုလ်ကား ပင်းယမြို့ ရွှေစည်းခုံကျောင်းတိုက်၌ သီတင်းသုံးတော်မူသော သဒ္ဓမ္မာလင်္ကာရ အမည်ရှိသော ဆရာတော်တည်း။ ပိဋကတ်သမိုင်း၌ကား မဟာရတနာကရဟု ပြဆို၏။ ထိုပုဂ္ဂိုလ်ရေးသော ကျမ်းကား ရတနာကရ ဝတ္ထုကျမ်းဖြစ်၏။ ထိုကျမ်းကို သက္ကရာဇ် ၁၀၄၂-ခုနှစ်တွင် အရိယာ သူတော်ကောင်းတို့၏ သဒ္ဓါ၊ သီလ အစရှိသော ဥစ္စာပွားများစေခြင်းငှာ ဓမ္မပဒ ကျမ်းကို မှီ၍ရေးသည်။ ဤဆရာတော်၏ စကားပြေသည် အသွားဖြောင့်၏။ သုဒ္ဓေါဒနမင်းကြီးအကြောင်းကို ရတနာကရကျမ်းတွင် အောက်ပါအတိုင်း ရေးသား ထားသည်ကို ဖတ်ရှု ဆင်ခြင်ပါလေ။

> အခါတစ်ပါး၌ ဘုရားရှင်သည် ရှေးဦးစွာသော သွားခြင်းဖြင့် ကပိလဝတ် ပြည်သို့ ကြွတော်မူလေ၍ ဆွေတော် မျိုးတော်တို့သည် ခရီးကြိုခြင်းကို ပြုတုံ၍ နိဂြောဓာရုံ ကျောင်းသို့ ရောက်တော်မူလျှင် ဆွေတော် မျိုးတော် တို့၏ မာန်ကို ဖျက်ခြင်းငှာ ကောင်းကင်၌ ရတနာစင်္ကြံ ဖန်ဆင်း တော်မူ၍ ထိုစင်္ကြံ၌ စင်္ကြံ သွားတော်မူလျက် တရားဟောတော်မူ၏။ ဆွေတော် မျိုးတော်တို့လည်း ကြည်ညိုသော စိတ်ရှိကုန်၍ သုဒ္ဓေါဒန မင်းကြီးကစ၍ အလုံးစုံ ရှိခိုး၏။ ထိုဆွေတော် မျိုးတော်တို့၏ အစည်းအဝေး၌ ကြာတော၌ ရွာသော မိုးကဲ့သို့သော မိုးသည် ရွာ၏။ ထိုမိုးကို အကြောင်းပြု၍ လူများ၏ စကားသည် ဖြစ်လေသော် ဘုရားရှင်သည် ရဟန်းတို့ ယခုအခါ၌သာ မဟုတ်။ ရှေးအခါ၌လည်း ငါ့ဆွေတော် မျိုးတော် အစည်းအဝေး၌ ကြာတော၌ ရွာသော မိုး ကဲ့သို့သော မိုးသည် ရွာသည်သာဟု မိန့်တော်မူ၍ ဝေဿန္တရာ ဇာတ်တော်ကို ဟောတော်မူ၏။

## မဟာရာဇဝင်ကြီး

စကားပြေများ ထွန်းကား ခေတ်စားလာသော ဤညောင်ရမ်းဆက် မင်းများလက်ထက်တွင်ပင် မြန်မာရာဇဝင် ကျမ်းကြီးလည်း ပေါ်ပေါက်လာပေသည်။ မြန်မာရာဇဝင် ကျမ်းများကို လူများကလည်း အရေးတစိုက်ပြုကာ သိမ်းဆည်းစုဆောင်းထားကြသည်။ ရာဇဝင်သည် မင်းအဆက်ဆက်တို့၏ အကြောင်းချင်းတများကို ပြည့်စုံ ပေါ်လွင်အောင် ရေးသားထားသော ကျမ်းဖြစ်သောကြောင့် ရှေးရှေးကအုပ်စိုးခဲ့သော မင်းများ၏ အကြောင်းကို ကြည့်ရှု မှတ်သားနိုင်သည်။ ကြည့်ရှုပြီးလျှင်အနော်ရထာ စသော မင်းများလက်ထက် ဖြစ်ပျက်သည့် အကြောင်းများတွင်အတုခိုးသင့်သည့် အကြောင်းများကို တွေ့ရှိက အတုခိုးယူရာသည်။ ချွတ်ယွင်းသည့်အချက်တွေ့ကလည်း ယခု မချွတ်ယွင်းအောင် ဆင်ခြင်တိုင်းထွာ၍ ကျင့်ရာသည်။ သို့ဖြစ်သောကြောင့် ရာဇဝင်ကျမ်းသည် ကြေးမုံပြင်ကြီးနှင့်တူသည်။ ကြေးမုံပြင်တွင်မိမိကိုယ်ခန္ဓာ၌ ချွတ်ယွင်းနေသော အရာများကို တွေ့ရှိပါက ပြုပြင်ထုတ်နုတ်ဖြည့်စွက်ခြင်းများ ပြုလုပ်နိုင်သကဲ့သို့ ကြေးမုံပြင်နှင့်တူသော ရာဇဝင်ကျမ်းတွင်ကြည့်၍ မြန်မာပြည်တည်းဟူသော ကိုယ်ခန္ဓာကြီးတွင် ချွတ်ယွင်းနေသော အရာဟူသမျှကို တွေ့မြင် ပြုပြင်နိုင်ပေသည်။

## ဦးကုလား

ဤသို့အားဖြင့် ရာဇဝင်ကြီးတစ်စောင် စီစဉ်ရေးသား ထားရှိရန် လွန်စွာလိုနေကြောင်းကို မိမိစိတ်၌ ထင်မြင်သော ဦးကုလားသည် မဟာရာဇဝင်ကြီးတွင်မျှမက ရာဇဝင်လတ်နှင့် ရာဇဝင်ချုပ်များကိုပါ ရေးသားပြုစုခဲ့ပေသောကြောင့်ဦးကုလား၏ ကျေးဇူးသည် ကျွန်ုပ်တို့အပေါ်၌ များစွာရှိနေပေသည်။

ဦးကုလား၏ အဖသည် စဉ့်ကိုင်းရွာ သူဌေး ဒေဝသေဋ္ဌဖြစ်၍ အမိမဏိသြဃသည် တစ်ဘက်အနွယ် စော်ဘွားမျိုး၊ တစ်ဘက်အနွယ် မြို့စားမျိုး ဖြစ်သည်။ ဦးကုလား၏ ဖွားသက္ကရာဇ်ကိုကား မသိရပေ။ မဟာရာဇဝင်ကြီးကို သက္ကရာဇ် ၁၀၇၆–၁၀၉၅ ခုနှစ်အတွင်း အင်းဝဘုရင် တနင်္ဂနွေမင်းတရားကြီးလက်ထက်တွင်ရေးသားစီရင်သည်။ ဤကဲ့သို့ အဖလည်း သူဌေးမျိုး၊ အမိလည်း စော်ဘွားမြို့စားမျိုးဖြစ်သော သူဌေးသား ဦးကုလားသည် မိမိစည်းစိမ်နှင့် အေးချမ်းသာယာစွာမနေဘဲ နောင်လာ နောက်သားတို့အဖို့ အပတ်တကုတ် ကြိုးစားရှာဖွေ စုဆောင်း၍

ရာဇဝင်ကျမ်းကြီးများကို ပြုစုခဲ့သည့် စေတနာသည် လွန်စွာမှ အရေးပါ အရာရောက်သည် ဖြစ်ရကား ဦးကုလားအား အဘယ်မှာလျှင် မချီးမွမ်းဘဲ နေနိုင်တော့အံ့နည်း။

ရာဇဝင် ကျမ်းများတွင် ဦးကုလား၏ ရာဇဝင်များသည် အဟောင်းဆုံးကျမ်းများ မဟုတ်သေး။ သက္ကရာဇ် ၈၆၄-ခုနှစ်တွင် ရှင်မဟာသီလဝံသပုဂ္ဂိုလ်သည် ရာဇဝင်ကျော်တစ်စောင်ကို ရေးပြီးဖြစ်၏။ ရှင်မဟာသီလဝံသ၏ ရာဇဝင် မပေါ်သေးမီကလည်း ရာဇဝင်ဟောင်းများ ရှိကြသေး၏။ ရှင်မဟာသီလဝံသ၏ ရာဇဝင်ကား ရာဇဝင် မည်ကာမတ္တရှိ၏။ မင်းတို့၏ လက်ထက်အတွင်း ဖြစ်ပွားကြသော အကြောင်းချင်းတများကို မဖော်ပြ၊ မင်းဆက်များကိုသာ တစ်မင်းပြီးတစ်မင်း ဖော်ပြသဖြင့် မင်းဆက် ရာဇဝင်မျှသာ ခေါ်ဆိုနိုင်၏။ ရှင်မဟာသီလဝံသ၏ ရာဇဝင်အပြင် ပုဂံရာဇဝင်၊ တကောင်းရာဇဝင်၊ သရေခေတ္တရာ ရာဇဝင်၊ အင်းဝရာဇဝင်၊ တောင်ငူရာဇဝင် စသည်ဖြင့် ရှေးရာဇဝင် ဆရာများ ရေးသားပြုစုခဲ့သော ကျမ်းငယ်များသည်လည်း အများအပြားရှိကြ၏။ ဤသို့အသီးအသီးရှိကြသော ရာဇဝင်ကျမ်းများကို စုပေါင်းညှိနှိုင်းပြီးလျှင် ရာဇဝင်ကြီးတစ်စောင် တစ်ဖွဲ့တည်းဖြစ်အောင် ဦးကုလားသည် ထပ်မံ ရေးသားပြန်သည်။ ဤသို့ ရေးသားရာ၌ အထက်ပါ ရာဇဝင် ကျမ်းငယ်ကလေးများမှအပ အခြားအကိုးအကား ထောက်ထားခြင်းပြုရသော ကျမ်းငယ်များကား ကျောက်စာ ချေင်းနှင့် မော်ကွန်းများ ဖြစ်ကြ၏။ ချေင်းသည် ရာဇဝင်မဟုတ်စေကာမူ မင်းစဉ်၊ မင်းဆက်၊ အဖြစ်၊ အပျက်၊ အကြောင်းအရာများ ပါဝင်အောင် ရေးထားသော စာဖြစ်၍ ဦးကုလားသည် ရာဇဝင်ပြုစုရာ၌ ချေင်းများကို လက်မလွှတ်ရဲပေ။ ပုံစံမှာ တောင်ငူမင်းဆက်အကြောင်းများကို ရေးသားမည်ဆိုသော် တောင်ငူခေတ်တွင် ပေါ်ပေါက်သောတပင်ရွှေထီး ချေင်းများ၊ ဝိမလရာဇာ ချေင်း၊ သခင်ဘိုး ချေင်း အစရှိသောတောင်ငူမင်းများ၏ သမီးတော်၊ သားတော်များကို ဖွဲ့ဆိုကြသည့် ချေင်းများကို အထောက်အကူပြု၍ ရေးသားရပေသည်။ မော်ကွန်းများသည်လည်း ဦးကုလားအား များစွာ ကူညီခဲ့ပေသည်။ ပြည်စုန်မော်ကွန်းကဲ့သို့သော ရာဇဝင်ကြောင်း နွယ်သည့် မော်ကွန်းမျိုးသည် ဦးကုလားအဖို့ များစွာ အသုံးဝင်မည်မှာ မလွဲပေ။

ဤကဲ့သို့သော ကျောက်စာ မော်ကွန်း ချေင်းဟောင်းများနှင့် ရာဇဝင်ကျမ်းငယ်များကို ညှိနှိုင်း တိုက်ဆိုင်ပြီးလျှင် တကွဲတပြား တစ်သီးတစ်ခြားစီ မဖြစ်ရအောင်

တစ်စောင်တည်းပြုလုပ် ရေးသားသည် ဖြစ်သောကြောင့် ဦးကုလားသည် နောင်လာနောက်သားများအတွက် မည်မျှ အပင်ပန်းခံခဲ့ကြောင်းကို ပြူပြူထင်ထင် သိမြင်ရပေသည်။ ရာဇဝင်ကြီးတွင် ဦးကုလား၏ နေရာတကျ စီစဉ်တတ်သော ဉာဏ်ကို ချီးမွမ်းသင့်ပေသည်။ ဤသို့ အသီးအသီး ကွဲပြားခြားနားလျက် ရှိသော ရှေးရာဇဝင်များကို မရှုပ်မထွေးရအောင် နေထားတကျစီစဉ်ရန် အလုပ်သည် လွယ်ကူသည် မဟုတ်ပေ။ ဦးကုလား ရာဇဝင်ကြီးကား စံပြုလောက်သော ကျမ်းဖြစ်၏။ ထို့ကြောင့် နောက်ရာဇဝင် ဆရာတို့သည် ထိုရာဇဝင်ကျမ်းကိုသာ အမှီပြု၍ ရေးသားကြ၏။ ဘကြီးတော် မင်းတရား လက်ထက်တွင် ရေးသားသော မှန်နန်းမဟာရာဇဝင်တော်၏ ရာဇဝင်ကြောင်းသည် ဦးကုလား ရာဇဝင်ကြီး၏ ရာဇဝင်ကြောင်းပင် ဖြစ်သည်။ ထို့ပြင် ဦးကုလား၏ ရာဇဝင်တွင် မှတ်တမ်း တင်လောက်သည့် အချက်ကား ပြေပြစ်ကောင်းမွန်လှသော ဝါကျအသုံးအနှုန်း စကားလုံး အထားအသိုများပင် ဖြစ်သည်။ စကားပြေ ဆရာကြီးများသည် ဦးကုလား၏ စကားပြေများကို စံတင်ကာ ထားကြရသည်။ ဦးကုလား၏ စကားပြေသည် ရိုးရိုးနှင့် ဣန္ဒြေရ၏။ ရာဇဝင်ကြီးမှ အောက်ပါ ကောက်နုတ်ချက်ကို ဖတ်ရှုပါလေ။

> အရွယ်သို့ ရောက်လျှင် ဘေဒါရီ ဟူသော အမည်ကို သမုတ်တော်မူ၏။ ထို ရှင်ရသေ့၌ မပြတ်ခစားသော နတ်တို့သည်လည်း သတို့သမီးနှင့် ထိုက်တန်သော တန်ဆာတို့ကို ပေး၍ မပြတ်ဆင်ရ၏။ ဘေဒါရီ (၁၇) တစ်ဆယ့်ခုနစ်နှစ်အရွယ်သို့ ရောက်လတ်သော် ဤသို့ ကြံတော်မူ၏။ ငါတို့ ရသေ့ရဟန်းမည်သည်ကား မိန်းမနှင့် အတူ နေခြင်းမအပ်၊ သူ မြင်လေသော်လည်း မသင့်ဟူ၍ ကြံပြီးမှ တစ်နေ့လုံး ရေမှာကြာ၍ ညအချိန်တန်မှ ရောက်လေအောင် မထွင်းသေးသော ဘူးခြောက်မြီးဖြင့် ရေကို နှစ်စေပြီးလျှင် ထို ဘူးစက်ဖြင့် ကျည်တောက်တွင် ခံ၍ ပြည့်စေ၏။ ထိုသို့ပြည့်သဖြင့် တစ်နေ့လုံး နှင်နှင်ကြာ၏။ ထိုနေ့မှစ၍ ဤကဲ့သို့လျှင် သမီးတော် ဘေဒါရီအား နေ့တိုင်းနေ့တိုင်း အမြဲ ရေခပ်စေတော်မူ၏။

စသည်ဖြင့် ဆန်းဆန်းပြားပြား မရှိဘဲ ရိုးရိုးကလေးနှင့် ပြေပြစ်အောင် ရေးထားသည်။

စပယ်ဦးစာပေ

## ပဒေသရာဇာ

ဦးကုလားနှင့် တစ်ခေတ်တည်းတွင် ကျော်စောသူ ပဒေသရာဇာသည် ရတနာပူရ အင်းဝမြို့တွင် ညောင်ရမ်းခေတ် ဆယ်ဆက်တို့အနက် ရှစ်ဆက်မြောက် သက္ကရာဇ် ၁၀၆၀-ပြည့်နှစ်တွင် နန်းတက်တော်မူသော စနေမင်းလက်ထက် စုရေးစုကိုင် အဖြစ်ဖြင့် ကဗျာ လင်္ကာများ ရေးသား လေ့လာခဲ့သည်။ သက္ကရာဇ် ၁၀၇၆-ခုနှစ်တွင် နန်းတက်တော်မူသော တနင်္ဂနွေမင်းတရားကြီး လက်ထက်တော်တွင်လည်း ဆက်လက်၍ ကဗျာသီချင်းများကို ရေးသားဆက်သွင်းသည်။ ထိုနောက် သက္ကရာဇ် ၁၀၉၅-ခုနှစ်တွင် နန်းတက်တော်မူသည့် ဟံသာဝတီရောက် မင်းတရားကြီး လက်ထက်မှာ ပညာအရည်အချင်းနှင့် ပြည့်စုံသည့်အလျောက် မင်းရဲမင်းလှကျော်ထင် ဘွဲ့နှင့် အသည်ဝန်ကြီးခန့်သည်တွင် သားတော်၊ သမီးတော် ချင်းအများကို ဆိုသည်။ ထိုနောက် ဘုရင်မင်းမြတ်သည် စာဆိုခြင်းအရာ၌ လွန်စွာနှစ်သက်တော်မူ၍ တောင်ငူခေတ် ရတုတံခွန်စိုက်ဘုရင် နတ်သျှင်နောင်၏ ဘွဲ့နာမတော်အတိုင်း နတ်သျှင်နောင်ဘွဲ့၊ ပဒေသရာဇာဘွဲ့များကို ပေးသနားတော်မူသည်။ အထူးသဖြင့် ပဒေသရာဇာဘွဲ့နှင့် ထင်ပေါ်ကျော်စောသည်။ ပဒေသရာဇာဘွဲ့သည် ကျေးကျွန်တို့ လွန်စွာရနိုင်ခဲသော ဘွဲ့ဖြစ်သည်။ ရာဇာတပ်၍ ပေးသောဘွဲ့ ဖြစ်သည်ကို ထောက်ချင့်ရာသည်။ ထို့ပြင်မကသေး ပဒေသရာဇာ၏ ဇနီးသည်နှစ်ယောက်ကိုလည်း ဒေဝီဘွဲ့ပေးသည်။ ထို့ပြင် ဝေါပလာကြိုင်း ရွှေချက် ၂-စင်းလည်း ရသည်။ ဟံသာဝတီပါမင်းကို တလိုင်းတို့ ခေါ်ဆောင်လာသည်အခါ၌ ဝန်ကြီး ပဒေသရာဇာလည်း အပါးတော်က အမြဲပါလာသည်။ ၁၁၁၆-ခုနှစ်၊ အသက် ၇၀-ပြည့်တွင် သန်လျင်၌ အနိစ္စ ရောက်သည်။

ဝန်ကြီးသည် ပို့များစွာ ရေးသည်။ ထင်ရှားကျော်စောသော ပို့များသည်ကား သူဇာပို့၊ မဏိကက်ပို့၊ ကျေးဖူးတော်ပို့၊ ကုမ္ဘာဘယပို့၊ ဆန္ဒပို့၊ ယိုးဒယား သံရောက်ပို့၊ မနော်ပို့ကြီးများ ဖြစ်သည်။ ထို့ပြင် ထိပ်ဦးတင် ချောင်း၊ ထိပ်ဦးနေ ချောင်း၊ ထိပ်ပန်း ချောင်း၊ စကုမင်း ချောင်း၊ စလင်းမင်း ချောင်းများကိုလည်း ရေးသား ပြုစုသည်။ ဒန္တာသီရိပို့၊ နအူပို့၊ ကြာနတ်ကေသာပို့၊ မဟာပတိပို့ အစရှိသော ပို့ငယ်ကလေးများကိုလည်း ဖွဲ့နွဲ့ရေးသားသည်။ ထို့ပြင် ၃၇-မင်းသည် နတ်ချင်း များကိုလည်း စပ်ဆိုသေးသည်။ ထိုအပြင် တျာဘွဲ့များ၊ ဘုန်းတော်ဘွဲ့ သီချင်းခံ ကြီးများ၊ ဇာတ်ချင်းများနှင့် လွန်စွာထင်ရှား ကျော်စော၍ နန်းတွင်းပြဇာတ်ကြီး

များတွင် အပေါင်းဆုံးဖြစ်ဟန်တူသော မဃဒေဝကက်ပြဇာတ်ကြီးကိုလည်း ရေးသားပြုစုသတည်း။

ဝန်ကြီးပျို့များတွင် သူဇာပျို့ကို အကောင်းဆုံးပျို့ ဟူ၍ ဆုံးဖြတ်ချက်ချရန် သင့်သည်ဟု ထင်မြင်သည်။ ပျို့ကြီး ၇–စောင်အနက် သူဇာပျို့ကို အကောင်းဆုံးထား၍ ကျေးဇူးတော်ပျို့ကို ဒုတိယတန်းစား ထားပြီးလျှင် ကျန်ပျို့များကို တတိယတန်းစား၌ ထားသင့်သည်။ သူဇာပျို့ကို ရေးသားပြီးစီးသောအခါ သက္ကရာဇ် ၁၁၃၀–ခုနှစ်၊ ကဆုန်လဆန်း ၈–ရက်၊ စနေနေ့ ဖြစ်၏။ စာအနုအယဉ်များတွင် ဤပျို့သည် ရှေးပညာရှိ ပုဂ္ဂိုလ်တို့ အသိအမှတ်ပြုရသော ပျို့ဖြစ်သည်။ နုယဉ်သောစာများ ဖတ်ရှုရန် နှစ်ခြိုက်သောသူတို့သည် သူဇာပျို့ကို လက်မလွှတ်ကြလေနှင့်။ သူဇာပျို့အပြင် အခြားစာများကိုလည်း နုပါသည်၊ ယဉ်ပါသည် ဆိုတိုင်း မနှစ်ခြိုက်ကြနှင့် ဟူ၍ မှာကြား သွန်သင်ခဲ့လိုသောကြောင့် **"သူဇာကိုလည်း မပစ်နှင့်၊ စာနုကိုလည်း မချစ်နှင့်"** ဟူ၍ ရှေးပညာရှိတို့ စကားဆိုထုံးပြုကြလေသည်။ ထိုစကား သက်သေခံရှိသည့်အတိုင်း သူဇာပျို့ တစ်အုပ်လုံးတွင်လည်း လွန်စွာ နုယဉ်သော စကားလုံးအသုံးအနှုန်း အသိအထားများဖြင့် တန်ဆာဆင်ထားသည်ကို တွေ့ရသည်။ ဤပျို့တွင် ဖွဲ့နွဲ့ပုံများမှာ အင်းဝခေတ် ရှင်အဂ္ဂသမာဓိရေး ဘုံခန်းပျို့ကဲ့သို့ ဘုံအဆောင်အခမ်းအနားများကိုသာ တစ်သီတစ်တန်းကြီး ဖွဲ့ဆိုထားသည် မဟုတ်ဘဲ ဇာတ်ကွက် ဇာတ်လမ်းကို ရေရေလည်လည် ဖွဲ့နွဲ့ စပ်ဆိုရသောကြောင့် ဘုံခန်းပျို့လောက် အဖွဲ့အနွဲ့များမှာ မယဉ်ကျေး မသိမ်မွေ့စေကာမူ လူတို့၏စိတ်ကို တစ်ဘက်တစ်လမ်းအားဖြင့် စွဲငြိ ထိခိုက်စေနိုင်လောက်ပေသည်။

ဘုရားဟော ဇာတ်တော်ကြီးများသည် သူသူငါငါ စာဆိုပုဂ္ဂိုလ်အများတို့ ဖွဲ့ဆိုကြခြင်းကြောင့် လူတို့စိတ်တွင် အနည်းငယ် ရိုး၍သွားလေပြီ။ ထိုကြောင့် အသစ်အဆန်းလည်း ဖြစ်ရလေအောင် ဇာတ်လမ်း ဇာတ်ကွက်၊ လွမ်းခန်း ဆွေးခန်းများဖြင့် ရေရေလည်လည် ဖတ်ရှုမှတ်သားရလေအောင် ဝန်ကြီးသည် ဟေမာဝီရိ အမည်ရှိသော တောင်ကို အုပ်စိုး၍နေသော ဒေဝိန္ဒရာဇာ နတ်မင်းကြီးနှင့် အတုလဒေဝီ မိဖုရားကြီးတို့၏ ရင်နှစ်သမီးတော် ဖြစ်ကြကုန်သည့် ဟာရီ၊ စိတ္တာ၊ ရာမာ၊ ကညာ၊ ရမ္မာ၊ ပိယာ၊ သူဇာ နတ်သမီး ခုနစ်ဖော်တို့တွင် အနှောင်းဆုံးဖြစ်သော သူဇာနတ်သမီး၏ အကြောင်းကို ဖွဲ့ဆိုခြင်း ဖြစ်လေသည်။ ဤပျို့သည် ဝတ္ထုကြောင်းဘက်တွင် ပြည့်ပြည့်စုံစုံရှိအောင် စီစဉ်၍ လောအကြောင်းသက်သက်ကို ဉာဏ်ကစားကာ ရေးသောပျို့ဖြစ်၏။

ယခုသာကြည်၊ ဆိုအံ့သည်ကား၊ ထူးလည်စီစဉ်၊ အယဉ်အန၊ ကြိုးမှု
ရင့်ရာ၊ သေချာမှတ်ဖို့ သူဇာပျို့တည့်၊ နှစ်လို့ဝမ်းသာ၊ ရွှင်လန်းစွာသည်၊
နောင်လာနှစ်သိမ့် မှတ်ရစ်စိမ့်...

ဤ၌ နိဒါန်းတွင် ပြဆိုထားသည့်အတိုင်း ဤပျို့ကို ဝန်ကြီးသည် နနိုင်သမျှနှ၍ ဆဉ်နိုင်သမျှ ယဉ်အောင် အတော်ပင် ကြိုးစား၍ရေးခဲ့ကြောင်း ထင်ရှားပေသည်။ ဆိုကြောင့်ပင်လျှင် အချို့သော အခန်းများတွင် လွန်စွာနယဉ်သော အဖွဲ့များကို ဆွေ့ရသည်။ သုစိတ္တရာဇာမင်းသားနှင့် သူဇာနတ်သမီးတို့ တွေ့ခန်း၌...

လည်ဝယ်အမြဲ၊ ရစ်ခွေဆွဲ၍၊ ယှဉ်နွဲ့စုံမက်၊ ရာကျော်သက်လျှင်၊
ချစ်ဘက်တူရှည်၊ ပျော်ရမည်ကြောင့်၊ သို့သည်ရပ်မှာ၊ ဝေးကျူးရာက၊
ကြုံလှာထူးလည်၊ ကြိုက်ပေသည်ကို၊ မြဲတည်ဇာကန်၊ ကျွန်ုပ်ကျွန်သည်၊
အလွန်ကြူးလှ၊ သက်ပင်မျှလည်း၊ မရနှုန်းရာ၊ ချစ်ကြင်ပါသည်၊
အာကာတိမ်ထွတ်၊ ကောင်းကင်လတ်က၊ မာရ်နတ်သည်းချာ၊ ပင်ပေါ်
လှာလည်း၊ ပမာမထောက်၊ မင်းလှအောက်သာ၊ ဖြစ်ပါစိမ့်မည်၊
မည်သည်ကိုမျှ၊ မင်းရှင်လှသည်၊ ကြောင့်ကြဆံလွှာ၊ မစွန်းပါနှင့်၊
ဝင်းဝါပြောင်ရွှန်း၊ ရွှေတောင်နန်းငယ်၊ ချစ်ပန်းလှိုင်ကျော်၊ ခမည်း
တော်နှင့်၊ စံပျော်တကွ၊ မယ်တော်မျှလည်း၊ မကပိုက်ထုပ်၊ ကျွန်ုပ်
တို့မှာ၊ မေတ္တာကျူးကျော်၊ ဘုန်းတော်ကြီးလှ၊ ဘုရားစသည်၊ နန်း
မဖုရား၊ များသည်ဆွေမျိုး၊ ပန်းနယ်ပျိုး၍၊ မြတ်နိုးညီညာ၊ ချစ်ပါ
လိမ့်မည်

စသည်ဖြင့် နယဉ်သော အသုံးအနှုန်းများဖြင့် တန်ဆာဆင်ထားသည်။

ဝန်ကြီးသည် စကားကို အခါအခိုက်နှင့် လိုက်အောင်လည်း သုံးစွဲတတ်သည်။ ပုံစံမှာ မိန်းကလေးက ပြောသည့်အရာ၌ မိန်းကလေး၏ အမူအရာ အသံနေ အသံထားကိုပင် ပါအောင်...

ပူပင်ငြင်ငြို၊ ကျွန်မကိုလေ၊ ဟိုမှုဆိုးပ၊ ဖမ်းမိစက၊ ကျွန်မစိတ်မှာ၊
မကြာလျှင်တောင်း၊ ဘယ်အကြောင်းကြောင့်၊ ငံ့ညောင်းမဆည်၊
သေရမည်ဟု၊ ကြံစည်စိတ်ထဲ၊ အမြဲသေချာ၊ အောက်မေ့ရာတွင်၊
တောသာလည်သွား၊ မုဆိုးသားသည်၊ တိုင်းကား ပြည်ရွာ၊

သာသည်ကစ၊ ယဉ်လှရွှန်းမြေ၊ အိမ်ရှေ့သခင်၊ ထိပ်တင်နာမ၊
သည့်နှယ်ပဟု၊ ကျွန်မကိုလေ၊ အထွေထွေသည်။ ။သံချေပွက်ဟာ
စေရှာတည်း။

စသည်ဖြင့် မိန်းကလေးများ ကန့်ကရ ပြောတတ်စမြဲဖြစ်သော **'ကျွန်မကိုလေ-သူကလေ'** စသည်တို့ဖြင့် ဖွဲ့နွဲ့ထားသည်။ ဤပျို့တွင် အခြားပျို့များထက် ထင်ရှားစွာ ထူးခြားသော အချက်နှစ်ခုကား ပျို့တစ်ခုလုံးကို တစ်ဦးနှင့်တစ်ဦး အပြန်အလှန် တိုက်ရိုက်ပြောဆိုဟန်စကားများဖြင့် ဖွဲ့ဆိုထားခြင်းဖြစ်သည်။ ပြဇာတ်သဘောမျိုး ပေါက်ရောက်သော ပျို့တစ်စောင် ဖြစ်ပေသည်။ အခြားတစ်ချက်မှာ ဤပျို့တွင် ချေင်းအဖွဲ့များကိုလည်း ထည့်၍ စပ်ဆိုခြင်းဖြစ်သည်။ စာတစ်အုပ်တည်းတွင် နှစ်မျိုးဖတ်ရသည်။ ချေင်း အဖွဲ့အနွဲ့များသည်လည်း တောင်ငူခေတ်ပေါ် ချေင်းများအောက် မည့်ဖျင်းလှပေ။ ။ထိုသို့ ပြဇာတ်သဘော ကဲ့သို့ ဖတ်ရသည်လည်းတစ်ဖြာ၊ သာယာနုယဉ်သော အဖွဲ့အနွဲ့များဖြင့် ရုံး၍ ဖွဲ့နွဲ့ထားသည်လည်း တစ်ခင်း၊ ချေင်းအဖွဲ့အနွဲ့များကို တစ်ဖန် တွေ့ရပြန်သည်လည်း တစ်ချက်၊ ဤသို့ အဘက်ဘက်ကပင် ရေလဲနှင့် အသုံးတော်ခံသောစာ ဖြစ်ပေသည်။

ဝန်ကြီးသည် ဤပျို့ကို ရေးရခြင်းမှာ မိမိ အရှင်သခင်၏ ကျေးဇူးကို ထောက်ထား၍ ရေးရခြင်းဖြစ်သည်။ နေသာဒမုဆိုးသည် အရှင့်အကျိုးကို မည်ရွေ့ မည်မျှ ထမ်းရွက်ပုံကို ဖော်ပြရာ၌ များစွာအမွှန်းတင်၍ ရေးသည်။ ပျို့နိဂုံး၌လည်း...

အဖန်ဖန်လျှင်၊ ဘုန်းဝုန်မပြူး၊ ရှင့်ကျေးဇူးကို၊ ချီးကျူးဆိုဖွယ်၊
ဆန်းတကြယ်လျှင်၊ သွယ်သွယ်သစ်သစ်၊ ရောက်သည်ဖြစ်၍၊ ခွေရစ်
ကြိုးနှယ်၊ ဝမ်းဝယ်မထား၊ ဟုတ်စကားဖြင့်၊ ဖြစ်လားထိုထို၊ စီကုံးဆိုပိမ့်၊
သံချိုပျံ့ကြည်၊ ထူးတလည်လျှင်၊ ယင်းသည်သူဇာ၊ ပျို့ကဗျာတွင်၊
ဦးစွာအစ၊ နိဒါန်းကလည်း၊ တည်ပချီးမြှောက်၊ ပြောစလောက်၍၊
ရွှေမှောက်ဘုန်းပေါ်၊ ကျေးဇူးတော်ကို၊ ချီဝေါ်တိုင်းရှဲ့၊ ဆိုစခဲ့ပြီး...

ဟူ၍ အတိအလင်း စပ်ဆိုသည်ဖြစ်၍ အရှင်သခင်ကို မည်မျှကျိုးနွံ ချစ်ခင်သည့် အကြောင်း များစွာ ထင်ရှားတော့သည်။

စပယ်ဦးစာပေ

## မဏိကက်ပြဇာတ်

ဝန်ကြီးသည် မဏိကက်ပျို့ကို ရေးပြီး၍ ဤပျို့ကိုပင် အခြားအဖွဲ့အနွဲ့ ဘာစ်မျိုးဖြင့် တန်ဆာဆင်ရသော် ကောင်း၏ဟု ကြံပြီးလျှင် ကိုယ်ပိုင်ဉာဏ်ဖြင့် ဆပ်မံထွင်လိုက်သည့်အဖွဲ့ကား **'မဏိကက်'** ပြဇာတ်ပင်ဖြစ်သည်။ ဤမဏိကက် ဇာတ်ကိုပင် ပြဇာတ်တစ်မျိုး ပျို့တစ်ခန်းဖြင့် အဆန်းထွင်ရေးသည်ကို ထောက်သော် ဝန်ကြီးသည် ဇာတ်အတ္ထုပ္ပတ္တိကို များစွာရေးသည်ကို ထောက်သော် ဝန်ကြီးသည် ဇာတ်အတ္ထုပ္ပတ္တိကို များစွာ နှစ်ခြိုက်ဟန်တူ၏။ မဏိကက်ပြဇာတ်သည် ဝန်ကြီး၏ စိတ်ကူးဖြင့် ရေးသော ဇာတ်မဟုတ်။ မဇ္ဈိမတိုင်းပြည်၌ ဖြစ်ပျက်သော ဒဏ္ဍာရီ ဇာတ်တစ်ခန်းကို မြန်မာစကားဖြင့် တန်ဆာဆင်၍ ရေးသားခြင်း ဖြစ်သည်၊ မဏိကက် ဟူသည်မှာ မဏိကက္ခ ဟူသော ပုဒ်မှ လာသော စကားဖြစ်၏။ မဏိက + အက္ခ။ မဏိက=ပတ္တမြားနှင့် တူသော။ အက္ခ=မျက်စိ။ ပတ္တမြားနှင့် တူသော မျက်စိရှိသော မြင်းဟု အနက်ထွက်ပေသည်။ မဏိကက္ခဟူသည်မှာ မြင်း၏အမည်ဖြစ်၏။ ကာသိကရာဇ်တိုင်း ဗာရာဏသီပြည်ကို အစိုးရတော်မူသော မဟာဗြဟ္မဒတ် မင်းကြီးနှင့် မိဖုရား အတုလဒေဝီတို့တွင် သားတော်၊ သမီးတော်များ မထွန်းကားသဖြင့် မိဖုရားကြီးသည် သီတင်းသီလ စောင့်ထိန်းပြီးလျှင် သားဆု တောင်းရာ သိကြားမင်းက စွန်ဖြူအယောင်ဆောင်၍ ဆီးသီးမှည့်ကို ဆက်သ လေသည်။ ဤဆီးသီးမှည့်ကို မိဖုရားကြီး ပွဲတော်တည်ပြီး၍ ဆီးစေ့ကို အဆောင် တော်သို့ ယူဆောင်လာရာ လမ်းတွင် ကျခဲ့၍ မြင်းမတစ်ကောင်က စားရလေသည်။ ထိုနေ့ တစ်ချိန်ကည်း၌ပင် မိဖုရားကြီး၏ ဝမ်းနှင့် မြင်းမ၏ဝမ်း၌ ပဋိသန္ဓေ တည်၍ အချိန်ရောက်သော် မိဖုရားကြီးတွင် ဘုန်းအင်္ဂါလက္ခဏာနှင့် ပြည့်စုံသော သားတော်တစ်ပါးကို မြင်သည်။ မြင်းမတွင်လည်း ပတ္တမြားရောင် တောက်သော မျက်စိရှိသော နတ်မြင်းပျံကို မြင်သည်။ ဤသည်တွင် မင်းသားငယ်ကို သတ္တဓနု တွင်စေ၍ မြင်းကိုကား မဏိကက္ခ တွင်စေသည်။ ဤမြင်း၏အမည်ကို အစွဲပြု၍ ပြဇာတ်ကို မဏိကက် ခေါ်ခြင်းဖြစ်သည်။

မဏိကက်ပြဇာတ်သည် နန်းတွင်းပြဇာတ်ဖြစ်၍ တွေ့ရှိဖတ်ရှုရသမျှသော ပြဇာတ်တော်ကြီးများတွင် အဟောင်းဆုံးဖြစ်သည် ဟူ၍ ဆိုရပေမည်။ ဤကဲ့သို့ ပြဇာတ်ရေးသားရာ၌ ဝန်ကြီးသည် ကိုယ်ပိုင်ဉာဏ်ကို အသုံးပြုသည် မှန်သော် လည်း ဟတ္ထိပါလ၊ ဘူရိဒတ် စသော ဘုရားဟော ဇာတ်တော်ကြီးများကို ဖွဲ့နွဲ့

သားသည့် ဟတ္ထိပါလပျို့၊ ဘူရိဒတ်ပျို့ အစရှိသည်တို့မှ ဉာဏ်စွမ်းဉာဏ်စ ရကြောင်းကား ထင်ရှားသည်။ ပုံစံကား ဟတ္ထိပါလပျို့မှာ ပုဏ္ဏားကြီးနှင့် သားတော် လေးပါးတို့ တစ်ပါးစီ တွေ့ဆုံခန်းသည် ပြဇာတ်သဖွယ် ဖြစ်လျက်ရှိသည်။ ပုဏ္ဏားကြီးက သားတော် ဟတ္ထိပါလကို ခေါ်သော အာလုပ်၊ ထိုနောက် မိမိ ပြောလို ဆိုလိုသော အကြောင်းအရာများကို တိုက်ရိုက်စကားဖြင့် ရေးသား ထားခြင်းများသည် မဏိကက်ပြဇာတ်၏ ရှေ့ပြေးလမ်းပြ ဖြစ်တော့သည်။ ဤသို့သော အခန်းများမှ အတုရ၍ ဝန်ကြီးသည် ပြဇာတ်တွင် တိုက်ရိုက်ပြောပုံ ရေးသားလေသည်။

ဤပြဇာတ်ကို ထောက်ရှုခြင်းအားဖြင့် ညောင်ရမ်းခေတ် ကုန်လုနီးတွင် ဇာတ်သဘင်များ ပေါ်ပေါက် ထွန်းကားလာကြပြီဖြစ်ကြောင်း ထင်ရှားလေသည်။ ဤပြဇာတ်ကို နန်းတွင်း၌ ကပြရသည် မကပြရသည်ကိုကား မသိနိုင်ပေ။ ဝန်ကြီးသည် ဤပြဇာတ်ကို ဇာတ်သဘင် ကပြရန်အဖို့ ရည်ရွယ်ရေးမည် မထင်၊ ဘကြီးတော်ဘုရားလက်ထက် မမြကလေး ရေးသားသော ဣန္နာဝုဇာတ်တော်ကြီး၊ မင်းတုန်းမင်းလက်ထက် လှိုင်မင်းသမီး ရေးသော ဝိဇယကာရီဇာတ်တို့ကဲ့သို့ နန်းတော်တွင်း၌ ဇာတ်မူ၊ ဇာတ်ဟန်၊ ဇာတ်သံများနှင့် ဖတ်ဆိုရုံမျှအတွက်သာ ရည်ရွယ်ရေးဟန်တူသည်။ အဘယ်ကြောင့်ဟူမူ စကားကြောများသည် ရှည်လွန်း၍ ဇာတ်သဘင်သည်တို့ စေ့အောင် ကျက်ဆိုနိုင်ရန် ခဲယဉ်းမည် ဖြစ်သောကြောင့် တည်း။

မဏိကက်ပြဇာတ်မှာ တိုက်ရိုက်စကားဖြင့် ရေးရသည်က များသောကြောင့် ပျို့များလောက် စုံစုံလင်လင် မရှိသည့်ပြင် စကားတို့သည်လည်း မလေးနက် မပေါ်လွင်လှပေ။ တိုက်ရိုက်ပြောစကားများသည် နောင် ကုန်းဘောင်ခေတ်ပေါ် ပြဇာတ်မှာကဲ့သို့ မရှည်လျားလွန်းလှ။ သို့သော် ဤပြဇာတ်တွင် ခြားနားချက် တစ်ခုကား ဇာတ်ခန်း တစ်ခန်းတစ်ခန်း၏ အဆုံးတွင် ဆိုင်းတီးရန် တီးကွက် များကိုလည်း ညွှန်ပြ ရေးသားသည်ဖြစ်၍ ဂီတပညာဘက်သို့လည်း များစွာ အားပေးရာရောက်သည်။ ဤတီးကွက်၊ သီချင်းများကို ဇာတ်ချင်းဟူ၍ ခေါ်သည်။ နောက်ပေါ် နန်းတွင်းဇာတ်များတွင် ဤအချက်များ မပါချေ။

## ဂီတသီချင်းများ

ဝန်ကြီးပဒေသရာဇာသည် ဂီတသီချင်းများကိုလည်း များစွာ ရေးသားသည်။ ထိုသီချင်းတို့အနက် တောရွာဘွဲ့တျာများနှင့် သီချင်းခံကြီးများသည် ထင်ရှားသော သီချင်းကြီးများ ဖြစ်ကြသည်။ တျာဘွဲ့များကိုရေးရာ၌ ဝန်ကြီးသည် မိမိကိုယ်ကို တောသူတောင်သားအနေ သဘောထား၍ ရေးသည်။ မြို့ကြီး ပြကြီးတွင် ဖြစ်ပျက်သော အကြောင်းအရာများကို မဖွဲ့ဘဲ တောရွာကျေးလက်များတွင် ဖြစ်ပျက်သော အကြောင်းအရာများကိုသာ ဖွဲ့နွဲ့သည်။ ဤသို့ ဖွဲ့နွဲ့ရာ၌လည်း နေ့စဉ်နေ့တိုင်း တွေ့မြင်ရသော အလုပ်အကိုင်များကိုသာ ဖွဲ့ဆိုသည်။ တောင်ဘက်ငှိန်းဝင်ဘွဲ့၊ ထန်းတက်ဘွဲ့၊ လယ်ထွန်ဘွဲ့၊ တောင်ပိုင်တက်ဘွဲ့များသည် တျာဘွဲ့များဖြစ်သည်။ ဝန်ကြီးသည် နန်းတွင်း၌ပင် ကြီးပြင်းရ၍ မင်း၏ မြှောက်စားခြင်းကိုခံကာ စည်းစိမ်ချမ်းသာကြီးဖြင့် နေထိုင်ရသော်လည်း တောသူ တောင်သားများ၏ ဆင်းရဲဒုက္ခကို အမြဲမပြတ် မြင်ယောင်ပြီးလျှင် သနားကရုဏာသက်ဟန်ရှိသည်။

တောသူ တောင်သားတို့ မည်သို့ အဆင်းရဲခံ၍ အသက်မွေးဝမ်းကျောင်းပြုကြစားသောက်ရကြောင်း၊ လူရတတ်တို့မှာကား တောသူတောင်သားများ၏ ဆင်းရဲပုံကို တွေးမိဟန် မတူကြောင်းများကို မြို့ကြီးသူ မြို့ကြီးသားများ၏ စိတ်နှလုံး၌ ထင်မြင်လာအောင် ဤဆင်းရဲသား တျာဖွဲ့များကို စပ်ဆိုဟန်တူသည်။

> ဝသန်ကာလ၊ မိုးကျတည့်လျှင်၊ ပျော်ပျော်ပါးပါး၊ မယားနှင့် ဆွေငယ်လင်၊ လက်တွဲငယ်ခြေငင်၊ ကိုယ်တွင်အဝတ်၊ ပုဆိုးအင်္ကျီ၊ စုတ်ပဲ့ပြီ၊ ချည်နီဗောင်း တွတ်တွတ်ကယ်နှင့်လေး၊ မိုးရေစွတ်လို့၊ အဝတ်ကယ်မပါ၊ သားသမီးကို ကိုယ်ထီးပွေ့လို့သာ၊ ဆေးတံတစ်ထွာ၊ ကိုက်ကာထွန်ရင်း၊ လယ်ကွက်ကယ်တစ်ခွင်၊ ထွန်ရေးငင်၊ ရေဝင် ပုစွန်တွင်းငယ်နှင့်လေး...

ဟူသည်ဖြင့် တောသူတောင်သားတို့၏ ဆင်းရဲပုံကို ဖွဲ့နွဲ့သည်မှာ ကွက်ကွက်ကွင်းကွင်း ပေါ်လွင်လှပေ၏။ သို့ ဆင်းရဲသော်လည်း ဆင်းရဲသားဘာဝ စိတ်ညစ်ညူးခြင်းမရှိဘဲ ပျော်ရွှင်စွာ ရှိသည့်အကြောင်းများကိုပင် ဖော်ပြပေသည်။

ဤနေရာ၌ ဝန်ကြီးသည် စာဆိုခေတ်ကြီးကို စမ်းသပ်ကြည့်ဟန်တူသည်။ စာဆိုတို့သည် လှသည့်၊ ယဉ်ကျေးသည့်၊ သာယာသည့် အရာများကိုသာ ဖွဲ့ဆို

တတ်ကြသည်။ ပုံစံမှာ ဘုံခန်း၌ လှပသော ဘုံအဆောင်ဆောင်တို့ကို ဖွဲ့နွဲ့သည်။ ဂါထာ ၆၀–ပျို့၊ ရှင်ဥတ္တမကျော် တောလား လင်္ကာတို့၌ ဩကာသ လောက ကြီး၏ သာယာပုံကို ဖွဲ့ဆိုသည်။ ရေလားများ၌ မြစ်၊ ချောင်းများ၏ သာယာပုံကို ဖွဲ့ဆိုသည်။ ဤသို့ တစ်ဖက်သတ် သာယာသည့်ဘက်က လိုက်၍ ဖွဲ့နေသည်သာ များရကား ဝန်ကြီးသည် တောသူတောင်သားများ၏ ရိုးသားသော အနေအထိုင်၊ အသုံးအဆောင်၊ အလုပ်အကိုင် နေ့စဉ်ဝတ္တရားများကို ဖွဲ့နွဲ့၍ ခေတ်ကို စမ်းကြည့်ဟန် တူသည်။ ဤသို့ ဖွဲ့ခြင်းသည် ကျေးလက်တောရွာ တောသူတောင်သားတို့၏ နေထိုင်ပုံကို အညိုရောင် ဆေးတစ်မျိုးတည်းဖြင့် ဆွဲထားသော ဓာတ်ပုံနှင့် တူတော့၏။ ဤတောရွာဘွဲ့များကို ဖွဲ့ဆိုပြီးသည့်နောက် ဘုန်းတော်ဘွဲ့၊ မြို့ဘွဲ့ များကိုလည်း ဖွဲ့ဆိုပြန်သေးသည်။ ထိုအဖွဲ့တို့အနက် **'ဘုန်းထူးဝေဆာ'**ချီ သီချင်း ခံကြီးသည် ယခုတိုင်အောင် ကျော်ကြား၍ ခေတ်သဘင်သည်တို့ သုံးစွဲ နေကြသော ကဗျာဖြစ်၏။ ဘုန်းတော်ဘွဲ့ သီချင်းများတွင်လည်း ဤသီချင်းသည် အဟောင်းဆုံး ဖြစ်သည်။ ဝန်ကြီးသည် ဤဂီတ ကဗျာများအပြင် ချေင်း ငါးစောင်ကိုလည်း ရေးသားခဲ့ရာ ချေင်းအဖွဲ့ခံ မင်းသား၊ မင်းသမီးများမှာ ဟံသာဝတီပါ မင်း၏ သားတော်၊ သမီးတော်များ ဖြစ်သည်။ ဤချေင်းအဖွဲ့အနွဲ့များသည် များစွာ မထူးခြားလှ။ ချေင်းဟောင်း ၁၂–စောင်တို့ကဲ့သို့ပင် မင်းစဉ် မင်းဆက်များကို ဖော်ပြ၍ ဘေးလောင်းတော်၊ ဘိုးလောင်းတော်တို့၏ ဂုဏ်အင်္ဂါ သတ္တိရဲစွမ်းအင် များကို ဖော်ပြသည့် အဖွဲ့အနွဲ့များသည်လည်း ထူးခြားကောင်းမွန်လှသည်မဟုတ်၊ ဒုတိယတန်းစားလောက် ထားသင့်သော အဖွဲ့အနွဲ့များပင် ဖြစ်သတည်း။

## ဦးအောင်ကြီး

ရှင်ကဝိက ရေးသော လူးတားကို မတွေ့ရှိရသော်လည်း ဤ ညောင်ရမ်း ခေတ်၌ပင်လျှင် အခြား လူးတားတစ်ပုဒ် ပေါ်သေးသောကြောင့် ကြေနပ်ဖွယ်ရာ ရှိ၏။ ထိုလူးတားသည် စဥ့်ကူးမြို့အပိုင် ဆီသည်ရွာ ဦးအောင်ကြီး ဆိုသူ ရေးသား ဖွဲ့နွဲ့သော အင်းဝမြို့ဘွဲ့ ၁၂–ရာသီ လူးတားဖြစ်သည်။ ဤလူးတားကို ဟံသာဝတီပါမင်း ခမည်းတော် ဆင်ဖြူရှင် တနင်္ဂနွေမင်းလက်ထက် သက္ကရာဇ် ၁၀၇၆–၁၀၉၅ ခုနှစ်အတွင်း ရေးသားဖွဲ့နွဲ့သည်။ ဦးအောင်ကြီး၏ မိဘမည်ရည်၊ ဇာတိရပ်ရွာကိုကား မသိရပေ။ ဟံသာဝတီပါမင်း၏ ဘိုးတော်ထွေး ပုဂံမင်းပြောက်၏

ဘျုးကျွန်တော် ဖြစ်ကြောင်းကိုသာ သိရသည်။ ဦးအောင်ကြီး၏ လူးတားသည် ဆွဲရှိသမျှတို့တွင် အဟောင်းဆုံးလည်းဖြစ်သည်။ ၁၂–ရာသီဘွဲ့ဖြစ်သောကြောင့် ဘစ်ရာသီ စာတစ်ပိုဒ်ကျ ဖွဲ့ဆိုသော ရာသီဘွဲ့များတွင် ဦးအောင်ကြီး၏ ၁၂– ရာသီဘွဲ့ကိုပင် အဟောင်းဆုံး ရာသီဘွဲ့ဟု ဆိုထိုက်ပေ၏။ ရှင်ဥတ္တမကျော်၏ တောလားဘွင်လည်း ရာသီဘွဲ့များ ပါ၏။ ရာသီဘွဲ့များတွင် ရှင်ဥတ္တမကျော်၏ အဖွဲ့များကို အဟောင်းဆုံးဟူ၍ကား ဆိုသင့်၏။ သို့သော် ရှင်ဥတ္တမကျော်၏ တောလားမှာ ၁၂–ရာသီလုံးကို အစဉ်အတိုင်း ပြည့်စုံအောင် မဖွဲ့နွဲ့ချေ။ တပေါင်းလ ရာသီကိုသာ အမွှန်းတင်၍ ရေးထားသောကြောင့် ဦးအောင်ကြီး၏ ၁၂–ရာသီဘွဲ့ လူးတားလောက် မပြည့်စုံချေ။

လူးတားဟူသည် ပ္လုတ ဟူသော သက္ကတဘာသာ၊ ပလုတ ဟူသော ပါဠိဘာသာတို့မှ ပြောင်းလဲ ရွေ့လျားလာသော စကားဖြစ်၏။ သက္ကတဘာသာမှာ ပ–နှင့် လ–ကို ဆင့်၍ ပါဠိဘာသာအလိုမှာ မဆင့်ဘဲ ထားခြင်းမျှသာ ထူး၏။ ထို ပ္လုတ၊ သို့မဟုတ် ရှည်လျားစွာ ဆွဲငင်၍ ဆိုအပ်သော အသံဟု အဓိပ္ပာယ်ရသည်။ သို့ဖြစ်၍–

ဧကမတ္တော ဘဝေရဿော၊ ဒွိမတ္တော ဒီဃမုစ္စတေ။

တိမတ္တောတု ပ္လုတောဉေယျော၊ ဗျဉ္ဇနော အဍ္ဎမတ္တိကော။

ဟူ၍ ရှေးဆရာတို့ မိန့်ဆိုကြောင်းကို ဝစနတ္ထဇောတိကာ မည်သော ဆန်းငိုကာ ကျမ်း၌ ပြဆို၏။

ဧကမတ္တော၊ တမတြာသာ ရှိသော သရသံသည်။ ရဿော၊ ရဿ မည်သည်။ ဘဝေ၊ ဖြစ်၏။ ဒွိမတ္တော၊ နှစ်မတြာရှိသော သရသံကို။ ဒီဃံ၊ ဒီဃဟူ၍။ မုစ္စတေ၊ ဆိုအပ်၏။ တိမတ္တောတု၊ သုံးမတြာရှိသော သရသံကိုမူကား။ ပ္လုတော၊ ပ္လုတသံ ဟူ၍။ ဉေယျော၊ သိအပ်၏။ ဗျဉ္ဇနော၊ ဗျည်းသည်။ အဍ္ဎမတ္တိကော၊ မတ်ဝက်မျှ၊ သို့မဟုတ် တစ်မတြာ၏ တစ်ဝက်မျှကာလ ရှိ၏။

ဤကား မြန်မာပြန်။

အဓိပ္ပာယ်ကား။ လောက၌ မျက်စိတ်မှိတ်၊ လျှပ်တစ်ပြက်ခန့် ကာလသည် တမတြာ မည်၏။ အတိုင်းအရှည် တစ်ခုဟု ဆိုလိုသည်။ မျက်စိတစ်ဝတ်၊ လျှပ်

တစ်ပြက်ခန့်နှင့် ညီမျှအောင် ရွတ်ဆိုအပ်သော သရသံသည် ရဿမည်၏။ မျက်စိနှစ်မှိတ် လျှပ်နှစ်ပြက်ခန့်ကာလနှင့် ညီမျှအောင် ဆွဲ၍ ရွတ်ဆိုအပ်သော အသံသည် ဒီဃမည်၏။ မျက်စိသုံးမှိတ်၊ လျှပ်သုံးပြက်ခန့်နှင့် ညီမျှအောင် ပိုမို ဆွဲငင်ရွတ်ဆိုအပ်သော အသံသည် ပ္လုတသံ မည်၏။ မျက်စိသုံးမှိတ်၊ လျှပ်သုံးပြက်ခန့် ကာလထက် ပိုမိုသွားလျှင်လည်း ပ္လုတသံပင် ဖြစ်တော့သည်။ ဗျည်းကိုကား မျက်စိတစ်မှိတ်၊ လျှပ်တစ်ပြက်ခန့်၏ တစ်ဝက်ကာလနှင့်သာ ညီမျှအောင် ရွတ်ဆိုရမည်ဟု ဆိုသည်။

ဤသို့လျှင် ပ္လုတသံဟူသည် မျက်စိသုံးမှိတ်၊ လျှပ်သုံးပြက်ခန့်ကာလ၊ ထိုတက် ပိုမိုရှည်လျားသော ကာလတို့နှင့် ညီမျှအောင် ရှည်လျားစွာ ဆွဲငင်ရွတ်ဆို အပ်သော အသံဖြစ်ကြောင်းကို ထင်ရှားစေရန် . . .

ဒူရာဟွာနေ ဂါယနေ စ၊ ရောဒနေ စ ပ္လုတော မတော။

ဟူ၍ ရှေးဆရာတို့ မိန့်ဆိုတော် မူခဲ့ကြပြန်သည်။

ဒူရာဟွာနေ၊ အဝေးသို့ လှမ်း၍ခေါ်ရာ၌ လည်းကောင်း။ ဂါယနေစ၊ သီချင်း သီဆိုရာ၌ လည်းကောင်း။ ရောဒနေ စ၊ ငိုကြွေး မြည်တမ်းရာ၌ လည်းကောင်း၊ ပ္လုတော၊ ပ္လုတသံကို။ မတော၊ သိအပ်၏။

ဟူ၍ မြန်မာပြန်ပါ၏။

ဤပ္လုတ၊ သို့မဟုတ် ပလုတ မှ ပ ကို ချေဖျက်ပြီးလျှင် လု ကို လူး တ ကို တားဟု အသံပြောင်းလဲကာ လူးတား ဟု ဖြစ်လာသဖြင့် အထူး ပိုမို ရှည်လျားစွာ ဆွဲငင်ရွတ်ဆိုအပ်သော ကဗျာတစ်မျိုးကို လူးတား ခေါ်သည်ဟု မှတ်ယူအပ်၏။

အချို့ဆရာတို့ကမူကား ပ္လုတ ဟူသော သက္ကတဘာသာ၊ ပြုတ ဟူသော မာဂဓဘာသာတို့မှ ဆင်းသက်ပျက်ပြား၍ လူးတား ဖြစ်လာသည်ဟု ဆိုကြ၏။ ပြုတဟူ၍ မာဂဓဘာသာ သီးခြားမရှိ။ ကျောက်စာများမှာ ဖ္လစ်ဟု ရှိသည်ကို ဖြစ်ဟူ၍ လည်းကောင်း၊ မ္လေဟု ရှိသည်ကို မြေ ဟူ၍ လည်းကောင်း၊ ပ္လုဟု ရှိသည်ကို ပြု ဟူ၍လည်းကောင်း ဖတ်ရသော စနစ်အတိုင်း ပ္လုတကို ပြုတဟု ဖတ်ခြင်းမျှသာ ဖြစ်သည်။ ဖတ်သည့်အတိုင်းလည်း ကဗျာဆရာတို့က၊ ဖန်ဖန်ကူး၍သီ၊ ပြုတာဂီဖြင့်၊ သံပြီသံဝါ-စသည်ဖြင့် စပ်ဆိုကြခြင်း ဖြစ်သည်။

အချို့ဆရာတို့ကလည်း ပြုတမှာ အရင်းခံ မာဂဓဘာသာ ဖြစ်သည်။ လျှာလိပ်သံကို မရွတ်ဆိုတတ်သော သူတို့က ရ–နှင့် လ–တို့ကို လဲလှယ်ပြီးလျှင် ဘရိန်းကို တလိန်း၊ တရုတ်ကို တလုပ် ခေါ်သကဲ့သို့ ပြုတကို– ပ္လုတ=ခေါ်ခြင်းမျှသာ ဖြစ်သည်ဟု ဆိုကြပြန်၏။ ဤစကား၏ ယုတ္တိမရှိကြောင်းကား ပြခဲ့ပြီးသော စကားတို့ဖြင့်ပင် ထင်ရှားပြီ။ ပြခဲ့ပြီးသောအတိုင်း သက္ကတဘာသာ၊ မာဂဓ ဘာသာတို့မှ ဆင်းသက်သည်မဟုတ်ဘဲ မြန်မာစကားသက်သက်ဖြစ်သည့် လူးတား ဟူသော စကားလည်း ရှိသေး၏။ ယခုတိုင် လှေသမား၊ ဖောင်သမားများ၏ ပါးစပ်တွင် **လူးတား** ပေါက်သည် ဟူသော စကားကို ပြောဆိုနေကြသေးသည်။ အဓိပ္ပာယ်မှာ အဆုံးမှ တစ်ဖန် အစပြန်၍ ပြုလုပ်ခြင်းဟု ဆိုလိုသည်။ လှေဖြင့် မြစ်ညာသို့ ဆန်တက်ရာ၌ ရေစီးသန်၍ လှေမဆန်နိုင် ရှိခဲ့လျှင် လှေဦးကို ကြိုးဖြင့်ချည်နှောင်၍ ကမ်းပေါ်မှ ကြိုးစကို ဆွဲကိုင် ပြီးလျှင် မြစ်ညာရှိ သစ်ပင် တစ်ပင်တွင် သွားရောက် ချည်နှောင်သည်။ ထိုနောက် လှေသို့ပြန်လာ၍ ထို ကြိုးစကို ကိုင်တွယ် ဆွဲငင်ပြီးလျှင် ဆန်တက်ကြသည်။ တစ်ဖန် ကြိုးစ ဆုံးပြန်လျှင် အထက်ကနည်းတူ ပြုလုပ်ပြန်သည်။ ဤသို့ ဆန်တက်ခြင်းမျိုးကို လူးတား ပေါက်သည်ဟု လှေသမား၊ ဖောင်သမားများ ခေါ်ဆိုကြသည်။ ဤ စကားအဓိပ္ပာယ်ကို ထောက်သော် လူးတား ကဗျာမှာလည်း အဆုံးမှ တစ်ဖန် ထိုအဆုံးကိုပင် အစ ပြန်၍ ကောက်သောကြောင့် လှေ၊ ဖောင်ဆန်ခြင်း ကိစ္စနှင့် များစွာ ဆင်တူနေသည် ဖြစ်ရကား လူးတားပေါက်သည်ဟူသော မြန်မာစကားမှ ဆက်နွယ်ကာ လူးတား ကဗျာဟူသော အဖွဲ့အနွဲ့တစ်မျိုးကို မှည့်ခေါ် စပ်ဆိုဖွဲ့နွဲ့ကြဟန် တူသည်။ ဤ စပ်ဆိုဟန် ပုံစံကား အလောင်းမင်းတရားကြီးလက်ထက် စိန္တကျော်သူ ဆို ကုန်းဘောင်မင်္ဂလာလူးတား ပထမပိုဒ်တွင် **'ဘုန်းပဒေသာ၊ ခက်ဖြာဆင့်စ၊ ပွင့်စလေ'**ဟု အစချီပြီးလျှင် **'အာဟိန္ဒကျီး၊ ပွင့်နီးနီး'** ဟု အဆုံးသတ်သည်။ ဤ ပထမပိုဒ်၏ အဆုံးစကားကိုပင် ဒုတိယပိုဒ်တွင် **'အာဟိန္ဒကျီး၊ ပွင့်နီးမှန်လှ၊ ကန်လှလေ'**ဟူ၍ ဟူ၍ အစပြုလုပ် ပြန်ကောက်ပြီးလျှင် **'ဘုန်းတော်နေမီး ရှိန်ရှိန် ညီး'** ဒုတိယပိုဒ်ကို အဆုံးသတ်သည်။ ဤဒုတိယပိုဒ်၏ အဆုံးကိုပင် တတိယပိုဒ်တွင် **'ဘုန်းတော်နေမီး၊ ရှိန်ညီးတောက်စ၊ မောက်စလေ'**ဟူ၍ အစ ပြုလုပ် ပြန်ကောက် လေသည်။ နောက်နောက် အပိုဒ်များမှာလည်း ဤနည်းအတိုင်း စပ်ဆိုသွားဟန် ပုံစံကို သိပါလေ။

## ဦးအောင်ကြီး၏ လူးတား

ဤ လူးတားမှာ စာပိုဒ်ရေအားဖြင့် ၁၅–ပိုဒ် ရှိသည်။ ပထမ ၂–ပိုဒ်မှာ အင်းဝမြို့တော်ကို ခြီးသည်။ ၁၂–ပိုဒ်မှာ တစ်ရာသီလျှင် တစ်ပိုဒ်ကျ ၁၂–လ ရာသီကိုဖွဲ့ဆိုသည်။ နောက်ဆုံး တစ်ပိုဒ်တွင် အချုပ်ကို ဆိုသည်။ ၁၂–ရာသီဘွဲ့ ရေးရာ၌ ပါဝင်စေရသော အချက်ကြီးများကား ရာသီ၏ကြောင်းရာ၊ ထို ရာသီဆိုင်ရာ စန်းယှဉ်နက္ခတ် (အချို့ဆရာတို့ကမူကား နေယှဉ်နက္ခတ်ကိုလည်း ထည့်သွင်း၍ ဖွဲ့ကြသည်။) ရာသီအလိုက်ပွင့်သော ပန်းများနှင့် ထို ရာသီတွင် မင်းနေ ရာဇဌာနီ၌ အစဉ်အလာ ကျင်းပမြဲဖြစ်သော ပွဲတော်များဖြစ်သည်။ ဦးအောင်ကြီးသည် အထက်ဖော်ပြရာ၌ ပါဝင်သော အချက်ကြီး လေးချက်လုံးကိုပင် ပါဝင်အောင် ဖွဲ့ဆိုသည်။ ပုံစံမှာ တန်ခူးလရာသီကို ဖွဲ့ဆိုရာ၌...

> ကောင်းကင်မိုးလ၊ စိတ္တရနှင့်၊ မိဿရာသီ၊ အညီခါကျော်၊ နှစ်ဦး
> ပေါ်က၊ ကံ့ကော်ရင်ခတ်၊ ပင်တိုင်းညွတ်လျက်၊ ပွင့်ခက်ဝေဝေ၊
> တောင်လေဖြူးဖြူး၊ လတန်ခူးကို၊ မြူးထူးပျော်ရွှင်၊ တာသဘင်ဝယ်၊
> ဆင်ယင်တုပ၊ လွရရွှတည့်၊ ငြိမ့်မျှစောင်းညှင်း၊ အဲ့သီချင်းနှင့်၊
> ထုံသင်းနံ့သာ၊ ရေသီတာဝယ်၊ စမွှာကရမက်၊ ပန်းပေါင်းဘက်၍၊
> ရွှေခွက်အပြည့်၊ မွှေးမျိုးထည့်မှ၊ လည်လှည့်ဆူလှယ်၊ တင့်စံပယ်လျက်၊
> မြူးရယ်ရွှင်အား၊ လွန်ပျော်ပါသည်။ ကစားထုံရည် ဖျန်းတည့်လေး။

စသည်ဖြင့် တန်ခူးလတွင် လနှင့် ယှဉ်သော စိတ္တရ နက္ခတ်၊ ရာသီအလိုက် ပွင့်ဖူးကြကုန်သော ကံ့ကော်၊ ရင်ခတ်ပန်းနှင့် ရာသီပွဲတော်ဖြစ်သော ရေဖျန်း အတာသဘင်ကို အင်းဝမြို့တွင်း၌ ဆင်ယင်ကျင်းပပုံများကို ကွက်ကွက်ကွင်းကွင်း ထုတ်ဖော်ဖွဲ့နွဲ့သည်။

ရာသီဘွဲ့ကို စပ်ဆိုဖွဲ့နွဲ့ရာ၌ကား ဦးအောင်ကြီး၏ အာဘော် ကိုယ်ပိုင်ဉာဏ် မဟုတ်ပေ။ ရှင်ဥတ္တမကျော်၊ ရှင်အုံးညို တို့စပ်ဆိုဖွဲ့နွဲ့သော တောလားကဗျာနှင့် ဂါထာ ၆၀–ပျို့များသည် နောက်နောင် ပေါ်လတ္တံ့သော ၁၂–ရာသီဘွဲ့များ၏ မျိုးစေ့ဖြစ်ကြောင်းကို အထက်၌ဖော်ပြပြီးပြီ။ ဦးအောင်ကြီးသည် မိမိ၏ လူးတား တွင် ပေါရာဏနှင့် ပါဠိစကားများကို များစွာအသုံးပြုသည်။ အခြား လူတားဆရာ များနှင့်ယှဉ်သော် ဦးအောင်ကြီးသည် စကားလုံးများကို ကောင်းစွာ နိုင်နိုင်နင်းနင်း

ထည့်သွင်းတတ်ချေ။ နဝဒေးကြီးတို့ကဲ့သို့ နန်းတွင်း၌ ခစားရသော ကျွန်တော်မျိုး ဟုတ်သဖြင့် ဖွဲ့နွဲ့သုံးစွဲရာ၌ သာယာနာပျော်ဖွယ်သော စကားအသုံးအနှုန်းများကို တွေ့ရ ဖြစ်လေသည်။

## ဟံသာဝတီပါ မင်းတရားကြီး

သက္ကရာဇ် ၁၁၁၃-ခုနှစ်တွင် အင်းဝထီးနန်းကို ဟံသာဝတီ မွန်လူမျိုးတို့ တိုက်ခိုက်သိမ်းယူ၍ အင်းဝမင်းကိုလည်း မိဖုရားကြီး၊ သားတော်၊ သမီးတော် များနှင့်တကွ ဟံသာဝတီသို့ ခေါ်ဆောင်သွားကြလေသည်။ သက္ကရာဇ် ၁၁၁၆-ခုနှစ်တွင် သားတော်၊ သမီးတော်များနှင့်တကွ ရေတွင်ချလေသည်။ ဤ သည်တွင် ညောင်ရမ်းဆက်သည် အမြစ်အရင်းပါ ပြုတ်ပြုတ်ပြုန်းရလေတော့သည်။ ရန်သူ၏ လက်အောက်တွင် ဤကဲ့သို့ မရှုမလှ အသက်ဆုံးရှုံးရမည်ကို လက်ဦး မဆွကပင် သိပြီးဖြစ်သော မင်းတရားကြီးသည် အသတ်မခံရမီကပင် . . .

> ပုဂ္ဂိုလ်ခြောက်မည်၊ သန္တေတည်သား၊ ဤသည်ပရိတ်၊ ရှစ်ဆယ်စိတ်တွင်၊
> ခု-ထိတ်-နောင်လျဉ်၊ သံယောဇဉ်လည်း၊ အယဉ်စီစီ၊ တိထီသာခန်း၊
> ပျော်မမြန်းခဲ့၊ တဆန်းကြူးလွန်၊ ဘုံသုံးတန်တွင်၊ နှိုင်းရန်တူကြောင်း၊
> ရွေးချယ်ပေါင်းသော်၊ သောင်းက လွတ်ခွာ၊ ရာကားကင်းဝေး၊ ကိုး
> ယောက်ရေးလျှင်၊ ရှင်ထွေးလှခေါင်၊ လှတန်ဆောင်သည်။ ။
> ရှင်အောင်ကိုသာ လွမ်းမိခဲ့ . . .

အစရှိသော ရတုပိုဒ်စုံကို စပ်ဆိုခဲ့လေသေးသည်။

ဘုရင်မင်းမြတ်ပီပီ သေမင်းနှင့် ရင်ဆိုင်တွေ့ရမည်ကို မလန့်မထိတ် ရဲစိတ် ရဲမာန် ပညာဉာဏ်တွင် သင်္ခါရ သဘောတရား လမ်းကြောင်းကို ထင်မြင်အောင် ဆင်ခြင်တော်မူလေသည်။ ထိုမျှမကသေး၊ မင်းတရားကြီးသည် ဟံသာဝတီ၌ အကျဉ်းခံနေရစဉ် အင်းဝမြို့ကြီးကို မျက်စိအောက်တွင် ပျက်စီးယိုယွင်း၍သွားပုံတို့ကို ဘသ နမြောလှ၍ . . .

> လုဒ္ဒတိ ပလုဒ္ဒတိတိ လောကော၊ သဘောနိယံ၊ လောကခံနှင့်၊
> ဆက်ဆံကြုံကြိုက်၊ ကိန်းခန်းလိုက်ဖြင့်၊ ရစ်ဝိုက်မြစ်ဆုံ၊ ရွှေဘုံအဝ၊

> ပုရိန္ဒကား၊ နရသနင်း၊ မင်းလည်းရှင်းကွာ၊ ပြည်ရွာပျက်စီး၊ တောကြီး ဟူလောက်၊ မျက်မှောက်လက်ာ၊ သာသနာလည်း၊ ရောင်ဝါမလင်း၊ သို့ဖြစ်ခြင်းကို၊ မြော်တင်းစေ့စေ့၊ ကြံအောက်မေ့ သော်၊ ပြောင်းခွေ့ညွတ်ခွေ၊ လွမ်းတာဝေခဲ့...

အစရှိသော တမ်းချင်း တစ်ပုဒ်ကိုလည်း ရေးသားထားတော်မူခဲ့လေသည်။

လောကဓံ သဘောတရားအတိုင်း ပျက်စီး ရွေ့လျောရခြင်း ဖြစ်ကြောင်းနှင့် စိတ်ကို ဖြေဖျော်ရသည့်အပြင် နောင်လာ နောက်သားတို့သည်လည်း သခ်ါရ သဘောတရားကြီးကို မလွန်ဆန်နိုင်ဘဲ ကံ၏ပြုပြင်ရာ ခံရမည့်အကြောင်းများကို အကျယ်တဝင့် တရားပြခဲ့လေသေးသည်။ ဤမင်းတရားကြီး၏ အဆုံးတွင်ပင် ညောင်ရမ်းခေတ်ကြီးကို ပြည်ဖုံးကားအုပ်၍ နိဂုံးချုပ်ဖို့ သင့်ပေတော့သတည်း။

## ညောင်ရမ်းခေတ် နိဂုံးချုပ်

ဤ ညောင်ရမ်းခေတ်ကြီး တစ်ခုလုံးကို ခြုံငုံကြည့်မည်ဆိုသော် ဤခေတ်၌ ထူးထူးခြားခြား မှတ်တမ်းတင်ရလောက်အောင် ကောင်းသော စာပေများကို မတွေ့မမြင်ရချေ။ ဤခေတ်မှာ ပျက်စီးယိုယွင်းခဲ့သော အင်းဝပြည်ကြီးနှင့်တကွ စာဆိုလောကကြီးကို ပြန်လည် ထူထောင်နေရသောကြောင့် အဘက်ဘက်တွင် အားနည်းခဲ့လေသည်။ သက္ကရာဇ် ၈၈၈–ခုနှစ်၊ အင်းဝပြည်ကြီးကို ရှမ်း သိုဟန်ဘွာ သားအဖတို့ ဖျက်ဆီးပြီးသည့်မှစ၍ စာဆိုသူ ရဟန်းပုဂ္ဂိုလ်၊ လူ ပုဂ္ဂိုလ်တို့သည် လွတ်ရာလွတ်ကြောင်း ရှာကြံ၍ ပုန်းအောင်း ခိုဝင်ကြရကုန်သည့်အတွက် အင်းဝတွင် ထွန်းကားနေသော စာဆိုလောကကြီးသည် မှိုင်းကုန်သော မီးပုံးပျံကဲ့သို့ တစ်ရှိန်ထိုးစိုက်၍ ကျဆင်းခဲ့လေသည်။

ထိုနောက် ပြည် တောင်ငူဘက်တွင် လူပုဂ္ဂိုလ်တို့က တစ်ဘက်တစ်လမ်း ပြုစု ပျိုးထောင်ကြ၏။ ထိုအခိုက်၌ အင်းဝပြည်တွင် စာပေ ပင်မကြီးသည် နေပူ ရှိန်မိသော သစ်ပင်ကြီးကဲ့သို့ ခက်လက်ဝေဖြာခြင်းမရှိ။ ညှိုးရော်ခြောက်သွေ့ လျက်သာ ရှိနေလေသည်။ သက္ကရာဇ် ၉၅၉–ခုနှစ်တွင် အင်းဝရွှေနန်းကို ညောင်ရမ်း မင်းတရားကြီး ပြန်လည် တည်ထောင်၍ အုပ်စိုးပြန်လေသည်။ အင်းဝရွှေနန်းကို

မြန်မာမင်း ပြန်လည်အုပ်စိုးသည့်အချိန်တွင် မြန်မာတို့သည်လည်း အင်းဝပြည် စာဆိုလောကကြီးကို အသစ် ထပ်မံ၍ တည်ထောင်ကြရပြန်သည်။ အသစ်ထပ်မံ၍ တည်ထောင်ရခြင်းသည် လွယ်ကူသည် မဟုတ်။ အစစအရာရာဘက်က လိုက်၍ မျိုးစေ့ကို ပြန်လည်ချရလေသည် ဖြစ်သောကြောင့် ထိုမျိုးစေ့တို့မှ ဖြစ်ပေါ်သည့် အသီး အပွင့်များကို သုံးဆောင်ကြရလေအောင် ညောင်ရမ်းခေတ်ရှိ ပညာသည် ပုဂ္ဂိုလ်တို့သည် အပတ်တကုတ် များစွာ ကြိုးစား လုံးပမ်းကြရလေသည်။

ဤသို့ လုံပန်းရခြင်းဖြင့် မျိုးစေ့ချစဖြစ်သော ကဗျာလင်္ကာတို့သည် အသစ်တစ်ဖန် ပြန်ပေါက်၍ ဖွံ့ထွားသန်စွမ်းခြင်း မဖြစ်သေးမီ သက္ကရာဇ် ၁၁၁၃-ခုနှစ်တွင် အင်းဝ ထီးကနက်သည် အပျက်ကြီး ပျက်ရပြန်တော့သည်။ ဤသို့ အင်းဝပြည်ကြီး ပျက်စီးသွားရပြန်ပါသော်လည်း သက္ကရာဇ် ၈၈၈-ခုနှစ်က ကဲ့သို့ များစွာ နစ်နာပျက်စီးခြင်းမရှိဘဲ နောက်ဆက်ခံသော မင်းများ၏ အားပေးမှုကြောင့် စာပေ ပင်မကြီးသည် လျင်မြန်စွာ စွင့်စွင့်ကားကား ငွါးငွါးကြီး သန်စွမ်းလာလေသည်။

ထိုကြောင့် ဤ ညောင်ရမ်းခေတ်က ကြဲချစိုက်ပျိုးလိုက်သော စာပေမျိုးစေ့သည် ကုန်းဘောင်ခေတ်တွင် ဖွံ့ထွားသန်စွမ်း၍ ကဗျာလင်္ကာ စာပေ အသီးအပွင့်တို့ကို လူအများတို့ သုံးဆောင်ကြရကုန်သည်။ ဤသို့ စာဆိုခေတ်ကြီးကို အသစ်ပြုစု ပျိုးထောင်နေရသော ညောင်ရမ်းခေတ်တွင် မြန်မာစာကောင်း ပေကောင်းများ ပေါ်ပေါက်နိုင်ရန် ခဲယဉ်း၏။ ဤခေတ်တွင် အထူးမှတ်သား ဖွယ်ကား ရဟန်း ပုဂ္ဂိုလ်တို့ ပြန်လည်ပေါ်ပေါက်လာခြင်းပင် ဖြစ်၏။ တောင်ငူခေတ်တွင် ကျော်စော သော စာဆိုဟူ၍ ရဟန်းပုဂ္ဂိုလ် တစ်ပါးမျှ မပေါ်ထွက်ခဲ့ချေ။ ရဟန်းပုဂ္ဂိုလ်များ စာဆိုခြင်းမရှိသည့်အတွက် ပျို့ကဗျာများလည်း တောင်ငူခေတ်၌ မထွန်းကားခဲ့ချေ။ ပျို့ကဗျာသည် ရဟန်းပုဂ္ဂိုလ် ပညာရှိများ၏လက်ကိုင်ဖြစ်၏။ ပျို့ကဗျာများကို ရဟန်းပုဂ္ဂိုလ်များသာလျှင် နိုင်နင်း၏။ ယခု ညောင်ရမ်းဆက် ခေတ်တွင် ပျို့များ တစ်ဖန် ပေါ်ပေါက်လာကြပြန်၏။

တောင်ဘီလာ ဆရာတော်သည် ဝေဿန္တရာ ပျို့ဟောင်းကို စီရင်ရေးသား၏။ ဝန်ကြီးပဒေသရာဇာ လူပုဂ္ဂိုလ် ပညာရှိကလည်း ပျို့ကြီး ပျို့ငယ်များကို စီရင်ရေးသား ခဲ့၏။ ထို့ကြောင့် အင်းဝခေတ်က ပျို့ခေတ်ကြီးသည် တောင်ငူခေတ်တွင်

ကြားပြတ်နေ၍ ယခုတစ်ဖန် ညောင်ရမ်းမင်းဆက်ခေတ်တွင် ပြန်၍ဆက်လာပြန်၏။ သို့ပါသော်လည်း ဤညောင်ရမ်းခေတ် ပျို့များသည် ပထမတန်းစား ပျို့ကြီးများ မဟုတ်ချေ။ အဖွဲ့အနွဲ့တွင် အင်းဝခေတ်ပျို့များကို မမီကြ။ ညောင်ရမ်းခေတ်တွင် ထူးခြားသည့် စာပေများသည် ဝတ္ထုစကားပြေများနှင့် ပြဇာတ်များ ဖြစ်၏။ ဤစာပေမျိုးကို ပြုစုရေးသားရာ၌ ပျို့များ ရေးသားရာမှာ လိုအပ်သော ဉာဏ်ရည်မျိုးကို မလိုချေ။ ဗဟုသုတ အတော်အတန် ပြည့်စုံအောင် အားထုတ်၍ ရေးနိုင်ကြ၏။ လူ တားများ၊ ရေလားကဗျာများသည် အင်းဝခေတ်တွင် ထင်ရှားစွာ မပေါ်သေးသော စာပေများ ဖြစ်ပေ၏။ သို့သော် အထူးကျော်စောသော စာပေမျိုး မဟုတ်။ လောမျိုးစုံကျမ်း၊ အမေးတော်ပုံကျမ်း များ၊ တျာခြင်း စသည်များသည်လည်း များစွာအရာရောက်သည့် စာပေများ မဟုတ်။ ပထမ အင်းဝပြည်ကြီး ပျက်စကပင် စာဆိုပုဂ္ဂိုလ်တို့သည် စိတ်အပျက်ကြီး ပျက်ခဲ့ကြလေပြီ။ စာပေ ကဗျာ လင်္ကာများ စပ်ဟပ်ချင်စိတ် ကုန်သွားလောက်အောင် နှိပ်စက်ညှဉ်းပန်းလိုက်သော သိုဟန်ဘွားဇာ် လက်ချက်ကြောင့် စာဆိုလောကကြီးသည် ရေတိမ်တွင် နစ်ခဲ့ရလေသည်။

ယခုတစ်ဖန် အင်းဝပြည်ကြီး ပြန်လည်ထူထောင်သည့်အခါ၌ ယခင် အထက်ထက်က ကဗျာလင်္ကာတွင် ဝင်စား၍ လာခဲ့သော စိတ်ကလေးများကို ပြန်လည်မွေးမြူနိုင်ကြရန် များစွာထူထောင် ပြုစုခဲ့ကြရလေသည်။ ထိုသို့ အသစ် တစ်ဖန် ထပ်မံထူထောင် နေရသောကြောင့် စာပေ ပင်မကြီးသည် နေ့ချင်း ညချင်း ရုတ်တရက် မကြီးပွား မဖွံ့ဖြိုးနိုင်ခဲ့ပေ။ စာပေခေတ်သစ်ကြီးကို ပြန်လည် ပြုစု ပျိုးထောင်သူတို့တွင် ဝန်ကြီး ပဒေသရာဇာကို များစွာ ချီးမွမ်းထိုက်ပေသည်။ **'တပ်ပျက် ဗိုလ်ခန့်'** သကဲ့သို့ စာဆိုခေတ်ပျက်ကြီးတွင် ဝန်ကြီးကို ဗိုလ်ခန့်၍ တည်ထောင်ခဲ့သည်နှင့် တူတော့၏။ ဝန်ကြီးသည် မဆုတ်မနစ်သော လုံ့လဖြင့် ကြိုးစားရာ၏။ ပျို့များ ဘက်ကလည်း များစွာ ရေးခဲ့ပေ၏။ ချေင်းများကိုလည်း ရေးသား ပြုစုခဲ့၏။ အများ မရေးသားခဲ့သေးသော ပြဇာတ်ကိုလည်း အဆန် ထွင်ခဲ့၏။ တျာချင်း၊ သီချင်းကြီး၊ သီချင်းခံ၊ နတ်သံ၊ ဇာတ်ချင်းတို့ဖြင့်လည်း ဂီတကဗျာကို တစ်ဘကတစ်လမ်း အားပေးခဲ့၏။

ဤသို့ ကြိုးစားအားပေးခဲ့သော်လည်း ကံမကောင်း အကြောင်းမလှသဖြင့် စာပေခေတ်သစ်ကြီးသည် အောင်မြင်လုဆဲဆဲတွင် အင်းဝပြည်ကြီးသည် တလိုင်း လူမျိုး တို့ လက်ချက်ဖြင့် ပျက်စီးခဲ့ရပြန်သောကြောင့် ဝန်ကြီးလည်း စိတ်မချမ်းမသာ

**ဖြစ်**ခဲ့ရ၏။ သို့သော် ဝန်ကြီး ချခဲ့သော မျိုးစေ့သည် တဖြည်းဖြည်း အစို့အတက် **ထွက်**လာ၍ ကုန်းဘောင်ခေတ် မင်းများ၏ ကြပ်မပြုစုဝိုင်းဝန်းပျိုးထောင် မြေတောင် **မြှော**က်ပေးခြင်းကြောင့် ကြီးပြင်းလာပြီးလျှင် အသီးအပွင့် အဖူးအညွန့်တို့ဖြင့် **တင့်**တယ်လာရကား ကုန်းဘောင်ခေတ် လူအများတို့သည် ဝဖြိုးစွာ သောက်စား **သုံး**ခွဲကြရလေသတည်း။



# ၆။ ကုန်းဘောင်ခေတ် ပထမပိုင်း

သက္ကရာဇ် ၁၁၁၃–ခုနှစ်တွင် အင်းဝရွှေပြည်ကြီးသည် စည်ထီးခရိုင်နှင့်တကွ ပျက်စီးယိုယွင်း အနိစ္စ နယ်တွင်းသို့ သင်္ချာဆင်းခဲ့ရပြီးနောက် တလိုင်းလူမျိုးတို့ ရန်အလုံးကို နေလာ နှင်းပျောက်၊ ချေမှုန်းလွင့်ဖျောက်တော်မူသော အလောင်းမင်းတရားကြီးသည် မြန်မာနိုင်ငံတော်ကို အသစ်တည်ထောင်ကာ ရတနာသိင်္ယ ကုန်းဘောင် ရွှေမြို့တော်တွင် သက္ကရာဇ် ၁၁၁၅–ခုနှစ်၌ ကြငှန်းဖွင့်တော်မူလေသည်။ ထိုနှစ်မှစ၍ ငစဉ့်ကူးမင်း နန်းကျသည့် ၁၁၄၃–ခုနှစ်တိုင်အောင် ကုန်းဘောင်ခေတ် ပထမပိုင်းဟု ခေါ်ဆိုသတ်မှတ်ထားသည်။

ညောင်ရမ်းခေတ်တွင် စာပေတည်းဟူသော မျိုးစေ့ကိုချ၍ ပြုစုပျိုးထောင် လာခဲ့ရသော စာပေ ပင်မကြီးသည် အလောင်းမင်းတရားကြီး၏ လက်ထက်တွင် ဖွံ့ဖြိုးရင့်သန်၍ ကဗျာလင်္ကာတည်းဟူသော အသီးအပွင့်တို့ဖြင့် ဝေဝေဆာဆာ တင့်တယ်လျက်ရှိ၏။ ဤမြန်မာစာပေ သစ်ပင်ကြီးကို ပွင့်သီး ဖူးငုံအောင် ဆောင်ရွက် ပြုစုသူတို့အား အမြဲမပြတ် အားပေးနှိုးဆော် ကူညီမစခဲ့ပေသော အလောင်းမင်းတရား ကြီး၏ ကျေးဇူးတော်ကို ကျွန်ုပ်တို့ မမေ့ထိုက်ပေ။ အင်းဝရွှေနန်းကြီး ပျက်စီး၍ တိုင်းသူပြည်သားတို့ ကစင့်ကလျား ဖြစ်စဉ် ညောင်ရမ်းခေတ် စာဆိုတော် အချို့ တို့သည် အလောင်းမင်းတရား၏ ဘုန်းတော်ကို ခိုလှုံရန် ရောက်လာကြကုန် သည်။ ဤသူတို့အထဲတွင် ရွှေတောင် ရာဇကျော် ဘွဲ့ခံ ဦးသြလည်း အပါအဝင် ဖြစ်သည်။

# ဦးသြ

ဦးသြသည် သက္ကရာဇ် ၁၀၉၈–ခုနှစ်တွင် အလုံမြို့ အထက် မောင်းထောင်ရွာ၌ ဖွားမြင်သည်။ အဖသည် ဦးဇေယျဖြစ်၍ အမိသည် ဘိုးတော်မင်းတရားလက်ထက်တွင် စာဆိုတော်အဖြစ် အထူးကျော်စောသော တွင်းသင်းတိုက်ဝန် မဟာစည်သူ၏ အစ်မ ဒေါ်ပု ဖြစ်သည်။

မှတ်ချက်။ ။ဤဖွားသက္ကရာဇ်သည် ကဝိလက္ခဏာဒီပနီကျမ်းတွင် လာသော သက္ကရာဇ်တည်း။ တွင်းသင်းမင်းကြီးသည် ၁၀၈၈–ခုနှစ်တွင် ဖွားသည်ဖြစ်ရကား ဦးသြ၏ အမိသည် တွင်းသင်းမင်းကြီး၏ နမ မဖြစ်နိုင်၊ အစ်မသာလျှင် ဖြစ်နိုင်မည်။

အသက် ၈–နှစ်၊ ၉–နှစ် အရွယ်ခန့်က သာမဏေပြုပြီးလျှင် ပထမကျော်အောင် ခံထား ဆရာတော်ထံ၌ ပညာကို ဆည်းပူးသည်။ သာမဏေဘဝ၌ပင် ကဗျာရေးသား ပြုစုခြင်း၌ ဝါသနာပါသည့်အလျောက် မကြာခဏ ကဗျာ လင်္ကာများကို ရေးသား ဖွဲ့စပ်သည်တွင် ဆရာတော်က ဤသူငယ်သည် ဉာဏ်စွမ်းဉာဏ်စ ရှိသည်။ မင်းထံ၌ ခစားရသော် ကြီးပွားအံ့ဟု သိမြင်တော်မူ၍ အသက် ၁၃–နှစ်တွင် လူထွက်စေပြီးလျှင် ဟံသာဝတီပါ မင်းထံတွင် သွားရောက် ဆက်သသည်။ ဟံသာဝတီပါမင်းက ဘထွေးတော် သတိုးမင်းခေါင်ထံတွင် ရွှေတောင် ရာဇကျော် ဘွဲ့ကို ပေး၍ သံတော်ဆင့်အဖြစ်ဖြင့် ထမ်းရွက်စေသည်။ သတိုးမင်းခေါင်သည် ငစဉ့်ကိုင်အရပ်ကို ဇေယျဝမုနတိုင်း သမုတ်၍ ရွှေနန်း စံတော်မူစဉ် သံတော်ဆင့် ရွှေတောင် ရာဇကျော်ကို သတ်ပုံကျမ်း ရေးသားဆက်သွင်းစေ အမိန့်တော်ရှိရာ အသက် ၁၅–နှစ်အရွယ် သက္ကရာဇ် ၁၁၁၃–ခုနှစ်၊ တော်သလင်းလဆန်း ၁၁–ရက်၊ အင်္ဂါနေ့တွင်...

ရောင်ခြည်ခြောက်သွယ်၊ ဘဝဂ်ကယ်၊ အံ့ဖွယ်ဆယ့်ရှစ်ဖြာ...

အစရှိသော ကဝိလက္ခဏာ သတ်ပုံ သံပေါက်ကျမ်းကို စီရင်ရေးသားပြီးစီး၍ ဆက်သွင်းသည်။ ဤကဝိလက္ခဏာ သတ်ပုံကျမ်းသည် သတ်ပုံကျမ်းမည်ကာမတ္တ မဟုတ်။ ဆန်း၊ အလင်္ကာ၊ သဒ္ဒါ၊ ဗျာကရဏ်း၊ ရှေးထုံးပုံပြင်၊ ရာဇဝင်မော်ကွန်း အစရှိသော လောကီကျမ်း၊ လောကုတ္တရာကျမ်းတို့မှ လာသော အကြောင်းအရာ မှတ်သားဖွယ်ရာတို့ဖြင့် တန်ဆာဆင်အပ်သည်ဖြစ်၍ ကွယ်ဝှက်သော အဓိပ္ပာယ်တွ ရှိရကား မန္တလေး ရတနာပုံမြို့တည် နန်းတည် မင်းတုန်းမင်းတရားကြီးသည် ထို

ကဝိလက္ခဏာ သတ်ပုံကျမ်းမှ ထုတ်နုတ်၍ ၇၂–ပိုဒ်သော ပုစ္ဆာတို့ကို အမှာရေး မင်းလှဇေယျသူအား မေးမြန်းတော်မူရာ မင်းလှဇေယျသူသည် ကဝိလက္ခဏာဒီပနီကျမ်း ဟူသော အမည်ဖြင့် ထို ၇၂–ပိုဒ်သော ပုစ္ဆာတို့၏ အဖြေကျမ်းကို ရေးသားစီရင်လေသည်။ ကဝိလက္ခဏာ သတ်ပုံကျမ်းကို ရှင်မဟာရဋ္ဌသာရ စပ်ထုံး ဥပဒေများကိုသာ လိုက်နာ၍ စပ်ဆိုဖွဲ့နွဲ့သည်ဟု ကျမ်းပဏာမတွင် ဆိုခဲ့သော်လည်း ဤသတ်ပုံများကို စေ့ငုသေချာစွာ စိစစ်လျှင် ရှင်မဟာရဋ္ဌသာရ၏ စာများသာမဟုတ်၊ ရှင်ဥတ္တမကျော်၊ ရှင်တေဇောသာရ၊ ရှင်အုံးညို၊ ရှင်အဂ္ဂသမာဓိ အစရှိသော ပုဂ္ဂိုလ်ကျော် အပေါင်းတို့ ရေးသားပြုစုသော ကျမ်းအစောင်စောင်တို့မှလည်း ထုတ်နုတ်ထားကြောင်း တွေ့ရလေသည်။

ဤသတ်ပုံကျမ်းကို ပြုစုပြီးသည့်နှစ်၌ပင်လျှင် အင်းဝမြို့တော်ကြီးလည်း တလိုင်းတို့၏လက်ချက်ဖြင့် ပြုန်းတီးပျက်စီးခဲ့ရ၍ ဟံသာဝတီပါမင်းကို တလိုင်းတို့ ဖမ်းယူသွားလျှင် ဦးညြသည် မိမိ၏သခင် တောင်ငူရာဇာ သတိုးမင်းခေါင်နှင့်အတူ မိုးကောင်း ပိုမြင့် – ပိုနိမ့်အရပ်မှနေ၍ ဟံသာဝတီပါမင်းကို ကယ်မယူဆောင်ရန် သူရဲသူခက်တို့ကို စုဆောင်း၍ နေလေသေးသည်။ ထိုသို့နေစဉ်အတွင်း တောင်ငူရာဇာလည်း သေဆုံး၊ မိမိအရှင်သခင် မင်းတရားကြီးကိုလည်း တလိုင်းတို့ ရေချကွပ်မျက်ကြောင်းကို ကြားသိရလျှင် စိတ်ပျက်၍ အင်းဝသို့ မပြန်တော့ဘဲ ရတနာသိင်္ဃ ကုန်းဘောင်သို့ ဝင်ရောက်၍ အလောင်းမင်းတရားထံတော်၌ ခစားထမ်းရွက်သည်။ အလောင်းမင်းတရားကြီးသည် ဝင်ရောက်ခစားလာသော ရွှေတောင်ရာဇာကျော် ဘွဲ့ခံ ဦးညြကို လွန်စွာမြှောက်စားတော်မူ၏။ ဆောင်းပါးရတုရေးရာ၌ လွန်စွာ သဘောနှစ်ခြိုက်တော်မူရကား စိန္တကျော်သူဘွဲ့ကို ပေးအပ်၍ သားတော် ဗဒုံမြို့စား သတိုးမင်းလှ ရွှေတောင်ထံ၌ စာဆိုတော်အဖြစ်ဖြင့်လည်းကောင်း၊ အကြီးတော်အဖြစ်ဖြင့်လည်းကောင်း ခစားထမ်းရွက်စေသည်။

ဗဒုံမြို့စား မင်းသားထံ၌ ထမ်းရွက်စဉ် ရတုများစွာ ရေးသည်။ ထိုရတုများသည်ကား ရတနာသိင်္ဃ ကုန်းဘောင်မြို့ဘွဲ့၊ အိမ်ထောင်သိမ်းဘွဲ့၊ ပြာသာဒ်ထီးချက်တော်ဘွဲ့၊ မဟာနန္ဒာကန်တော်ဘွဲ့၊ အမြင့်မင်းနှင့် တူမတော်လက်ထပ်ဘွဲ့များအပြင် ကျေးစေ၊ ဘုရားတိုင်၊ စစ်ချီ၊ ဟင်္သာဖိုမ အမေးအဖြေ၊ ရှင်မွေ့နွန်း မင်းနန္ဒာ အမေးအဖြေ အစရှိသော ရတုများ ဖြစ်ကြသည်။ ထိုရတုများမှာ အလောင်းမင်းတရား၏ ဘုန်းတော်ကို မှီခို၍ ရေးရသော ရတုများ ဖြစ်သောကြောင့်

အလောင်းမင်းတရား၏ ဘုန်းတော်များကို ပါဝင်အောင် ဖွဲ့သည်။ နတ်သျှင်နောင်၏ ရတုများတွင် ရတုတိုင်း၌လိုပင် မေတ္တာအဖွဲ့ပါသကဲ့သို့ စိန္တကျော်သူ၏ ရတုများတွင်လည်း ရတုတိုင်း၌ပင် အလောင်းမင်းတရား၏ ဘုန်းတော်ဘွဲ့ ပါဝင်သည်။ ထိုအတွက်ကြောင့် စိန္တကျော်သူသည် ဘုရင်မင်းမြတ်အား ချီးကျူးမြှောက်ပင့်၍ အကြိုက်ကို လိုက်ကာ စပ်ဆိုရသော နန်းတွင်းစာဆိုကြီးပင် ဖြစ်လေသည်။

ကုန်းဘောင်မင်္ဂလာ လူးတား၌လည်း အလောင်းမင်းတရားကြီး မိဖုရားကြီးနှင့် သားတော်၊ သမီးတော်တို့၏ ဘုန်းတော်ကိုပင် ဖွဲ့ဆိုလေသည်။ ဤကဲ့သို့ ဘုရင်မင်းမြတ်အတွက်သာလျှင် မည်ကဲ့သို့ ဘုန်းတော်ကို ချီးကျူး၍ ရေးရပါမည်နည်းဟု စိတ်ကူးထုတ်နေရသောကြောင့် မိမိအလိုအလျောက် လွတ်လပ်စွာ ရေးခဲ့ရသော ကဗျာများသည် လွန်စွာနည်းပါးခဲ့သည်။ စိန္တကျော်သူသည် အကြောင်းအရာတစ်ခုခုကို စီကုံးနှုန်းဖွဲ့ရာ၌ စကားကျဲလှသည်။ စကားစိပ်စိပ်နှင့် အဓိပ္ပာယ်ကျယ်ဝန်းလေးနက်ကာ စိတ်ဓာတ်ကို များစွာထိခိုက် စွဲမြဲသွားအောင် မစပ်ဆိုနိုင်ချေ။ ရတုရေးသားရာတွင် ရှင်မဟာရဋ္ဌသာရ၊ ရှင်မဟာသီလဝံသတို့ ရေးသားပုံ၊ ထိုနောက် မင်းနဝဒေးကြီး ရေးသားပုံ၊ တောင်ငူဘုရင် နတ်သျှင်နောင်တို့ ရေးသားပုံ စည်းမျဉ်းများကို လိုက်၍ ရေးသားဟန်ရှိသော်လည်း အဆိုပါ ပုဂ္ဂိုလ်များ၏ အဖွဲ့အနွဲ့၊ ဂုဏ်၊ ရသတို့ကို မမီချေ။ သက္ကရာဇ် ၁၁၁၉–ခုနှစ်တွင် ဘိုးတော်ရှင် ချောင်းကို စပ်ဆိုဟန် တူသည်။ ဤချောင်းမှာ မင်္ဂလာဖူးတိုင်ချီကာ ၁၀–ပိုဒ်သာ ရေးသားလျက်ရှိ၏။ အချီအချမှာ ချောင်းသွားအတိုင်း ချီချလျက် ရှိပေသည်။ ရှေး ချောင်းကြီးများမှာကဲ့သို့ မြို့ဘွဲ့၊ ဘုန်းတော်ဘွဲ့၊ စစ်ဘွဲ့၊ သူရဲဘွဲ့၊ မင်းခမ်းဘွဲ့၊ ယော်တော်ဘွဲ့များမှစ၍ စုံလင်စွာ မပါချေ။ စာပိုဒ်ကလည်း နည်းလှသောကြောင့် ရှေးဆရာကြီးများ၏ ဉာဏ်ရည်ကို မီဟန် မတူချေ။ ဤချောင်းအပြင် ပင်းတလဲမင်းသားချောင်း၊ အိမ်ရှေ့မိဖုရား ချောင်းများကိုလည်း ရေးသေးသည်။ 'မင်းဆက်လင်္ကာကြီး' ကို သက္ကရာဇ် ၁၁၂၁–ခုနှစ်တွင် ရေးသားစီရင်သည်။ ဤမင်းဆက်လင်္ကာကြီးတွင် တကောင်းပြည် အဘိရာဇာမင်းမှ စ၍ ပြန့်ပွားလာကြကုန်သော မြန်မာနိုင်ငံ မင်းဆက်များကို အစဉ်အလိုက် ဖွဲ့ဆိုစီကုံးသည်။ ဦးကုလား ရာဇဝင်ကြီးသည် ကျယ်ဝန်းလှသဖြင့် မင်းဆက်များကို မမှတ်သားနိုင်မည်စိုး၍ အတိုချုပ်လင်္ကာ သဘောဖြင့် မှတ်သားလွယ်အောင် ဤမင်းဆက်လင်္ကာကြီးကို ရေးသားဟန်တူသည်။

## သြဝါဒထူးပျို့

စိန္တကျော်သူသည် သက္ကရာဇ် ၁၁၂၂–ခုနှစ်တွင် သြဝါဒထူးပျို့ကို ရေးသား စီရင်သည်။ ဘုရင်မင်းမြတ်အတွက် သက်သက် စာဆိုသူဖြစ်သော်လည်း ဤ သြဝါဒထူးပျို့ကိုကား ဘုရင်မင်းမြတ် အမိန့်တော်ဖြင့် မဟုတ်ဘဲ မိမိအလိုအလျောက် ရေးစပ်ဖွဲ့နွဲ့သည်။ ထိုကြောင့် ပျို့နိဂုံးတွင် . . .

> ဗဒုံစိုးသား၊ သတိုးမင်းစော၊ မုနောမြော်ကတ်တင်၊ သခင်ကျွန်ရင်း၊ စိုးမင်းသုံးရ၊ ယုံထိုက်လှသား၊ စိန္တကျော်သူ၊ ဟူသားအမည်၊ ကျွန်ုပ်သည်လျှင်၊ ဇုန်းလည် ရက်ရုံ၊ ကလိမ်ချုံဝယ်၊ ခုံခုံမင်မင်၊ လက်ရှစ်ဝင်၍၊ စိတ်ထင်လိုရာ၊ မကသာသို့၊ ပြည်ရွာမင်းရေး၊ မှုရှုပ်ထွေးလည်း၊ ဆေးတစ်အိုးကျွမ်း၊ ကွမ်းတစ်ရာညက်၊ စိတ်စက် ပျော်ပိုက်၊ လစ်လပ် ခိုက်၌၊ နှစ်ခြိုက်ဝမ်းသာ၊ စီကုံးပါသည်။

ဟူ၍ စပ်ဆိုထား၏။ ဤပျို့ကို အခန်းကြီး ငါးခန်းဖြင့် ခွဲခြားထားသည်။ ပထမ ခန်းတွင် အစားအသောက် အနေအထိုင်နှင့် အဝတ်တန်ဆာဆင်ခြင်းများ၌ ရှောင်ကြဉ်အပ် စောင့်ထိန်းအပ်သော သြဝါဒများကို ပေးပေသည်။ ဒုတိယခန်း၌ ရာဇဝသတီပိုင်းနှင့် ဆရာအရှင်တို့အပေါ်တွင် တပည့်ဖြစ်သူတို့ ကျင့်အပ်စောင့်ထိန်းအပ်သော သြဝါဒများကို ပြညွှန်သည်။ တတိယခန်း၌၊ မကြီးရာသည်၊ မငယ်ရာသည်၊ မယုံရာသည် ဆယ်ပါးတို့နှင့် ဒေါသအမျက် မထွက်ရန်များကို ဆုံးမသြဝါဒ ပေးသည်။ စတုတ္ထခန်း၌ အရာအမျိုးမျိုးတို့တွင် လုံ့လဝီရိယဖြင့် အားထုတ်လုပ်ကိုင်ရန် နည်းစနစ်သြဝါဒများကို ညွှန်ပြသည်။ ပဉ္စမခန်း၌ မင်း၊ အမတ်တို့အား ဆုံးမညွှန်ပြသည်။ သြဝါဒထူးပျို့သည် ရှင်မဟာရဋ္ဌသာရ ရေးသော ဂမ္ဘီသာရပျို့၊ ကန်တော်မင်းကျောင်း ဆရာတော် ရေးသော လောကသာရပျို့တို့ကဲ့သို့ အမျိုး လေးပါးတို့၏ အကျင့်စာရိတ္တ ကောင်းမွန် ထက်သန်ရေးကို ရည်ရွယ်၍ ရေးသောကျမ်း ဖြစ်သည်။ သြဝါဒထူးပျို့သည် အထက်ပါ ပျို့နှစ်စောင်ထက် စုံလင်သည်ဟု ဆိုရပေမည်။

ဂမ္ဘီသာရ၊ လောကသာရပျို့များတွင်ကား သြဝါဒထူးပျို့မှာကဲ့သို့ မကြီးရာသည် ၁၀–ပါး၊ မငယ်ရာသည် ၁၀–ပါး စသည်ဖြင့် တရားသဘောတို့၏ အပြားများကို ခွဲခြား၍ ပြဆိုခြင်း မရှိ။ ထိုပြင် သြဝါဒပျို့တွင် စိန္တကျော်သူ၏ ထိုးထွင်းဉာဏ်နှင့် ကြံလုံး စည်လုံးများကိုလည်း တွေ့ရပေသည်။ သြဝါဒထူးပျို့ဟူ၍

အမည်ပေးထားသည့်အတိုင်း ထိုပျို့သည် ထူးသော ဩဝါဒတို့ကို ပေးပေ၏။ ထိုပျို့ကို ထောက်ထားခြင်းအားဖြင့် ဦးဩသည် ကြံစည်ထိုးထွင်း နှလုံးသွင်းတတ်သူ ဖြစ်ကြောင်း သိရ၍ စိန္တကျော်သူ ဟူသော ဘွဲ့နှင့် လွန်စွာလိုက်လျောသည်ဟု ဆိုရပေမည်။ ဦးဩသည် ဗဟုသုတနှင့် ပြည့်စုံသူ ဖြစ်သည်။ သို့သော် ရေးသမျှ စာများသည် ပထမ အင်းဝခေတ်စာပေများ၏ အဆင့်အတန်းကို မမီချေ။ ဒုတိယ တန်းစားလောက်သာ ထားရန်သင့်ပေသည်။ ကဝိလက္ခဏာ သတ်ပုံကျမ်းကို အသက် ၁၅ နှစ်အရွယ်တွင် ရေးသူဟူ၍ ဆိုရငြားသော်လည်း မိမိဉာဏ်စွမ်း ဉာဏ်စ ထုတ်နုတ်၍ ရေးသားခြင်း မဟုတ်။ ရှေးပညာရှိကြီးတို့ ရေးသားခဲ့သော ပျို့ကဗျာ လင်္ကာများမှ အသတ်မှန် အစပ်မှန်များကို ထုတ်နုတ်ရေးသားခဲ့ခြင်း ဖြစ်၏။

**မှတ်ချက်။** ။ကဝိလက္ခဏာ သတ်ပုံကျမ်းသည် ဦးဩ၏ လက်ရာ မဟုတ်။ ဤအသက် ဤအရွယ်မျှနှင့် ဤမျှ ကောင်းမွန်အောင် မရေးနိုင်ရာ။ ဦးဩ၏ မိခင်မောင်ဖြစ်သော တွင်းသင်းတိုက်ဝန်က ရေးသားပြီးလျှင် မိမိသည် ရဟန်းအဝတ်နှင့်ဖြစ်၍ ဂုဏ်မပေါ်ထင် စေလိုသောကြောင့် ဦးဩ ရေးသည့်အနေနှင့် တောင်ငူရာဇာထံသို့ ဆက်သခိုင်းသည်။ တောင်ငူရာဇာသည် ဦးဩအား သတ်ပုံကျမ်း ဆက်သလေဟု မိန့်တော်မူစဉ်က တွင်းသင်းတိုက်ဝန်သည် ရေးပြီးရှိနေ၍ အဆင်သင့်ပင် တူဖြစ်သူ ဦးဩအား ပေးအပ်လိုက်သည်ဟု အဆိုရှိကြသည်။ ကျွန်ုပ်တို့၏ အယူအဆကား ဤကျမ်းကို ဦးဩပင်လျှင် ပြုစုလိမ့်မည် ထင်၏။ အဘယ်ကြောင့် ဟူမူ ဤကျမ်းကို ပြုစုရာ၌ များစွာ ဉာဏ်စွမ်း ဉာဏ်စ စိုက်ထုတ်၍ ရေးရသည် မဟုတ်သောကြောင့် ဖြစ်၏။

ရတု ကဗျာများတွင်လည်း နတ်သျှင်နောင်၊ နဝဒေးကြီးတို့၏ အဆင်အတန်းကို မမီချေ။ သို့သော် ဦးဩတွင် ထူးခြားသော အချက်တစ်ခုကား မိမိရေးသော ရတုများတွင် အတိတ်နိမိတ်များကို ပါအောင် ရေတတ်ခြင်းဖြစ်၏။ ကဗျာဆရာတို့ မည်သည် သဘင်သည်ကဲ့သို့ပင် ဖြစ်၏။ ကလေး၊ သူရူး၊ သဘင်သည်တို့ ပြောဆိုကြသော စကားများတွင် နိမိတ်ရှေ့ပြေးများ ပါတတ်သည်ဟု အဆိုရှိသည့်အတိုင်း ဦးဩ၏ကဗျာတွင် နိမိတ်ရှေ့ပြေးများကို တွေ့ရပေသည်။ တွေ့ရပုံကား မိုးကြိုး ၁၃–ချက် ပစ်ရာတွင် ဖွဲ့ဆိုသော ရတု၌ **လွှပျဉ်သားနှင့်၊ ဆောက်ထားနန်းတော်၊ စံမပျော်ပြီ'** ဟူ၍ ပါရှိရာ ဤစကားသည် အလောင်းမင်းတရားကြီး အဖို့ အတိတ်နိမိတ်ပင် ဖြစ်တော့သည်။

ဤအတိတ်နိမိတ်အတိုင်းပင် အလောင်းမင်းတရားကြီးသည် များမကြာမီ နတ်ရွာစံရလေသည်။ ဤသို့ ဂန္ထန္တရ ဗဟုသုတ၊ ဘာသန္တရ ဗဟုသုတနှင့် ပြည့်စုံသူ ဦးဩသည် လက်ရုံးရည်အမှု၌ အကြပ် အကဲ အမှူး အချုပ်အဖြစ် ပါဝင် ထမ်းရွက်ကြောင်းကို ရာဇဝင်၌ မတွေ့ရှိရကား လက်ရုံးရည်ဖြင့် အမှုတော်ထမ်းသော ကျွန်တော်မျိုး၊ နှလုံးရည်ဖြင့် အမှုတော်ထမ်းသော ကျွန်တော်မျိုး၊ နှလုံးရည် လက်ရုံးရည် နှစ်ပါးစုံဖြင့် အမှုတော်ထမ်းသော ကျွန်တော်မျိုး သုံးမျိုးတွင် ဦးဩ သည် နှလုံးရည်ဖြင့်သာ အမှုတော်ထမ်းသော စာဆို ကျွန်တော်မျိုး သက်သက် ဖြစ်ကြောင်း ထင်ရှားလေသည်။

ဦးဩ ကွယ်လွန်သည့် သက္ကရာဇ်ကိုကား စာမှတ်စာတမ်းများတွင် မတွေ့ရပေ။ ဟံသာဝတီပါမင်း၊ အလောင်းဘုရား၊ နောင်တော်ကြီး၊ ဆင်ဖြူရှင်၊ စဉ့်ကူးမင်း၊ ဘိုးတော်ဘုရားတိုင် မင်းခြောက်ဆက်တွင် အမှုတော်ကို ကျေးပွန်စွာ ထမ်းရွက်၍ ၁၁၄၅–ခုနှစ်တွင် အရှင်သခင်ရင်း ဗဒုံမြို့စား ဘိုးတော်မင်းတရားကြီးက 'မဟာ ဇေယျာသင်္ချယာ' ဟူသော ဘွဲ့ဖြင့် ချီးမြှောက်သူကောင်းပြုတော်မူကြောင်း အမိန့်တော် မှတ်တမ်းများတွင် တွေ့ရပေသတည်း။

## လက်ဝဲသုန္ဒရအမတ်

ရွှေဘိုမြောက်ဘက် မန်ကျည်းတုံရွာဇာတိ ဦးမြတ်စံသည် စိန္တကျော်သူနှင့် တစ်ခေတ်တည်း ပေါ်ပေါက် ကျော်စောသူ ဖြစ်သည်။ ဖွားသက္ကရာဇ်ကား ၁၀၈၅–ခုနှစ်တည်း ။ ဦး မြတ်စံသည်လည်း စိန္တကျော်သူကဲ့သို့ပင် အင်းဝမြို့မှ ပြေးလာသူဖြစ်သည်။ ဟံသာဝတီပါမင်းလက်ထက် လွတ်ရုံး စာရေးစာချီလုပ်၍ ရေးမှတ်တမ် ရွက်ရသည်။ အင်းဝပျက်သော် အလောင်းမင်းတရားကြီး၏ ဘုန်းတော် ကို ဝင်ရောက်ခိုလှုံ၍ အမှာတော်ရေးရာထူးဖြင့် အမှုတော်ထမ်းရာတွင် လက်ဝဲ သုန္ဒရဘွဲ့ကို ရသည်။ ထိုနောက် ၁၁၂၅–ခုနှစ်တွင် အင်းဝရွှေပြည်ကို ပြန်လည် ဖန်ဆင်း ကြငှန်းဖွင့်တော်မူသော ဆင်ဖြူရှင်မင်းတရားလက်ထက် ညီတော် အမြင့်မြို့စား၏ အိမ်တော်တွင် အကြီးတော်အရာဖြင့် ခစား ထမ်းရွက်ရပြန်သည်။ ၁၁၂၈–ခုနှစ်တွင် လူပျိုတော် ငထင်ကျော်အမှုနှင့် ရာဇဝတ်သင့်သဖြင့် မဲဇာသစ်တော သို့ အပို့ခံရရာ ၄၅–ရက်အကြာတွင် ရတနာသိင်္ယကုန်းဘောင်မြို့ကို တမ်းတကြောင်း

**'မဲဇာတောင်ခြေ'** ချီ ပိုဒ်စုံရတုနှင့် သားမယားတို့ကို လွမ်းဆွတ်တသကြောင်း **'ဝေရွှန်းစန္ဒာ'** ချီ ပိုဒ်စုံရတုများကို ရေးသား ဆက်သွင်းသောကြောင့် ဘုရင်မင်းမြတ် လွန်စွာသနားတော်မူလေရကား နေပြည်တော်သို့ ပြန်ခေါ်တော်မူသည်။ ဤပိုဒ်စုံ ရတု နှစ်စုံမှာ အများသိပြီး ဖြစ်သည့်အတိုင်း လူတစ်ဦးတစ်ယောက်၏ စိတ်မှာ ဖတ်ရင်းပင် သနားကြင်နာခြင်း သဘော တဖွားဖွားပေါ်ပေါက်လာအောင် ဖွဲ့နွဲ့ စီကုံးထားသည်ဖြစ်သောကြောင့် ရတုအဖွဲ့အနွဲ့များတွင် ဦးမြတ်စံသည် တစ်ခေတ် တည်း ပေါ်သော ဦးသြထက် များးစွာ သာလွန်ကြောင်း ထင်ရှားပေသည်။ ဤ မဲဇာတောင်ခြေချီ ရတုနှင့် ဝေရွှန်းစန္ဒာချီ ရတု နှစ်စုံစလုံး၏ အဖွဲ့အနွဲ့များသည် အခါအခွင့်နှင့် သင့်တင့်လိုက်လျောညီညွတ်စွာ စပ်ဆိုဖွဲ့နွဲ့အပ်သော ရတုဖြစ်သော ကြောင့် စာပေသမိုင်းတွင် မှတ်တမ်းတင်ထိုက်သော ရတုများ ဖြစ်ပေသည်။ ရတု ကဗျာတို့၏ သဘောတို့ကို စပ်ဆိုသူ၏ စိတ်နှလုံးက ဖန်တီးပေး၏။ စာဆိုသူ၏ စိတ်နှလုံး ရွှင်ပြုံးချိန်၌ စပ်ဆိုသော လင်္ကာ ကဗျာများတွင် ဟာသရသအဖွဲ့များကို တွေ့ရတတ်သည်။ စာဆိုသူ၏ စိတ်နှလုံးသည် ကြိမ်မီးအုံးသကဲ့သို့ ပူပန်သောက ရောက်နေသောအချိန်၌ စပ်ဆိုသော ကဗျာဖြစ်လျှင် ထိုကဗျာတွင် ကရုဏာ ရသ အဖွဲ့များကို တွေ့ရတတ်သည်။ လက်ဝဲသုန္ဒရ အမတ်သည် ဤအဆိုပါ ရတုနှစ်စုံကို စပ်ဆိုဖွဲ့နွဲ့စဉ်အခါက မိမိ၏စိတ်ထဲတွင် လှိုက်လှိုက်လှဲလှဲ မည်မျှ လွမ်းဆွတ် တသ၍ နေချိမ့်မည်ကိုကား တွေးတောဖွယ် မလိုပေ။ ဤသို့ ဉာဏ်နှင့် ယှဉ်သော အတွင်းသဘော စိတ်နေစိတ်ထား၏ ပြုပြင် ဖန်တီးချက်အရ အသည်းနှလုံးကြားမှ ပေါ်ထွက်၍လာသော စကားလုံးကလေးများသည် မင်းပြစ်မင်းဒဏ်သင့်၍ မဲဇာသို့ အပို့ခံရသော ကာယကံရှင်အမတ်ကြီးကိုပင် ပြန်ခေါ်ကာ ချမ်းသာခွင့် ပေးရလောက် အောင် အဖိုးထိုက်တန်လှပေတော့သည်။ ဤနေရာ၌ အမတ်ကြီးသည် စင်စစ် ဘကယ်အတွင်းစိတ်ဓာတ်၌ လှိုက်လှိုက်လှဲလှဲ လွမ်းဆွတ်တသခြင်း မရှိဘဲ အပေါ်ယံ ဟန်ဆောင်လွမ်း၍ စပ်ဆိုသော ရတုဖြစ်ပါမူ ဤမျှ ကောင်းမွန်လိမ့်မည်ဟု မထင်မိပေ။

> နွေကျွန်းသန်ကာ၊ ခချိန်ခါကို၊ ကျောင်းသာ ရာမ်ခင်း၊ စေတီတွင်း၌၊
> သီတင်းအလှူ၊ ရွှေပြည်သူတို့၊ ဆုယူစည်းဝေး၊ ဖြူဖြူဖွေးလိမ့်၊
> စက်မေး ခိုက်တွင်၊ အိပ်မက်မြင်သို့၊ မရှင်ရှုတ၊ လွမ်းလိုက်လှရှင့်၊
> ညွန်ပြ ကျိုးဆက်၊ ဆယ်ကျော်သက်က၊ ကြင်ဘက်အတူ၊ တောင်းဆု

> ယူသည်၊ အိမ်သူချောသွယ်၊ သုံးယောက်မယ်နှင့်၊ ပင်လယ်ခြားရာ၊ ခရီးကွာသို့၊ မှာလည်းမကြား၊ သွားလည်း မသင့်၊ ဖြစ်သဖြင့်လျှင်၊ ပူခွင့်ရှည်ရေး၊ ရှိချေသေး၏၊ ရင်သွေးရွှေတောင်၊ သားမောင်နှမ၊ ဆင်းသိင်္ဂတို့၊ မွေးဘရင်ခွင်၊ ရွှေလက်တင်၍၊ ယူငင်ပိုက်ဖြား၊ ပျော်မည်များနှင့်၊ နှစ်ပါးမျက်ခြည်၊ သားနှင်းရည်သည်၊ ၊ရွှေလည်ဆွဲချင်ရှာလိမ့်မည်။

ဟူသော အဖွဲ့အနွဲ့သည် ထိုခေတ် ထိုအခါက သက်ဆိုင်သူတို့ စိတ်နှလုံးကို မဆိုထားနှင့်၊ ဘုမသိ ဘမသိ အနှစ် ၂၀၀–ခန့် ကွာခြားခဲ့ပြီးသော ကျွန်ုပ်တို့၏ စိတ်နှလုံးကိုပင် ယူကျုံးမရ သိမ်းရုံးလှိုက်လှဲ စွဲမြဲထိခိုက်စေတော့သာတည်း။ မင်းလက်ဝဲသုန္ဒရ စီရင်ပြုစုခဲ့သော ပျို့များသည် သာမိနပျို့၊ ဂုတ္တိလပျို့၊ နန္ဒီသေနပျို့၊ မန္ဓာတုစကြာမင်းပျို့၊ ဗျုဟာစက္ကိပျို့၊ သရဘင်္ဂပျို့၊ ဂါမဏိစန္ဒပျို့၊ အာဒါသမုခ ပျို့နှင့် သောဏပျို့များ ဖြစ်သည်။ ဤပျို့များအနက် သက္ကရာဇ် ၁၁၄၅–ခု၊ အသက် ၆၀–ပြည့်နှစ်တွင် ရေးသားစီရင်သော သာမိနပျို့သည် အကောင်းဆုံးပျို့ ဖြစ်သည်ဟု ပညာရှိများ ဆုံးဖြတ်ကြကုန်သည်။ သာမိနပျို့မှာ အသက်ကြီးရင့်၍ ဗဟုသုတပြည့်ဝ လောက်ချိန်မှ ရေးသားရသော ပျို့ဖြစ်သောကြောင့် ဓမ္မကြောင်း၊ လောကကြောင်း၊ ရာဇကြောင်း သုံးဘက်စလုံးတွင် ပြည့်ပြည့်စုံစုံ ရှိသည့်ပြင် ရာဇဓမ္မကြောင်းဘက်တွင် များစွာ အမွှမ်းတင်၍ ရေးသားထားပေသည်။ ဘုရားဟော ပကိဏ္ဏက နိပါတ်တော်လာ သာမိနမင်း၏ ဇာတ်တော်ကို တန်ဆာဆင်၍ ရေးထားသော ပျို့ဖြစ်သည့်အတွက် အမတ်ကြီးသည် သာမိနမင်း၏ အကျင့်တရားများကို ဖော်ပြပြီးလျှင် ဘိုးတော်မင်းတရားကြီးအား ထိုသာမိနမင်း၏ နည်းတူ ကျင့်ကြံစေရန် ရည်ရွယ်၍ ရေးသားဟန်တူသည်။ ဤပျို့၏ ဇာတ်ဝတ္ထုကြောင်းသည် အကျင့်တရားကောင်းသော သာမိနမင်း၏ သတင်းအရှိန်အဝါကြောင့် နတ်လူနှာ သိကြားမင်းသည် တာဝတိံသာသို့ ဝေဇယန္တာရထားဖြင့် ပင့်ဆောင်သည့်အကြောင်း အရာပင် ဖြစ်သည်။ ဤပျို့လာ ဖော်ပြလတ္တံ့သော လင်္ကာကို ထောက်ရှုခြင်း အားဖြင့် အမတ်ကြီးသည် တရားဓမ္မသတ်တွင် မည်မျှနိုင်နင်းကြောင်း သိရပေသည်။ မိမိကိုယ်တိုင်ကလည်း ဓမ္မသတ်ကျမ်းများကို လေ့လာဆည်းပူး၍ ဝိနိစ္ဆယပကာသနီ ဓမ္မသတ်ကျမ်းကြီးကိုပင် ပြုစုရေးသားသည် ဖြစ်သောကြောင့် ဓမ္မသတ်အရာတွင် တစ်ဘက်ကမ်းခပ် တတ်မြောက်ကျွမ်းကျင်ကြောင်းကား ထင်ရှားတော့သည်။

ငြီးအတွက်ကြောင့် မနုရင်း ခမ္မသတ်ကြီးတစ်စောင်လုံးကို အတိုချုပ်အားဖြင့် ကတစ်ပိုဒ်တည်းတွင် ဖွဲ့လိုရကား...

ကသစ်သပြေ၊ ရေသမုဒ်ပြင်၊ လက်ပံပင်တိ၊ တိုင်းခွင်ပိုင်ကား၊ မင်းလေးပါးတို့၊ တရားစောင့်သုံး၊ ချည်လုံးရွဲနွား၊ မယားသားလု၊ ရထားမှုဟု၊ ပေါင်းစုစီလျဉ်၊ စကားစဉ်နှင့်၊ ဉယျာဉ်သည်အား၊ ပုဏ္ဏားအဆွေ၊ ရွှေငွေအပ်နှံ၊ မွေခံရင်သား၊ နဂါးမလွတ်၊ ကျွန်ဖွယ် ကျွန်လိပ်၊ အဆိပ်မှိုဟင်း၊ ငါးကြင်းတင်ကျီး၊ ဆင်စီးပျားဖွတ်၊ လူသွတ်တောသွား၊ ·ရှင့်ဖား ခင်ထိတ်၊ နတ်ဝိဇ္ဇာမိုရ်၊ လူ့ကို သက်သွင်း၊ ယာခင်းကြံပင်၊ ကြောင်ဝင်မီးဖြစ်၊ သစ်ထစ်ကွမ်းတင်၊ ချည်မြှင်စွပ်ကျေး၊ ကြောင်ခွေးမြွေပါ၊ ဟသာ်ကိုးသောင်း၊ အပေါင်း ဆွေမျိုး၊ လက်ညှိုးရှည်တို၊ ချိုးဖိုချိုးမ၊ ယက္ခဘီလူး၊ နှစ်ဦးရွှင်ပျော်၊ ပူဇော်ထိုက်လိုက်၊ ခတ်ရိုက်စည်တီး၊ ငှက်ပျောဖီးနှင့်၊ အုန်းသီးလဲထား၊ မျိုးနွားကြက်ငှက်၊ သစ်ခက်သစ်ပင်၊ ယာတွင်ခုတ်မှု၊ သားလု မြွေဖမ်း၊ ချောက်ကမ်းသွားလာ၊ သခွားသစ်သီး၊ ကျီးနှင့်ခင်ပုပ်၊ ငွေထုပ်ခွေးချီ၊ ရွှေနီကားကြေး၊ ရင်သွေးမျောက်ညို၊ သံကိုကြွက်စား၊ သားကိုစွန်သုတ်၊ ညင်းမှုတ်မျောက်ငယ်၊ ရေဝယ်ကျောက်ကူး၊ ·တွင်းတူးလူအောင်း၊ သူကောင်း သွေးသောက်၊ နှစ်ယောက် လက်လွန်၊ ကျေးကျွန်အားထုတ်၊ သမုဒ်ရေခြား၊ သားကိုဆယ်ရ၊ ဤသို့စကား၊ ခမ္မဖြတ်ချက်၊ ကျမ်းဂန်ထွက်ကို၊ ခွဲဝက်စုံလင်၊ စိတ်ဆင်ခြင်၍...

းသည်ဖြင့် စပ်ဆိုခဲ့လေသည်။ အမတ်ကြီးသည် ကျင့်ဝတ်ကျင့်ဖွယ် ကြီးငယ် အလတ် ခမ္မသတ်ကျမ်းများ၌သာ ကျွမ်းကျင်သည် မဟုတ်၊ သေနင်္ဗျူဟာဟု ခေါ်သော းဆင် စစ်တက်နည်းမှစ၍ စစ်အကြောင်းနှင့် ပတ်သက်ပြဆိုသော ကျမ်းများ၌လည်း ကျွမ်းကျင်သည်ဖြစ်ရကား တိုင်းရေးပြည်ရေး စစ်မက်အင်္ဂါအုပ်ချုပ်ရေးတို့၌ အမတ် ကြီး သည် မည်မျှနိုင်နင်းကြောင်းကို ဗျူဟာစက္ကိပျို့၊ နန္ဒိသေနပျို့၊ သေနင်္ဂလင်္ကာများက သက်သေခံလျက် ရှိပေသည်။ ဤပျို့များတွင် စစ်ဆင်စစ်တက်ပုံ အခမ်းအနားများ၊ းင်သူရဲတို့ လိုက်နာအပ်သော ဝတ္တရားများ၊ စစ်သူရဲများအား စီမံခန့်ခွဲပုံများကို ကျက်ကွက်ကွင်းကွင်း ပေါ်လွင်အောင် ဖွဲ့နွဲ့၍ ထားလေသည်။ အမတ်ကြီးသည် ချို့များ အပြင် မော်ကွန်းပေါင်း များစွာတို့ကိုလည်း ပြုစုသေး၏။

စပယ်ဦးစာပေ

တွေ့ရှိ ဖတ်ရှုရသမျှတို့ကား ဘိုးတော် မုဒ္ဒါဘိသေက မော်ကွန်း၊ နိဗ္ဗာန ပစ္စယဆင်တော် မော်ကွန်း၊ ရတနာပူရ အင်းဝပြည်တော်ကြီးလာ မော်ကွန်း၊ ပြည်တော်ဝင်မော်ကွန်း၊ မဟာဝိဇယရံသီ စည်းခုံတော်တည် မော်ကွန်း၊ မင်းကွန်း စေတီတော် မော်ကွန်း၊ ဓညဝတီနိုင် မော်ကွန်းများ ဖြစ်သည်။ ဤမော်ကွန်းများ အပြင် အမတ်ကြီး ဖွဲ့ဆိုသော စာများ မြောက်မြားစွာ ရှိသေးသည်။ ထိုစာများ သည်ကား ၈၀–ပေါ် အဲရိုးများ ဖေးစကြာရောက် ရတုနှင့် လူးတားများ ဖြစ်သည်။ အမတ်ကြီးသည် စိန္တကျော်သူ ဦးသြကဲ့သို့ မင်းခြောက်ဆက်ကို မီသော ပုဂ္ဂိုလ် ဖြစ်သည်။ ဘိုးတော်မင်းတရား လက်ထက် မြို့ဝန်ခန့်၍ 'မဟာသီဟသူရ' ဘွဲ့ကို ခံယူပြီးသည်နောက် မင်းကွန်းတွင် ကွယ်လွန်လေသည်။

မြန်မာ စာဆိုလောကကြီးတွင် မင်းလက်ဝဲသုန္ဒရကိုလည်း နိုင်ငံကျော် စာဆိုကြီးအဖြစ် မှတ်တမ်းတင်ရပေမည်။ အမတ်ကြီးသည် ကဗျာလင်္ကာ ကျမ်းဂန် ဓမ္မသတ်များတွင် အဘက်ဘက်က သိမြင်နှံ့စပ်သော စွယ်စုံပုဂ္ဂိုလ်ကြီး ဖြစ်သည်။ အဘက်ဘက်တွင် စိန္တကျော်သူ ဦးသြထက်သာသည်ဟု ဆိုရပေမည်။ ဤပုဂ္ဂိုလ်ကြီး ရေးသားသမျှသော စာများမှာ ဗဟုသုတဖြစ်ဖွယ်၊ လိမ္မာရေးခြားရှိဖွယ် အကြောင်း အရာများနှင့် ပြည့်နှက်လျက် ရှိ၏။ စာဆိုလောကကြီးကို တစ်နည်းတစ်ဖုံအာ ဖြင့် ထွန်းလင်း ပြည့်ဖြိုးအောင် အမျိုးမျိုးသော ကျမ်းဂန်တို့ကို အပတ်တကုတ် ရေးသား ပြုစုခဲ့သည့်အတွက် မြန်မာလူမျိုးတို့၏ ယဉ်ကျေးမှုသည် ထိုခေတ်ကစ၍ သိသိသာသာ ကြီးပင် တိုးတက်လာကြောင်းကို မည်သူတစ်ဦးတစ်ယောက်မျှ ငြင်းဆိုနိုင်လိမ့်မည် မထင်မိပေ။

## အလောင်းမင်းတရားကြီး အရေးတော်ပုံကျမ်း

ဓညဝတီအရေးတော်ပုံ၊ ရာဇာဓိရာဇ် အရေးတော်ပုံ၊ ဆင်ဖြူများရှင် အရေးတော်ပုံ၊ ညောင်ရမ်းမင်းတရားကြီး အရေးတော်ပုံနှင့် အလောင်းမင်းတရားကြီး အရေးတော်ပုံဟူ၍ ထင်ရှားသော အရေးတော်ပုံကြီး ငါးစောင်မျှ ရှိရာ အလောင်းမင်း တရားကြီး အရေးတော်ပုံသည် နောက်ဆုံးပေါ်ပေါက်သော ကျမ်းဖြစ်၍ အထက်က ပေါ်ခဲ့ပြီးသော ကျမ်းများထက်လည်း စုံစုံလင်လင် ရှိပေ၏။ အလောင်းမင်းတရား ကြီး၏ အရေးပုံတော်ကျမ်းကို ရန်ကုန်မြို့၊ ဟံသာဝတီ သတင်းစာတိုက်က စာအုပ် ပြုလုပ် ရိုက်နှိပ်၍ ရောင်းချခဲ့သော်လည်း ကျမ်းပြုသူ၏ အမည်နာမ, ဂုဏ် အရည်

အချင်းတို့ကို စာအုပ်နိဒါန်းတွင် ဖော်ပြခြင်း မရှိ။ အလောင်းမင်းတရားကြီး လက်ထက်တွင် ပညာရှိတစ်ဦး ရေးသားခဲ့သည်ဟုသာ ဖော်ပြထားလေသည်။ ပိဋကတ် သုံးပုံ၊ စာတန်းဦးရေ ၂၀၃၅-တွင်ကား အလောင်းမင်းတရားကြီး၏ အရေးတော်ပုံကျမ်းကို အလောင်းမင်းတရားကြီး လက်ထက် သံတော်ဆင့် 'လက်ဝဲနော်ရထာ' စီရင်သည်ဟု ပါရှိရကား ဤစကားသည် ခိုင်လုံသည်ဟု ယူဆရပေမည်။ သို့သော် ဤသံတော်ဆင့် လက်ဝဲနော်ရထာသည် ဤကျမ်းတစ်စောင်တည်းကိုပင် ရေးသားခဲ့သလော၊ အခြားကျမ်းများကိုလည်း ပြုစုသေးသလောဟု ရှာဖွေစုံစမ်းသော် ဆင်ဖြူရှင်လက်ထက် ယိုးဒယားနိုင် မော်ကွန်းကိုလည်း ရေးသားကြောင်း တွေ့ရလေသည်။

အချို့ ဆရာတို့ကမူကား အလောင်းမင်းတရားကြီး အရေးတော်ပုံနှင့် ယိုးဒယားနိုင် မော်ကွန်းတို့ကို ရေးသော လက်ဝဲနော်ရထာ ဟူသည် လက်ဝဲသုန္ဒရပင် ဖြစ်သည်။ ဦးမြတ်စံသည် လက်ဝဲသုန္ဒရဘွဲ့ကို ရပြီးနောက်မှ လက်ဝဲနော်ရထာ ဘွဲ့ကို ထပ်မံရပြန်သည်။ လက်ဝဲနော်ရထာဘွဲ့ခံ အခြားသူ မရှိဟု မှတ်ယူပြောဆို ကြကုန်၏။ လက်ဝဲနော်ရထာ လျှောက်ထုံးကျမ်း၏ နိဂုံးမှာကား ခမည်းတော် အလောင်းမင်းတရားကြီး လက်ထက် လက်ဝဲနော်ရထာ ဟူသော ဘွဲ့ကို ရ၍ သားတော်ကြီး ကန်တွင်းစည်းခံ့စေတီတော် ဒါယကာ မင်းတရားလက်ထက် စည်သူကျော်ထင် ဘွဲ့ကို ရသော ပညာရှိအမတ်သည် ကတ်သတ် လွှို့ဝှက် ခဲခက် သော အကြောင်းအရာ အဖြာဖြာတို့ကို မ,တစ်လုံး ကြေသည်ဟု ထင်ပေါ်ကျော်စော တော်မူသော တောင်တွင်းကြီး ဆရာတော် ခင်ကြီးဖျော်ထံ လျှောက်ထား၍ ဖြေကြားတော်မူသမျှ အရပ်ရပ်တို့ကို စေ့စပ်သေချာ ကောင်းစွာစီစဉ်ပြုစုအပ်သော ကျမ်းသည် ၁၁၂၅-ခုနှစ်၊ ဝါခေါင် လပြည့်ကျော် ၈-ရက်၊ တနင်းလာနေ့၌ ပြီးဆုံးကြောင်းကို ပါဠိနိဿယ ဖော်ပြ ရေးသားထားလေသည်။ ဤရေးသားချက်ကို ထောက်သော် အလောင်းမင်းတရားကြီး လက်ထက်တွင် လက်ဝဲနော်ရထာဘွဲ့ကို ရ၍ သားတော်ကြီး လက်ထက်မှာ စည်သူကျော်ထင်ဘွဲ့ကို ရသော အမတ်တစ်ဦး ရှိကြောင်း ထင်ရှားသိသာ၏။ ထိုအမတ်သည် လက်ဝဲသုန္ဒရအမတ်ကြီးပင် ဖြစ်သည်ဟု ဆိုရမည်လည်း ခဲယဉ်း၏။ အကယ်၍သာ လက်ဝဲသုန္ဒရ အမတ်ကြီး ဖြစ်ပါလျှင် လက်ဝဲသုန္ဒရဘွဲ့ကိုလည်း ရကြောင်းကို ပြခဲ့ပြီးသော လျှောက်ထုံး နိဂုံးမှာ ထည့်သွင်းပြဆိုရာသည်။ ပြလည်း မပြဆိုသောကြောင့် လက်ဝဲသုန္ဒရ အမတ်မဟုတ်သော လက်ဝဲနော်ရထာ ဘွဲ့ရ အမတ်ရှိသည်။ ထိုအမတ်သည်ပင်

ယိုးဒယားနိုင် မော်ကွန်းနှင့် အလောင်းမင်းတရားကြီး အရေးတော်ပုံများကို ရေးခဲ့သည်ဟူ၍သာ မှတ်ယူသင့်လေသည်။ အလောင်းမင်းတရားကြီး အရေးတော်ပုံကျမ်းဦး ပဏာမဟွင် . . .

ရတနာပူရ အင်းဝမင်းတို့၏ အစဉ်ကို ဆိုပြီး၍ ယခုအခါ အလောင်းမင်းတရား၏ အရေးတော်ပုံ အတ္ထုပ္ပတ္တိကို အကျဉ်းမျှ ရေးပေအံ့။

ဟူ၍ ပြဆိုသည့်အတိုင်း ဤအရေးတော်ပုံ ကျမ်းပြုဆရာသည် ဤကျမ်းအပြင် အင်းဝမင်းတို့၏ အကြောင်းကိုလည်း ကျမ်းတစ်စောင် ရေးသားပြီးစီးခဲ့ကြောင်း ထင်ရှားသည်။ ဤကျမ်းသည် အလောင်းမင်းတရားကြီး အရေးတော်ပုံ မပေါ်မီ ပေါ်ပေါက်သော ညောင်ရမ်းမင်း အရေးတော်ပုံကို ဆိုလိုသလောဟု တွေးတောဖွယ် ဖြစ်၏။ ဤအရေးတော်ပုံမှာ အလောင်းမင်းတရားကြီး၏ စစ်မက်ရေးရာများကိုသာ ဖွဲ့ဆိုသည် မဟုတ်ဘဲ ဖတ်ရှုသူအပေါင်းတို့တွင် ရဲစိတ်ရဲမာန် တဖွားဖွားတက်ကြွရန် မြန်မာများ၏ ဘုန်းတန်ခိုး လက်ရုံးရည်များကိုလည်း ထည့်၍ ဖွဲ့ဆိုသဖြင့် ချောင်းကဲ့သို့ပင် ဖတ်ရှုရသူတို့၏ စိတ်တွင် ထကြွထိခိုက်စေ၏။ ချောင်းစာကို စကားပြေဖြင့် ပြန်၍ ရေးထားသကဲ့သို့ပင် ဖြစ်၍ မြန်မာပြည်၏ ခေတ် သားသမီးတို့ကို ချက်စိပွင့်လင်းအောင် ပြုလုပ် ဖန်တီးပေးသည့် စာစောင်များတွင် ဤအရေးတော်ပုံကျမ်းကြီးကိုလည်း တစ်စောင်အပါအဝင်အဖြစ် မှတ်တမ်းတင်ထိုက်ပေသည်။

ရာဇာဓိရာဇ် အရေးတော်ပုံနှင့် အလောင်းမင်းတရားကြီး အရေးတော်ပုံကျမ်းနှစ်စောင်ကို နှိုင်းယှဉ်တော် ရာဇာဓိရာဇ် အရေးတော်ပုံကျမ်းသည် မွန်ဘာသာဖြင့် ရေးသား စီရင်ထားသော ကျမ်းမှ ဘာသာပြန်ရခြင်း ဖြစ်သောကြောင့် စကားအသွားအလာ အဖွဲ့အနွဲ့များမှာ အလောင်းမင်းတရားကြီး၏ အရေးတော်ပုံလောက် မပြေပြစ်လှချေ။ ထိုအပြင်လည်း ဘာသာပြန်ဆိုသည့် ဗညားဒလသည် မွန်အမတ်ကြီးဖြစ်၍ မြန်မာဘာသာတွင် မင်းလက်ဝဲ နော်ရထာလောက် စကားအသုံးအနှုန်းကို နိုင်နင်းဟန်မတူ။ အလောင်းမင်းတရားကြီး အရေးတော်ပုံမှာ ဖွဲ့နွဲ့ပုံ ခမ်းနားပြေပြစ်၍ ပေါ်ရာဏ စကားများ ကွယ်ဝှက်သော အနက်ရှိသည့် စကားများသည် ဗညားဒလရေး ရာဇာဓိရာဇ် အရေးတော်ပုံမှာလောက် မပေါ်များချေ။ ဇာတိသွေး ဇာတိမာန်ကို ရာဇာဓိရာဇ် အရေးတော်ပုံထက် ပိုမိုထိခိုက် လှုံ့ကြွစေသည်။ တပ်ဆင် ဟပ်ခွဲပုံ၊ စစ်ဆင် စစ်တက်ပုံများကိုလည်း ကွက်ကွက်ကွင်းကွင်း ရှင်းလင်းပြတ်သားစွာ ဖော်ပြပေသည်။

ကုန်းဘောင်ခေတ် ပထမပိုင်းတွင် ကဗျာစာပေများမှအပ ထူးခြား အဖိုးတန်လှပေသော ဓမ္မသတ် ကျမ်းကြီးများလည်း အစောင်စောင် ပေါ်ထွန်းကြသည်။ ဤကျမ်းကြီးများကို အလေးဂရုပြု၍ ရေးသားစီရင်ကြကုန်သော ပုဂ္ဂိုလ်တို့သည် ထင်ပေါ်ကျော်စောသော ခုံတရားသူကြီးများ ဖြစ်ကြသည်။ ဓမ္မသတ်ကျမ်းများ ပေါ်ပေါက်သည်ကို ထောက်သော် ကုန်းဘောင်ခေတ်တွင် အုပ်စိုး မင်းပြုကြကုန်သော မင်းအပေါင်းတို့သည် တိုင်းပြည်အေးချမ်း သာယာအောင် တရားနှင့်အညီ စိုးစံတော်မူကြကြောင်း ထင်ရှားသည်။ ထိုကြောင့်သာလျှင် တရားအချွတ်အယွင်း မရှိရအောင် တရားရုံးတော်များ၌ အသုံးပြုရန် ဓမ္မသတ်ကျမ်းကြီးများကို ပြုစုကြကုန်သည်။

## ကျုံးဝန် ဘုမ္မဇေယျ

မင်းလက်ဝဲသုန္ဒရ၊ လက်ဝဲနော်ရထာတို့နှင့် တစ်ခေတ်တည်း ပေါ်ပေါက်သော ပညာရှိအမတ်ကြီး ကျုံးဝန်ဘုမ္မဇေယျသည်လည်း မနုကျယ် ဓမ္မသတ်ကျမ်းကြီးကို သက္ကရာဇ် ၁၁၁၅–ခုနှစ် ရတနာသိယ် ကုန်းဘောင်မြို့တည် အလောင်းမင်းတရားကြီး လက်ထက်တော်တွင် စီရင်ရေးသား ပြုစုသည်။ ဤပညာရှိ ကျုံးဝန်ကြီး၏ မိဘ မည်ရည်နှင့် ဖွားသက္ကရာဇ်ကို မသိရှိရပေ။ အလောင်းမင်းတရားကြီးလက်ထက်တွင် **မဟာသီရိဥတ္တမဇေယျသင်္ကြံ** ဘွဲ့ကို နှင်းအပ်ခြင်း ခံရကြောင်းကိုသာ သိရလေသည်။ မနုကျယ် ဓမ္မသတ်ကျမ်းကြီးသည် မနုရသေ့ စီရင်သော ပါဠိဘာသာဖြင့် ရှိသည့် မနုကျမ်းရင်း ၁၀–တွဲကို ရှင်လူအများတို့ ခွဲခြား နားလည်နိုင်ကြစေရန် တစ်ဆယ့်ရှစ်ပိုင်း ပိုင်း၍ စကားပြေဖြင့် အကျယ်ရေးသား ထားသော ကျမ်းဖြစ်သောကြောင့် အခြားကျမ်းများထက် ကြည့်ရှုရန် လွယ်ကူပေသည်။

ကျုံးဝန်ကြီး၏ ဓမ္မသတ်ကျမ်းကို ကြည့်ခြင်းအားဖြင့် မနုအမည်ဖြင့် လာသော ဓမ္မသတ် အစောင်စောင်တို့ကို ကြည့်ရှု မှတ်သားရသည်နှင့်အတူ တရားစီရင်ထုံးအပေါင်းတို့ကို သိရှိနိုင်ပေသည်။ မြစ်ကြီးငါးသွယ်၊ မြစ်ငယ်ငါးရာတို့သည် ပင်လယ်တွင်းသို့ စီးဝင်သကဲ့သို့ ဓမ္မသတ်ကျမ်းကြီး၊ ဓမ္မသတ်ကျမ်းငယ် အစောင်စောင်တို့သည်လည်း အလုံးစုံပင် ကျုံးဝန်ကြီး၏ မနုကျယ် ဓမ္မသတ်ကြီးအတွင်း၌ သက်ဆင်း ပါဝင်ကြကုန်သည်ဖြစ်၍ ဤကျမ်းတစ်စောင်ကို ကြည့်ရှုခြင်းအားဖြင့် အခြားကျမ်းငယ်အပေါင်းလာ အကြောင်းအရာတို့ကို ခြုံ၍ သိနိုင်ပေတော့သည်။ ဤကျမ်းကြီးကိုပင် မြန်မာမင်းတို့ အစဉ်အဆက် သီပေါမင်းတိုင်အောင် လက်စွဲ

ပြု၍ တရားစီရင်သည်သာမက အင်္ဂလိပ်မင်းလက်ထက်တွင်လည်း အသုံးပြုကြသေးသည်။ မနုကျယ် ဓမ္မသတ်ကျမ်းကြီးကို ဖတ်ရှုရခြင်းဖြင့် ရှေးရှေးသော မင်းတို့၏ တရားလမ်းကြောင်းများကိုလည်း သိရသည့်အပြင် မြန်မာနိုင်ငံ၊ မြန်မာလူမျိုးတို့၏ ယဉ်ကျေးသိမ်မွေ့ပုံကိုလည်း ကွင်းကွင်းကွက်ကွက် ပေါ်လာအောင် သိရှိနိုင်သောကြောင့် များစွာ ဗဟုသုတ အကျိုးဖြစ်ထွန်းဖွယ်ရာ ရှိသည်။

ဤဓမ္မသတ်ကျမ်းတွင် ပါသော ဖြတ်ထုံးဥပဒေများကို ဆိုင်ရာဝတ္ထုတိုကလေးများနှင့်တကွ စီစဉ် ရေးသားထားသောကြောင့် ဖတ်ရသူတို့တွင် မငြီးငွေ့ဘဲ မှတ်ဉာဏ်ဖြစ်ပေါ်စေနိုင်သည်။ ဤတရားကျင့်ထုံး ဥပဒေကို နားလည်ခြင်းအားဖြင့် ဖတ်ရှုရသူတို့သည် သိမ်မွေ့နူးညံ့ပြီးလျှင် ပညာရဲရင့်၍ ပွဲလယ်တင့်ကြကုန်သည်။ မနုကျယ် ဓမ္မသတ်ကြီးကို သာလွန်မင်းတရားကြီးလက်ထက် ကိုင်းရွာစား မနုရာဇာ ရေးသားပြုစုသော မဟာဓမ္မသတ်ကြီးနှင့် မမှားသင့်ကြပေ။ ကိုင်းရွာစား မနုရာဇာ စီရင်သော ဓမ္မသတ်ကြီးကို မဟာရာဇသတ်ကြီး ဟူ၍လည်းကောင်း၊ မနုရာဇာ လျှောက်ထုံးဟူ၍လည်းကောင်း ခေါ်ဝေါ်သည်။ ထိုမနုရာဇာ၏ ဓမ္မသတ်သည် ဤကျုံးဝန် ဘုမ္မဇေယျ၏ မနုကျယ် ဓမ္မသတ်ကြီးလောက် မစုံလင်လှပေ။ သာလွန်မင်းတရားကြီး မေးမြန်းရာကို မနုရင်း ဓမ္မသတ်ကျမ်းမှ ထုတ်နုတ် လျှောက်ထားချက်များသာ ဖြစ်သည်။ ထို့ကြောင့် မနုရာဇာ လျှောက်ထုံးဟူ၍ပင် ခေါ်ဝေါ်ကြသည်။

## ရွှေတောင် သီဟသူ

အလောင်းမင်းတရားကြီး၏ လက်ထက်တွင် ကဗျာ လင်္ကာ၊ ဓမ္မသတ်၊ ရာဇသတ်ကျမ်းများမှအပ ဇာတ်ဝတ္ထုတစ်ခုလည်း ပေါ်ပေါက်ပေသေးသည်။ ထိုဝတ္ထုသည် ရတနာကြေးမုံဝတ္ထု ဖြစ်သည်။ ထိုဝတ္ထု၏ ပဏာမ နိဒါန်းတွင်...

> တစ်သောင်းသော လောကဓာတ်တို့ကို အစိုးရတော်မူသော ဘဝရှင် အလောင်းမင်းတရားကြီး ဘုရား၏ အဂ္ဂမဟာသေနာပတိ ဖြစ်သော မဟာနေမျိုးသီဟသူ ဟူသော ငါးစို့ဝန် မင်းတိုင်ပင် ပညာရှိ အမတ်တော်ကြီးသည် စေသုံးတော်မူရာတွင် ပွင့်လန်း၊ ရှင်မြူး၊ ကြည်နူးသော စေတနာဖြင့် စကားပြေအစဉ်တွင် စကားယဉ်အစုံ ထုံးပုံကို ဥဒါဟရဏ် ဆောင်ရွက်နိုင်သော ရွှေတောင်သီဟသူ အမည်ရှိသော ကျွန်ုပ်သည်...

သည်ဖြင့် ပြဆိုသည်ကို ထောက်သော် ရတနာကြေးမုံ ဝတ္ထုကို စီရင်ရေးသားသော ဆရာသည် ရွှေတောင်သီဟသူ ဖြစ်သည်ဟူ၍ သိရ၏။ အဂ္ဂမဟာ သေနာပတိ ဖြစ်သော နေမျိုးသီဟသူက တိုက်တွန်းစေခိုင်းသောကြောင့် ရေးသားရကြောင်းကို လည်း သိရ၏။ အလောင်းမင်းတရားကြီး၏ လက်ထက်တော်တွင် ရေးသားရ ကြောင်းကိုလည်း သိရ၏။ သို့သော် ထိုစာကို စတင်ရေးသားသော သက္ကရာဇ်၊ စာပြီးဆုံးသော သက္ကရာဇ်ကိုကား ဖော်ပြထားခြင်းမရှိသဖြင့် မသိရှိရပေ။ ဤစာနှင့် ပတ်သက်သော အကြောင်းအရာများသာ မဟုတ်၊ စာရေးဆရာ ရွှေတောင် သီဟသူ၏ မွေးဖွားရာအရပ်၊ မွေးဖွားသည့် ခုနှစ်သက္ကရာဇ်၊ မျိုးရိုးဇာတိကိုလည်း မသိရပေ။

ရတနာကြေးမုံ ဝတ္ထုကို နန်းတွင်းဇာတ်ဝတ္ထုဟု ဆိုသင့်သော်လည်း ရေးသား ပုံများသည် အိနောင်၊ ရာမ၊ ဝိဇယ၊ ကာရီ စသော နန်းတွင်းဇာတ်တော်ကြီးများနှင့် လည်း မတူ။ ဦးကြင်ဥ၊ ဦးပုညတို့ ရေးသားထားသော ဒေဝကုမ္ဘန်ပြဇာတ်၊ ဝိဇယ ပြဇာတ်တို့နှင့်လည်း မတူ။ ရာမ၊ အိနောင် စသော နန်းတွင်း ဇာတ်တော်ကြီးများတွင် ဇာတ်ချင်းများနှင့်တကွ ဇာတ်တွင် ပါဝင်သူ တစ်ဦးနှင့်တစ်ဦး စကားပြောဆိုကြ ခြင်းဖြင့်သာ ဇာတ်လမ်းကို ထင်ရှားစေသည်။ ထိုသူတို့ ပြောဆိုသော စကားများ ကိုလည်း လင်္ကာသွားဖြင့်သာ ရေးသားထားသည်။ ဒေဝကုမ္ဘန်၊ ဝိဇယပြဇာတ်များမှာ နန်းတွင်းဇာတ်တော်ကြီးများလောက် ရှည်လျားခြင်း မရှိသော်လည်း ရေးသားပုံ စီစဉ်ပုံသည် နန်းတွင်း ဇာတ်တော်ကြီးများနှင့် အလားတူပင် ဖြစ်သည်။ ရတနာ ကြေးမုံ ဝတ္ထုမှာ ဝတ္ထုကြောင်းကို ကာလပေါ် ဝတ္ထုများမှာကဲ့သို့ ရေးသားဖော်ပြ ထားသည်။ သို့သော် ဝတ္ထုတွင် ပါဝင်သူတို့ တစ်ဦးနှင့်တစ်ဦး စကား ပြောဆိုကြ သော နေရာတွင်ကား လင်္ကာသွားဖြင့် ရေးသားဖော်ပြထားသည်။ ဤဝတ္ထုသည် လင်္ကာနှင့် စကားပြေ နှစ်ထွေ ရောစပ်၍ထားသော အဖွဲ့မျိုးကို တွေ့မြင်ဖတ်ရှု ရသည်။ အင်းဝခေတ် ရှင်မဟာသီလဝံသရေး ပါရာယနဝတ္ထု၊ ညောင်ရမ်း ခေတ် ရှင်ဝရာဘိသင်္ဃနာထ ဆရာတော်ရေး မဏိကုဏ္ဍလ ဝတ္ထုတို့နှင့်လည်း ရတနာ ကြေးမုံဝတ္ထုသည် ရည်ရွယ်ချက်မှစ၍ ဖွဲ့နွဲ့ပုံများ၌ များစွာ ကွာခြားလေတော့၏။

အင်းဝခေတ် ညောင်ရမ်းခေတ်ပေါ် ဝတ္ထုများမှာ တရားကြောင်း သက်သက် ဖြစ်သော ဘုရားဟော ဇာတ်တော်များကို မြန်မာစကားပြေဖြင့် တန်ဆာဆင်၍ ရေးသားထားခြင်း ဖြစ်သည့်ပြင် ဤကဲ့သို့ တစ်ဦးနှင့်တစ်ဦး ပြောသော စကား များကို တိုက်ရိုက် အချင်းချင်းပြောပုံ စကားဖြင့် မရေးသားချေ။ ထိုပြင် ဘုရားဟော

နိပါတ်တော်လာ ဝတ္ထုများဖြစ်သောကြောင့် ကာမဂုဏ်မဘက် တရားသက်သက်ပင် ဖြစ်၏။ ရတနာကြေးမုံသည်ကား ကာမ–ကိလေသာနှင့် စပ်သော ဝတ္ထုဖြစ်သောကြောင့် ပြဒါးတစ်လမ်း သံတစ်လမ်းမျှ ကွာခြား၍နေတော့သည်။ ရတနာကြေးမုံဝတ္ထုတွင် ထူးခြားသော အချက်တစ်ချက်ကား ဇာတ်ဝတ္ထုတွင် ပါဝင်သော ဝေဠုမြတ်စွာ မင်းသမီးကလေး၏ သိမ်မွေ့နူးညံ့ပုံကို အလွန်အမင်းဖွဲ့ထားခြင်း ဖြစ်သည်။ ထိုမင်းသမီးကလေးအပေါ်တွင် နေပြောက်တစ်ချက် ထိုးရုံနှင့်ပင် မင်းသမီးကလေးသည် အလွန်ညှိုးနွမ်း၍ သွားသောကြောင့် အနောတတ်အိုင်မှ သီတာရေချမ်းဖြင့် ပက်ဖျန်းပါမှ ပြန်၍ ရှင်လန်းလာကြောင်း၊ ထိုပြင် ဝေဠုမြတ်စွာမင်းသမီးကလေး၏ ခန်းဆောင်ထဲတွင် လိပ်ပြာတစ်ကောင် ဝင်နေ၍ ထိုလိပ်ပြာ၏ အတောင်ခတ်သောလေအဟုန်ဖြင့် မင်းသမီးကလေး၏အသား စပ်ပြီးလျှင် မခံရပ်နိုင်အောင် ဖြစ်ကြောင်းများကို ဖတ်ရှုရသောအခါ စာရေးဆရာသည် အရေးလွန်လွန်းလှသည်ဟူ၍ တွေးထင်ကောင်း တွေးထင်ကြပေလိမ့်မည်။ သို့သော် နန်းတွင်းသူတို့၏ နူးညံ့သိမ်မွေ့ဟန်ကို ပေါ်လွင်စေရန် ကြံကြံဖန်ဖန် စိတ်ကူးထုတ်၍ ဖွဲ့နွဲ့ထားသောကြောင့် စာရေးဆရာကို အပြစ်မဆိုသာချေ။ ထိုသူ၏ စိတ်ကူးဆန်းကြယ်ပုံကိုသာ ချီးမွမ်းရပေမည်။

ရတနာကြေးမုံ ဝတ္ထုမှာ ဣန္ဒကုမ္မာရ မင်းသားသည် ဣန္ဒာဝံသ၊ အီနောင်စသော မင်းသားတို့ကဲ့သို့ ကြင်ရာများစွာ မထားဘဲ ဝေဠုမြတ်စွာ မင်းသမီးတစ်ပါးကိုသာ စွဲစွဲမြဲမြဲ ချစ်ခင်ကြောင်း ထင်ရှားအောင် စီစဉ်ထားသောကြောင့် ယခုခေတ်ပေါ်ဝတ္ထုမျိုးနှင့် ဆင်ဆင်တူသည်။ ယခုခေတ် သဘောမျိုးနှင့်လည်း လိုက်လျောညီညွတ်ပေသည်။ အခြားနန်းတွင်း ဇာတ်တော်ကြီးများနှင့် မတူသော အချက်လည်း တစ်ချက်ရှိသေး၏။ ထိုအချက်ကား အခြားမဟုတ်။ ပင်တိုင်ဇာတ်အတွင်းတွင် ဥပမာအဖြစ်ဖြင့် ဝတ္ထုတို၊ ဇာတ်တိုကလေးများကို ညှပ်ကာ ညှပ်ကာ ထည့်သွင်းထားခြင် ပင် ဖြစ်သည်။ ဤဝတ္ထုတို၊ ဇာတ်တိုကလေးများသည်လည်း ဒဏ္ဍာရီပုံပြင်ကလေ များသာ ဖြစ်သောကြောင့် စာဖတ်သူတို့၏ စိတ်ကို ငြီးငွေ့ခြင်း၊ ထိုင်းမှိုင်းခြင်းမှ ကင်းကွာအောင် ဖန်တီးပေးလေတော့သည်။ တစ်ချက်ခုတ် နှစ်ချက်ပြတ်ဆိုသော စကားကဲ့သို့ ဤတစ်ဇာတ်ကို ဖတ်ရုံမျှဖြင့် ဇာတ်အဖုံဖုံ၊ ဝတ္ထုအမျိုးမျိုးတို့ကို ဖတ်ရှုမှတ်သားရသည်၊ ဤဝတ္ထုတွင် ဝေဠုမြတ်စွာ မင်းသမီးကလေး၏ အထိန်းတော်များဖြစ်ကြသော ရာသီ၊ မုတ္တာတို့က တစ်ဘက်၊ ဣန္ဒာကုမာရ မင်းသား၏ လူဖျိုတော်များ ဖြစ်ကြသော ပညာ၊ ဟာသတို့က တစ်ဘက် အချေအတင် ပြောဆိုကြသောစကားများနှင့် အထိန်းတော်ကြီးများက ဝေဠုမြတ်စွာ မင်းသမီးကလေးအား နားချသော

စကားများသည် အလွန်ပင် မှတ်သားဖွယ် ကောင်းသည်။ ရတနာကြေးမုံ ဇာတ်ဝတ္ထုကြီးတွင် အခြားဇာတ်ဝတ္ထုကြီးများကဲ့သို့ပင် စကားအချေအတင် ပြောဆိုရာ၌ တစ်ဘက်သား မလှန်နိုင်အောင် ပြောဆိုပုံများသည် လွန်စွာ ထိထိရောက်ရောက် ရှိလှ၏။

## အတွင်းဝန် ဝဏ္ဏဓမ္မကျော်ထင်

ကုန်းဘောင်ခေတ်တွင် ဓမ္မသတ်ကျမ်းများ အများအပြား ပေါ်ပေါက်လျက်ရှိကြောင်းကို အထက်၌ တစ်တန်ဆိုပြီးလေပြီ။ ဓမ္မသတ်ကျမ်းပြုဆရာတို့အနက် အတွင်းဝန် ဝဏ္ဏဓမ္မကျော်ထင်သည်လည်း အထူးထင်ရှား ကျော်စောသော ပုဂ္ဂိုလ်ဖြစ်သည်။ အတွင်းဝန်မင်းသည် ပုခန်းကြီးမြို့ စီရင်စု ဖျာသီးရွာဇာတိ၊ ငယ်မည် မောင်မြတ်အောင်ဖြစ်သည်။ ငယ်စဉ်ကပင် သာမဏေပြု၍ ကျမ်းဂန် ဓမ္မသတ်များကို လေ့လာဆည်းပူးသည်။ သက္ကရာဇ် ၁၁၂၅–ခုနှစ် ရတနာပူရ တတိယမြို့တည် ဆင်ဖြူရှင် မင်းတရားလက်ထက် ရတနာပူရမြို့ မိုးကောင်း တံခါးအတွင်း ဝေယန်သာ လွတ် တိုက်ကျောင်းတွင် ရဟန်းအဖြစ်နှင့် သီတင်းသုံးသည်။ ထိုစဉ်အခါကလည်း ဓမ္မသတ်ကျမ်းများကို လေ့လာလိုက်စားခဲ့ပြန်သည်။ ထိုနောက် သာသနာ့ဘောင်တွင် ငြီးငွေ့သောအားဖြင့် လူဝတ်လဲပြီးလျှင် ဆင်ဖြူရှင်ဘုရားထံမှာ ထမ်းရွက်ရာ သားတော်အကြီး စဉ့်ကူးမင်းသားထံတွင် 'ဝဏ္ဏဓမ္မကျော်ထင်' ဘွဲ့နှင့် အကြီးတော် အရာခန့်သည်။ ထိုနောက် စဉ့်ကူးမင်း နန်းတက်လျှင် 'မဟာဓေယျသူရ' အမည် နှင့် မြောက်ဘက် ၉–သင်းမြင်းဝန်၊ ယဉ်းတော်မြို့စား အတွင်းဝန် ခန့်တော်မူသည်တွင် မနုဝဏ္ဏနာ ဓမ္မသတ်ကျမ်းကို ပြုစုရေးသားသည်။ တရားအမှုအခင်းများကိုလည်း စစ်ဆေးစီရင်သည်။ အတွင်းဝန်မင်း ဝဏ္ဏဓမ္မကျော်ထင်သည် လောကဓမ္မရာဇ အရာ၌ များစွာလိမ္မာသည်။ သို့ လိမ္မာလှသော်လည်း ပညာရှိ သတိဖြစ်ခဲ့ဟူသော စကားအတိုင်း ရာဇဝတ်သင့်၍ မင်းမျက်ခြင်းကို ခံရရှာသည်။ ရာဇဝတ်ဒဏ်ကိုကား ကြီးကျယ်စွာ မခံရပေ။ ခေါင်းတုံးရိတ်ပြီးလျှင် ရဟန်းအဝတ်နှင့်ပင် နေရင်းမြို့ရွာသို့ ပြန်ရရှာသည်။ အတွင်းဝန်မင်း ပြုစုသော ကျမ်းများကား...

၁။ ဝိနိစ္ဆယပကာသနီ ပါဠိ နိသျ မိတ်လင်စုံ၊

၂။ မနောသာရ ရွှေမျဉ်း ပါဠိ နိသျ မိတ်လင်စုံ၊

၃။ မနုဝဏ္ဏနာ ဓမ္မသတ် ပါဠိ နိသျ မိတ်လင်စုံ

များ ဖြစ်ကြသည်။

မနုဝဏ္ဏနာ ဓမ္မသတ် ပါဌ်နိသျှသည် တောင်ဘီလာဆရာတော် ပုဂ္ဂိုလ်ကျော်နှင့် ကိုင်းရွာစား တရားသူကြီးတို့ ညှိနှိုင်းတိုင်ပင် စီရင်ကြရသော မနုသာရကျမ်းဟောင်း ပါဌ် ၁၀–တွဲကို အမှီပြု၍ ရေးသားထားသော ကျမ်းဖြစ်သည်။ ဤပါဌ် နိသျှသည် ဖတ်ရှုရာတွင် ရှင်းလင်းပြတ်သား၍ မှတ်သားရာတွင်လည်း လွယ်ကူသည်။ မနုသာရ ဓမ္မသတ် ၁၀–တွဲလုံးကို အတိုချုံး၍ ကျမ်းတစ်စောင်တည်းတွင် အားလုံးသော ဓမ္မသတ်များ ပါဝင်အောင် စီရင်သည်။ အတိုချုံးသောကျမ်း ဖြစ်သော်လည်း ကျမ်းရင်း ၁၀–တွဲကဲ့သို့ပင် စုံလင်ပြည့်ဝသည်။ မလိုသော အချက်များကိုသာ ချန်လှပ်ထားခဲ့သည်။ အစီအစဉ်များမှာ လွန်စွာကျနစွာ သိပ်သိပ်သည်းသည်း ရှိလှသည်။ ဤပါဌ် နိသျှများကို ကုန်းဘောင်ခေတ်က တရားသူကြီး၊ ခုံ၊ မှူးဆောင်၊ အမိန့်တော်ရတို့ လက်ကိုင်ပြုကြရကုန်သည်။ တိုင်းပြည်အုပ်ချုပ်ရေးတွင် ဓမ္မသတ်ကျမ်းများသည် များစွာ အရေးကြီးပေသည်။ တရားဓမ္မသတ် ကျမ်းကောင်းများ ရှိမှသာလျှင် တိုင်းသူပြည်သားတို့ ငြိမ်ဝပ်ပိပြားကြသည်။ ငြိမ်ဝပ်ပိပြားမှသာလျှင် တိုင်းပြည်တိုးတက်ကြီးပွားချမ်းသာနိုင်သည်။ သို့ ကြီးပွားတိုးတက်ချမ်းသာမှသာလျှင် အမျိုးဘာသာ သာသနာတို့ ကောင်းစွာ ထွန်းကားနိုင်ကြသည်။ ထို့ကြောင့် တိုင်းပြည်၏ ကြီးပွားချမ်းသာခြင်းသည် တိုင်းပြည်၏ ဓမ္မသတ်ကျမ်းကောင်းများပေါ်တွင် မှီခိုလျက်ရှိသည်ဟု ဆိုသင့်လေသည်။

## ရွှေတောင် နန္ဒသူ

ရွှေတောင် နန္ဒသူသည် စလင်းမြို့သား ဖြစ်သည်။ ငယ်မည်ကား မောင်လှတည်း။ သက္ကရာဇ် မိဘမည်ရည် ဂုဏ်ထူးများကို မသိရပေ။ သက္ကရာဇ် ၁၁၂၅–ခုနှစ် အင်းဝနန်းကို ထပ်မံ ဖန်ဆန်း ကြငှန်းဖွင့်တော်မူသော ဆင်ဖြူရှင်လက်ထက်တော်၌ ဦးလှသည် စလင်းမြို့တွင် အမှုဆောင်ဖြစ်သည်။ အမှုများ လျှောက်လဲရာတွင် နာမည်ကျော်စောသောကြောင့် အင်းဝရွှေမြို့တော်သို့ လာရောက်၍ လွှတ်တော်တွင် ရှေ့နေလိုက်ရာ မလိုလားသော လွှတ်တော် ရှေ့နေ ရှေ့ရပ်များက စလင်းသား ဦးလှသည် ပညာအရည်အချင်းလည်း နနယ်သေးသည်။ အမိန့်တော်ရလည်း မခန့်အပ်သေး၍ လွှတ်တော်၌ လျှောက်လဲသင့်၊ မလဲသင့်နှင့် စာတင်သွင်းလျှင် စလင်းသား ဦးလှကို ဘုရင်မင်းမြတ်က အမိန့်တော်ရ ခန့်၍ လွှတ်တော်တွင် လျှောက်လဲစေရသည်။ အင်းဝရောက်သော် စလင်းနဝဒေးဟု ခေါ်ကြသည်။ နဝဒေး

ဘွဲ့သည် မင်းပေးဘွဲ့ ဟုတ်ဟန်မတူ။ ဦးလှ၏ ကဗျာဉာဏ်အရည်အချင်းကို သိသောသူများ၏ အခေါ်မျှ ဖြစ်ဟန်တူ၏။ ဆင်ဖြူရှင်လက်ထက်တွင် ငွေတောင် ရကန်ကို ရေးသည်။ သက္ကရာဇ် ၁၁၃၈–ခုနှစ် နန်းတက်တော်မူသော စဉ့်ကူးမင်း လက်ထက်တွင် ဦးလှကို ဆင်ချေးတိုက်ဝန် ခန့်သည်။ ထိုနောက် များမကြာမီ အနောက်ဝန်ထောက်ခန့်၍ ဆင်ချေးဝန်ထောက် တွင်သည်။ စဉ့်ကူးမင်းလက်ထက် တွင် မွေ့နွန်းရကန်၊ အင်းဝမြို့ဘွဲ့ ရကန် ကေပိုဒ်နှင့် အခြားရကန်များကို ရေးသည်။ ရွှေတော်နန္ဒသူဘွဲ့ကို မည်သည့်မင်းလက်ထက်တွင် ရသည်ကို မသိရပေ။ စဉ့်ကူးမင်း လက်ထက်တွင်ပင် ရဟန်တူသည်။ ရွှေတော်နန္ဒသူ၏ ငယ်မည်သည်ပင် နှစ်မျိုး နှင်စား ကွဲပြားနေသေးသည်။ အချို့က မောင်လှဖြစ်သည်။ အချို့က မောင်တရုတ် ဖြစ်သည်ဟု ဆိုကြ၏။

မည်သို့ပင် ဖြစ်စေကာမူ မွေ့နွန်းရကန်ကို ရေးသော ဆရာသည် ဤ ရွှေလင်းဆရာပင် ဖြစ်သည်။ မွေ့နွန်းရကန်၏ နောက်ဆုံးစာပိုဒ်တွင် . . .

> နန္ဒာနှင့် မယ်နွန်း၊ ရောပြွန်းသည့်အခင်းကို၊ ရွှေလင်းဆရာ၊ ဟုတ်တိုင်း
> ချ၍၊ မပြသာဘူး . . .

ဟူ၍ စပ်ဆိုထားသော စာက သက်သေခံလျက် ရှိပြီ။ ရွှေတောင် နန္ဒသူ ရေးသား စီရင်သော မွေ့နွန်းရကန်၊ ငွေတောင် ရကန်သစ်များသည် အဟောင်းဆုံး ရကန်များ မဟုတ်ကြသေးပေ။ ညောင်ရမ်းခေတ် ဟံသာဝတီပါ မင်းလက်ထက် ဦးသြ စီရင်သော ကဝိလက္ခဏာ သတ်ပုံကျမ်းတွင် **'ရတုရကန်၊ စာသဝန်၊ ယုံကျွန်မ ရောက်လှာ'** ဟူ၍ ဆိုထားသည်ကို ထောက်သော် ဦးသြတို့ လက်ထက်၌ ရကန် ပေါ်ပေါက်နေပြီဖြစ်ကြောင်း ထင်ရှားသည်။ ထိုပြင်လည်း မွေ့နွန်းရကန်၌ပင် . . .

> ခုကာလ လွှသမား၊ လွှ နားခိုက်ကို၊ ပုရပိုက်တစ်ဆူ၊ ကန့်ကူတစ်တံနှင့်၊
> ရကန်နောက်ပေါ်၊ မနော်ကာရန်၊ လုပ်ပြန်ခါမျှ မကသေးဘူး . . .

ဟူ၍ စပ်ဆိုထားသည်ကို ထောက်သော် မွေ့နွန်းရကန်ကို မပြုစုမီ ရွှေတောင်နန္ဒသူ သည် ငွေတောင်ရကန် တစ်စောင်ကို ရေးသားစီရင်သေးသည်ဖြစ်ရာ ထိုငွေတောင် ရကန်နောက်မှ ပေါ်သော အခြား ပုဂ္ဂိုလ်တစ်ယောက်ပြုစုသည့် မနောရကန်ပင်လျှင် ဤမွေ့နွန်းရကန်ထက် ဟောင်းသေးသည်။ ထိုပြင် ဘိုးတော်ဘုရားလက်ထက် ဦးတိုး စီရင်ပြုစုသော ရာမရကန်တွင်လည်း–

လူတကာ့ အောက်နား၊ လှည်းသမားမှာ၊ သင့်နွား ပန်းဟိုက်၊ လှည်းချွတ်ခိုက်ကို၊ ပုရပိုက်လက်ခံ၊ ကန့်ကူတံနှင့် ကေလာသ ရကန်၊ မနော်ဟ ရကန်၊ မယ်သီတာ ရကန်၊ မင်းမတန်စိုးမတန်၊ လုပ်ပြန်ကာမျှ၊ မကသေးဘူး...

ဟူ၍ စပ်ဆိုထားပြန်သဖြင့် ကေလာသ ရကန်၊ မယ်သီတာ ရကန်တို့လည်း မနော်ဟ ရကန်ကဲ့သို့ပင် ရှေးကျသော ရကန်များ ဖြစ်ကြောင်း သိရပေသည်။

မှတ်ချက်။ ။ဝါဆိုစဉ် ရကန်ကို စိန္တကျော်သူ ရေးသည် ဟူ၍ မြန်မာစာညွှန့်ပေါင်းက ဆို၏။ သို့သော် ပိဋကတ်သမိုင်း စသော အခြားအမှတ်အသားတို့တွင် ဤသို့ဆိုသည်ကို မတွေ့ရပေ။ သို့ဖြစ်သောကြောင့် ထိုအဆိုကို အတည်မပြုနိုင်သေးချေ။

## ရကန် ဟူသော အဖွဲ့

ဦးဩ၏ ကဝိလက္ခဏာ သတ်ပုံကျမ်းတွင် **'ရတုရကန်၊ စာသဝန်၊ ယုံကျွန် မရောက်လှာ'** ဟူ၍ ရေးသားဖွဲ့နွဲ့ထားသည်ကို ထောက်သော် ရကန်ဟူသော အဖွဲ့အနွဲ့သည် ရတုအဖွဲ့မျိုးမှ ပေါက်ပွားလာသည်ဟူ၍ ထင်မြင်ယူဆဖွယ်ရှိ၏။ ရကန်ဟူ၍ အမည်တွင်ပုံမှာ ဤအဖွဲ့အနွဲ့မျိုးကို စပ်ဆိုဖွဲ့နွဲ့သော ဆရာက အခြားဆရာများကို မိမိလောက် မတတ်၊ မိမိလောက် မလိမ္မာဟူ၍ စာအားဖြင့် ချိုးဖဲ့ ရေးသားသော၊ တစ်နည်းအားဖြင့်ဆိုသော် သူများ မခံချင်အောင် ကော်လုံးကပ်လုံး၊ ရိပ်လုံးလျှောင်လုံးများကို ထည့်သွင်း၍ ရေးသားထားသော ရန်ပျိုးစာ၊ ရန်ထောင်စာ တစ်မျိုးပင် ဖြစ်သည်။ ဤကဲ့သို့ ရန်စ ရန်ပျိုးသည့် အပိုဒ်များတွင် စာရေးဆရာက အခြားစာရေးဆရာများ မလှုပ်နိုင်အောင် စကားအဖွဲ့အနွဲ့ဖြင့် မိမိရရ ကန်ခြင်း၊ ဝါကျပဒ ကာရန် အခံအအုပ်၊ အချိတ်အဆက်အားဖြင့်လည်း ကန်၍သွားခြင်းတို့ ကြောင့် ဤအဖွဲ့အနွဲ့မျိုးကို ရကန်ဟု ခေါ်သည်။

မှတ်ချက်။ ။အရေးပိုင် ဦးကျော်ဒွန်း၏ အမှတ်အသားအားဖြင့် ရကန်ဆိုသည်မှာ ရိဂံဟူသော သက္ကတ ပုဒ်ပျက်။ ။အဓိပ္ပာယ်မှာ လွန်စွာရယ်ရွှင်ခြင်း ဟူ၏။ ရကန်ဟူသော အဖွဲ့အနွဲ့စာသားများသည် ဖတ်ရှုသူတို့အား လွန်စွာရယ်ရွှင်ခြင်းကို ဖြစ်စေနိုင်၏။ ထိုကြောင့် ရိဂံ မည်၏။ ရိဂံ–မှ မြန်မာ့ ဝေါဟာရ ရကန် ဖြစ်လာသည်ဟု ဆိုသည်။

ကန်သည်ဆိုသော စကားသည် မြန်မာစကားပင် ဖြစ်သည်။ ဥပမာ–ဖောင် ကန်သည် ဟူရာ၌ ဖောင်များကို ကမ်းမှကွာအောင် ကမ်းပါးကို ဝါးဖြင့် ထိုး၍

ထွက်ခြင်းပင် ဖြစ်သည်။ ဤသည်ကို ထောက်လျှင် ရကန်မှာလည်း အခံပိုဒ်၏ အဆုံးတွင် အအုပ်ပိုဒ်ကို စသောအခါ ကာရန်ကို ခွာ၍ ကန်ခြင်းကြောင့် ရကန်ဟူ၍ ခေါ်ဟန် တူသည်။ ကာရန်ကန်ဟူသော စကားမှ ကာပုဒ်ကျေ၍ ရန်ကန်မှ ရကန် ဖြစ်ပေါ်လာနိုင်ရန် အကြောင်းရှိသည်။ ကာရန်ကန်သည့် ပုံစံကား မွေ့နွန်းရကန်၌ပင် . . .

အရှူးလို့ ခေါ်ရမည်လည်း၊ မနော်ကာရန်၊ ရကန်များကိုလည်း လုပ်ပြန်ခဲ့။

**(ဤကား အခံစာပိုဒ်)**

ဝတ်ဖြူခေါင်းတုံး၊ သိတင်းသုံး၍၊ မြုံးကြီးကိုထောင်ပြန်၊ တားလုံ့စွဲကိုင်၊ မှုမဆိုင့်သည်၊အိုင်မှာ ငါးကိုသဲ့သို့။

**(ဤကား အအုပ်စာပိုဒ်)**

စသည်ဖြင့် အဆိုပါ အခံစာပိုဒ် ဝါကျ၏ အဆုံး ခဲ့ဟူသော စကား၏ အဲ့ ကာရန်ကို ဒုတိယ အအုပ်ဝါကျကို စသောအခါ မယူသေးဘဲ ခွာခဲ့ ကန်ခဲ့၍ အဆုံးကျမှ သဲ့ဟူသော ကာရန်ဖြင့် အုပ်ရလေသည်။

ရကန်အဖွဲ့အနွဲ့ ဝါကျတိုင်းမှာပင် ဤနည်းနှင်နှင် ကန်သည်။ ထိုကြောင့် ဤကာရန် ကန်မှ ရကန်ဟူသော ဝေါဟာရ ဖြစ်ပေါ်လာသည်ဟု ထင်မြင်ရန် အကြောင်းရှိပေသည်။ ရကန်နှင့် သာချင်းသည် များစွာဆင်တူသည်။ ရကန်နှင့် သာချင်း နှစ်မျိုးလုံးပင် ညောင်ရမ်းခေတ်၌ ပေါ်ကြသည်။ သို့သော် ရကန်အဖွဲ့အနွဲ့ သည် သာချင်းထက် နောက်ကျဟန်တူသည်။ တောင်ငူခေတ် စာဆိုတော် မင်းဧယျရန္တမိတ်ကို အနောက်ဘက်လွန်မင်းတရားကြီး အင်းဝမြို့တော်သို့ ခေါ် ဆောင်သွားပြီးနောက် များမကြာမီ မစိန်အရပ်၌ ဥတေနသာချင်းကို မင်းဧယျရန္တမိတ် ဆိုကြောင်းကိုလည်းကောင်း၊ သာချင်းမှ ရကန်ဟူသော အဖွဲ့အနွဲ့ပေါက်ပွားလာလေ သလောဟူ၍ တွေးတောဖွယ်ဖြစ်ကြောင်းကိုလည်းကောင်း ရှေ့က သာချင်းအခန်းတွင် ဖော်ပြခဲ့ပြီ။

## မွေ့နွန်းရကန်

မွေ့နွန်းရကန်ကို ရေးသားရာ၌ ရှင်မွေ့နွန်းနှင့် မင်းနန္ဒာတို့၏ အတ္ထုပ္ပတ္တိဖြစ်သော တလိုင်းရာဇဝင်ပုံပြင်ကို ရွှေတောင်နန္ဒသူသည် မှီငြမ်းပြု၍ ရေးသားသည်။ သန်လျင်ရာဇဝင်၌ သန်လျင်မင်းနှင့် သထုံပြည် သုဝဏ္ဏဒေဝီ သင့်၍ သုသာန်တွင် မွေ့နွန်းမင်းသမီးကို ဖွားကြောင်း၊ မင်းသမီးကို မြို့တော်သို့ မဝင်စေဘဲ သုသာန်တွင် တစ်ပင်တိုင် မြနန်းနှင့် ထားကြောင်းတို့ကို အကျယ်တဝင့် တွေ့နိုင်လေသည်။ ထိုခေတ်က မွေ့နွန်းမင်းသမီးအကြောင်းသည် များစွာ ခေတ်စားဟန်တူသည်။ စိတ္တကျော်သူ ဦးသြပင်လျှင် မိမိ၏ရတုများတွင် ရှင်မွေ့နွန်းနှင့် မင်းနန္ဒာ အမေး–အဖြေ ရတုများကို စပ်ဆိုခဲ့သေးသည်။ မွေ့နွန်းဟူသည်မှာ တလိုင်းဘာသာ မှောက်နန်းမှ မြန်မာတို့က မပီသ၍ မွေ့နွန်းဖြစ်လာဟန် တူသည်။ စင်စစ် မွှန်တလိုင်းသံ အတိုင်း ဗို့နွန်ဟု ခေါ်ဆိုသည်။ မြန်မာတို့က ဗနှင့် မ ပြောင်း၍ ဗို့နွန်ကို မို့နွန် = မွေ့နွန်း ဟူ၍ ခေါ်သည်ဟု ယူဆစရာရှိသည်။ အဓိပ္ပာယ်မှာ နန်းမ–မယ် (ဝါ) တစ်ပင်တိုင် မင်းသမီးဟု ဆိုလိုသည်။ ဤရကန်တွင် ရွှေတောင်နန္ဒသူသည် အဖွဲ့အနွဲ့ကိုသာလျှင် များစွာဂရုပြု၍ ဇာတ်ကြောင်းကို ဂရုပြုဟန်မတူ။ ဇာတ်ကြောင်းကို ဆုံးခန်းတိုင်အောင် မရေးခဲ့လေ။ မင်းနန္ဒာနှင့် ရှင်မွေ့နွန်းမင်းသမီးတို့ တွေ့ခန်း၌ပင် အဆုံးသတ်ခဲ့သောကြောင့် ဇာတ်မျောနေသည်။ ရွှေတောင်နန္ဒသူသည် မိမိကိုယ်တိုင်ကပင် ရှေ့နေ ရှေ့ဆောင်ဖြစ်သည့်အတိုင်း မွေ့နွန်း ရကန် စာကိုယ်တွင် မင်းနန္ဒာ၏ ကျေးသားနှင့် ရှင်မွေ့နွန်း၏ သာလိကာမတို့ တွေ့ဆုံ၍ စကားအချေအတင် ပြောကြရာ၌ စကားအိမ်ဖွဲ့ပုံ၊ ဆင်ခြေ ဆင်လက် တက်ပုံတို့သည် ရှေ့နေတို့၏အာဘော်နှင့် တူလှပေ၏။ ဤနေရာ၌ မိမိအလုပ်အကိုင်ကို လိုက်၍ ပြောသည့် စကားများတွင်လည်း ဇာတိပေါ်စေသည်။ မွေ့နွန်း၏ ရုပါရုံကို မြင်ရ၍ ကျေးသားကလေး မူးဝေကာ သစ်ပင်ထက်မှ ကျလေလျှင်...

> နန္ဒင်းပါအောင်၊ မင်းမှာ ဘာပြု ဝါချင်ရ၊ ၊အမောင်ပြောယင်းက
> မိန်းမချောကို ကြည့်နေကြ ဆိုပါသကို၊ ကိုယ်တော်ကို ဖူးရလို့
> ဦးစောက်ကျသည်၊ ဆိတ်စာမှ မရှက်လဟု...

ဟူ၍ သာလိကာမကလေးက ပြောသောအခါ ကျေးသားကလေးက ပြန်လည်ချေပလိုသဖြင့်...

မရှင်ဆိုတိုင်း၊ ကျေးရိုင်းမှန်လျှင်၊ ဘုံးပျံယာဉ်စီး၊ နတ်သမီးကို ပြစေကာ၊ ၊စောင်းသံကို ကျွဲနွား၊ မပျော်ပါးသည့်နှယ်၊ သနားစုံမက်၊ နှစ်သက်တန်သည်၊ မုန်းတန်သည်၊ ဆံခြည်ခြမ်းမျှ၊ ဘုဘမသိရာဖူး၊ ကျေးပညာရှိ၊ မျက်စိလိမ္မာ၊ မင်းရာဝင်ဝင်၊ နန်းတွင်းကြီးသူ ဖြစ်၍သာ၊ ထိုသခင်မ၊ နတ်,မကကို၊ မြင်ရတည့်လျှင်၊ ဆီးဖြူပင်က၊ ဘဝင်မိန်းမှိုင်၊ မတတ်နိုင်၍၊ ၊ဗျာလှိုင်းကြီးထင့်၊ သဘောသင့်အောင်၊ ထောက်ချင့်၍ ယူကောင်းပါသည်၊ ၊မသာလီလို၊ ပစိပလျှံ၊ အဆိုက မြန်သနင့်၊ ခံသူမရိုင်း ဆိုသူ ရိုင်းပါမည်...

ဟူ၍ ကြွယ်ဝစွာ စကားအတွန့် တက်လိုက်ပြန်သေးသည်။ ထိုနောက် ကျေးသားက မိမိသည် သစ်ပင်ကိုင်းမှ မြေပေါ်သို့ ကျလာရခြင်းမှာ မူးဝေ၍ မဟုတ်။

ဘုန်းရှင်ကံရှင်၊ ရွှေနန်းသခင်မို့၊ သစ်ပင်ကိုင်းက၊ ရိုင်းရာကျမည်ကြောင့်၊ မြေကြီးက လျှောက်မည်လို့၊ ဘောက်ခနဲ ဆင်းရာတွင်၊ ရွှေဘုန်းတော် မြူးတည်လို့၊ မူးသွေးဝင်သည်၊ တမန်တို့အင်၊ ဂုဏ်ရှစ်ခွင်တွင်၊ ဘယ်အင်္ဂါမစုံလို့၊ ဘယ်ဂုဏ်ကို နှိမ့်ချလေသတုန်း...

ဟူ၍ ဆင်ခြေ ဆင်လက် ပေးကာ ပြန်လည် ချေပလိုက်ပြန်သေးသည်။

ရွှေတောင်နန္ဒသူသည် မွေ့နွန်းရကန်ကို ဖွဲ့နွဲ့ရာ၌ မည်သူ့အာဘော်ကိုမျှ အတုမယူ နည်းမခံပေ။ မိမိ၏ပင်ကိုယ်ဉာဏ်ကိုသာ အသုံးပြု၍ ထည့်သွင်းဖွဲ့နွဲ့ ထားခြင်းကြောင့် ထိုးထွင်းဉာဏ်ရှိသည်ဟု ဆိုရပေမည်။ တစ်ခါတစ်ရံ စကားအရာ၌ နိုင်နင်းစွာ ထင်ထင်ရှားရှား ကွက်ကွက်ကွင်းကွင်း ပေါ်အောင် ရေးသား၏။ မွေ့နွန်း၏ ချောမောလှပပုံကို ဖွဲ့ရာ၌...

သဥ္ဇာလီအခင်းနှင့်၊ ပြတင်းတော်အဝဝယ်၊ အိပ်နိုးထမှုံတလုံလုံ၊ လိမ်းသားက မကုန့်တကုန်၊ ကွမ်းရာကို ငုံလျက်မို့၊ လက်ယာဘက် ပါးနုက၊ စုတုတု သင့်ရုံရုံ၊ ဝတ်လဲတော် မခြုံ့တခြုံ၊ ရင်သိမ်းတော် ပန်းပြော့က၊ လျော့တော့တော့ မလုံ့တလုံ၊ ဂန္ဓမာအနံ့က၊ သင်းပျံ့ပျံ့ မထုံ့တထုံ၊ ကုံကုမံ ပန်းနံ့က၊ လန့်လူအောင် ကြိုင်တလှိုင်လှိုင်၊ စိုင်ရှူးကြွယ်ပြောင်၊ ယုဂန်တောင်က၊ ရောင်ဖြူလာ နံနက်ကို၊ နှစ်ခုပြိုင် ထွက်သည့်နှယ်...

စသည်ဖြင့် ရေးထားရကား လွန်စွာကျော်စောသည့် ပန်းချီဆရာကြီး လက်စွမ်းကုန် ရေးခြယ်အပ်သော မင်းသမီးရုပ်ကလေးကဲ့သို့ ကျွန်ုပ်တို့၏ စိတ်မျက်စိထဲ၌ ကွင်းကွင်း ကွက်ကွက် ပေါ်လာသည်။ ထိုမျှမက စာဆိုသူသည် မိန်းမတို့၏ စိတ်နေသဘောထား အမူအရာများကိုလည်း ကျကျနန သိဟန်တူသည်။

> ရတနာ ရင်သိမ်းကို၊ မိန်းမတောမှာမို့၊ လျှောချင်လျှောရော့၊ လျှော့ သကဲ့သို့၊ နီးလို့ပြီးခါ၊ ဗလာပြိုပြို၊ အင်္ကျီကိုလဲ၊ ယူခဲ့ပဲနှင့်၊ ဝဲလင့်အတွင်း၊ ပြတင်းကျယ်အပေါက်၊ နှစ်တောင်လောက်တွင်၊ နှစ်ယောက်ကယ် ပျိုတော့်၊ ပခုံးပျော့မှာ၊ ဖော့ရုပ်ကယ်ညှံ့စိ၊ လက်တော်နှင့် ဖိပြီးလျှင်၊ ကိရိယာ ဆင်လိုက်သည်၊ ရွှေရင်တော်မှာ ခိပတိ၊ မို၍အိအောင်၊ တစ်ဆောင်လုံးနွဲ့၊ လုပ်လဲ့လဲ့၊ ကြွတဲ့တော် မူလာ၍...

စသည်ဖြင့် မွေ့နွှန်းမင်းသမီးသည် ကုလားဘုရင်ဂျီများကို ရတ်တရက် ထွက်၍ ကြည့်သည့် အခန်း၌ မိန်းမတို့၏အမူအရာ ပေါ်လွင်အောင် ဖွဲ့ဆိုနိုင်သည်။

> ထိုပြင် ပေါရာဏလည်း မဟုတ်၊ ဝေါဟာရလည်း မဟုတ်သည့်... ဘရှဘူဘရဘွာ၊ ပရှိုးနော၊ ပေတလူ ပါတလူ၊ ဆိစ္စလီ၊ မာတလာလာ၊ စေရာနဖာ...

စသော ခေတ်ပေါ် ကျပန်းစကားများကိုလည်း တမင်သက်သက် ပျက်ချော်ချော် စပ်ဆိုဟန်တူ၏။ ရကန်များတွင် ဤကဲ့သို့ နောက်တောက်တောက် ပျက်ချော်ချော် စကားများကို ဟာသရသပေါ်အောင် ရေးကြမြဲဖြစ်သည်။ အချို့နေရာများတွင် ဟာသဉာဏ်ကွန့်ထားသည်ကို တွေ့ရ၏။ ရှင်မွေ့နွှန်း ချောကြောင်း လှကြောင်းကို မာလိန်မှူးတို့က မင်းနန္ဒာအား သံတော်ဦးတင်သည့် စကားတွင်...

> ကျွန်တော်ငယ်ပင်၊ အလျင်တိမ်းပေသည့်ဘုရား၊ လူခပ်သိမ်းကား၊ ကစိန်းကဝါး ကြည့်ပြန်လျှင်၊ သဘောသူကြီးလဲ၍ပြီး၊ မှောက်ခီမှောက်ခုံ၊ အတုံပေါ်မှာ၊ ကျွန်တော်မာလိန်၊ တစ်ရာချိန်ကို၊ ကထိန်အလှူတွင် ပုံသကူပစ်သည့်နှယ်၊ ခါးဆစ်မှာ ကန့်လန့်တင်၍၊ ။သည့်ပြင်ဟာများ၊ ခြားခြားနားနား၊ အသနားတော်၊ ထုတ်ဖော်ခံရအောင်၊ ဘုရားကျွန်တော် ငယ်၊ တစ်သွယ်မှလည်း မမှတ်မိ၊ ။တွန့်ကနဲ လွန့်ကနဲ၊ အမဲခြောက်ကို မီးတောက်မှာ ထိုးသည့်နှယ်၊ ကိုးကွယ်ရာမဲ့၊ ငဲ့တဲ့တဲ့ နေသူနေ၊

အထွေထွေအလီလီ၊ ဘောင်းဘီကို ဆုတ်သူဆုတ်၊ ဦးထုပ်ကို ဖွဲ့သူဖွဲ့၊
မဲ့သူရွဲ့သူ၊ ချိုးကူသလို၊ နွားချိုများသွေးသည့်နှယ်၊ မေးနှင့်မြေမှာ၊
မျက်နှာလည်း အထိထိနှင့်...

အစရှိသော အဖွဲ့များသည် ဟာသဉာဏ်ကွန့်ထားသော အဖွဲ့အနွဲ့များပင် ဖြစ်သည်။

မွေ့နွန်း ရကန်အပြင် ငွေတောင် ရကန်သစ်နှင့် အင်းဝမြို့ဘွဲ့ ရကန်ကိုလည်း စပ်ဆိုသေးသည်။ ငွေတောင် ရကန်ဟောင်းသည် ငွေတောင် ရကန်သစ်နှင့် မွေ့နွန်း ရကန်တို့ မပေါ်မီကပင် ပေါ်ပြီးဖြစ်သည်။ ဤရကန်ကို မည်သူရေးသည်ဟု မသိရပေ။ ငွေတောင်ရကန်သစ်ကိုကား ရွှေတောင်နန္ဒသူသည် ဆင်ဖြူရှင်လက်ထက် ရေးသည်၊ စဉ့်ကူးမင်းလက်ထက် ရေးသည်ဟူ၍ စကားအငြင်းထွက်လျက်ရှိသည်။ စင်စစ်မှာ စဉ့်ကူးမင်းလက်ထက်၌ ရေးဟန်တူသည်။ အဘယ်ကြောင့်ဟူမူ ငွေတောင် ရကန်သစ် ပထမပိုဒ်၌ပင်...

သက္ကရာဇ်ဂေါဇာ၊ ယောင်ရာအဆုံး၊ သုံးဆယ်ရှစ်ခု၊ ထိုရတုတွင်၊
ဇမ္ဗူ့နှင်းရည်၊ တိုင်းဥဒည်သို့၊ ဘုန်းစည်နှင့်မေတ္တာဝင်၍၊ ဖြေတင်မည့်
အကြောင်း၊ ဗိုလ်တစ်သောင်းနှင့်၊ ကောင်းတုံသို့အချီတွင်၊ ရကန်စီပင်
ထောင်မက၊ ။နိုင်ငံတော်နယ်၊ အသွယ်သွယ်မှာ၊ ဘယ်ဆရာ၏၊
ဘယ်ရွာကရကန်၊ ဘယ်သူ့ဉာဏ်နှင့်၊ မင်းတန်စိုးတန်၊ စီကုံးလိုက်
သည်လို့၊ အဆိုက်သင့်လျော်တွင်၊ နားတော်ကြားပြန်ရ၍...

ဟု စပ်ဆိုထားသည်ကို ထောက်ရှုသောကြောင့် ဖြစ်သည်ဟု ဆိုကြ၏။ ဤအရာမှာ စဉ့်ကူးမင်းသည် ၁၁၃၈–ခု၊ နယုန်လပြည့်ကျော် ၁၀–ရက်နေ့ နန်းတက်တော်မူသည်ကား မှန်၏။ ထိုနှစ်တွင် ဗိုလ်တစ်သောင်းနှင့် ကောင်းတုံမြို့သို့ ချီတက်စေကြောင်းကို ရာဇဝင်မှာ မရှိချေ။ ဤငွေတောင် ရကန်သစ်နှင့် အင်းဝမြို့ဘွဲ့ ရကန်သည် များစွာ မထူးခြားသောကြောင့် အကျယ်မဖော်ပြတော့ပြီ။

## ဦးဖျော်

ကုန်းဘောင်ခေတ် စာဆိုတော်များတွင် လျစ်လျူရှု၍မထားသင့်သော ပုဂ္ဂိုလ် တစ်ဦးသည်ကား ပလိပ်ရွာစား ဦးဖျော်ဖြစ်သည်။ ဦးဖျော်သည် သက္ကရာဇ် ၁၁၀၀ ပြည့်နှစ်တွင် ဖွားသည်။ ဖွားရာဇာတိနှင့် မိဘမည်ရည်များကိုကား မသိရပေ။

သက္ကရာဇ် ၁၁၂၅–ခုနှစ် ရတနာပူရ တတိယမြို့တည် ဆင်ဖြူရှင်မင်းတရားလက်ထက် သားတော်စဥ့်ကူးမင်းထံတွင် ဆရာအဖြစ်နှင့် အမှုတော်ထမ်းရွက်သည်။ ဗေဒင်နက္ခတ်ကျမ်းများကို သင်ပေးသည်။ စဥ့်ကူးမင်းသားသည် တောင်ငူခေတ်စာဆိုရှင်သံခိုရေးသော မင်းရဲဒိဗ္ဗ ချောင်းကို ဖတ်၍ များစွာနှစ်ခြိုက်သဘောတော်တွေ့ရကား ဆရာဦးဖျော်အား မင်းရဲဒိဗ္ဗ ချောင်းကဲ့သို့ ကောင်းမွန်သော ချောင်းတစ်စောင်ကို ရေးသား စီရင်ပါမည့်အကြောင်း တောင်းပန်ရာ **"မင်္ဂလာချက်ဖွေ"**ချီ စဥ့်ကူးမင်း ရွှေနားတော်သွင်း ချောင်းကို ဖွဲ့ဆိုသည်။

ဤချောင်းသည် စဥ့်ကူးမင်းသား အိမ်ရှေ့မင်းဖြစ်မှ ရေးသားဆက်သွင်းသော ချောင်းဖြစ်ရကား စဥ့်ကူးမင်း ရွှေနားတော်သွင်းဟူ၍လည်းကောင်း၊ ပလိပ်ရွာစား ဦးဖျော်ရေးသည်ကို အစွဲပြု၍ ပလိပ်စား ချောင်းဟူ၍လည်းကောင်း ခေါ်ဝေါ်သည်။ စင်စစ်မှာ ဦးဖျော်သည် စဥ့်ကူးမင်းသား မင်းဖြစ်မှ ပလိပ်ရွာကို စားရသည်။ ထို့ကြောင့် ပလိပ်စား ချောင်းဟူ၍ ခေါ်သည်မှာ ကာလကြာမြင့်မှ ခေါ်သည်ဟု မှတ်ယူသင့်၏။ စဥ့်ကူးမင်းလက်ထက်တွင် မင်းရာဇာဘွဲ့ကို ရသည်။ ဘိုးတော်ဘုရားလက်ထက်တွင် ကျောက်ရင်းတောင်သာမြို့ကို စားရသည်။ ပိဋကတ် ဗေဒင်တတ်လှသောကြောင့် ဟူးရားညိုဘွဲ့၊ ထို့နောက် သီရိပဏ္ဍိတ်ဘွဲ့များကို ခံယူရသည်။ စဥ့်ကူးမင်း ချောင်းအပြင် သက္ကရာဇ်ဖြို့ပုံ လင်္ကာနှင့် ဗြို့ဟတ်လင်္ကာများကိုလည်း ရေးသေးသည်။

## စဥ့်ကူးမင်း ရွှေနားတော်သွင်း

ထင်ရှားတွေ့ရှိ မှတ်သားရသော ချောင်းဟောင်း ချောင်းသစ် စောင်ရေပေါင်း ၄၀–ကျော် ၅၀–နီးပါးရှိသည့်အနက် စဥ့်ကူးမင်း ချောင်းသည် ပထမတန်းစား ချောင်းကြီး ဖြစ်သည်။ ဤချောင်းသည် ချောင်းမည်ကာမဟုတ်ပေ။ သမ္မာတည်ဦး မဟာသမ္မတ မင်းမှစ၍ ပေါ်ပေါက်ထွန်းကားလာကြကုန်သော မြန်မာမင်း အဆက်ဆက်တို့ကို နန်းစံနှစ်နှင့်တကွ အစီအစဉ်အတိုင်း ဖွဲ့နွဲ့စပ်ဆိုထားသည့်အတွက် လွန်စွာ အရေးတယူပြုသင့်သော ရာဇဝင်ချုပ်တစ်စောင်လည်း ဖြစ်ပေသည်။ ထိုစဉ်အခါက မြန်မာစာပေတွင် တနင်္ဂနွေမင်းတရားလက်ထက်တော်က ဦးကုလား စီရင်ပြုစုသော ရာဇဝင်ကြီး တစ်စောင်ရှိရာ ထိုရာဇဝင်မှ ဦးဖျော်သည် များစွာကိုးကား ထုတ်နုတ်၍ သုံးစွဲဟန်တူသည်။ ဤသို့လျှင် ဦးဖျော်၏ ချောင်းသည် ထိုရာဇဝင်ကြီး

ဘစ်စောင်လုံး၏ အကျဉ်းချုပ်သဘော ဖြစ်သဖြင့် ဗဟုသုတရှာမှီးသူတို့ အာဂုံ ကျက်မှတ်ရန် လွယ်ကူလေသည်။

ဦးဖျော်သည် ထိုးထွင်းဉာဏ်လွန်စွာရင့်သန်သူ ပုဂ္ဂိုလ်ဖြစ်သည်ဟူ၍ ဆိုရ ပေမည်။ အကြောင်းမူကား ချေင်းထဲတွင် မင်းအဆက်ဆက်တို့၏ နန်းစံနှစ်များကို အလစ်အလပ်မရှိရအောင် စပ်ဆိုသည့်ပြင် ချေင်းဟူသော အဖွဲ့အနွဲ့ကိုလည်း နည်း စနစ်မပျက်စေဘဲ အချိအချအစပ်မှန်၊ အသတ်မှန်များဖြင့် ဖွဲ့ဆိုထားသောကြောင့် ဖြစ်၏။ စာလုံးပေါင်းသတ်ပုံတို့ကို ပိုင်းခြားနားလည်ကြစေရန် ချေင်းထဲတွင် ခွဲထားများကိုလည်း ထည့်သွင်းဖွဲ့ဆိုပြန်သည်။ ဤသို့အားဖြင့် ဦးဖျော်၏ချေင်းသည် ရာဇဝင်ချုပ်လည်းဖြစ်၍ သတ်ပုံသတ်ညွှန်းကျမ်းလည်း ဖြစ်၏။ ဓာတ်မာန်ကို တက်ကြွစေသည့် ချေင်းလည်း ဖြစ်၏။ ရာဇဝင်ဘက်မှာဆိုလျှင် ဦးကုလားရာဇဝင်ကြီး ရှိပြီးဖြစ်သော်လည်း ဦးဖျော်သည် အားကျမခံ အဖွဲ့အနွဲ့တစ်မျိုးဖြင့် ရာဇဝင်ကို အကျဉ်းချုပ်ရေးလိုသောကြောင့် ကမ္ဘာဦးမဟာသမ္မတမင်းမှ ကုန်းဘောင်ဆင်ဖြူရှင် မင်းတရားကြီးအထိ လင်္ကာပုဒ်ရေ ၇၀-ဖြင့် ပြည့်စုံအောင် ဖွဲ့ဆို၏။

သတ်ပုံသတ်ညွှန်းဘက်မှာလည်း ဟံသာဝတီပါမင်းလက်ထက်ကပင် ဦးဩ ရေးပြီး ရှိစေကာမူ ဦးဖျော်သည် ဦးဩကိုပင် အားကျမခံရေးလိုပြန်၏။ ထို့ကြောင့် မိမိ၏ချေင်းတွင် ခွဲထားများကို ရေးသားစပ်ဆို၏။ နန်းစံနှစ်များကို ဖော်ပြရာ၌ ဦးဖျော်သည် လွန်စွာစေ့စပ်ကျနသည်။ ပုံစံပြရမည်ဆိုသော်...

> စောခင်နှစ်မင်း၊ စည်းစိမ်ကင်းသော်၊ သက်နှင်းခဲလှူ၊ စိုးမှူးဆက်လစ်၊ ဆယ့်ခုနစ်တွင်၊ ညီချစ်ပျဉ်ပြား၊ လျာထားဆက်ခံ၊ သုံးနှစ်စံ၍၊ ပုဂံအောင်မြို့၊ ယခုမြို့ကို၊ နောင်ဖို့ရှုရည်၊ ထောင်ပြန်တည်လျက်၊ အောင်စည်ဆော်ကာ၊ ကိုးနှစ်ကြာသော်၊ သည်းချာတံနက်၊ ရွှေချက် ဖြန့်ဝေ၊ ဆယ့်ရှစ်နေရှင့်၊ စလေမင်းခွေး၊ ကံပေးသောအား၊ နှစ်ဆယ့် ငါးနှင့်၊ ရင်သားသိမ်းခို၊ နဂိုဆယ့်ခြောက်၊ ဘုန်းသွေ့ခြောက်က၊ မျိုး ဖောက်တစ်သီး၊ တောင်သူကြီးမှူ၊ ရွှေထီးဖြန့်ရှန်း၊ သုံးဆယ့်သုံး၌...

အစရှိသဖြင့် သေချာကျနစွာ ပြဆိုသည့်အတွက် ကျက်မှတ်ရန် လွယ်ကူသည်။ ဤချေင်းကို အာဂုံဆောင်ထားလျှင် ရာဇဝင်တစ်စောင်လုံးကိုပင် နှံ့စပ်နိုင် ပေသည်။

ဦးဖျော်သည် စကားအရာ ၁၈သုံးအနှုန်း၊ အထုံးအဖွဲ့များ၌ လိမ္မာသည့်ပြင် စကားကိုလည်း မထပ်ရအောင် ရေလဲနှင့် သုံးနိုင်သည်။ ပုံစံမှာ ဘုရင်နန်းတက်သည် ဟူသော စကားကို တစ်ခုနှင့်တစ်ခု ထပ်ခြင်းမရှိရအောင်...

ဘ–ရာယူသည်၊ ဥကင်ဖွင့်သည်၊ ထီးချက်ဖြန့်သည်၊ အောင်စည်ဆော်သည်၊

အမွေထိန်းကျောင်း၊ ရိပ်ဖြူဆောင်းသည်...

စသည်ဖြင့် နန်းတက်သည်ဟူသော အနက်အဓိပ္ပာယ်ရသည့် စကားများကိုလည်း ကောင်း၊ နတ်ရွာစံသည်ဟူသော စကားကိုလည်း...

လူ့ပြည်ငြီးသည်၊ နတ်ထီးပျော်သည်၊ ဘုန်းတော်ညှိုးသည်၊ မြေ့ရစ်ကုသိုလ်၊

နန်းပိုင်ယိုသည်၊ နတ်ဌာန်လားသည်၊ ကုသိုလ်ကုန်သည်...

စသည်ဖြင့် နတ်ရွာစံသည်ဟူသော အနက်အဓိပ္ပာယ်ရသည့် စကားများကိုလည်း ကောင်း မထပ်မတူရအောင် စပ်ဆိုဖွဲ့နွဲ့နိုင်သည်မှာ ချီးမွမ်းဖွယ်ပင် ဖြစ်သည်။ ထို့ပြင်လည်း ဦးဖျော်သည် မိမိကိုယ်တိုင်ပင်လျှင် ဗေဒင်နက္ခတ်များကို တတ်ကျွမ်းသည့်အားလျော်စွာ မိမိချောင်းတွင် နန်းစံသက္ကရာဇ်များကို ရိုးရိုးသချ်ာ၊ နံသင့်သချ်ာ၊ ပိဋကတ်သချ်ာ၊ သင်္ကေတသချ်ာတို့ဖြင့် အဆင့်သင့်ရာ တန်ဆာဆင်၍ ဖွဲ့နွဲ့ထားသည်။ ထိုမျှမကသေး၊ ဆိုင်ရာဆိုင်ရာတွင် ဥပမာအလင်္ကာဖြင့် စီကုံးဖွဲ့နွဲ့ထားသည်မှာ များစွာအဓိပ္ပာယ်ပေါ်လွင်၍ ဖတ်ရှုသူတို့၏ မျက်စိထဲတွင် လက်ဆုပ်လက်ကိုင် ပြသကဲ့သို့ ကွက်ကွက်ကွင်းကွင်း ပေါ်လာ၏။ ပုံစံမှာ တစ်ဖက်သား ရန်သူများကို စစ်ရှုံးပုံကို...

ဝန်းရံထပ်ထပ်၊ မွန်တို့တပ်ကို၊ ရှုပ်ရှုပ်ချုံချုံ၊ ဘိုးတော်နွံက၊ ခြံထွက် နွားရိုင်း၊ ရပ်မဆိုင်းသို့၊ မွေးတိုင်းကိုယ်နှင့်၊ သက်လွတ်ခွင့်ကို၊ ချင့်၍လွဲသုန်း၊ ကိုယ်လွတ် ရန်းသော်၊ နိုင်းနှုန်းစရာ၊ ဟိုရှေးခါ ဝယ်၊ ပဉ္စာလရာဇ်၊ ရှုံးသည့်စစ်မျှ၊ မကကျင်တွယ်၊ မြို့လုံးကြွယ် သည်။ ။ဆောင်သယ်သည့်ယူရေး ရွှေငွေကြေး...

ဟူ၍ စပ်ဆိုဖွဲ့နွဲ့ထားသည်။

ရှင်မဟာသီလဝံသ၏ တံတားဦးတည်မော်ကွန်းကျမ်း နိဒါန်းမှ အတု ယူ၍ မိမိချောင်း စာပိုဒ် ၄–တွင်...

ခေတ်ဝိသယ၊ အနန္တတွင်၊ ရေဆကုဋေ၊ တစ်သိန်းနေတို့၊ မိုးရေလေမှတ်၊
သံဝင့်သုံးဖြာ၊ ပျက်ခါညီမျှ၊ ဖြစ်ကြတူပြိုင်၊ ရှံဆိုင်သီးသီး၊ လွန်ပြီး
ပွားဆဲ၊ ထွန်းမြဲနောင်လာ၊ တိုက်များစွာကို၊ ထွက်ချာဆုံးမဲ့၊ ဉာဏ်ဖြင့်
ချဲ့လည်း၊ ပြဲ့ပြွလေးအင်၊ ကပ်သာဖြင်ခဲ့၊ ကုန်စင်ရေမိုး၊ ပျက်ပြီး
ပွားစည်၊ ထိုက်ထူးလည်တွင်၊ ရှေးတည်နှောင်းပျက်၊ အောင်မြေချက်ဝယ်၊
မြရွက်ပဒုံ၊ ရှစ်စုံငါးပွင့်၊ ဆင့်ရရင့်ကြောင့်၊ ဘုံမြင့်မိုးသူ၊ နိမိတ်ယူ၍၊
ငါးဆူပွင့်ရာ၊ မည်သာဘဒ္ဒ၊ သမိုက်ကြရှင့်...

ဟူ၍ ဖွဲ့ဆိုလိုက်ခြင်းကို ထောက်သော် ဦးဖျော်သည် ဓမ္မကြောင်းဘက်တွင်လည်း ညံ့သောပုဂ္ဂိုလ် မဟုတ်ကြောင်း သိရှိရပေသည်။ ပျို့မော်ကွန်းများကို မဖွဲ့ဆိုခဲ့သော်လည်း အာဘော်ကို ထောက်ရှုခြင်းအားဖြင့် ဦးဖျော်သည် ပျို့မော်ကွန်းများကို စပ်ဆိုမည်ဆိုလျှင် ကောင်းမွန်နိုင်နင်းစွာဖွဲ့ဆိုနိုင်ပေလိမ့်မည်ဟု ထင်မှတ်မိပေသည်။ ဦးဖျော်၏ချင်းကို တောင်ငူခေတ်စာဆို ရှင်သံခိုရေးသော မင်းရဲဒိဗ္ဗချင်းနှင့် နှိုင်းယှဉ်သင့်ပေသည်။ မင်းရဲဒိဗ္ဗ ချင်းတွင် မြို့ဘွဲ့၊ ဘုန်းတော်ဘွဲ့များသည် ဦးဖျော်၏ ချင်းထက် ပြည့်ပြည့်စုံစုံလည်း ရှိ၏။ ဖွဲ့နွဲ့ပုံလည်း ယဉ်ကျေးပြေပြစ်၏။ အဖွဲ့အနွဲ့စကားအစဉ် အသုံးအနှုန်း၊ အထုံးအဖွဲ့ကို ယဉ်ကျေးသည်ထက် ယဉ်ကျေးအောင် ပိုမိုဂရုပြု၏။ မင်းရဲဒိဗ္ဗ ချင်း၏ ထူးခြားချက်တစ်ခုကား ရာသီဥတု အခြေအနေကို ဖွဲ့ဆိုသော စာပိုဒ်အချို့ကို ကောင်းမွန်စွာ စီကုံးထားခြင်းပင်ဖြစ်သည်။ ဤအချက်ကို စဉ်းစားလျှင်လည်း မင်းရဲဒိဗ္ဗ ချင်းဆရာ ရှင်သံခိုသည် ရတုစာဆိုဖြစ်၍ ချင်းတွင် ရာသီဥတုကို လက်မလွှတ်ဘဲ ထည့်သွင်းစပ်ဖွဲ့ဟန်တူသည်။

ဦးဖျော်၏ ချင်းကား ရွှေနားတော်သွင်း ချင်းဖြစ်သောကြောင့် အဖွဲ့အနွဲ့ ယဉ်ကျေးသိမ်မွေ့သည်ထက် စကားလေးနက်၍ ဇာတိသွေး ဇာတိမာန် တက်ကြွလှုံ့ဆော်ရန်ကို သာ၍ လိုလားဟန်တူသည်။ ဦးဖျော်သည် စေဥ့်ကူးမင်း ချင်းတစ်စောင်တည်းဖြင့်ပင် စာဆိုလောကကြီး၌ ထင်ပေါ်ကျော်စောလာသည်ကို ထောက်လျှင် ထိုချင်းကို ရေးဖြစ်အောင် တိုက်တွန်းသော စေဥ့်ကူးမင်းသားကို ကျေးဇူးအထူးတင်ထိုက်ပေသည်။ အကြောင်းမူကား ရာဇဝင်ဆရာတို့သည် ဦးကုလား ရာဇဝင်တစ်စောင်တည်းကိုသာ လက်ကိုင်ပြု၍ နေကြရခဲ့ရာ ယခုတစ်ဖန် ဦးဖျော်၏ ရာဇဝင်ချင်းတစ်စောင် ထပ်မံပေါ်ပေါက်လာပြန်သောကြောင့် အထောက်အထား ပြုစရာ ရာဇဝင်တစ်စောင်ကို ထပ်မံ အမွေခံကြရသောကြောင့်ပေတည်း။

## မိဖုရားကြီး ရှင်မင်း

ကုန်းဘောင်ခေတ်ပိုင်းတွင် မိန်းမစာဆိုတော်တို့ အများအပြား ပေါ်ပေါက်ထွန်းကားလာကြကုန်သည်။ ထိုစာဆိုတော်တို့အနက် စစ်ကိုင်းမင်း မိဖုရားကြီးရှင်မင်းသည် ထူးချွန်သော အမျိုးသမီးစာဆိုတော်တစ်ဦး ဖြစ်သောကြောင့် ဤစာဆို လောကကြီးအတွင်း ရှင်မင်းအကြောင်းလည်း အသိအမှတ် စာရင်းသွင်းသင့်လေသည်။ **'မိဖုရားကြီးရှင်မင်း'**သည် အင်းဝဆင်ဖြူရှင်မင်းတရားကြီးလက်ထက် နန်းတွင်းစာဆိုတော်ဖြစ်သော မြင်းစုဝန်ကြီးသမီး စန္ဒဒေဝီဘွဲ့ခံ ရှင်ဖွားနှင့် ကျီအတွင်းဝန်နန္ဒကျော်ထင်ဘွဲ့ခံ မောင်ထွန်းတို့သင့်ရာတွင် မြင်သော သမီးဖြစ်သည်။ သက္ကရာဇ်၁၁၃၈–ခုနှစ် စစ်ကိုင်းမင်းသား မင်းဖြစ်တော်မူလျှင် ရှင်မင်းကို **'မဟာရတနာစန္ဒဒေဝီ'** ဘွဲ့နှင့် မိဖုရားကြီးအရာ တင်မြှောက်တော်မူသည်။ သက္ကရာဇ် ၁၁၄၃–ခုနှစ်တွင် ဘိုးတော်ဘုရားသည် ထီးနန်းကို လုပ်ကြံ၍ အောင်မြင်တော်မူရာ စစ်ကိုင်းမင်းနှင့် တကွ မိဖုရားကြီးရှင်မင်းကို ဖျောက်ဖျက်တော်မူလေသည်။ ရှင်မင်းသည် ရတု၊ တေးထပ်နှင့် လေးဆစ်ကဗျာများကို အများအားဖြင့် ရေးသည်။

### ရတုများ

**'အနှုန်းမမြင်'**ချီ ဘုရားတိုင် အဖြည့်ခံရတုတွင် ရှင်မင်းသည် မင်းနဝဒေးကြီး၏ အာဘော်ကိုလည်း မတုပ၊ တောင်ငူခေတ် စာဆိုများ ဖြစ်ကြသော နတ်သျှင်နောင်၊ ရှင်သံခိုတို့၏ အာဘော်သို့လည်း မလိုက်ဘဲ တသီးတခြား တစ်လမ်းတစ်စင်ထောင်၍ ဖွဲ့နွဲ့သည်။ ဘုရားတိုင် ရတုတွင် မြတ်စွာဘုရား၏ဘုန်းတန်ခိုးတော်များကို တစ်ခမ်းတစ်နားကြီးဖွဲ့ဆိုပြီးမှ မိမိလိုရာ အကြောင်းအရာများကို ထည့်သည်။ သို့ဖြစ်သောကြောင့် ဘုရားတိုင်ရတုများသည် ဘုန်းတန်ခိုးတော်ဘွဲ့များဘက်က ဦးလေးနေ၍ ဆိုလိုရင်း အကြောင်းအရာများဘက်က ပေါ့နေသည်။ အချုပ်မှာ ဆိုလိုရင်းကို တိုက်ရိုက်မဆိုဘဲ သွယ်ဝိုက်ကွေ့ပတ်၍ စကားကြောရှည်နေသည့်အတွက် ဖွဲ့နွဲ့ပုံသည် ပြေပြစ်သင့်သလောက် မပြေပြစ်ဘဲ ဖြစ်နေသည်။ မိုးဘွဲ့ရတုများတွင် ရှင်မင်း၏အဖွဲ့အနွဲ့များသည် အတော်ပင်ကောင်းမွန်ပေသည်။ ရှင်မင်းသည် လွန်စွာ ယဉ်ကျေးနွဲ့နှောင်းသော နန်းတွင်းသူဖြစ်သည့်အလျောက်ဖွဲ့နွဲ့အပ်သော စကားလုံးကလေးများသည်လည်း လွန်စွာ ယဉ်ကျေးသိမ်မွေ့၍

သုတိသာယာလှပေသည်။ ကိုယ်တိုင်ကလည်း မိန်းမသားဖြစ်၍ မိုးဘွဲ့၊ အလွမ်းဘွဲ့များကို ဆိုရာ၌ အများ၏စိတ်ကို ထိခိုက်စွဲငြိလောက်အောင် ဖွဲ့ဆိုနိုင်သည်။

ဝသန်ခါမို့၊ ချိန်နှင့်ညီအောင်၊ တိမ်နီတိမ်ပြာ၊ တိမ်လွှာတိမ်ပန်း၊ လျှပ်နွယ်တန်းလျက်၊ တိမ်ဆန်းတိမ်ထူး၊ တိမ်ညိုမြူး၍၊ ခြူးသေး ခြူးနွယ်၊ ဆေးပေါင်းခြယ်သို့၊ အံ့ဖွယ်စေ့စုံ၊ မြင်ရတုံသော်၊ မကြုံရက်ကြာ၊ မယ့်သည်းလျာကို၊ ဗျာပါရိနွမ်း၊ တ,ကာလွမ်း၍၊ ကြိုးပမ်းစိတ်ရှုပ်၊ အနိုင်ချုပ်လည်း၊ ဖုံးအုပ်လျှံဝါ၊ လ,စန္ဒာကို၊ ရောင်ဝါညစ်ညမ်း၊ ရာဟုဖမ်းသို့၊ ညှိုးသမ်းပျောင်းအိ၊ လွမ်းရှိန်ဖိခဲ့၊ သတိဆောင်ကာ၊ နေလှည့်ရာကို၊ အာကာမြင့်ဖြူး၊ ကောင်းကင်ဦးက၊ ကွန့်မြူးလျှပ်ပန်း၊ ဆွတ်ဖျန်းသုတ်ဖြူး၊ ခြိမ်းကာမြူးသည်။ ။ဆန်းထူး ထွေလာသည်ကိုလည်း...

ဟူ၍ ဖွဲ့ဆိုရာ၌ ရှင်မင်း၏ကဗျာဉာဏ်ကို အကဲခတ်နိုင်ပေသည်။

မိန်းမသားတို့မည်သည် လှပသည့် အခြင်းအရာများကို နှစ်သက်တတ်သည့်အားလျော်စွာ ဤမိုးတောတွင် တိမ်လွှာတိမ်ပန်းတို့ တဆန်းတထူး ကွန့်မြူး၍ နေပုံကိုလည်းကောင်း၊ ခြူးပန်းခြူးနွယ်သဏ္ဍာန်ကဲ့သို့သော လျှပ်ပန်းလျှပ်နွယ်များဖြင့် ဆေးရောင်စုံခြယ်ထားသကဲ့သို့ ကောင်းကင်ကြီးတည်နေပုံကိုလည်းကောင်း ကြည့်ရှု၍ စိတ်ဝင်စားဟန် တူသည်။ မိုးတောအဖွဲ့အနွဲ့တွင် ရှင်မင်းသည် နတ်သျှင်နောင်၊ ရှင်သံခိုတို့၏အာဘော်ကို အတုယူရေးဟန်တူသော်လည်း ထိုစာဆိုတို့၏ အဆင့်အတန်းကို မမီချေ။ မိုးတောရတုတွင်လည်း မိုးကို ဖွဲ့နွဲ့ချက်က ရှည်လျားနေသောကြောင့် ဘုရားတိုင်ရတုမှာကဲ့သို့ပင် ဆိုလိုသည့်အကြောင်းရင်း မပြည့်စုံဘဲရှိသည်။ ရှင်မင်း၏ စကားအသုံးအနှုန်းမှာ ရှင်သံခိုတို့ သုံးနှုန်းသော စကားလောက် ကျစ်လျစ်သိပ်သည်းခြင်းမရှိလှ။ စကားလုံးနည်းနည်းနှင့် အဓိပ္ပာယ်ကျယ်ဝန်းနက်နဲအောင် စီကုံးနိုင်သည်မဟုတ်ပေ။

## လေးဆစ်များ

မိဖုရားကြီးသည် ရတုများအပြင် လေးဆစ်ကဗျာများကိုလည်း ရေးသားသေးသည်။ မိဖုရားကြီး၏ လေးဆစ်များသည် ထင်ရှား တွေ့ရှိရသမျှတို့တွင် ရှေးကျသော လေးဆစ်ဖြစ်ကြောင်းကား ယုံမှားဖွယ်မရှိ။ လေးဆစ်သည် တောင်ငူခေတ်၊ ညောင်ရမ်းခေတ်များကပင် ပေါ်ပေါက်ထွန်းကားလာသည်ဟု အယူရှိကြ

ကုန်သည်။ သို့သော်လည်း ထိုခေတ် ထိုအခါက များစွာလည်း ခေတ်မစားသေးပေ။ မှတ်တမ်းတင်ရလောက်အောင် ကောင်းသောလေးဆစ်များ လည်း မဟုတ်ရကား ပေမူ၊ ပုရပိုက်မူတို့ဖြင့် ကူးယူမှတ်သားခြင်းမရှိ၍ လေးဆစ်ဟောင်းများ တိမ်ကော ပပျောက်ကုန်ကြလေသည်။ အကောင်းဆုံးလေးဆစ်သည် ညောင်ရမ်းမင်းတရား လက်ထက်လောက်ကပင် ပေါ်ဟန်ရှိသည်။ ထိုအခါက အင်းဝတွင် ရဟန်းတော်များ ဆွမ်းခံကြွတော်မူရာတွင် ကိုင်ဆောင်လာသော သပိတ်ကို ပဟောဋ္ဌိဖွဲ့ထားသော လေးဆစ်ဟောင်းတစ်ခုကို တွေ့ရသည်။ ထိုလေးဆစ်ကို ပုဂံဝန်ထောက်မင်း ဦးတင် စီရင်ရေးသားသော ကဗျာဗန္ဓသာရကျမ်းတွင် တွေ့ရသည့်အတိုင်း...

ရွှေဝကပါ၊ ပန်းမာလာ၊ အညာမရှိ၊ တုံးတိတိ၊ လုံမလှဖြူ၊ နန်းဟန်ယူ၊
အမူခလေ့၊ ဆန်းပွေ့ပွေ့....

ဟူသတည်း။

ဤကား လေးဆစ်အရိုးပင်တည်း။ ဤလေးဆစ်အရိုးပေါ်တွင် အညွန့်အတက် အဆန်းထွင်၍ စပ်ဆိုဖွဲ့နွဲ့ကြရာမှ လေးဆစ်သဖြန်ဟူသော အဖွဲ့တစ်မျိုး ပေါ်ပေါက်လာသည်ဟူ၍ ထင်မြင်ယူဆဖွယ်ဖြစ်သည်။ အထက်ပါ လေးဆစ်အပြင် တောင်ငူ ခေတ်က ဘုရင်နတ်သျှင်နောင် ရေးစပ်သည်ဟု ထင်ရသော လေးဆစ်တစ်ပုဒ်ကိုလည်း တွေ့ရပေသေးသည်။

ထောင့်တိုင်းစပ်ရှည်၊ မြစ်ခပေါင်း၊ ပေါင်းလောင်းလက်ယာကွေ့၊
နန်းမြေ့စံတည်၊ ပန်းဖဲကဝိုက်လည်၊ မြောက်ဆီကဆွာဖုံး၊ ကြက်ညွန်း
နောင်ညီတို့၊ တရထည် မြရည်ဆို့တယ်၊ လွမ်းဖို့မဆုံး...

ဟူသော လေးဆစ်မှာ တောင်ငူမြို့၏ နယ်နိမိတ်အလားအလာကို ဖော်ပြသည့် ကဗျာဖြစ်သည်။ စာအစပ်အဟပ် ဖွဲ့နွဲ့ပုံကို ကြည့်ခြင်းအားဖြင့် ရေးကျသော လေးဆစ်ပင် ဖြစ်ဟန်တူသည်။ ပြခဲ့ပြီးသော ကဗျာဗန္ဓသာရကျမ်းလာ လေးချိုး လောက်ကား ရေးမဆန်လွန်းပေ။ လေးဆစ်ဟူ၍ ခေါ်ဝေါ်ခြင်းကား လေးဆစ်လေးပိုင်း ဖြတ်ဆစ်၍ ထားခြင်းကို အစွဲပြု၍ လေးဆစ်ခေါ်သည်။ မိဖုရားရှင်မင်း စပ်ဆိုသည်ဟု အယူရှိကြသော လေးဆစ်သည် ယခုပြမည့်အတိုင်း ဖြစ်၏။

ကြုံမတွေ့ချင်ဘူး၊ ဘုံလေ့မုန်းလှပြီ၊ ၊လိုဏ်အနီး မြိုင်သီးချွေချူလို့၊
ချောင်အငူဝေပူထွတ်ကိုလ၊ သူလွတ်လျှင် ယာယီကွန့်ချင့်ငဲ့၊ နန်းညွန့်

ရွှေညီ၊ ။ဗျာကေကို သာခွေရှုပ်ပါလို့၊ ခွံလျှော်တော ဖန်ရည်အုပ်ကယ်နှင့်၊ လဲ့လုပ်ကဲ့ ကြော့ဒေဝီ၊ ယောဂီတို့ကျင့်နဲ့၊ ။အခါခါ၊ ဘာဝနာ ဈာန်ကသိုဏ်းတွင်မှ၊ အံတိုင်းပင် ပါပါလေငဲ့၊ နုတ်ခွန်းရေ ရွှေဂရို့မှာ၊ ဘုန်းဖို့ပလဲ။

**မှတ်ချက်။** ။ဤကဗျာသည် ရှင်မင်းရေး ကဗျာမဟုတ်။ စလေဆရာကြီး ဦးပုညသည် ကိုရင်ကြီးအဖြစ်နှင့် ရှိစဉ် **နမ** (မင်းကတော်) မချိုက အရေးခိုင်း၍ ရေးသားသောစာ ဖြစ်သည်ဟု အချို့သူတို့ ဆိုကြကုန်သည်။

ရှင်မင်းရေး တေးထပ်များ၏ အာဘော်နှင့် နှိုင်းစာကြည့်လျှင် အထက်ပါလေးဆစ်သည် ရှင်မင်း၏လက်ရာပင် ဖြစ်ဟန်တူသည်။ စေဥ္စကူးမင်းသည် မိမိအပေါ်၌ မေတ္တာတော် သွေကွက်၍ အခြားသောမိဖုရားများ အပေါ်တွင် ရွှေစိတ်တော် ယိုင်ညွတ်လျက်ရှိသောကြောင့် စိတ်မချမ်းသာသည့် အကြောင်းများကို တေးထပ်စပ်ဆို၍ ဆက်သလေ့ရှိသည်ကို ထောက်လျှင် မိဖုရားကြီးသည် အချစ်အတွက်နှင့် မောင်တော်ကို ပစ်ခွာ၍ တောထွက်ချင်ကြောင်းကို ဖွဲ့နွဲ့သောလေးဆစ်ဖြစ်တန်ရာသည်။ မိဖုရားကြီး ရေးစပ်ခဲ့သော တေးထပ် ၂-ပုဒ်ကို ယခုတိုင် အထင်အရှား တွေ့ရှိမှတ်သားရပေသေးသည်။

ဆန်ခွေကို ဖြန့်ကျင်းလို့၊ ပြတင်းက မယ်မျှော်၊ ရွှေလဝန်းစန္ဒော်ငယ်၊ ထွက်ပေါ်လာမူနိုး၊ စောင့်စားလို့ တာရှည်သည်၊ နေခြည်မှာ ပန်းကဲ့သို့ ညှိုး၊ ။ချနေကျ မှန်စာကို၊ အခါခါ မယ်ထိုး၊ စနဲပုံ ရွှေကြက်ရိုး ရယ်က၊ အကျိုးငယ်မထင်၊ ရွှေတိုင်ထူ နတ်ကိန်းက၊ တိမ်းယိမ်းလို့ မမှန်လေကျင်၊ ။ဘယ်ကျွန်း သူ့သခင်ရယ်၊ ထိပ်တင်ကို ချော့ပါလိမ့်၊ မေ့လျော့နေသည့်နယ်၊ ရှိပြန်ရတယ်၊ ပုလွန်းလို့ ပြန့်ကျယ်တယ်၊ ဘုန်းကြွယ်ကြွယ် ဘုရားကြောင့်လေး။

ဤတေးထပ်ကို မိဖုရားကြီး၏ အကောင်းဆုံးလက်ရာဟု ခေါ်ဆိုရပေမည်။ မောင်တော်ဘုရား မလာသည့်အတွက် မိမိဝမ်းတွင်းမှ တကယ်စင်စစ် လှိုက်လှိုက်လှဲလှဲ ပေါ်ထွက်လာသော စကားလုံးကလေးများဖြင့် သီကုံးစပ်ဆိုထားသော တေးထပ်ဖြစ်၍ ဤမျှလောက် ကောင်းမွန်ဟန်တူသည်။

ဤတေးထပ်တွင် မောင်တော်ဘုရား မလာသောကြောင့် မှန်စာချခြင်း၊ စနည်းနာခြင်း၊ ကြက်ရိုးထိုးခြင်း၊ ဗေဒင်မေးခြင်း၊ နတ်မေးခြင်း ပြုလုပ်ရသည်တို့ကို

ဖော်ပြပုံမှာ မိန်းမသားတို့၏ စိတ်နေစိတ်ထားကို လှစ်လှပ်၍ ပြလိုက်သကဲ့သို့ အကွင်းလိုက်ဖော်ပြခြင်း ဖြစ်သည်။ မိန်းမတို့၏ စိတ်သည် ယောကျ်ားတို့အပေါ်၌ မည်မျှကြီးမားသည့်အကြောင်း၊ ဤကဲ့သို့ မိမိထံသို့ မောင်တော်မလာခြင်းသည် အခြားတစ်ပါးသော မိန်းမများက ဖြားယောင်း ချော့မော့သောကြောင့် ဖြစ်လိမ့်မည်ဟု တွေးတောမိပုံအကြောင်းများ ရေးသားထားသည်ကို ထောက်ခြင်းအားဖြင့် မိန်းမသားတို့၏စိတ်သည် မည်မျှနုနယ်ကြောင်း ထင်ထင်ရှားရှား ပေါ်လွင်လာတော့သည်။

## တေးထပ်ဟူသော ဝေါဟာရ

တေးထပ်ခေါ်ခြင်းမှာလည်း ညောင်ရမ်းခေတ်ကပင် တေးရိုးကြီးများ ပေါ်ပြီး ဖြစ်သဖြင့် တေးရိုးကြီးများအပေါ်တွင် အကွန့်အဆန်းတက်ကာ တစ်ဆင့်နှစ်ဆင့် ထပ်၍ စပ်သည်ကို အစွဲပြု၍ တေးထပ်ခေါ်သည်ဟု ယူဆကြသည်။ တေးရိုးသည်လည်း အချိုးလေးချိုးရှိသည့် လေးဆစ်ချိုးတစ်မျိုးပင် ဖြစ်သည်။ ယခုကာလတွင် တေးရိုးများကို ပလို့သံဟု ခေါ်သည်။ ညောင်ရမ်းခေတ်ပေါ် တေးရိုးများသည် ၁၂–ရာသီဖွဲ့ တေးရိုးများပေတည်း။

> တန်ခူးဂိမှာ၊ ဓာတ်တေဇယှဉ်မှီ၊ ခါမိဿချိန်ညီ၊ သဝဏ်ီနက္ခတ်၊
> စိတြမည်မက္ခာ၊ တာရာမှာကေဝဋ္ဋမှတ်၊ ၊ပန်းကံ့ကော် ရင်ခတ်လို့၊
> ပွင့်ချပ်ကယ် စုံလင်၊ သင်းရနံ့ပျံ့ရှင်၊ ရေသဘင်ပွဲလမ်း၊ ထိန့်ရိုက်ဆင့်
> ကြူးကြော်သည်၊ သကြံန်တော် ကျူးရင့်သည့်တမ်း။

ဤတေးရိုးမျိုးတွင် ထပ်၍ အကွန့်အတက် ဆန်းပြားစွာ ဖွဲ့အပ်သောကြောင့် တေးထပ်ဟူ၍ ခေါ်ဟန်တူ၏။ မိဖုရား ရှင်မင်း၏ ကဗျာများကို အကဲဖြတ်ရမည်ဆိုသော် ရှင်မင်းသည် ရတုကဗျာများကို အများအပြား မစပ်ဆိုခဲ့သော်လည်း စပ်ဆိုခဲ့သမျှတို့သည် မြန်မာမှုတွင် လွန်စွာ အဖိုးထိုက်တန်၍ အသုံးဝင်သော ကဗျာများပင် ဖြစ်သည်။ ရှင်မင်းသည် တေးထပ်ဟူသော အဖွဲ့မျိုးကို လွန်စွာ အားပေးခဲ့သည်။ ထိုကြောင့် ရှင်မင်းရေး တေးထပ်များကို အတော်ပင် တွေ့ရသည်။ လေးဆစ်သဖြန်များကား လွန်စွာ အဖွဲ့အနွဲ့ အဆင့်အတန်း ကောင်းသော ကဗျာများမဟုတ်စေကာမူ ရေးကျသော ကဗျာများဖြစ်၍ မှတ်တမ်းတင်ခြင်း ခံထိုက်

ပေသည်။ ဤအကြောင်းများကိုထောက်၍ ရှင်မင်းသည် အမျိုးသမီး စာဆိုပင် ဖြစ်လင့်ကစား ကိုယ်ပိုင်ဉာဏ်၊ ထိုးထွင်းဉာဏ် ရင့်သန်သည့် ပုဂ္ဂိုလ်ဖြစ်သည်ဟူ၍ ထင်မြင်မိသည်။

## ရွှေတောင် နန္ဒမိတ်

ရွှေတောင် နန္ဒမိတ်သည် သက္ကရာဇ် ၁၁၄၃–ခုနှစ်တွင် အမရပူရ ရွှေနန်းတော်သို့ တက်တော်မူသော ဘိုးတော်မင်းတရားကြီး မင်းသားဘဝနှင့်ရှိစဉ် အပါးတော်၌ ခစားထမ်းရွက်သော အကြီးတော်၏ သားဖြစ်၍ ငယ်မည်မှာ မောင်သူ ဟူ၍လည်းကောင်း၊ မောင်းဘူးကလေး ဟူ၍လည်းကောင်း ခေါ်ဝေါ်ကြသည်ဟု အဆိုရှိသည်။ အလောင်းမင်းတရားကြီးလက်ထက် ထိုမင်း၏ ရဲဘက်တော်တစ်ဦး အပါအဝင် ဖြစ်သည်။ အင်းဝမြို့တွင် ဆင်ဖြူရှင်မင်းတရားကြီး စိုးစံသည့် ကာလ ဆင်ဖြူရှင်မင်း၏ လက်အောက်တွင် ဝင်ရောက် အမှုတော်ကို ထမ်းရွက်သည်။ ပိဋကတ်သမိုင်း၌ကား နေမျိုးနန္ဒမိတ်ဟု ပါရှိသည်။ ထိုမင်းလက်ထက် ချေင်းများကို ဆိုသည်။ ထိုချေင်းတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ ဆင်ဖြူရှင်မင်း၏ သားတော် စလင်းစားမောင်ပေါင်းချော င် ချေင်း၊

၂။ ဆင်ဖြူရှင်မင်းနှင့် အလယ်နန်းမိဖုရားတို့မှ ဖွားမြင်တော်မူသော သားတော်ကြီး သခင်ကြီး ချေင်း၊

၃။ သားတော်လတ် သခင်လတ် ချေင်း၊

၄။ သားတော်ငယ် သခင်ငယ် ချေင်း၊

၅။ သမီးတော် မြို့လုလင်စား မင်းသမီး ချေင်း၊

၆။ ဆင်ဖြူရှင်နှင့် တောင်နန်းမတော်ကြီးတို့မှ ဖွားမြင်သော စဉ့်ကူး မင်းသား၏ နမတော်၊ နောင် ပုဂံမင်း မိဖုရားဖြစ်လာသော မင်းရွှေနန်း ချေင်း၊

ဤချေင်းများအပြင် ဘိုးတော်ဘုရား၏ သမီးတော်ဖြစ်သော နောင်ဘကြီးတော်၏ မယ်တော်ဖြစ်မည့် အိမ်ရှေ့မင်း မိဖုရားကိုလည်း ချေင်းဖွဲ့ဆိုသည်။ မည်သည့်မင်း လက်ထက်တွင် ဆိုသည်ကိုကား မသိရပေ။ ဘိုးတော်ဘုရား လက်ထက်ကျမှ ဆိုဟန်တူသည်။ စဉ့်ကူးမင်း အထွတ်အမြတ်သို့ ရောက်လတ်သော်

ရွှေတောင် နန္ဒမိတ်ကို (၁) သံတော်ဆင့်အရာ၊ (၂) လော်ကား ၃၀၀၀ မှူးအရာနှင့်၊ (၃) အတွင်းဝန်အရာ ၃–နေရာတို့တွင် ထမ်းရွက်ရန် ခန့်ထားတော်မူသည်။ ဤမင်းလက်ထက်တွင် ဥမ္မာဒန္တီပျို့၊ မယ်တော်မာယာပျို့၊ ကုသပျို့နှင့် စန္ဒကုမ္မာဇာတ်ချင်းများကို ရေးဖွဲ့သည်။ ထိုနောက် ဘိုးတော်ဘုရားလက်ထက်တွင် အနိစ္စရောက်သည်။ ရွှေတောင် နန္ဒမိတ်ရေးသော ချောင်းစောင်ရေ ၇–စောင်အနက် မင်းရွှေနန်း ချောင်းမှတစ်ပါး ကျန်ချောင်းများကို ရှာဖွေ၍ မတွေ့ရပေ။ စာဆိုသူသည် ချောင်းများစွာ ရေးခဲ့ပုံကို ထောက်သော် ချောင်းကဗျာတွင် နိုင်နင်းဟန် တူသည်။ သို့သော် ထိုချောင်းများကို အရေးတယူပြု၍ သိမ်းဆည်း ကူးယူထားမည့်သူပင် မရှိသည်ကို ထောက်သော် ထိုချောင်းတို့သည် ပလိပ်စားချောင်း၏ အဆင့်အတန်းကို မမီ၍ပင် ဖြစ်တန်ရာသည်။ ပလိပ်စား ချောင်းကလည်း ပေါ်ပြီးစဖြစ်၍ အခြားချောင်းတို့သည် တိမ်မြုပ်သွားဟန် တူသည်။ ထို့ကြောင့် ထိုချောင်းများကို မတွေ့ရှိရဖြစ်လေသည်။ ပျို့ကဗျာများဘက်ကလည်း ဥမ္မာဒန္တီပျို့၊ ကုသပျို့၊ မယ်တော်မာယာပျို့များကို ရေးသားခဲ့ကြောင်းကိုသာ သိရသည်။ ထိုပျို့များကို ယခုတိုင် ရှာဖွေ၍ မတွေ့ရသေးချေ။ ဥမ္မာဒန္တီပျို့ကို ဘကြီးတော်ဘုရားလက်ထက် ဆီမီးခုံရွာစား ဦးရွှန်းက ထပ်မံ၍ ပျို့သစ်တစ်စောင် ရေးသည်။ ကုသပျို့ကိုလည်း နောက်ဆရာများက ထပ်မံ ရေးကြပြန်သည်။ ရွှေကျောင်းရဲရွာ ဦးပုနှင့် မုံရွေးဆရာတော်တို့သည် ဘကြီးတော်ဘုရား လက်ထက်တော်တွင် ကုသပျို့ကို တစ်စောင်စီ ရေးကြပြန်သည်။

## အတွင်းဝန် ဦးညို

ရွှေတောင် နန္ဒမိတ်မှာ သားတစ်ယောက် ထွန်းကားခဲ့သည်။ ငယ်မည်မှာ မောင်သာမောင် ဖြစ်သည်။ ကြီးသောအခါ မောင်ညို ဟူ၍ ခေါ်ကြသည်။ အဖဖြစ်သူသည် စာဆိုကြီးဖြစ်သည့်အတိုင်း သား မောင်ညိုလည်း အဖ၏ နည်းနာနိဿယများကို ရရှိသည့်ပြင် စစ်ကိုင်းမင်းလက်ထက်တွင် အတွင်းဝန်ထောက်ရာထူးကို ခံယူရသည်။ အတွင်းဝန်ထောက် ဦးညိုသည် စစ်ကိုင်းမင်း၏ အိမ်တော်ပါကျွန် ဖြစ်သောကြောင့် အစစအရာရာ၌ပင် စစ်ကိုင်းမင်း၏ ယုံကြည်လေးမြတ်ခြင်းကို ခံရသည်။ ထိုမင်းလက်ထက် ရွှေမင်းဘုန်း ဆင်တော်မော်ကွန်းကို ဆိုသည်။ ဤဆင်တော် မော်ကွန်းတွင်…

စကြာရောက်ဆဲ၊ ဆဒ္ဒန်ပွဲဝယ်၊ ကျော်သဲမြန်ခန်း၊ ဆယ်ရှိပန်းဖြင့်၊ ဥဒေါင်းကွန်ချာ၊ အကျဉ်းသာလျှင်၊ မင်္ဂလာမှန်ကင်း၊ နောင်ဖို့ချွင်း၍၊ အတွင်းဝန်ထောက်၊ ကဝိမြှောက်သည်၊ စက်အောက်ကျွန်ယုံ၊ နှုတ်အာဂုံကို၊ စေ့စုံရည်ညွှန်း၊ မကျယ်ဝန်းသည်၊ မော်ကွန်းစာစောင်၊ ကျောက်နယ်ထောင်ရှင့်...

စသည်ဖြင့် စဉ့်ကူးမင်း၏ ကျွန်ယုံတော် အတွင်းဝန်ထောက်ဖြစ်ကြောင်းကို ဂုဏ်ဖော်ပြ၍ စပ်ဆိုထားသည်ဖြစ်ရာ သက္ကရာဇ် ၁၁၄၃-ခုနှစ်၊ ဘိုးတော်မင်းတရားကြီး အထွတ်အမြတ်သို့ ရောက်သည့်ကာလ စာဆိုသူ ဦးညိုကို ရှေ့တော်သွင်းစေ၍ မောင်မင်းသည် စဉ့်ကူးမင်း၏ ကျွန်ယုံတော်ဖြစ်သည်။ မောင်မင်းအရှင်သခင်ကို ကွပ်မိချေ၍ ငါ၏ အကျိုးမဲ့ကို မောင်မင်း ပြုလတ္တံ့။ ထိုကြောင့် မောင်မင်း အရှင်တို့ သွားမြဲလမ်း သွားစေဟူ၍ မိန့်တော်မူပြီးလျှင် လက်မရွံ့အာဏာသားတို့ထံ အပ်သောကြောင့် ထိုမင်းလက်ထက် အနိစ္စရောက်ရရှာသည်။ ဦးညိုသည် ဘိုးတော်ဘုရား၏ ကျွန်ရင်း ဖြစ်သည်။ စဉ့်ကူးမင်း ကောင်းစားစဉ်အခါ ဖစဉ့်ကူးမင်းထံ ရွှေ့ပြောင်းထမ်းရွက်ပြီးလျှင် စဉ့်ကူးမင်း၏ ကျွန်ယုံဟု ဆင်တော် မောင်ကွန်းတွင် ထည့်သွင်းစပ်ဆိုခြင်းကြောင့် ဘိုးတော် ကောင်းစားလာသောအခါ စိတ်နာတော်မူ၍ ကွပ်မျက်သည်ဟူ၍လည်း ဆိုကြသည်။ ဦးညိုရေးသားပြုစုခဲ့သော ရွှေမင်းဘုန်း ဆင်တော်မော်ကွန်းသည် အဆင့်အတန်းမြင့်သော မော်ကွန်းဖြစ်သည်။ မြန်မာစာပေတွင် ဆင်တော်မော်ကွန်းပေါင်း ခုနစ်စောင်ခန့် တွေ့ရှိရသည့်အနက် ရွှေမင်းဘုန်း ဆင်တော် မော်ကွန်းသည် ဒုတိယအကောင်းဆုံး ဆင်တော်မော်ကွန်း ဖြစ်သင့်သည်ဟု ထင်မြင်ဖွယ်ရှိသည်။ ဘိုးတော်မင်းတရားကြီး လက်ထက် ဒုတိယ နဝဒေးကြီးရေးသော ဝိလာသိနီ ဆင်တော်မော်ကွန်းကိုကား ပထမ အကောင်းဆုံး ဆင်တော်မော်ကွန်းဟူ၍ မှတ်ချက် တင်သင့်ပေသည်။ ရွှေမင်းဘုန်း ဆင်တော်မော်ကွန်းသည်...

ထိုခါဝယ်၌၊ လေးဆယ်နှစ်နှင့်၊ အမြွတ်ဖြစ်၍၊ ဇော်နှင့်ဘဝါ၊ ဂေါဇာအသင့်၊ ရောက်သဖြင့်လျှင်၊ တို့ရှင့်ရွှေဘုန်း၊ ဘဝင်္ဂချုန်းမျှ၊ ရှုန်းရှုန်းမိုးစွန်၊ ဝှန်လေဘိ၍၊ သုတိမင်္ဂလာ၊ သာယာစမော၊ မင်းဘုန်းတောဝယ်၊ နတ်စောနရိန်၊ ဥတိန်မင်းအား၊ သိကြားကိုယ်ကြပ်၊ အထိန်းအပ်သား၊ ဖပ်ဖပ်မှန်သွင်၊ ပြောင်မာတင်ကို၊ တွေ့မြင်ကြောင်းများ၊ နတ်တို့ကြားသည်...

ဟူသော စကားကို ထောက်၍ စေဥ့်ကူးမင်းလက်ထက် သက္ကရာဇ် ၁၁၄၂–ခုနှစ် တွင် ဘုန်းတော်ကြောင့် မင်းဘုန်းတောမှ ရရှိသော ဆင်တော်ကို ဖွဲ့ဆိုသော စာဖြစ်သည်။ မင်းဘုန်းတောမှ ရရှိသည်ကို အစွဲပြု၍ ရွှေမင်းဘုန်း ဆင်တော် ခေါ်တွင်သည်ဟု သိအပ်၏။ ဦးညိုသည် ဤမော်ကွန်းတစ်စောင်တည်းနှင့်ပင် ကျော်စောထိုက်ပေသည်။ အဖွဲ့အနွဲ့များမှာ ရှေးအထက်ကျော် ကာရိက ဆရာများ စပ်ဆိုခဲ့သော ရွှေစာတိုင် ဆင်တော် မော်ကွန်းနှင့် ရတနာပြောင်မွန် ဆင်တော် မော်ကွန်းတို့ထက် ခမ်းနားပြေပြစ်၏။ ထိုအပြင် ဦးညိုသည် ဂဇသျှတြကျမ်းကို ကျွမ်းကျင် နားလည်ဟန် တူ၏။

ရွှေမင်းဘုန်းတွင်၊ ကုန်းနှင့် စံနစ်၊ သစ်သစ် ချင့်တာ၊ ကျွန့်ပ်ဝါသော်၊ တစ်ထွာမှန်မှန်၊ ဆယ့်နှစ်ပြန်လျှင်၊ မတန်လေဖွယ်၊ စားစားကယ်လိမ့်၊ တစ်ဆယ်အင်္ဂါ၊ နံ့သာမုန်ရည်၊ ကိုယ်ထည်ဖြိုးဖြိုး၊ ရှေ့အားကြီးနှင့်၊ အမြီးနှာမောင်း၊ မျဉ်းကြောင်းဖြောင့်ဖြောင့်၊ ပွတ်ထောင့်ကုန်းရိုး၊ ရေခမိုးနှင့်၊ မုန်အိုးချွန်းတင်၊ လက်ပြင်ဦးကင်း၊ ညှင်း မဟူကောင်း၊ ဖွေးဖွေး မောင်း၏၊ လုံးလျောင်း သားရေ၊ လက်ခြေ အဆစ်၊ ပြေပြစ် မချို့၊ ဦးမရို့သား၊ မြင်းမိုရ့်သခင်၊ နတ်ရှင်ပဏ္ဍာ၊ ပြောင်မြတ်စွာ သည်၊ ။စကြာရှေ့လွန် ရည်စူးတည်း...

အစရှိသည်ဖြင့် ဆင်ကောင်းဆင်မြတ်တို့၏ လက္ခဏာ အရေးအသားများကို အစီအစဉ်နှင့်တကွ ကျနစွာ ဖော်ပြထားသည်မှာ များစွာ ဗဟုသုတဖြစ်ဖွယ်ရာ ကောင်းလှသတည်း။

ရွှေစာတိုင် မော်ကွန်းကို ဖွဲ့သော အင်းဝခေတ်ပေါ် ရှင်ထွေးညိုသည် ဂဇသျှတြကျမ်းတွင် ဦးညိုလောက် နိုင်နင်းဟန်မတူ။ ဦးညို ဖွဲ့သကဲ့သို့ ဆင်ကောင်း ဆင်မြတ်များ၏ လက္ခဏာများကို လုံလောက်စွာ မဖော်ပြခဲ့ပေ။ တောင်ငူ ရှင်သံခို ဖွဲ့ဆိုသော ရတနာပြောင်မွန် မော်ကွန်းသည်လည်း ဖွဲ့နွဲ့ပုံ စကား အသုံးအနှုန်း ယဉ်ကျေးပြေပြစ်ရုံမျှသာ ရှိ၏။ ဦးညို၏ မော်ကွန်းလောက် ခမ်းနားခြင်း၊ အဓိပ္ပာယ် လေးနက်ခြင်းတို့မှာ ထိထိရောက်ရောက် ရှိလှသည်မဟုတ်။ ထို့ပြင်မက ဦးညိုသည် ရာဇဝင်ကျမ်းများကိုလည်း လေ့လာဆည်းပူးနိုင်နင်း၏။ ရွှေမင်းဘုန်း ဆင်တော်မှသာ ဆဒ္ဒန်ဆင်မင်းအစစ် ဖြစ်ပေသည်ဟု ဆိုလို၍...

စပယ်ဦးစာပေ

သရေခေတ္တ၊ လက်ဦးစက၊ မဆွတည်ထောင်၊ ဒွတ္တဘောင်နှင့်၊ သည့်နောင် တလတ်၊ အရိမဒ်ဝယ်၊ နေနတ်မင်းကြီး၊ ပြူစောထီးမှ၊ မသိးနွယ်တော်၊ ကျွန်းခွင်ကျော်သည်၊ အနော်ရထာ၊ ဥပါမင်းခွေး၊ တရုတ်ပြေးနှင့်၊ ရပ်ဝေးသထုံ၊ ဒဂုံမကြွင်း၊ ဝါရူမင်းကို၊ သတင်းမျှသာ၊ ကြားဖူးပါရှင့်၊ ယုတ္တာ ယုတ္တိ၊ ဆင်ခြင်ညှိမှု၊ ဝိစိကိစ္ဆာ၊ ရှိဖွယ်သာတည့်၊ ထုံးရာဇဝင်၊ ရှင်ဋီတင်လည်း၊ ဆင်ခြင်ကြံရေး၊ ကာလဝေးခဲ့...

သည်ဖြင့် ရာဇဝင်တွင်ခဲ့သော ဆင်ဖြူတော်များကိုပင် နှိမ့်ချခဲ့လေသည်။

## ကုန်းဘောင်ခေတ် ပထမပိုင်း နိဂုံးချုပ်

အလောင်းမင်းတရားကြီး ရွှေထီးရွှေနန်းကို သိမ်းမြန်း စိုးစံတော်မူသည့် သက္ကရာဇ် ၁၁၁၅–ခုနှစ်မှ စဉ့်ကူးမင်းနတ်ရွာစံတော်မူသော သက္ကရာဇ် ၁၁၄၃–ခုနှစ် အတောအတွင်း ဤစာဆိုလောကကြီး၌ ပေါ်ပေါက်ထွန်းကားလာကြသော စာဆိုတော်များ အကြောင်းအရာကို မော်ကွန်း ဆရာဦးညို၌ပင် တစ်ခန်းရပ်၍ ကုန်းဘောင်ခေတ် ပထမပိုင်းကို နိဂုံးချုပ်ရန် သင့်သည်ဟု ထင်မြင်သည်။

ကုန်းဘောင်ခေတ် ပထမပိုင်းတွင် ပေါ်ပေါက်ထွန်းကားကြသည့် စာဆိုတော်များသည် အများအားဖြင့် လူပုဂ္ဂိုလ်များသာ ဖြစ်ကြ၏။ ရဟန်းပုဂ္ဂိုလ်များသည် တစ်ပါးနှစ်ပါးမျှ ပေါ်ပေါက်လာကြသော်လည်း အထူးတလည် မှတ်တမ်းတင်ရလောက်အောင် ကောင်းသော ကဗျာများကို မရေးဖွဲ့ခဲ့ကြပေ။ ပုံစံပြရမည်ဆိုသော် အတုလ ဆရာတော်ဘုရားကြီးသည် ကုန်းဘောင် အလောင်းမင်းတရားကြီး လက်ထက်တွင် ရဲတင်း ဟူသော ကဗျာအဖွဲ့ကို တီထွင်ဖွဲ့ဆိုခဲ့၏။ ဝီရ ရသနှင့် ယှဉ်သော ရဲတင်းများသည်လည်း ချေင်းများကဲ့သို့ ရဲစိတ်ရဲမာန်ကို ပွားများစေနိုင်သော်လည်း သံသရာရေးအတွက် များစွာအကျိုးမရှိ။ ပို့မော်ကွန်းများကဲ့သို့ လေးနက်ခမ်းနားခြင်း မရှိချေ။ ဤခေတ်တွင် ဓမ္မသတ် ကျမ်းပြုဆရာ ဝဏ္ဏဓမ္မ ကျော်ထင်နှင့် စဉ့်ကူးမင်း ချေင်းဆရာ ဦးဖျော်တို့သည် ရှေးဦးပထမက ရဟန်းပုဂ္ဂိုလ်များ ဖြစ်ကြသည်။ နောက်မှ မြန်မာအမှုကို အားကြိုးမာန်တက် ပြုစုရန် လိုလားကြသောကြောင့် လူထွက်ပြီးလျှင် ဘုရင်မင်းမြတ်ထံ၌ ခစားရင်း ကဗျာကျမ်း အစောင်စောင်တို့ကို ရေးသားကြသည်။

ထိုခေတ်တွင် ပေါ်ပေါက်လာသော စာပေများမှာ အဘက်ဘက်ကပင် စုံလင်သည်။ ထိုကဗျာများအနက် ညောင်ရမ်းခေတ်တွင် ခေတ်မစားခဲ့သော ပျို့အဖွဲ့အနွဲ့များသည် ဤကုန်းဘောင်ခေတ်တွင် ပြန်လည်ခေတ်စားလာပြန်သည်။ သို့သော် ထိုပျို့များသည် ပထမအင်းဝခေတ်က ပေါ်ပေါက်လာခဲ့သော ပျို့များ၏ အဆင့်အတန်းကို မမီချေ။ ချေင်းအဖွဲ့အနွဲ့များသည် တောင်ငူခေတ်၊ ညောင်ရမ်းခေတ်များက အထူး ခေတ်စားခဲ့သော်လည်း ဤကုန်းဘောင်ခေတ်ပေါ် ငစဉ့်ကူးမင်းချေင်း၏ အဆင့်အတန်းကို မကျော်လွန်နိုင်ကြချေ။ ငစဉ့်ကူးမင်း ချေင်းသည် ရာဇဝင်လည်း ဖြစ်၏။ သတ်ပုံကျမ်းလည်း ဖြစ်၏။ ထို့ကြောင့် ထိုချေင်းကို ကုန်းဘောင်ခေတ်၏ ထူးခြားသော မှတ်တိုင်ကြီးဟူ၍ ခေါ်ဆိုသင့်၏။ ထို့ပြင် ဆန်းသစ်သော အဖွဲ့အနွဲ့များလည်း ပေါ်ပေါက်ကြသေး၏။ ရကန်အဖွဲ့အနွဲ့သည် ညောင်ရမ်းခေတ်ကပင် ပေါ်ပေါက်ဟန် တူသော်လည်း မျိုးစေ့ချရုံသာ ရှိခဲ့၏။ ထိုရကန်ဟောင်းများကိုလည်း မတွေ့ရသေးချေ။ ဤကုန်းဘောင်ခေတ်တွင်သာ ငွေတောင်ရကန်ကို ပထမဆုံး ထင်ရှားတွေ့ရှိရသောကြောင့် ကုန်းဘောင်ခေတ်၏ အသီးအပွင့် ဖြစ်သည်ဟု ဆိုသင့်၏။ ငွေတောင် ရကန်သစ်နှင့် မွေ့နန်း ရကန်သည် ပထမတန်းစားကြီးများ မဟုတ်သော်လည်း အဖွဲ့အနွဲ့သစ်ဆန်း၍ ဟာသဉာဏ် ကွန့်ထားသော စာစုဖြစ်သဖြင့် ထူးခြားကောင်းမွန်၏။ ဟာသဉာဏ် ကွန့်မြူးထားသော စာပေများသည်လည်း အထူးအားဖြင့် ရကန်ကပင် အစပြု၍ ပေါ်ပေါက်လာရခြင်းကြောင့် ရကန်သည် ကုန်းဘောင်ခေတ် ပထမပိုင်းတွင် အထူး တသီးတခြား မှတ်တမ်းတင်ထားအပ်သော စာပေဖြစ်၏။

ထို့ပြင် တေးထပ်၊ လေးဆစ်များကိုလည်း ကုန်းဘောင်ခေတ်တွင် အစပြု၍ တွေ့ရှိရသည်။ ဤတေးထပ်၊ လေးဆစ်များသည်လည်း ညောင်ရမ်းခေတ်များက စိုက်ပျိုးခဲ့သော မျိုးစေ့မှ စတင်ပေါက်ပွားခြင်း ဖြစ်ပေသည်။ ဓမ္မသစ်ကျမ်းများသည် ဤကုန်းဘောင်ခေတ်၏ ထူးမြတ်သော အသီးအပွင့်များ ဖြစ်ကြသည်။ ဤကဲ့သို့ ဓမ္မသတ်ကျမ်းများ ပေါ်ပေါက်လာရခြင်းသည် တရားနှင့်အညီ မင်းပြုကြသော ကုန်းဘောင်မင်းများ၏ လုံ့လဥဿာဟကြောင့် ဖြစ်လေသည်။ ဓမ္မသတ်ကျမ်းများသည် မြန်မာပြည်ကြီးကို ပိုမိုယဉ်ကျေးအောင် ဖန်တီးပေးသောကြောင့် ဤကုန်းဘောင်ခေတ်ကြီးသည်လည်းကောင်း၊ ဓမ္မသတ်ကျမ်းပြု ဆရာများသည်လည်းကောင်း ကျွန်ုပ်တို့၏ ကျေးဇူးရှင်များ ဖြစ်ကြတော့သည်။

ဤခေတ်တွင် ရတနာကြေးမုံ နန်းတွင်းဇာတ်ဝတ္ထု တစ်စောင် ပေါ်သည်။ ထိုဇာတ် ဝတ္ထုမျိုးသည် အင်းဝခေတ်က ပေါ်ပေါက်ခဲ့ပြီး ဖြစ်သော ပါရာယနဝတ္ထု ကဲ့သို့ ဓမ္မကြောင်းနွယ်သော ဝတ္ထုမျိုးလည်း မဟုတ်။ ဇာတ်သဘင် ကပြရန် ရည်ရွယ်၍ ရေးသည်လည်း မဟုတ်။ ဖတ်ရှုရန် သက်သက်ရေးသော ဝတ္ထုဖြစ်၍ အခြားဝတ္ထုများထက် ထူးခြားသည်။ ဤကဲ့သို့ ထူးခြားကောင်းမွန်၍ အဆင့်အတန်း မြင့်သော စာပေများ ပေါ်ပေါက်လာရခြင်းသည် ဘုရင်မင်းမြတ်တို့ ကိုယ်တော်တိုင်က အားပေးသောကြောင့်ပင် ဖြစ်သည်ဟု ဆိုရပေမည်။



ဤခေတ်တွင် ရတနာကြေးမုံ နန်းတွင်းဇာတ်ဝတ္ထု တစ်စောင် ပေါ်သည်။ ထိုဇာတ် ဝတ္ထုမျိုးသည် အင်းဝခေတ်က ပေါ်ပေါက်ခဲ့ပြီး ဖြစ်သော ပါရာယနဝတ္ထု ကဲ့သို့ ဓမ္မကြောင်းနွယ်သော ဝတ္ထုမျိုးလည်း မဟုတ်။ ဇာတ်သဘင် ကပြရန် ရည်ရွယ်၍ ရေးသည်လည်း မဟုတ်။ ဖတ်ရှုရန် သက်သက်ရေးသော ဝတ္ထုဖြစ်၍ အခြားဝတ္ထုများထက် ထူးခြားသည်။ ဤကဲ့သို့ ထူးခြားကောင်းမွန်၍ အဆင့်အတန်း မြင့်သော စာပေများ ပေါ်ပေါက်လာရခြင်းသည် ဘုရင်မင်းမြတ်တို့ ကိုယ်တော်တိုင်က အားပေးသောကြောင့်ပင် ဖြစ်သည်ဟု ဆိုရပေမည်။



# ၇။ ကုန်းဘောင်ခေတ် ဒုတိယပိုင်း

အမရပူရ မြို့တည် နန်းတည် ဘိုးတော်မင်းတရားကြီး လက်ထက် သက္ကရာဇ် ၁၁၄၄–ခုနှစ်မှစ၍ သီပေါမင်းတရား နန်းကျတော်မူသော သက္ကရာဇ် ၁၂၄၇–ခုနှစ် အတွင်း ကာလအပိုင်းအခြားကို ကုန်းဘောင်ခေတ် ဒုတိယပိုင်းဟူ၍ သတ်မှတ် အပ်၏။ ဤခေတ်အတွင်း ပေါ်ပေါက်ထွန်းကားကြသော စာဆိုတော်တို့သည် ရဟန်းပုဂ္ဂိုလ် လူပုဂ္ဂိုလ်များပင် ဖြစ်ကြသည်။ ရေးသားပြုစုကြသော စာပေများမှာ လည်း အဘက်ဘက်ကပင် အမျိုးစုံသည်။ ကဗျာလင်္ကာဘက်ကလည်း စာကောင်း၊ ပေကောင်းကြီးများ ထွန်းကားခဲ့၍ စကားပြေဘက်တွင်လည်း ယခင်ခေတ်များကထက် ပိုမို၍ ကောင်းမွန်သော စာကြီး ပေကြီးများကို တွေ့ရှိရပေသည်။ ဂီတဘက်တွင်လည်း ယိုးဒယားပတ်ပျိုး အစရှိသော တေးကြီး ဘွဲ့ကြီးများ ပေါ်ပေါက်လာကြသောကြောင့် ဤခေတ်ကြီးသည် အလွန်ထူးသောခေတ်ကြီးပင် ဖြစ်သည်။

## တွင်းသင်းတိုက်ဝန် မဟာစည်သူ

ထိုသို့ စာဆိုလောကကြီးတွင် ခေတ်သစ်ထူထောင်၍ လာကြသော ပုဂ္ဂိုလ် များအနက် တွင်းသင်းတိုက်ဝန် မဟာစည်သူသည် ဘိုးတော်မင်းတရားကြီး၏ ညာလက်ရုံးသဖွယ် အားကိုးရသော စာဆိုတော်ကြီး ဖြစ်ပေ၏။ သက္ကရာဇ် ၁၀၈၈– ခုနှစ်တွင် မောင်းထောင်ကြီးရွာ၌ ဖွားမြင်သည်။ ငယ်မည်မှာ ဦးထွန်းညိုဖြစ်သည်။

စိန္တကျော်သူ၏ မိခင် ဒေါ်ပုသည် တွင်းသင်းမင်းကြီး၏ အစ်မဖြစ်သည်။ သက္ကရာဇ် ၁၀၉၅–ခုနှစ် အင်းဝရွှေနန်းကို သိမ်းမြန်းတော်မူသော ဟံသာဝတီပါ မင်းတရားကြီး လက်ထက်တွင် ဦးထွန်းညိုသည် ရဟန်းအဖြစ်ဖြင့် သာသနာ့ဘောင်တွင် ထမ်းရွက် နေသည်။ ရဟန်းအဖြစ်ဖြင့် သိက္ခာဝါ အတော်ရင့်မှ အလောင်းမင်းတရားကြီးသည် ရတနာသိင်္ဃ ကုန်းဘောင်မြို့တွင် ကြငှန်းဖွင့်တော်မူသည့်အခါ၌ လူထွက်ပြီးလျှင် ဘုန်းတော်ရိပ်ကို ခိုလှုံသည်။ ထိုအခါ မင်းတရားကြီးက သားတော် ဗဒုံမြို့စားထံတွင် ဆရာအဖြစ်နှင့် ထမ်းရွက်စေသည်။ ပျို့ရှယ်စဉ်ကပင် ကဗျာလင်္ကာ ဓမ္မသတ်ကျမ်း များကို လေ့လာဆည်းပူးသည်။ ဗဒုံမြို့စား ဘိုးတော်မင်းတရားကြီး အထွတ်အမြတ်သို့ ရောက်လတ္တံသော် ဦးထွန်းညိုအား ရှေးဦးစွာ **'မဟာသန္တိယာ'** ဘွဲ့ကို ပေးအပ်၍ ကျီဝန်ခန့်ထား သူကောင်းပြုတော်မူသည်။ ထိုအခါ၌ ပျို့အစောင်စောင်တို့ကို ရေးသည်။ ဓမ္မသတ်ကျမ်းများ မော်ကွန်းများကိုလည်း ရေးသည်။ ထိုနောက် များမကြာမီ **'မဟာစည်သူ'** ဘွဲ့နှင့် တွင်းသင်းတိုက်ဝန် ခန့်တော်မူသည်။ ထိုအခါ တွင် တွင်းသင်းမင်းကြီးဟူ၍ သတင်းကျော်စော ထင်ရှားသည်။ ထိုနောက် ပုခန်း မင်းကြီး မရှိလျှင် ပုခန်းမင်းကြီးနေရာ ပတ္တမြား ၃ ရစ်စီ တောင်ဝှေးများကို ပေးသနားတော်မူခြင်း ခံရသည်။ အိုမင်းမစွမ်း ရှိသည့်ကာလ တံခါးနီထိ ပေါင်း ယာဉ်စီး၍ ဝင်ရသည်။ မင်းကြီးသည် ဘိုးတော်မင်းတရားကြီးနှင့်အတူ မင်းကွန်း နန်းတော်တွင် အမှုတော်များကို ထမ်းရွက်နေခိုက် ထိုမင်းကွန်းအရပ်၌ပင် အိုမင်း သော ရောဂါဖြင့် အနိစ္စရောက်သည်။ အလောင်းကို အမိန့်တော်မြတ်အရ ထီးဖြူ မိုးကာ၍ သန်းလျင်းနှင့် တင်ဆောင်ကာ သင်္ဂြိုဟ်ရလေသည်။

ထိုအမတ်ကြီး စီရင်ပြုစုခဲ့သော ပျို့များကား–

ငရဲ့မင်းပျို့၊

မုဒုလက္ခဏာပျို့၊

မဟော်ကျေးစေခန်းပျို့၊

ဥမင်ခန်းပျို့၊

ဇယဒိသပျို့၊

ဝိဓုရပျို့၊

ဝေဿန္တရာပျို့၊

ဘလ္လာတိယပျို့၊

ဇနကပျို့၊

များ ဖြစ်ကြလေသည်။

ဤပျို့များအပြင် စပ်ဆိုခဲ့သော အခြားကဗျာများကား...

ရေသဘင်လူးတား၊

တက်ရေး ၃၇ ချင်း လူးတား၊

အောင်ပင်လယ်ကန် ဘွဲ့၊

ဘုန်းတော်ဘွဲ့ ရတု၊

ဓားစကြာ ဘွဲ့၊

ဓမ္မသတ် လင်္ကာ၊

မနုရင်း လင်္ကာ၊

မနုဝဏ္ဏနာ ဓမ္မသတ် လင်္ကာ၊

ပုဏ္ဏရိက ဆင်တော်မော်ကွန်း၊

မင်းကွန်းဘွဲ့ မော်ကွန်း၊

အမရပူရမြို့ဘွဲ့ မော်ကွန်း၊

ပေါ်ရာဏ ကထာကျမ်းတို့ ဖြစ်ကြလေသည်။

ထိုအပြင် မဟာရာဇဝင်သစ်ကြီး၊ သတ်ညွှန်းကြီး၊ ဝိဘတ္တိပိဘာ ခွဲထားသတ်ပုံ၊ လူးတား၊ ရတုများကိုလည်း ရေးသားစီရင်သည်။ ဤပျို့ကြီး ၉-စောင်အနက် ဇနကပျို့၊ ဝိဓုရပျို့၊ ဘလ္လာတိယပျို့၊ ဝေဿန္တရာပျို့များသည် လွန်စွာထင်ရှား ကျော်စောသည်။ ဝိဓုရပျို့ကို ဝန်ကြီးသည် သက္ကရာဇ် ၁၁၅၂-ခုနှစ်တွင် ရေးသား သည်။ ဘုရားအလောင်း ဝိဓုရအမတ်ကြီး၏ ဇာတ်တော်ကို ကဗျာလင်္ကာဖြင့် တန်ဆာဆင်ခြင်းပင်တည်း။ ဤပျို့တွင် မင်းကြီးသည် ရာဇဝသတီခန်းကို အမွှမ်း တင်၍ ရေးသားသည်။ ကောရဗျမင်းကြီးနှင့် ပုဏ္ဏက နတ်ဘီလူးတို့ ကြွေအန်ခတ် ကြရာ နတ်ဘီလူးက နိုင်သောကြောင့် ဝိဓုရအမတ်ကြီးကို ယူမည့်အခါ အမတ်ကြီး သည် သားတော်များကိုခေါ်၍ ရာဇဝသတီခန်းဖြင့် ဆုံးမသွန်သင်ရာ၌...

ဘူမိပါလ၊ ရာဇိန္ဒလျှင်၊ မောင်းမကိုယ်လုပ်၊ ပတ်ချုပ်ရံကာ၊ ပျော်စံရာဌ၊ ဘာသာရောပြွမ်း၊ ကျွမ်းမဝင်သာ၊ ဆိတ်ကွယ်ရာဝယ်၊ မျက်နှာပြိုင်တဲ၊ ပူးတွဲယှက်တင်၊ တိုင်ပင်သမှူ၊ မပြုသင့်ဘူး၊ သားစားကြူးသည်၊ ဘီလူးတခုံ၊ ဆွဲ့သဖွယ်၊ မျက်ကွယ်သမျှ၊ လူအ,အလား၊ နားပင်း အသွင်၊ မှတ်ထင်တွေးယူ၊ ရွှေနန်းသူနှင့်၊ ချစ်မြူဆန့်ကျင်၊ ကျွမ်း မဝင်လင့်၊ အရှင်ပိုင်ကား၊ ခမ်းနားထွေထွေ၊ ရွှေနှင့်ငွေလည်း၊ မြွေဆိပ် အတူ၊ မယူစောင့်စား၊ နိုးကြားတတ်ဘိ၊ သတိလုံ့လ၊ ပစ္စက္ခဌ၊ ဒေါသ အပြစ်၊ များစွာဖြစ်သည်၊ သောက်ယစ်စားကြူး၊ ပျော်မြူးစင်ကင်း၊ မင်းတို့တံထွာ၊ မိဂဒါဟု၊ မည်သာချမ်းအေး၊ ဘေးမဲ့ပေးသား၊ ငှက် ကျေးပျော်ရာ၊ အရပ်သာအား၊ ရှောင်ရှားဝေးစွာ၊ ဖဲကြဉ်ခွာလျက် . . .

ဒသည်ဖြင့် မင်းများ ချစ်ခင်နှစ်သက်အောင် မင်းခယောက်ျားတို့ ပြုကျင့်ဖွယ်ရာ ဝတ္တရားများကို သွန်သင်လေသည်။

စာဆိုတော် ဝန်ကြီးသည် ဝိဓုရအမတ်ကြီးက သားတော်တစ်ထောင်တို့အား ဆုံးမသွန်သင်သကဲ့သို့ ဘိုးတော်မင်းတရား အထံတော်၌ ခစားကြကုန်သော မင်းခ ယောက်ျားတို့အား ဆုံးမသွန်သင်လိုသောကြောင့် ရာဇဝသတီခန်းပါသော ဇာတ်တော် ကြီးကို ထုတ်နုတ်ရေးသားခြင်း ဖြစ်သည်ဟု ထင်မြင်မိ၏။ ဤနေရာ၌ တွင်းသင်း မင်းကြီးသည် လွန်စွာ ဉာဏ်ကစား၏။ ကောရဗျမင်းကြီးနေရာတွင် အရှင်သခင် ဘိုးတော်ဘုရားကို ထား၍ မိမိမှာမူ ဝိဓုရအမတ်ကြီးသဖွယ် အရှင်ကောင်းကျွန်ပီပီ တိုင်းပြည်ငြိမ်ဝပ်ပိပြားအောင် စီမံအုပ်ချုပ်ခဲ့ပုံများကို သိသာထင်ရှားအောင် တိုက်ရိုက် စကားဖြင့် မဆိုဘဲ ဇာတ်တော်ကြီးတွင် တင်စား၍ ဆိုလေသည်။

ဤသို့ ရာဇဝသတီခန်းများ ရေးသားခြင်းကိုထောက်၍ စာဆိုအမတ်ကြီးသည် မင်းရေးမင်းရာတွင် လွန်စွာ လိမ္မာကြောင်း သိရ၏။ ထို့ကြောင့်ပင်လျှင် ဓမ္မသတ် ကျမ်းများကိုလည်း ပြုစုနိုင်ပေ၏။ ဝိဓုရပျို့ကို သက္ကရာဇ် ၁၁၅၄–ခုနှစ်တွင် နိဂုံးချုပ် ရေးသားလေသည်။ ထိုနှစ်တွင်ပင် စာဆိုသူအမတ်ကြီးသည် ဘလ္လာတိယပျို့ကို ရေးသားပြုစုပြန်သည်။ ဘလ္လာတိယပျို့သည် လောကကြောင်းဘက်ကို နှယ်၍ ရေးသားအပ်သည်ဖြစ်သောကြောင့် ရာဇကြောင်းဘက်တွင် နှယ်၍ အထက်က ရေးခဲ့သော ဝိဓုရပျို့နှင့် မတူ ကွဲပြားသည်။

ဘလ္လာတိယပျို့မှာ ဘုရားအလောင်း ဘလ္လာတိယမင်း ကြုံတွေ့ရသည့် အကြောင်းအရာကို ဟောပြရာဖြစ်သော ဘလ္လာတိယဇာတ်ကို တန်ဆာဆင်ကာ ရေးသားထားခြင်း ဖြစ်၏။ ဘလ္လာတိယမင်းသည် ဟိမဝန္တာတောတောင်တစ်လျှောက် အမဲသား ငါးများကို လိုက်လံရှာဖွေစဉ် တစ်ညဥ့်ခန့် ချောင်းခြား၍ ကင်းကွာကြ ရသည့်အတွက် နှစ်ပေါင်း ခုနစ်ရာခန့်တိုင်တိုင် လည်ဖက်ကာ ငိုကြွေးနေကြသော ကိန္နရီမောင်နှံတို့၏ မေတ္တာဇာတ်ကြီးမားပုံကို တွေ့ကြုံလာရသည့် အကြောင်းအရာ တည်းဟူသော ဘလ္လာတိယဇာတ်ကို မြတ်စွာဘုရားသခင်သည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် ပသေနဒီကောသလမင်းကြီးနှင့် မလ္လိကာမိဖုရားခေါင်ကြီးတို့၏ မသင့်မတင့်ဖြစ်ကြသည့် ကိစ္စကို အကြောင်းပြု၍ ဟောတော်မူသည်။

ဤကိန္နရီမောင်နှံတို့၏ ဇာတ်ကို ဝန်ကြီးသည် အဘယ်ကြောင့် ပျို့ကဗျာ လင်္ကာဖြင့် ဖွဲ့နွဲ့ရေးသားရပါသနည်းဟူမူ . . .

> မန္တာတ်တစ်ဆူ၊ ဆင်ဖြူသခင်၊ နတ်ရှင်ရင်သွေး၊ လေးဆေးငြိမ်သက်၊ ကြောက်ရက်စောင့်စည်း၊ ဖြည့်ဆည်းဒါန၊ ဆယ်မြတ်ကလျှင်၊ သီလ သီတင်း၊ ဖြူဝင်းဆွတ်ဆွတ်၊ မြင်းမိုရ်ထွတ်ဝယ်၊ မိုးနတ်တကာ၊ နှစ် တစ်ရာက၊ မြော်တာညောင်းလင့်၊ ချိန်တန်ပွင့်သား၊ ပန်းနှင့်တရို၊ ဘုန်းရောင်ညို၍၊ သီရိ တိလောကမဟာ၊ သုဘဒ္ဒါ ရတနာဒေဝီ၊ ကျော်ညီလွှဲ့ပတ်၊ အိမ်ရှေ့ နတ်၏၊ မိန့်လွှတ်ချီငေါ်၊ ရွှေခွန်းတော်ကို၊ ထိပ်ပေါ်တင်ရွက်၊ ရှိစုံရွက်၍၊ ဉာဏ်သက်သမျှ၊ ဒေါသလွတ်စေ၊ ကျိုးပြစ်ဖွေလျက်၊ သန္ဓေနောက်ရှေ့၊ စေမြေ့သေသတ်၊ ဖြောင့်မတ် မတ်ဖြင့်၊ ဖတ်လည်းဖတ်သာ၊ နာလည်းနာလို၊ ချီလည်းချီအေး၊ လေးလည်းလေးပင်၊ ပွဲတော်ပြင်ဝယ်၊ သဘင်ဆင့်လောင်း၊ ပြည့်မည် ကြောင်းကို၊ ဇာတ်ပေါင်းသုံးပါး၊ အဆုံးထား၍၊ စကားမွေ့ညက်၊ ဖွဲ့ဆိုဆက်ရှင့် . . .

ဟူ၍ နိဂုံးတွင် ပြဆိုသည်ကိုထောက်သော် သမီးတော် အိမ်ရှေ့မိဖုရားကြီး တောင်းပန် ၍ ရေးသားရကြောင်း ထင်ရှားသည်။

ကိန္နရီမောင်နှံတို့ တစ်ဦးနှင့်တစ်ဦး ပြန်လည်တွေ့ဆုံကြရသည့်အခါ၌ မည်မျှ ဝမ်းသာကြပုံကို အမှုအရာပေါ်အောင် ဖွဲ့လိုရကား . . .

အခါအခါ၊ အတာတန်ခူး၊ သင်္ကြန်ဦးဝယ်၊ ပင်လူးသစ်သစ်၊ ပုရစ်ဝေဝေ၊ ချပ်ပြေတွန့်တွန့်၊ ရွက်ညွန့်ရှင်ရှင်၊ အင်ပင်အင်တိုင်း၊ ခက်ကျိုင်းသိုးသွန်၊ ရှိုးရှိုးရွှန်းတိ၊ လဝန်းရစ်ဆင်၊ ထ-မင်းလွင်နှင့်၊ ကောင်းကင်မို့မို့၊ ဘယ်ဆို့ညာဝှေ့၊ တောင်ငွေ့လူလူ၊ စဲငူပြင်ထိပ်၊ နွဲ့အိပ်လည်ရှက်၊ ကျေးငှက်တူပျော်၊ မြင်ရသော်တည့်၊ ကြင်ဖော်သက်ဝေ၊ တို့နှစ်ဆွေကား၊ မသေ၍သာ၊ တွေ့ပြန်ပါဟု၊ ဝမ်းသာတင်လဲ၊ နွဲ့ကြဆင့်လောင်း၊ နွဲ့ကာပျောင်းလျက်၊ နှစ်သောင်းများကြွယ်၊ ငါးထောင်ကယ်၍ ကိုးဆယ်လွန်းမင်း၊ နှစ်တရင်းအောင်၊ ချစ်ခြင်းမြဲမြဲ၊ ချစ်သက်နံ့၍၊ ၊ခါရုံရယ်ကြသည်တကား...

စသည်ဖြင့် ပသာဒ မျက်စိအတွင်း၌ ကွက်ကွက်ကွင်းကွင်း ပေါ်ထင်လာအောင် ဖွဲ့ဆိုနိုင်သည် ဖြစ်ရကား ဝန်ကြီး၏ အဖွဲ့အနွဲ့များသည် အတ္တဗျတ္တိဂုဏ် မြောက်ပေသည်။

ဝန်ကြီးသည် ဤပျို့အတွင်း၌ အဖွဲ့အနွဲ့ဆန်းများကိုလည်း ထည့်၍ ဖွဲ့နွဲ့၏။ သူဇာပျို့တွင် ပဒေသရာဇာသည် ချေင်းအဖွဲ့အနွဲ့များကို ထည့်၍ ဖွဲ့နွဲ့စပ်ဆိုသကဲ့သို့ ဘလ္လာတိယပျို့တွင်လည်း ဝန်ကြီးသည် ကိန္နရီမ ငိုချင်းနှင့် ကိန္နရာဖို ငိုချင်းများကို ထည့်၍ ဖွဲ့ဆို၏။ ဤငိုချင်းများသည် ပြဇာတ်အတွင်း၌ ပါတတ်သော ဇာတ်ချင်းမျိုးကဲ့သို့ မဟုတ်ဘဲ ငိုချင်းတစ်ပုဒ်လျှင် အပိုဒ်သုံးပိုဒ်စီခွဲ၍ စပ်ဆိုသောကြောင့် ပိုဒ်စုံရတုသဘောပင် ဖြစ်၏။ ကိန္နရာဖိုနှင့် ကွဲကွာနေသော ကိန္နရီမကလေးသည် သောကဗျာပါ ပွေနှောက်အောင် တဖျောက်ဖျောက် ရွာသွန်းနေသော မိုးကို...

အထပ်အထပ်၊ စီ၍ချပ်သို့၊ တိမ်စပ်တိမ်လိပ်၊ ရိုးရိပ်မိုးမည်း၊ ရိုက်ကြည်း အုန်းအင်း၊ ချင်းချင်းထစ်ကြိုး၊ ကိုးမျက်နှာရပ်၊ မလပ်ပတ်ပတ်၊ ချောင်းချောင်းလွတ်လျက်၊ မိုးနတ်လုလင်၊ ရွှင်ချင်ထန်သည်း၊ ဟန်တင့်ရည်းနှင့်၊ ဖော်နည်းတို့တူ၊ ရှိသသူကို၊ ပူလေစေဟု၊ ဆိုလေသော့တူ၊ မိုးဖြူရေစိုင်၊ ဖြိုင်ဖြိုင်ရစ်ဝန်း၊ သွန်းသွန်းထပ်ဆင့်၊ လမ်းမပွင့်ခဲ့၊ ကြိုင်လွင့်ပျံ့ကြွယ်၊ စံပယ်မုလေး၊ သေရရေးကို၊ ရွေးကာစီခြယ်၊ မွှေ့ရာလယ်ထက်၊ မယ်ကားလက်ယာ၊ မောင်သာလက်ဝဲ၊ နွဲ့နေကျကို၊ ရူတမိယောင်၊ ရှိလေအောင်ဟု၊ လျှပ်ရောင်ညီးဝါ၊

လောင်မီးပါ၍၊ ဘယ်ညာပစ်ထိုး၊ စက်မိုးကြိုးလျှင်၊ ရန်ငြိုးမျက်ညှာ၊ ရှာလိုသော်လည်း၊ ကြင်ဖော်ချစ်သက်၊ မဲ့လွမ်းဘက်နှင့်၊ ၊တူစက်ခါမှ ရှာပါဘိ...

ဟူ၍ အပြစ်တင်သံ၊ တောင်းပန်သံများနှင့် သနားစဖွယ် ငိုမြည်တမ်း၍ နေပုံကို ဖွဲ့ဆိုရာ၌ ကရုဏာရသ များစွာပေါ်ပေသည်။ နွဲ့နှောင်းပျော့ပျောင်းသော မိန်းမသား စိတ်တွင်း၌ ဖြစ်ပေါ်လာသော အကြောင်းအရာများကို ထင်ရှားပြေပြစ်အောင် ဝန်ကြီးမင်း ဖွဲ့ဆိုနိုင်သည်မှာ များစွာချီးမွမ်းဖွယ်ရာ ဖြစ်သည်။ မင်းတုန်းမင်း တရားကြီး လက်ထက် ထင်ပေါ်ကျော်စောသော နားခံတော်ကြီး မင်းလှရာဇကျော်ထင် သည် စန္ဒကိန္နရီ ပျို့တစ်စောင်ကို ဖွဲ့ဆိုရာ၌ တွင်းသင်းဝန်ကြီး၏ ဘလ္လာတိယ ပျို့လာ အဖွဲ့အနွဲ့ကောင်းများကိုပင် အတုယူ၍ ရေးဟန်တူ၏။ ဘလ္လာတိယ ပျို့တွင်...

ကိန္နရာမည်ထင်၊ ဆွေမိတ်လင်တို့၊ ဘယ်တင် ညာရုက်၊ နွဲ့ကာဖက်၍၊ မောင်လက်ကမ်းတုံ၊ မယ်လှမ်းတုံနှင့်၊ အာရုံရောင်ယမ်း၊ ဆူလှယ် နမ်းလျက်...

ဟူ၍ အချင်းချင်း ချစ်ခင်နေကြပုံ ဖွဲ့နွဲ့ထားသည်ကို စန္ဒကိန္နရီပျို့ ဆရာကလည်း အားကျမခံ ဖွဲ့နွဲ့စပ်ဆိုလိုရကား ကိန္နရီမောင်နှံတို့သည် ပြာညိုသော တောင်ပေါ်မှ သက်ခဲ့ကြ၍...

မြ အရောင်လင်း၊ မြေသန့်ရှင်းဝယ်၊ ပျံ့သင်းကြိုင်ပျ၊ ဖူးခေါင်လွကို၊ မောင်က ကမ်းတုံ၊ မယ်လှမ်းတုံနှင့်၊ ပန်းငုံပန်းဝတ်၊ ပန်းတမွတ်ဖြင့်၊ နန်းလွတ်စံရွှေ၊ သန့်သန့်ချွေ၍၊ ပျံ့စေ ပြုံးပြည့်၊ မကုံးလှည့်ဘဲ၊ တရှည့်သန်းကူး၊ ပန်းသင်ဖြူးသို့၊ ဆန်းထူးဆကဲ၊ ဆုပ်ကာကြဲလျက်၊ ပျော်မြဲရှင်ရယ်...

စသည်ဖြင့် မောင်နှံနှစ်ဦး ပျော်မြူးနေကြပုံကို ကွက်ကွက်ကွင်းကွင်း ပေါ်လာအောင် ဖွဲ့ထားသည်။

ဘလ္လာတိယပျို့ကို စပ်ဆိုပြီး၍ သက္ကရာဇ် ၁၁၆၀–ပြည့်နှစ် အသက် ၇၂–နှစ် တွင် ဝေဿန္တရာပျို့ကို စပ်ဆိုပြန်သည်။ ဤပျို့ကား ပျို့သစ်ဖြစ်၏။ ဝေဿန္တရာ ပျို့ကို ညောင်ရမ်းခေတ်က တောင်ဘီလာ ပုဂ္ဂိုလ်ကျော် စပ်ဆိုခဲ့ဖူးလေပြီ။ ဖိုး

စာကိုယ်ကိုကား မတွေ့ရပေ။ တွင်းသင်းမင်းကြီး စပ်ဆိုသော ဝေဿန္တရာပျို့သစ်မှ မေ့ကြောင်းဘက်ကို များစွာနွယ်၍ ရေးသားထားသည်။ ဝန်ကြီးသည် ဤပျို့ကို စပ်ဆိုသည့်အခါ၌ အသက် ၇၀-ကျော်နေပြီဖြစ်ရာ ဘုရားတရား၌ စိတ်ဝင်စားနေသောကြောင့် ဒါနပါရမီ၏ မြင့်မြတ်ကြောင်းကို ဖော်ထုတ်ပြဆိုရာဖြစ်သော ဝေဿန္တရာပျို့ကို ရေးသားစပ်ဆိုဟန် တူ၏။ ပျို့များတွင် နောက်ဆုံး ရေးသားခဲ့သော ပျို့ဟူ၍ ယူဆထင်မြင်အပ်သော ပျို့သည် သက္ကရာဇ် ၁၁၆၈-ခု၊ အသက် ၈၀-ပြည့်သည့်နှစ်ရေး မဟာဇနက ပျို့ဖြစ်သည်။ အသက်အရွယ် အိုမင်း၍ ဗဟုသုတပြည့်ဝလောက်လုံသည့် အရွယ်တွင် ရေးသားပြုစုသော ပျို့ဖြစ်သောကြောင့် လောကကြောင်း၊ ရာဇကြောင်း၊ ဓမ္မကြောင်း သုံးခုလုံးပင် ပြည့်စုံသော ပျို့ဖြစ်၏။ ဝန်ကြီးစီရင်သော ပျို့များတွင် ဇနကပျို့ကို အကောင်းဆုံးပျို့ဟူ၍ မှတ်တမ်းတင်ကြသည်။

မြေနန်းသာမြောက်၊ အဲ့ထောက်သာချင်း၊ မြေတလင်းဝယ်၊ နန်းခင်းရာနေ၊ ညွန့်ဝေခက်ဖြာ၊ စကြာရည်သွေး၊ စံတစ်ပြေးသား၊ သားမြေးရံပတ်၊ မှူးမတ်ဖြင်ပြ၊ တသဲသဲနှင့်၊ လေးပွဲသဘင်၊ ခံရာတွင်၌၊ ချစ်ရှင်ရေးဖြစ်၊ ရွေးချယ် စစ်လျက်၊ ပျို့သစ် စာစောင်၊ သာအောင်တက်ရွှန်း၊ ဖွဲ့ရည်ညွန်းသား၊ ရွှေခွန်းတော်ရိပ်၊ ဦးထိပ်ပြင်စ၊ ပန်ဆင်ရ၍...

ဟူ၍ ဘုရင်မင်းမြတ် အမိန့်တော်ဖြင့် ဤပျို့ကို စီရင်ပြုစုရကြောင်းနှင့် နိဂုံးတွင် ပြဆိုသည်။ ဝန်ကြီးသည် အသက်ကြီး၍ တရားနှင့် ပျော်မွေ့သူ ဖြစ်သောကြောင့် ဇနကဇာတ်တော်ကြီးလာ တရားခန်းများကို များစွာ အမွှမ်းတင်၍ ရေး၏။ အရှင်သခင် ဖြစ်တော်မူသော ဇနကမင်းကြီး တောထွက်တော်မူမည်ပြုလျှင် ကျေးတော်မျိုးကျွန်တော်မျိုးများ မည်မျှ လိုက်လှဲဝမ်းနည်း ပူပန်ကြပုံနှင့် အရှင်သခင်၏ ကျေးဇူးတရား ထောက်ထားကြပုံများကို အကျယ်တဝင့်ပြရာ၌ ဘိုးတော်မင်းတရား၏ ကျေးဇူးတရားကိုလည်း တိုင်းသူပြည်သားတို့သည် အရှင်ကောင်း ကျွန်ပီပီ ထောက်ထားကြစေလိုကြောင်းနှင့် သွယ်ဝိုက်ပြောဆိုဟန်တူ၏။ ရွှေနန်းတော်အတွင်း၌ ရှိသော နန်းတွင်းသူတို့ အမူအရာ နေကြထိုင်ကြပုံနှင့် နန်းတွင်းအသုံးအဆောင် အစရှိသော ဗဟုသုတဖြစ်ဖွယ်ရာ အခန်းများကိုလည်း ဖွဲ့နွဲ့စပ်ဆိုပြထားပေသည်။ နန်းတွင်း အသုံးအဆောင်ကို ပြဆိုရာ၌ ပုံစံကား...

> တက်သစ်သရေ၊ သွင်းလတ်ထွေဖြင့်၊ ရဝေဘုံတွင်း၊ ဥကင်ရင်းဝယ်၊ ခြောက်စင်းရံရှက်၊ လရောင်ပြက်သား၊ ကနက္ကဒဏ်၊ စုံရန်ပင့်ထောက်၊ ဆောက်တုံနှစ်စင်း၊ လက်ဝဲတွင်းက၊ ခြေနင်းရွှေသွေး၊ တောင်ဝှေး ထားတင်၊ သံရှင်လျှပ်လား၊ သန်လျက်ဓားနှင့်၊ သားမြီးယပ်ဆန်း၊ မကန်းကရား၊ ရွှေသားအစစ်၊ အိုးပြစ်လျှံတောက်၊ မေးထောက်တစ်ထွေ၊ ကျီးခြေတစ်ပုံ၊ အစုံမြူတာ၊ နောက်စဉ်မှာကား၊ လက်တင်ကြားနှင့်၊ ရှားကျီးနှိုင်းစံ၊ ခြသေ့်ခံကွမ်းခွက်၊ ချိုးချက်ရောင်လျှပ်၊ သလပ်တစ်သွယ်၊ ကွမ်းလောင်းငယ်က၊ သောက်ကြယ်အရောင်၊ လင်းမြောင်သစ်ကိုင်း၊ ရှုနှိုင်းကျပ်လျှား၊ ဆယ့်ရှစ်ပါးနှင့် . . .

စသည်ဖြင့် လက်ဝဲဘက် မင်းခမ်းမင်းနား အသုံးအဆောင်များကို အစဉ်အလိုက် ဖော်ပြပေသည်မှာ ဗဟုသုတ လိုက်စားသူတို့အတွက် အဖိုးမဖြတ်နိုင်သော ရွှေအိုးကြီး သဖွယ် ဖြစ်တော့သည်။ ဝန်ကြီးသည် လူတို့၏စိတ်သဘောကို အူသေအူမွှားမှ မကျန်အောင် သိ၏။ အသက် ၈၀–ပြည့်အတွင်း ချဉ်းနင်းဝင်ရောက်မှ စပ်ဆို ရသော ပျို့ဖြစ်သောကြောင့် စပ်ဆိုသမျှတို့သည် လူတို့၏ သဘောနှင့် များစွာ တိုက်ဆိုင်၍ ထိထိခိုက်ခိုက် ရှိလှ၏။ ဇနကမင်းကြီးက တောထွက်မည်ဟု နန်းတော် ပြာသာဒ်ထက်မှ ဆင်းပြီးလျှင် တစ်ပါးတည်း ကြွသွားသည်ကို သီဝလိ ဒေဝီ မိဖုရား မြင်လတ်သော် . . .

> နန်းလုံးထိပ်မိုး၊ မိမင်းစိုးလည်း၊ နွယ်ရိုးဆွေစ၊ နိမ့်ကျမထင်၊ အပြင်နွဲ့ပါး၊ လျသည့်ခါးနှင့်၊ သနားစရာ၊ ရံနောက်ပါတို့၊ မကွာလက်ဆက်၊ နန်းကသက်၍၊ ထုံးရက်ပတ်ဖြေ၊ ဆံမြိတ်ခွေကို၊ ရွှေ အရည်ညက်၊ ကျောပြင်ထက်၌၊ မြခက် သွယ်ညွန့်၊ ကြိုကာဖြန့်လျက်၊ ဆွန့်ဆွန့် တုန်ဆတ်၊ ဖတ်ဖတ်မှူးဝေ၊ သေလု ယူးယူး၊ စောဘုန်းထူးနှင့်၊ နန်းဦး ဘုံသစ်၊ တက်စ နှစ်က၊ အချစ် မြဲမြဲ၊ သက်ချင်း နံ့လျက်၊ ပရံပရ၊ ဘဝသစ်ထွက်၊ နောက် ဆက်ဆက်လည်း၊ ချစ်လက်ဆွဲကာ၊ မလွှဲ သာသည်၊ ကြမ္မာသေလွဲ၊ သေမင်းခွဲမှ၊ ကွဲကြစေဟု၊ သုမေ္မတာ၊ သစ္စာ ဆုယူ၊ မူကြသည်လျက်၊ ဂတိဖျက်၍၊ တောထွက်တော့မည်၊ ကွဲဖြစ် သည်ဟု . . .

စသည်ဖြင့် ငိုကြွေးမြည်တမ်း ပူဆာ၍ လက်နှစ်စုံဖြင့် ရင်အုံကို ထုကာ ဘုရားလောင်း နောက်ကော်မှလိုက်၍ တောင်းပန်နေရှာသော အဖြစ်သနစ်တို့ကို ဖွဲ့ဆိုထားရာ များမှာ ကရုဏာရသ ပြည့်စုံလှပါပေ၏။ ဖတ်ရှုရသူများ၏ စိတ်ကို ထိခိုက်၍ မျက်ရည်လွယ်သောသူများမှာ အကြင်နာစိတ်ပွားပြီးလျှင် မျက်ရည်များပင် ကျရ လောက်အောင် ကောင်းသော အဖွဲ့အနွဲ့များ ဖြစ်သောကြောင့် စာဆိုတော်ဝန်ကြီး၏ ကဗျာဉာဏ်ရည်ကို များစွာ ချီးမွမ်းထိုက်၏။ ဤပျို့များအပြင် မော်ကွန်း အမြောက် အမြားကို စပ်ဆိုခဲ့သော်လည်း ထူးထူးခြားခြား ကောင်းမွန်သော မော်ကွန်းများ မဟုတ်ကြချေ။ မော်ကွန်းများနှင့် စပ်လျဉ်း၍ ဝန်ကြီးသည် နာမည်မကျော်စောပေ။ အဘယ်ကြောင့်ဟူမူ ဝန်ကြီးနှင့် တစ်ခေတ်တည်းပေါ်သော ဆားတောင်ငါးရွာအဝင် ရွာဝေးရွာသူကြီးရိုးဖြစ်သူ ဦးနုသည် မော်ကွန်းဘက်တွင် များစွာထင်ပေါ် ကျော် စောလျက် နေပေသည်။ မော်ကွန်းအဖွဲ့အနွဲ့ကောင်းသောကြောင့် ဦးနုကို မော်ကွန်း နဝဒေးကြီးဟုပင် ခေါ်ဆိုကြ၏။ ဤနဝဒေး မော်ကွန်းများ၏ လွှမ်းမိုးခြင်းခံရသော ကြောင့် တွင်းသင်းမင်းကြီး၏ မော်ကွန်းများသည် ကောင်းလျက်နှင့် မကျော်စော ခဲ့ခြင်း ဖြစ်တန်ရာသည်။

## ဦးတိုး

သက္ကရာဇ် ၁၁၁၃-ခုနှစ်၌ ဖွားမြင်သော ဦးတိုးသည် စိုင်းနံ့သာရွာဇာတိတည်း။ (အချို့က ဆီးတောရွာဇာတိဟု ဆိုသည်။) စာပေကျမ်းဂန်တတ်မြောက်အောင် သင်ကြားပြီးလျှင် ရဟန်းပြုသည်။ နောက် လူထွက်၍ ဆင်ဖြူရှင်နှင့် စဉ့်ကူးမင်း တို့လက်ထက်၌ သီချင်းနှင့် ဆောင်းပါးအများကို ရေးသောကြောင့် ဆောင်းပါး မောင်တိုးဟူ၍ပင် ခေါ်ကြသည်။ ကဗျာလင်္ကာများတွင်သာမက သဒ္ဒါ၊ ပရမတ်၊ ကျမ်းဂန်၌လည်း နှံ့စပ်သည်။ ဘိုးတော်မင်းတရားလက်ထက် မြေးတော် စစ်ကိုင်းမင်း ချင်းကို ဆိုသည်။ ၁၁၄၆-ခုနှစ်တွင် မယ်တော် အိမ်ရှေ့မိဖုရားအား ရခိုင်သို့ ပေးရန် ကျေးစေရတုပိုဒ်စုံကို ရေးသားဆက်သရသည်။ ထိုနောက် ကဗျာလင်္ကာ ရတုများနှင့် ရာမရကန်ကို အရှင်နှစ်ပါး အမိန့်တော်ရှိ၍ ရေးသားပြုစုလေသည်။ ဘိုးတော်မင်းတရားလက်ထက် ဓေယျကျော်သူဘွဲ့နှင့် သံတော်ဆင့်အရာ၊ ရွှေတိုက်စိုး အရာ ခန့်တော်မူခြင်း ခံရသည်။ သို့သော် ဦးတိုးသည် များစွာ အသက်မရှည်ချေ။ သက္ကရာဇ် ၁၁၅၈-ခုနှစ် အသက် ၄၅-နှစ်တွင် အနိစ္စရောက်ရှာသည်။

## ရာမရကန်

သက္ကရာဇ် ၁၁၄၆–ခုနှစ်လောက်တွင် ရေးသည်ဟု ထင်မှတ်အပ်သော ရာမရကန်သည် ဦးတိုး၏ အကောင်းဆုံးလက်ရာဖြစ်သည်၍ ဤရကန်တစ်စောင်တည်းဖြင့်ပင် ဦးတိုးသည် မြန်မာစာဆိုကျော်ကြီးတို့၏ စာရင်းတွင် သွတ်သွင်းခြင်းခံရတော့၏။ ဤရကန်သည် ရကန်တကာတို့၏ ထိပ်သီး ပထမတန်းစား ရကန်ကြီးဖြစ်သောကြောင့် မြန်မာကဗျာ စာပေတွင် လွန်စွာ အရေးပါ အရာရောက်သော ကဗျာဖြစ်သည်။ ရာမဇာတ်သည် အထူးထင်ပေါ်သော ဇာတ်ဝတ္ထုတစ်ခု ဖြစ်၏။ ရာမ၊ လက္ခဏ၊ မယ်သီတာတို့၏ အကြောင်းအရာများကို လူတိုင်းလိုလိုပင် သာမညအားဖြင့် ကြားသိကြသည်။ ယခုအခါတွင် ဟိန္ဒူရာမ၊ ပုံတော်ရာမ၊ ဗသျှူးရာမ၊ ယိုးဒယားရာမ၊ မြန်မာရာမဟူ၍ ရာမငါးမျိုးရှိသည်ဟု ပြောဆိုကြရာ ပုံတော်ရာမခေါ် အလောင်းတော်ရာမမှ တစ်ပါး အခြားရာမတို့သည် သက္ကတဘာသာဖြင့် ရှိသော ဟိန္ဒူရာမမှ ပေါက်ပွားကွဲပြား၍ လာသည်ဟု ထင်မှတ်ဖွယ်ရှိ၏။

ဟံသာဝတီ ဘုရင့်နောင် လက်ထက်တွင် ယိုးဒယားပြည်သို့ တစ်ကြိမ်စစ်ချီတက် တိုက်ခိုက်အောင်မြင်၏။ ကုန်းဘောင်ခေတ် ဆင်ဖြူရှင်မင်းလက်ထက်၌လည်း တစ်ကြိမ်တိုက်ခိုက်အောင်မြင်ပြန်သည်။ ဘုရင့်နောင် တိုက်ခိုက်အောင်မြင်သည့်အခါက ယိုးဒယား ကချေသည်များကို မြန်မာပြည်သို့ ယူဆောင်လာခဲ့ကြ၏။ ဆင်ဖြူရှင်လက်ထက် တိုက်ခိုက်စဉ်ကလည်း ကချေသည်များနှင့် ယိုးဒယားသီချင်းများကို ယူဆောင်လာခဲ့ကြပြန်ရာ မြဝတီမင်းကြီး အစရှိသော ဂီတဘက်တွင် ကျွမ်းကျင်သူများသည် ယိုးဒယားအသံကိုယူ၍ မြန်မာ စကားလုံးများ ထည့်ပြီးလျှင် ယိုးဒယားသီချင်းကို ရေးဖွဲ့ကြ၏။ ဤသို့ ယိုးဒယားပြည်နှင့် အဆက်အသွယ်ရှိသည်ကို ထောက်သော် ဦးတိုးသည်လည်း ယိုးဒယား ရာမဇာတ်ကို အမှီပြု၍ မိမိ၏ ရာမရကန်ဇာတ်လမ်းကို ရေးသားလိမ့်မည်ဟု ထင်မြင် ယူဆဖွယ်ဖြစ်သည်။ သို့သော် တပ်အပ်သေချာစွာ မပြောဆိုနိုင်ပေ။ အဘယ်ကြောင့်ဆိုသော် ရာမရကန်ဒုတိယပိုင်း တိုင်းပြည်ပြန် တော်ခန်းကို ဖွဲ့ဆိုရာ၌ . . .

ဥပရာဇ၊ လောက ရန်လှည်း၊ သူ့ခမည်းတော်၊ မယ်တော်ညီတော်၊
ဒွေးတော်များပါ၊ မိထိလာက၊ အောင်ချာဝေယန်၊ ရွှေပြည်ပြန်ကို၊

အကြံတစ်ခု၊ ရန်လိုက်လို့ ပြုလှာသည့်၊ ဗသျှူးရာမ၊ ဗြာဟ္မဏကို၊
ဂုဏ်ပြသည့် နိဒါန်း၊ စကားခန်းမှာလည်း၊ မဆန်းမစိဘူး...

ဟူ၍ ဦးတိုးသည် ဗသျှူးရာမကိုလည်း အမှိုပြု၍ ရေးသည့်အယောင် ဆိုထားပြန်သည်။ ဇာတ်သွားဇာတ်လာကို ထောက်ရှုလျှင်ကား ယိုးဒယားရာမ ဇာတ်သွားမျိုးနှင့် များစွာ အဆင်တူနေပြန်သည်။ ရာမရကန်ကို ဦးတိုးသည် ပြီးဆုံးအောင် မရေးသားနိုင်ခဲ့ပေ။ သုကျိတ်မျောက် လျှောက်ခန်းဖြစ်သော အပိုဒ် ၃၄-ပိုဒ် အဆုံးတွင် ဦးတိုး အနိစ္စ ရောက်ရှာသောကြောင့် လက်စမသတ်ဘဲ ရှိနေ၏။ ထိုအခါ ဘိုးတော်ဘုရားနှင့် အိမ်ရှေ့မင်းသားတို့မှာ များစွာနှဲမြော ဝမ်းနည်းခြင်းဖြစ်ကြ၍ ဤရကန်ကို ဆက်လက်ရေးသားရန် ဦးတိုးလို လူစားများ ပေါ်ပေါက်ပါဦးမည်လားဟု ညည်းညူတောင့်တသည့်အခါ ဘုန်းကြီးဘွဲ့ ဦးဂမ္ဘီ၊ လူမည် ဦးရွဲဆိုသူက မိမိသည် ဦးတိုး၏ ရကန်ကို ဆက်လက် ရေးသားနိုင်သည့် အကြောင်းနှင့် လျှောက်ထားရာ မင်းတရားကြီးမှာ များစွာဝမ်းမြောက် ရွှင်လန်းခြင်းဖြစ်၍ ဦးရွဲကိုပင် ဆက်လက် ရေးသားစေတော်မူ၏။

ဦးတိုး၏ ရကန်သည် အဖွဲ့အနွဲ့ များစွာကောင်းရကား ကလန့်တိုက်၍ လိုက်ဖျက်သောအနေဖြင့် စာဆို ဦးလန်းက ရကန်တစ်ပုဒ်ကို ရေးပြန်သည်။ ရာမရကန်တွင် ဦးတိုးသည် သဇင်ပန်း၏ဂုဏ်ကို ဖွဲ့နွဲ့၍ ချီးကျူးရာ ဦးလန်းက လက်ခုပ်ပွင့်၏ နံ့စော်သောဂုဏ်ကို ချီးကျူး၏။ ဦးလန်းသည် ဤကဲ့သို့ ရကန်ဖျက်ကို ရေးသည်ဟု အိမ်ရှေ့ဘုရား ကြားသိတော်မူရာ အမျက်တော်ရှ၍ ရွှေဓားတော်ပြပြီးလျှင် ပိတ်ပင်မှ ဦးလန်းသည် ဆက်လက် မရေးဝံ့တော့ကြောင်းနှင့် အမှတ်အသားများ တွေ့ရသည်။

ရာမရကန် တစ်စောင်လုံးတွင် အဖွဲ့အနွဲ့များသည် ယဉ်ကျေးသိမ်မွေ့တန်သည့် နေရာ၌ များစွာ ယဉ်ကျေးသိမ်မွေ့၏။ ကြမ်းတမ်းသင့်သည့်နေရာ၌လည်း မကြားဝံ့ မနာသာအောင်ပင် ကြမ်းတမ်း၏။ ထိုကြောင့် ဦးတိုး ကိုယ်တိုင်က မိမိ၏ ရကန်တွင်...

နား ကိရိယာ၊ အဆာကျယ်ကျယ်၊ ပရိယာယ် အစုံစုံ၊ စိတ်ပုံဖမ်းကာတ်၊
ကတ်တလတ်လတ် တစ်ချို့၊ မိန်းမပျို့ စံနည်းပြ၊ မိန်းလုတဘောင်၊
မယောင်မလယ်၊ မိန်းမငယ်တို့၊ အမယ်လေး ခေါ်ငင်၊ အလျင်ဆုံး

> အဥ်လို့၊ စိတ်ချင်တိုင်း ဟင့်လိုက်သည်၊ မိန်းမယဉ်နွဲ့သံ၊ တစ်ခါ တစ်ရံ၊ တစ်ခုလတ် မိန်းမသံ၊ ဗျာပါဆံ စွယ်စုံကို၊ အပုံကြီးလည်း မချဖူး၊ ပါးအထက်မှာ၊ ငှက်လိပ်ပြာပျံ့၊ ရွှေတောင်ပံသွဲ့၊ နွဲ့သနင် စိမ်းသနင့်၊ ပလိမ်းတုံးမို့၊ လက်သုံးလုံးခန့်၊ ယဉ်စန့်လို့ ချတတ်သည့်၊ မိန်းမ ဂုဏ်ခံ၊ နည်းရစ်တံနှင့် တစ်တည်းညီ၊ စာဆိုမှုကို၊ တောင်ဇမ္ဗူ့ အပြင်မှာ၊ ဂုဏ်ပလ္လင်မျှသော်လည်း၊ အယုယ နယ်ခြား၍၊ စကားထာ သာတတ်သည့် သူ့စာစီကို . . .

စသည်ဖြင့် တစ်ခါတစ်ရံ လှပယဉ်ကျေးသော မိန်းမယဉ်ကလေး နွဲ့သံနှင့် တူကြောင်း၊ တစ်ခါတစ်ရံ တစ်ခုလပ် မိန်းမကြမ်းကြီးအသံနှင့် တူကြောင်းများကို ထုတ်ဖော် ပြဆိုသည်။ တောင်ခွင် သာသနာပိုင် ဆရာတော်က ဦးတိုးသည် ပါဠိဘာသာကို ချေငံစွာ မတတ်၊ ဦးတိုး၏ ရကန်ကို ဆက်လက်၍ရေးသော ဦးရွှဲသာလျှင် ပါဠိ ဘာသာကို တတ်ကျွမ်းသည်ဟူ၍ မိန့်တော်မူဖူး၏။ ရာမရကန်တွင် ဦးတိုးသည် ကမောက်ကမ ပါဠိဝေါဟာရများကို သုံးထားခြင်း၊ သဒ္ဒါကစွည်းနည်းနှင့် စည်း မကိုက်အောင် ပါဠိစီကုံးခြင်းတို့ကို ထောက်သော် ဦးတိုးသည် စင်စစ်ပင် ပါဠိ ဘာသာ၌ မချေငံ၍ပင်လော၊ သို့မဟုတ် ချေငံလျက်နှင့်ပင် သက်သက်မဲ့ အပျက် အချော်မျှ သုံးစွဲထားခြင်းပေလော ဟူ၍ တွေးတောဖွယ် ဖြစ်၏။

ဦးတိုးသည် စကားအဆန်း လက်တန်းထွင်ခြင်း၌ လိမ္မာလှစွာ၏။ ဤနေရာ၌ စလေဆရာ ဦးပုညသည် ဦးတိုး၏ ရကန်မှ အဖွဲ့ကောင်းများကို ထုတ်နုတ်၍ စကားအမွှမ်းတင်ပြီးလျှင် မိမိကိုယ်ပိုင် ဥစ္စာကဲ့သို့ သုံးတတ်၏။ ပုံစံမှာ ဦးတိုးသည် သမင်ကလေး၏ အမူအရာကို . . .

> ဆိတ်စာကလေး၊ လိုက်သူနှင့် ဝေးသောအခါ၊ ခေါ်သွေးခေါ်ယောင်၊ နီးပြန်အောင်လို့၊ ခြေတစ်ပေါင်ကျိုး၊ နိမ့်မျိုးနိမ့်မြင့်၊ မလှမ်းချင်ချင်၊ လှမ်းချင့်ချင်နှင့်၊ သစ်ပင်ကို ခိုတဲ့လို့ . . .

စသည်ဖြင့် ဖွဲ့ဆိုထားရာတွင် ဦးပုညက စလေမြို့ မောင်ရွှေချန် မေတ္တာ စာတွင် . . .

> စိန်ခြယ်ရတီ၊ ဝဇီရာဝုတ်။ မွတ်ပုလဲပွင့်။ ချို့ဝင့်ဝင့်နှင့်။ ရွှေသမင့် လက္ခဏာ။ မြက်နုံ့သာ မြေညီတွင်။ တစ်ဘက်ခွာ ခြေချို၍။

ပီပီလည်း မနင်း။ ပရိယာယ် ရှစ်ဖြာဖြင့်။ ချစ်စရာ ဖန်ဆင်း၍။
ဟန်ခင်းကာ ကြော့လိုက်သည့်။ တော့စရိုက် ဘာသာ...

စသည်ဖြင့် ဦးတိုး၏ ပင်ကိုယ်ဉာဏ်ပေါ်တွင် မှိုင်းမြမ်းပြုပြီးလျှင် အကွန့်တက်လိုက်၏။

ဦးပုညသာလျှင် မဟုတ်သေး၊ အခြားနာမည်ကျော် စာဆိုအချို့တို့လည်း ဦးတိုး၏ ရာမရကန်လာ စကားအဖွဲ့အနွဲ့များကို ကောက်နုတ်သုံးစွဲခြင်း ပြုကြသေးသည်။ ဤသို့လျှင် အခြားဆရာများက စံနမူနာထား၍ အတုယူရလောက်အောင် ဦးတိုးသည် စကားကို နိုင်နင်းစွာ သုံးစွဲနိုင်၏။ ပန်းပွင့်ကလေးများကို သီကုံး၍ ထားဘိသကဲ့သို့ ဆင့်ရရင့် စီရရီ ညီညီညာညာ စကားအရာတွင် ချောင်ပြေပြစ်စွာ သုံးတတ်သော ဦးတိုးကို များစွာချီးမွမ်းသင့်ပေ၏။ ထိုမျှမကသေး၊ ဌာနန္တရ ဝေါဟာရ၊ ဒေသန္တရ၊ ဘာသန္တရ စကားရပ်များကိုလည်း ထူးထူးထွေထွေ ရေရေလည်လည် ခမ်းနားတင့်တယ်အောင် တန်ဆာဆင်ကာ သူ့နေရာနှင့် နေရာလိုက်အောင် သုံးတတ်၏။ တစ်နည်းအားဖြင့်ဆိုသော် ရာမရကန်တည်းဟူသော ပင်စည်တွင် စကားအဆန်းတကြယ်တည်းဟူသော အကိုင်းအခက် အသီးအပွင့် အညွန့်အဖူး တို့ဖြင့် ကွန့်မြူးဝေဆာ၍ နေအောင် သုံးစွဲနိုင်၏။ ရတုအရာ၌ အလွန်ချောင်သော တောင်ငူဘုရင် နတ်သျှင်နောင်၏ ဆွတ်ပျံ့ဖွယ်အောင်ချီ ရတုအဖြေကို ခွဲခြမ်းစိတ်ဖြာ၍ ရေးသားသည်ကို ထောက်သော် ဦးတိုးသည် သာမညစာဆို မဟုတ်။ ပါဠိကျမ်းဂန် မြန်မာပျို့ကဗျာ ချေင်းတို့ကို အထူးလိုက်စား ကျွမ်းကျင်သူ ဖြစ်သည့်အပြင် သဒ္ဒါအရာ၌လည်း ချက်ချက်ချာချာ နားလည်ကြောင်း ထင်ရှားပေ၏။

ရာမရကန်တွင် ကာ်၊ ကတ္တား၊ ကြိယာတို့ကို အလိုက်သင့်စွာ သုံးစွဲထား၍ အဖွဲ့အနွဲ့များတွင် စကားအပိုမပါ၊ အချက်အလက် မဟာဘဲ နေရာတကာတွင် စေ့စေ့စပ်စပ်ရှိသည်။ ထိုမျှမက ဦးတိုးသည် တိမ်မြုပ်နက်နဲ၍ အသိခက်ခဲသော စကားလုံးများကို မသုံးဘဲ အများသိရှိ နားလည်နိုင်သော စကားလုံးများကို သာယာနာပျော်ဖွယ်ဖြစ်အောင် အညွန့်အတက် အခက်များဖြင့် ဆင်ယင်၍ သုံးစွဲတတ်၏။ ဦးတိုးသည် စိတ္တဗေဒပညာကို အထူးကျွမ်းကျင်နားလည်ဟန် တူ၏။ လူတို့၏ အတွင်းစိတ်သဘောကို ကွက်ကွက်ကွင်းကွင်းပေါ်အောင် စကားဖြင့် ဖွဲ့ဆိုနိုင်၏။ အထူးသဖြင့် မိန်းမတို့၏ သဘောထား အမူအရာအနွဲ့အခရာတို့ကို အချက်ကျကျ

သိ၏။ ရှင်ရသေ့နှင့်အတူ ရာမနှင့် လက္ခဏာ ညီနောင်တို့ လေးတင်ရာသို့ **အလာ** တွင် ညီနောင်တို့၏ ချောမွေ့ပြေပြစ်ပုံ ရုပါရုံကို မိန်းမများ မြင်ရာ...

> မရှင်ရို့ မလေးရို့ မကြီးရို့၊ အလို–အိုသည်မှာ၊ ဟောလေရှင် မြင်လှဲ့ပါ ကြည့်လှဲ့ပါ၊ ကျွန်မချည်း မြင်ရ၊ အသည်းနာလှ၊ ကြာလျှင် ကြွရော့မည်၊ ထတဲ့ပါ လာတဲ့ပါ၊ ပြုတဲ့ပါ ပြင်တဲ့ပါ၊ မဘယ်ဝါ မဘယ်သူ၊ ကလူတော့ အမယ်၊ သည့်နှယ်ဖြစ်လေ၊ အနို့နေပါလေ၊ ပေတာနော ပါတနော၊ ပယက်ကယ် ပြောတယ်လို့၊ စိတ်စောများဖြစ်၊ မိုးကြိုးပင် ပစ်စည်ငဲ့၊ ချစ်စရာ မျက်နှာထား၊ မင်းသားလား စိုးသားလား၊ သိကြားစင်စစ်၊ ဖြစ်လိမ့် မဆိုနိုင်၊ ယှဉ်ပြိုင်ဟောလေ၊ အမယ်ကြီး သေရချည့်၊ ရှင်နေမင်း–ရှင်လမင်း၊ ရွှေပြည်တော်အတွင်းမှာ ပုံခင်း တမျှ၊ လူးလာခတ်ကြွသည့်နှယ်၊ ယုယသိမ်မွေ့၊ ရှင်ရသေ့နှင့်၊ ရှေ့ဆင့် နောက်ဆင့်၊ နိမ့်မြင့်ဖွယ်ရာ၊ ဟောဟိုက လာပါပြီ၊ ပျာကရာပွားစီ၊ ရတ်တရိ ရတ်တရက်၊ ရင်လက်တို့ဟော၊ ဟိုဟိုလို့ပြောပြီး၊ ချောလှ သည့် မိန်းမမွတ်...

စသည်ဖြင့် မိန်းမများ၏ ကာမဂုဏ်နယ်ကြောတွင် တိတ်တိတ်ခိုးမျောတတ်သည့် အတွင်းစိတ် သဘောများကို လှစ်လှပ်၍ ပြဘိသကဲ့သို့ ပေါ်လွင်အောင် ဖွဲ့နွဲ့တတ် သည်မှာ ဦးတိုး၏ ချီးမွမ်းဖွယ်ရာ ဂုဏ်ထူးတစ်ရပ်ပင် ဖြစ်သည်။

မိန်းမတို့ အဝတ်တန်ဆာ ဆင်ယင်ဝတ်စား ဖြီးလိမ်းကြရာ အခန်းတွင် အပျိုဖြစ်သူတို့ အချင်းချင်း ကျီစယ်သမှု ပြုသမျှတို့ကိုလည်း ဦးတိုးသည် ဂဃဏန သိရှိပုံရ၏။

> မြောက်အိမ်က အပျို၊ ဟိုအိမ်က ကညာ။ နှစ်အိမ်ကွာ သုံးအိမ်ခြား၊ အိပ်ပါးနီးချင်း၊ သူငယ်ချင်းညှိ၊ ပွဲလမ်းရှိလျှင်၊ စုမိရာငြိမ်ငြိမ်၊ တစ်အိမ်အိမ်မှာ၊ စိမ်စိမ်ပြေပြေ၊ စု၍များနေရပြီး၊ အထွေအပြား ပြုသည့်နှယ်၊ ။နံ့သာသွေး၊ အမွှေးလောင်း၊ ပန်းပေါင်းစွက်၊ ကရမက် ရှာသူရှာ၊ နံ့သာနီဖြူ၊ ယူခဲ့သူ ထည့်သူ၊ ဆင်သူ ပြင်သူ၊ ဦးကာငင် ဆီလိမ်း၊ ဆံသိမ်းတုန်း ခေါင်းဖြီးတုန်း၊ ကြွက်ကြွက်ဆူအုံးတော့သည်၊ ဘရုန်းဘရင်း များရယ်၍၊ ။ဘယ်သို့ ဘယ့်နှယ်၊ ဘယ်ဝါ ဘယ်သူ၊

ညဥ့်လူကောင်းမေ့၊ ပျောင်းလို့များ ပြော့ရော့၊ တို့လူအကြော့လဲ ဘယ်နယ်ကလား။ ။တစ်ယောက်တစ်လှဲ့၊ ခနဲ့ရင်းများ၊ ခြေဆင်း လဲသူ၊ အသားဖြူ၊ အသားပြာ၊ အသားညို၊ အသားဝါ၊ နံ့သာ ကြောင်ကျား၊ ပွဲစားဘို့ကွမ်း၊ ဇန်းခင်းလို ရာတုန်း၊ ပန်းကုန်းရင်းတစ်ချို့၊ တို့ဖတ်တို့ယောင်၊ ဆံစုပေါင်မှန်ပြင်၊ သက်တင်ရေးစ၊ ဗျာပါဆံများကို ချလို့၊ ဘယ်မက ဝင့်တုန်းခါကို . . .

စသည်ဖြင့် မိန်းမပျိုများ၏ သဘောထား အမူအရာများကို ဦးတိုးသည် ကွက်ကွက် ကွင်းကွင်း ပေါ်ပေါ်လာအောင် ဖွဲ့ဆိုနိုင်ပေ၏။

စာရေးဆရာတို့မည်သည် လောကကြောင်း၊ ရာဇကြောင်း၊ ဓမ္မကြောင်းတို့တွင် ကောင်းစွာ ကျွမ်းကျင်ရသည်ဖြစ်ရာ ဦးတိုးသည် ရာဇဓမ္မကြောင်းတို့ထက် လောက ကြောင်းဘက်တွင် ပိုမိုနိုင်နင်းကြောင်း ထင်ရှားပေ၏။ ပေါရာဏ၊ ဝေါဟာရ၊ ဘမ်းစကား၊ စကားကျ၊ စကားချိတ်၊ စကားပေ့၊ စကားပျက်များတွင်လည်း သူမတူအောင် တတ်ကျွမ်းသည်။ မိန်းမ ယောကျ်ားတို့၏ ပုံပန်းသဏ္ဌာန် ဟန် အမူအရာတို့ကို ဦးတိုးသည် စေ့စပ်သေချာစွာ ကြည့်ရှုမှတ်သား၍ ရေးစပ်ဖွဲ့နွဲ့သည့် အခါ၌ ထိုပုံပန်းသဏ္ဌာန်တို့နှင့် အဆင်အတူဆုံး အနီးဆုံးဖြစ်သော ဗျည်းအက္ခရာ များဖြင့် နှိုင်း၍ ဥပမာ ပေးတတ်သည်။ သီတာမင်းသမီး၊ လေးတင်ရာသို့ ထွက်ခန်းတွင် . . .

ခန်းဘုံဗွေမှာ၊ သဝေထိုးကလေး၊ ပုစွန်ထုပ် ကွေးသည်နှယ်၊ ခေါက်ခွေး ကြီး ရှိရစ်ရှာ၏၊ ။ဒွေး နောက်ကယ်က၊ ဓအောက်ခြိုက် ကယ့်နှင့်၊ ဝိုက်ဝိုက်ကလေး၊ သေးတေးတေး . . .

ဟူ၍ လည်းကောင်း . . .

မင်းတစ်ရာနှင့် ဒသဂီရိ လေးတင်ခန်းတွင်လည်း . . .

နေ့စ်လုံးရင်ဆိုင်၊ မျက်နှာပြင် ခွေးလို၊ လက်ကွင်းလို့ ကျေး လိုက်လျှင် . . .

ဟူ၍လည်းကောင်း . . .

> တဝမ်းပူ အောက်ကယ်က၊ ရကောက်ကယ် ခွေယောင်၊ မင်္ဂလာ ဆောင်နှင့်သည်...

ဟူ၍လည်းကောင်း ဤသို့ စသည်ဖြင့် ဥပမာပေး ဆန်းကြယ်လှပေ၏။

ဦးတိုးအား အထူးချီးမွမ်းထိုက်သည့် အရာများကား စိတ်ကူးယဉ်ခြင်း၊ သဘာဝမမွတည်နေသော ဩကာသလောကကြီး၌ စိတ်ဝင်စားတတ်ခြင်း၊ ပန်းချီ မျက်စိကဲ့သို့သော မိမိ၏မျက်စိထဲ၌ ထင်ပေါ်လာသမျှကို အများနားလည်နိုင်အောင် ကွင်းကွင်းကွက်ကွက် ရေးစွမ်းနိုင်ခြင်းတို့ပင်တည်း။ ယဉ်ကျေးသော စိတ်ကူးဉာဏ် သည် ဦးတိုးအား စာရေးဆရာကောင်းတစ်ယောက် ဖြစ်အောင် ချီးပင့်ပေးသည်။ သမင်ကလေးတစ်ကောင် တောထဲ၌ တွေ့ရပုံကို ရိုးရိုးသားသား မရေးဘဲ သမင် ကလေး လည်ပြန်ကြည့်ပုံ၊ ချိုကလေးဝင့်နေပုံများကို သရုပ်ပေါ်အောင် ပန်းချီ ဆရာကြီးများသဖွယ် စကားပုံ၊ အနွဲ့အယဉ်၊ အချိတ်အဆက်များဖြင့် ခြယ်လှယ် တတ်သော ဦးတိုးကို စာပန်းချီဆရာကြီး ဟူ၍ပင် ခေါ်ဆိုထိုက်ပေသည်။

ဦးတိုးနှင့် မွေ့နွန်းစာဆိုသူ ရွှေတောင်နန္ဒသူတို့၏ ဉာဏ်ရည်များကို နှိုင်းယှဉ် မည်ဆိုသော် နှစ်ဦးစလုံးပင် စိတ်ကူးကောင်းသူများ ဖြစ်ကြ၏။ သို့သော် ဦးတိုးက စကားဖွဲ့နွဲ့ပုံ ပိုမိုမြိုင်ဆိုင်သောကြောင့် ရွှေတောင်နန္ဒသူထက် သာပေသည်။

မွေ့နန်း ရကန်၌ မွေ့နွန်းမင်းသမီးကို မြင်ရသူ ဗရင်ဂျီသင်္ဘောသားတို့ သတိလက်လွတ် ဖြစ်ကြပုံကို ရွှေတောင်နန္ဒသူက...

> ဗရင်ဂျီ လူတုတ်ကြီး၊ မုတ်ဆိတ်မွေးဖွားစိကို၊ ခရာသီဆွဲ၍၊ လဲသူ တစ်မျိုး၊ ကျွမ်းထိုးသူတစ်သွယ်၊ ကိုးကွယ်ရာမမြင်၊ ထင်ကြသည် အလွဲလွဲ၊ စွဲမိသူအထူးထူး။ နဖူးကိုမြင်သူ၊ ဘရဘူဗြောင်းဆန်၊ လည်တံ ကို မြင်သူ၊ မျက်ဖြူဆိုက်ငြား၊ သွား ပါးကိုမြင်သူ၊ ပင့်သက်ရှူ အော့ အန်၊ ကျွမ်းပြန်၍တစောင်း၊ လက်မောင်းနှင့် ရင်ဘတ်ကို၊ တပ်တပ် မြင်သူ၊ ကုလားဖြူများ၊ ဘားစီးခုန်၍၊ အလုံထိုးသူထိုး...

စသည်ဖြင့် စပ်ဆို၏။

ထို့အတူ ဦးတိုးကလည်း ရာမရကန်တွင် ရာမနှင့် လက္ခဏတို့ ချောပုံ၊ လှပုံကို မိန်းမများ မြင်ရ၍ ကြိုက်သွေးမွန်ပြီးလျှင် ကာယိန္ဒြေ နည်းသွားကြ ပုံကို...

သို့ပြီးမြင်ကာမှ၊ ကရောင်ကရင်ယမတီတိ စနောင်စနင်ကြီး ရှိတဲ့အောင်၊ မျက်စိပျက် မျက်နှာပျက်၊ ပက်လက်ကြီးများလန်၊ နောက်ပြန်ကြီးများလဲ၊ အလွဲလွဲများပြု၊ ပုစွန်ခရု၊ ဆံစုကို မြှောက်လိုက်၊ ကွမ်းအစ်ကို ဖောက်လိုက်၊ တိုက်မှန်းမသိ၊ ခိုက်မှန်းမသိ၊ နထိနထင်၊ မှန်တင်စွန်းစူး၊ အဖူးအရောင်။ ။ထုံးတို့ရသူ၊ လက်ဝါးပူများနှင့်၊ ကျပ်ပူများတိုက်ရအောင်၊ အကြိုက်သွေးရစ်ကြသည်၊ စိတ်ညစ်ကြီးရှာကြသည့်၊ ကိလေသာကောင်ကို . . .

စသည်ဖြင့် စပ်ဆိုထားလေသည်။ ဤနေရာ၌ မွေ့နွန်းဆရာနှင့် ရာမဆရာတို့၏ စိတ်ကူးချင်းမှာကား အတူတူပင် ဖြစ်၏။ သို့သော် မွေ့နွန်းဆရာသည် ယောကျ်ားအချင်းချင်းတို့၏ စိတ်ဓာတ်အမူအရာကို ရေးရခြင်းကြောင့် စိတ်ကူး အထူးကြံဖို့မရှိ။ ရာမရကန်ဆရာကား မိမိကိုယ်တိုင်က ယောကျ်ားဖြစ်လျက် မိန်းမများ၏ စိတ်ဓာတ်အမူအရာတို့ကို ပေါ်လွင်အောင် ကြံဆရေးသားနိုင်ခြင်းကြောင့် ပိုမိုချီးမွမ်းခံထိုက်၏။ ဦးတိုးသည် အဖွဲ့အနွဲ့များတွင် စကားအပိုအမို မပါ။ တိုတိုတုတ်တုတ်နှင့် လိုရင်းသို့ရောက်အောင် ရေး၏။ မွေ့နွန်းဆရာသည် စကားကို ချဲ့ထွင်လွန်းသောကြောင့် တစ်ခါတစ်ရံ ဆိုလိုချက် မပေါ်လွင်ဘဲ ရှိတတ်၏။ စကားအကတ်ကိုင်ရာ၊ အခြေအတင်ပြောရာ၌ ရွှေတောင်နန္ဒသူက ဦးတိုးထက် သာပုံရ၏။ ဆင်ခြေဆင်လက် တက်ပုံတို့တွင် ဦးတိုးထက် ဉာဏ်သာရခြင်းအကြောင်းမှာလည်း လွှတ်တော်ရှေ့ဆောင် ရှေ့နေဖြစ်၍ အလုပ်လုပ်ရာ၌ နေ့စဉ်အတိုက်အခံ ငြင်းခုံပြောဆိုနေရခြင်းကြောင့် ဖြစ်ပေရာ၏။

ရွှေတောင်နန္ဒသူသည် စိတ်ကူးစိတ်သန်းထုတ်ခြင်း၊ စကားတန်ဆာဆင်ခြင်းတို့၌ ဦးတိုးထက် မသာလွန်သော်လည်း ယဉ်ကျေးအောင် ဖွဲ့သင့်သည့်နေရာတွင် စကားလုံးယဉ်ယဉ်ကို သုံး၍ ရေးတတ်သော ပုဂ္ဂိုလ်ကား ဖြစ်သည်။ ဇာတ်ကြောင်းတွင် မူလက မပါဘဲလျက် မိမိထိုးထွင်းဉာဏ်အလျောက် မွေ့နွန်းမင်းသမီးကို ဗရင်ဂျီကုလားများမြင်၍ မူးကြရူးကြပုံ၊ ထိုကုလားတို့မှတစ်ဆင့် မွေ့နွန်းမင်းသမီး ချောကြောင်း မင်းနန္ဒာ ကြားသိရပုံ၊ ကျေးနှင့် သာလိကာတို့ အချေအတင် ပြောကြပုံတို့ကို ဖန်တီးစီစဉ်ရေးသားခြင်းကိုထောက်၍ သိနိုင်၏။ မွေ့နွန်းရကန်တွင် ဦးတိုး၏ ရာမရကန်လောက် ဇာတ်ကွက်မပေါ်။ ဇာတ်မျောသည်။ ဦးတိုးကား စွယ်စုံဖြစ်သည်။ ဇာတ်လမ်းကိုလည်း စေ့စပ်အောင်ရေးသည်။ စကားကိုလည်း နိုင်နင်းအောင်

သုံးသည်။ စိတ်ကူးလည်း ယဉ်ပြန်သည်။ ထိုကြောင့် ထူးချွန်သော ပင်ကိုယ်ဉာဏ်ရှိသူ ဦးတိုးကို သာ၍ ချီးမွမ်းသင့်တော့သည်။

## ဦးယာ

ဦးယာသည် ဘိုးတော်မင်းတရားလက်ထက် ထင်ရှားသော စာဆိုဖြစ်သည်။ ဦးယာ၏ ဖွားသက္ကရာဇ်နှင့် မိဘမည်ရည်များကိုကား မသိရပေ။ စဉ့်ကူးမင်းလက်ထက်တွင် နေမျိုးမင်းလှကျော်သူဘွဲ့နှင့် မအူ သူကြီးသမီး မြောက်နန်းမိဖုရားကြီး၏ အကြီးတော်အဖြစ် ခန့်ထားခြင်း ခံရသည်။ စဉ့်ကူးမင်း မရှိသည့်နောက် ဘိုးတော်မင်းတရားကြီး၏ ညီတော် ပင်းတလဲမင်းသားထံတော်တွင် အမှုတော်ကို ထမ်းရွက်သည်။ ထိုနောက် ဘိုးတော်မင်းတရားကြီး၏ သားတော်ကြီး အိမ်ရှေ့ဘုရားထံတော်တွင် ထမ်းရွက်၍ ကွမ်းရေတော်ကိုင် ရာထူးကို ရသည်တွင် ကွမ်းရေတော်ကိုင် မောင်ယာဟု တွင်၏။ စဉ့်ကူးမင်း လက်ထက်တွင် အင်းဝမြို့ဘွဲ့ ၁၂-ရာသီ လူးတားကို ရေးသည်။ ရတုများနှင့် အဲသီချင်းများကိုလည်း ရေးသည်။ အဲသီချင်း အရေးကောင်းသောကြောင့် အဲမောင်ယာဟူ၍ပင် အမည် တွင်သေး၏။ ပင်းတလဲ မင်းသားထံတော်တွင် ခစား ထမ်းရွက်နေခိုက် မင်းနန်းပျို့ကို ရေးသားစီရင်သည်။ ဘိုးတော်မင်းတရား၏ ညီတော် ပင်းတလဲမင်းသားကို မြတ်စွာဘုရားသခင်၏ ညီတော် မင်းနန္ဒ သဏ္ဌာန်ထား၍ ရေးသားဟန် တူ၏။ ထိုနောက် ဘိုးတော်မင်းတရားလက်ထက် သားတော်ကြီး အိမ်ရှေ့မင်းသားထံတော်တွင် ထမ်းရွက်နေခိုက် ကုက္ကိုချောင်းအရပ်မှ ဆက်သသော ကုက္ကိုချောင်း ဆင်တော်ဘွဲ့ အဲများကို ရေးသားပြုစု၏။

ထိုနောက် ဘိုးတော်မင်းတရားက မုတ္တမမြို့ဝန် ခန့်၍ သူကောင်းပြုတော်မူ၏။ သို့သော် မြို့ဝန်အဖြစ်နှင့် အမှုတော်ကို ထမ်းရွက်၍ များမကြာမီ သက္ကရာဇ် ၁၁၄၇-ခုနှစ်တွင် အနိစ္စရောက်ရှာသည်။ ဦးယာ ရေးသားပြုစုခဲ့သော မင်းနန်းဘွဲ့နှင့် ရတုများကို ရှာဖွေ၍ မတွေ့ရသေးချေ။ စဉ့်ကူးမင်းလက်ထက် ရေးသော အင်းဝမြို့ဘွဲ့ ၁၂-ရာသီ လူးတားကား ယခုတိုင် ထင်ရှားရှိသည်။ ဤ ၁၂-ရာသီ လူးတားကို နဝဒေးကြီး စပ်ဆိုသည်ဟူ၍လည်းကောင်း၊ ဦးယာ စပ်ဆိုသည်ဟူ၍လည်းကောင်း၊ အတုလ ဆရာတော် စပ်ဆိုသည်ဟူ၍လည်းကောင်း စကားအငြင်းထွက်နေ၏။ အချို့ကဗျာကျမ်းများတွင် အတုလ ဆရာတော် စပ်ဆိုသည်ဟူ၍ အတိအလင်း

ထိပ်စီးခေါင်းစဉ်ဖြင့် ဖော်ပြ၍ အချို့ကျမ်းများတွင်ကား ကွမ်းရေတော်ကိုင် ဦးယာ စပ်ဆိုကြောင်းနှင့် ပြဆိုသည်။ ပိဋကတ်သမိုင်း၌ကား ကွမ်းရေတော်ကိုင်၏ အမည်ကို ဦးရည်ဟု ပြဆို၏။ အင်းဝမြို့ဘွဲ့ ၁၂-ရာသီ လူးတားကို ညောင်ရမ်းခေတ်တွင် စစ်ကူးမြို့နယ် ဆည်သည်ရွာနေ ဦးအောင်ကြီး ရေးသားပြုစုခဲ့ဖူးလေပြီ။ ယခုတစ်ဖန် စစ်ကူးမင်းလက်ထက်တွင် ဦးယာက ဦးအောင်ကြီးနောက်သို့ လိုက်၍ ပြုစုပြန်သောကြောင့် မြန်မာစာပေတွင် အင်းဝမြို့ဘွဲ့ လူးတား ၂-စောင် ပေါ်ပေါက်၍ ဖွဲ့နွဲ့ပုံ တစ်မျိုးစီ ကွာခြားကြ၏။ ဦးယာ၏ လူးတားအဖွဲ့အနွဲ့သည် ရာသီဘွဲ့ နည်းပါး၍ မယ်ဘွဲ့ မောင်ဘွဲ့ သဘောက များ၏။ ဦးအောင်ကြီး လူးတားသည်ကား မယ်ဘွဲ့ မောင်ဘွဲ့ သဘောမပါ။ ရိုးရိုးရာသီ ဘွဲ့ကိုသာ ဖွဲ့ဆို၏။ ဦးယာ၏ လူးတားတွင် . . .

အတာသဘင်၊ သည်ပွဲတွင်၌၊ ကေရှင်ညွှန့်လန်း၊ နှင်းရည်ဖျန်းလျက်၊ ဖော့ပန်းအတူ၊ ဖန်နန်းသူတို့၊ ဟန်မူပျောင်းပျောင်း၊ ရွှေဖယောင်းသို့၊ မွေးပေါင်းနံ့သာ၊ စမ္မာရည်ဖျော်၊ ကံ့ကော်ရင်ခတ်၊ ပန်းမြတ်လျှံဝေ၊ တောင်လေညင်းညင်း၊ ဆော်လာသွင်းသော်၊ ရင်တွင်းငြိမ့်လေး၊ ချမ်းတုန်အေး၍၊ ငယ်သွေးလဲ့ပြာ၊ မောင်နှင့်သာလျှင်၊ မေတ္တာမပျက်၊ လွန်းကြင်ငှက်သို့၊ သံမြွက်မွေးကြိုင်၊ ရွှေဂူလိုဏ်တွင်၊ တူပြိုင်ဆုတောင်း၊ ညောင်ရေလောင်းသည်၊ ။မွေးပေါင်းနံ့သာရည်နှင့်လေး . . .

စသည်ဖြင့် မိန်းကလေးအပေါ်တွင် ထားရှိအပ်သော မေတ္တာစေတ် ကာမဂုဏ် သဘောမျိုး ပါဝင်သည့် အဖွဲ့များကို အပိုဒ်တိုင်း၌ ပါဝင်အောင် ဖွဲ့ထားသဖြင့် အင်းဝမြို့ဘွဲ့ဟူ၍ မည်ကာမတ္တဖြစ်၏။ မယ်ဘွဲ့လူးတား သဘောမျိုးဖြစ်နေသည်။ ဦးအောင်ကြီး လူးတားမှာကား ဤကဲ့သို့ ကာမဂုဏ် မေတ္တာစေတ်သဘော ပါဝင်သော အဖွဲ့အနွဲ့များကို မတွေ့ရပေ။ တူရာသီ သီတင်းကျွတ်လဘွဲ့တွင်လည်း . . .

ထွန်းလင်းရောင်ရှိန်၊ အာလိန်ငါးဆင့်၊ ရွှန်းရွှန်းတင့်သား၊ နတ်မင်းစံရာ၊ ဝတိံသာသို့၊ လေးဖြာရောင်စို၊ မြင်းမိုရ်ပွဲကြီး၊ ယှဉ်မီးတဝ၊ မြောက်လေ သ၍၊ သက်မျှကြင်သူ၊ ဆင်းရွှေအုနှင့်၊ အတူတကွ၊ မောင်ကတိုင်မြောက်၊ မယ်ကဖောက်လျှင်၊ နှစ်ယောက်စုံလင်၊ စွယ်တော် စင်တွင်၊ ပန်းတင် ရေသွန်း၊ ဆုယူညွှန်းသည်၊ ။ပြောင်ရွှန်းဆီမီး တိုင်နှင့်လေး . . .

စပယ်ဦးစာပေ

စသည်ဖြင့် မယ်ဘွဲ့ကို ထည့်၍ စပ်ထားသည်တွင် ဖွဲ့နွဲ့ပုံ ယဉ်ကျေးလှ၏။ သို့သော် ဆိုလိုရင်း ရာသီ၏အခြေအနေ၊ ရာသီပွဲတော်များ၊ ရာသီပန်းများကို စုံလင်အောင် မဖွဲ့နိုင်ခဲ့။ ဖွဲ့နိုင်စေကာမူ မယ်ဘွဲ့များက လွှမ်းမိုး၍ နေသောကြောင့် ပေါ်လွင်ထင်ရှားခြင်း မရှိတော့ပြီ။ ဦးယာသည် အဲသီချင်းများကိုလည်း ဖွဲ့ဆိုလေသည်။ သို့သော် အဲသီချင်းကို ဦးယာသည် လက်ဦးအစထွင်၍ ရေးသားရသည် မဟုတ်။ တောင်ငူခေတ်၊ ညောင်ရမ်းခေတ်များကပင် အဲသီချင်း ပေါ်ပေါက်ခဲ့လေပြီ။ သို့သော် ထိုခေတ်များ၌ အဲသီချင်းသည် များစွာ ခေတ်စားသေးဟန်မတူ။

## အဲဟူသော ဝေါဟာရ

အဲဟူသည် အယျ-ဟူသော ပါဠိမှ ဆင်းသက် ပျက်ပြားလာသော စကားဖြစ်၏။ အယျ-ဟူသည်-အရှင်၊ သို့မဟုတ် သူကောင်းသား ဟူ၍ ခေါ်ဝေါ်သော အာလုပ်စကားဖြစ်၏။ သို့ဖြစ်၍ **'မေရှငယ်မှ ရာဇာလေ၊ နေနတ်ကယ်မှ ရာဇာလေ'** စသည်ဖြင့် အရင်းက အခေါ် စကားပါသော သီချင်းများကို အဲချင်းဟူ၍ ခေါ်ဝေါ်ရင်း ဖြစ်သည်။ နောက်ကျလာသောအခါ အရင်က အခေါ်စကားမပါစေကာမူ ကဗျာစာသွား အလားတူသည်ကို စွဲ၍ ထိုအလားတူ ကဗျာစုကို အဲချင်းဟူ၍ပင် ခေါ်သည်ဟု ပြောဆိုကြ၏။ အချို့ကမူကား အဲ ဟူသော စကားသည် မြန်မာစကားပင် ဖြစ်သည်။ **'သူက မိုးကဲ၊ လူတွေအဲ၊ 'ဆုတ်ရဲ့တို့က ရှား'** ဟူသော ကဝိလက္ခဏာသံပေါက်မှာ လူတွေအဲ၏ ဟူသော အဓိပ္ပာယ်ကို လူတွေ ရပ်တန့်နေသည်ဟု ယူဆရသကဲ့သို့ သီချင်းအရာမှာလည်း ရပ်တန့်၍၊ ရပ်တန့်၍ သီဆိုရသော ကဗျာတစ်မျိုးကို အဲချင်းခေါ်သည်ဟု ပြောဆိုကြပြန်၏။ အချို့ကလည်း အဆိုပါ သံပေါက်မှာ လူတွေ အဲ၏ ဟူသော အဓိပ္ပာယ်ကို လူတွေ ရပ်တန့်သည်ဟု အဓိပ္ပာယ်မယူသင့်။ လူတွေများသည် ဟူ၍သာ အဓိပ္ပာယ်ယူသင့်သည်။ သို့ဖြစ်၍ တစ်ယောက်တည်း သီဆိုရသည် မဟုတ်ဘဲ နှစ်ယောက် သို့မဟုတ် အများ ဝိုင်းဝန်းသီဆိုရသော ကဗျာဖြစ်သောကြောင့် အဲချင်းခေါ်သည်ဟု ဆိုကြပြန်၏။ အချို့ကလည်း အဲသည် ဟဲဟူသော မြန်မာစကားရင်းမှ ရွေ့လျော ပျက်ပြားလာဟန် တူ၏။ အသံကို ဟဲ၍ ရွတ်ဆိုရသည်ကို အစွဲပြု၍ ဤအဖွဲ့အနွဲ့မျိုးကို ဟဲသီချင်းဟူ၍ ခေါ်စရာ ရှိ၏။ ထိုနောင် ကာလရွေ့လျော၍ ဟဲမှ အဲဖြစ်လာဟန် တူသည်။ နတ်သံများကို ရွတ်ဆိုရာ၌လည်း အသံကိုဟဲ၍ ရွတ်ဆိုရကြောင်း ထင်ရှားသည်ဟု

ပြောဆိုကြပြန်၏။ ကျမ်းဂန် တိုက်ရိုက်လာစကား မဟုတ်သည့်အတွက် မိမိနှစ်သက်ရာ မှတ်ယူရန် ဖြစ်တော့သည်။ မင်းဖေယျရန္တမိတ်ဆို ရတုတစ်ပုဒ်တွင်...

အဲသီချင်းနှင့်၊ ပြန်တင်းရည်ဆောင်၊ အဆောင်ဆောင်သည်။ ။ခါ ညောင်မသွန်း လှည့်လေလော...

ဟူ၍ အဲဟူသော စကားကို သုံးနှုန်းထားသည်ကို တွေ့ရသည်။ လျှံဝင်းမဥ္စူချီ ရှင်သံခိုဆို ရတု၌လည်း...

နန်းမြေဟံသာ၊ ပြန်ခဲ့လာ၍၊ အခါချိန်ထောက်၊ စခန်းရောက်သော်၊ အဲထောက်သီချင်း

ဟူ၍ စပ်ဆိုထားသည်ကို တွေ့ရ၏။ ဦးကုလားရာဇဝင်နှင့် မှန်နန်းရာဇဝင်တို့ကို ကြည့်သော် အင်းဝခေတ် မင်းကြီးစွာစော်ကဲ လက်ထက်လောက်ကပင် အဲသီချင်း ပေါ်နေပြီဖြစ်ကြောင်း တွေ့ရှိနိုင်သည်။ ဘိုးတော်မင်းတရားလက်ထက် ၁၂-ရာသီ ဘွဲ့ အဲချင်းတစ်စောင် ပေါ်ပေါက်၏။ စာဆိုသူတို့သည် ၁၂-ရာသီဘွဲ့ကို ရတု၊ လူးတား၊ တေးထပ်၊ သဖြန်၊ လေးချိုး စသည်ဖြင့် မိမိတို့ကျင်လည်ရာ အဖွဲ့မျိုးဖြင့် ဖွဲ့ဆိုကြကုန်၏။ ဘိုးတော်ဘုရားလက်ထက်တွင် ၁၂-ရာသီဘွဲ့များသည် ခေတ်စား လာ၏။ ထို့ကြောင့်ပင်လျှင် ၁၂-ရာသီဘွဲ့ အမျိုးမျိုး ပေါ်ပေါက်လာတော့၏။ ၁၂-ရာသီဘွဲ့ကို အဲချင်းဖြင့် ဖွဲ့ဆိုသူ မိန်းမစာဆိုသည်ကား ဘိုးတော်လက်ထက်တွင် ထင်ရှားကျော်စောသော အမျိုးသမီး မယ်ခွေဖြစ်သည်။

## မယ်ခွေ

မယ်ခွေသည် ရတနာသိင်္ခမြို့နေ စစ်တောင်းဝန်ကြီး၏သမီး အမွေဝန် မောက်စွက်၏ မယား ဖြစ်သည်။ ထို့ကြောင့် မယ်ခွေကို အမွေဝန်ကတော်ဟူ၍ လည်း ခေါ်ကြသည်။

**မှတ်ချက်။** ။မယ်ခွေကို မယ်ခွေး ခေါ်ကြသည်မှာ မှားသည်။ မယ်ကေ မယ်ခွေ ဟူသော ညီအစ်မနှစ်ယောက်တို့သည် ဘိုးတော်ဘုရားလက်ထက်တွင် လွန်စွာကျော်စောကြောင်း၊ မယ်ခွေသည် အငယ်ဖြစ်၍ နောက် အမွေဝန်နှင့် လက်ဆက်ကြောင်းများကို ပုဂံဝန်ထောက်မင်း ဦးတင်၏ စာအုပ်စာတမ်းများတွင် လည်း တွေ့ရသည်။

မယ်ခွေဆို အဲချင်းများကို ၈၀–ပေါ် အဲ ဟူ၍လည်း ခေါ်ကြသေး၏။ အကြောင်းကိုဆိုသော် ဤအဲချင်းကို ညောင်ရမ်းမင်းဆက် တနင်္ဂနွေမင်းတရားကြီး လက်ထက် သက္ကရာဇ် ၁၀၈၀ ပြည့်နှစ်က စတင်ပေါ်သည်ကို အစွဲပြု၍ ၈၀–ပေါ် အဲခေါ်ကြောင်း။ ထို့အတူ ၈၀–ပေါ် တေးထပ်ဟူ၍လည်း ပေါ်ပေါက်ခဲ့သေးကြောင်း ပြောစမှတ်ပြုကြသည်။ မယ်ခွေ၏ ၁၂–ရာသီဘွဲ့ အဲချင်းသည် ရာသီဘွဲ့ ကဗျာများတွင် လွန်စွာကျော်စောလေသည်။ ထိုအဲချင်း မပေါ်သေးမီက ၁၂–ရာသီဘွဲ့ လူးတား၊ ရတုများ ပေါ်ခဲ့သော်လည်း ထို လူးတား၊ ရတု တို့သည် မယ်ခွေ၏ အဲလောက် များစွာအရေးပါ အရာရောက်ခြင်း မရှိကြ။ ဖွဲ့နွဲ့ပုံမှာလည်း မယ်ခွေ၏ အဲသည် လွန်စွာနက်နဲ၏။ ပန်း၊ ပွဲတော်၊ ရာသီအခြေအနေတို့ကို ဖွဲ့ရာ၌လည်း စုံစုံလင်လင်ရှိ၍ ပြေပြစ်၏။

ထူးခြားသည့် အချက်ကား မယ်ခွေ၏ ရာသီဘွဲ့သည် အဲချင်းဖြစ်၍ ဂီတဘက် သက်ဆိုင်ပါဝင်သောကြောင့် စည်းဝါးကျနစွာ တူရိယာဖြင့် သီဆိုနိုင်၏။ ရှေးအထက်ကျော် ကာရိက ၁၂–ရာသီဘွဲ့များကား လူးတား၊ ရတုများဖြစ်သောကြောင့် အတီးအမှုတ် တူရိယာများဖြင့် တွဲဘက်သီဆိုခြင်း မပြုနိုင်၊ စည်းလွတ် ဝါးလွတ်သာ ဆိုနိုင်သဖြင့် မယ်ခွေ၏ အဲလောက် တွင်ကျယ်မည် မဟုတ်ပေ။ ဤနေရာ၌ မယ်ခွေက ဉာဏ်ရည်သာ၏။ အဲသည် စည်းဝါးကျနစွာ ဆိုနိုင်သော အဖွဲ့ဖြစ်ရကား သဘင်သည်များအတွက် ပိုမိုကျေးဇူးရှိပေ၏။ ဖွဲ့နွဲ့ပုံတွင်လည်း မယ်ခွေသည် အခြားစာရေးဆရာကြီးများအောက် မညံ့ချေ။ မိန်ရာသီ တပေါင်းလဘွဲ့တွင် . . .

> ကသိုဏ်းယော်မှ ညိုညိုလေ၊ ။ကြယ်ရေဝတီ၊ နယ်သင်္ဂီမှာ၊ နာရီငါးရပ်၊ သုညပါဒ်နှင့်၊ ရဟတ်ကယ် ခက်ချင်း၊ ချမ်းရေး ပြင်းကြသည်၊ တောင် မြင်းမိုရ်ငယ်နှင့်လေး၊ ။ရွှေလိုမှရစ်ဆင့်၊ သဲပုံပြိုပြို၊ သားမျိုးညီအောင်၊ စေတီရတနာ၊ လှည့်လက်ယာကို၊ မြေဇာမြင့်လို့၊ ကျူးရင့်မှ နတ်စည်၊ ကြက်ဆောင်အလှမ်း၊ ဆီးဖျန်းဖျန်းနှင့်၊ မိုးပန်း ဆွတ်ချွေ၊ မှိုင်းမှိုင်း ဝေလို့၊ နေမတည်သည်၊ မျက်ရည်ကို ရွှေတဘက်ကယ်နှင့်၊ သုတ်ရက် ပြီဘူး၊ နွေဦးမှ ထိပ်ခံ၊ တောတောင်တစ်လီ၊ မှိုင်းဝေရီနှင့်၊ ကတ္တိဝါ ပေါင်း၊ ရွက်သစ်ကယ်လောင်း၊ ရွက်ဟောင်းပျံလို့၊ ခက်ရုံမှ ဝေဝေ၊ အင်ကြင်း သရဖီ၊ ပန်းစုံစီနှင့်၊ သင်္ဂီရောင်သွေး၊ ကြိုင်ကြိုင်ငယ်မွှေးလို့၊ ငှက်ကျေးငယ် ချွေသည်၊ တောင်လေပြေ မုန်တိုင်းနှင့်၊ ရေလှိုင်းသံ

တိုး၊ ၊ပြည်မိထိလာ၊ ချိန်တာရာသည်၊ တံငါပျော်ကြ သို့သည်လကို၊
မရရင်ငွေ့၊ တစ်ကိုယ်လေ့မို၊ မွေ့မွေ့သိမ်သိမ်၊ ကြည်နူးရန် ကြိမ်
လိမ့်မယ်၊ မိန်ရာသီ လတပေါင်းတဲ့ တစ်သောင်းလုံး စိတ်ငယ်အောင်၊
ပင်လယ်ကို ရည်မှန်းမှိုင်းနှင့်၊ မျှော်တိုင်းညှိုး...

ဟူ၍ စပ်ဆိုဖွဲ့နွဲ့ထားရာတွင် နေရာတကာ၌ပင် စေ့စပ် ကျနှ၏။

စန်းယှဉ်နက္ခတ် တာရာ ဗေဒင်လာစကား ဖွဲ့နွဲ့ပုံ အသုံးအနှုန်းများလည်း ကျနသေသပ်၏။ ဦးယာ၏ လူးတားထက် သာပေသည်ဟု ယူဆဖွယ်ဖြစ်သည်၊ မယ်ခွေသည် မိမိ၏ အဲချင်းတွင် ရာသီ၏ အခြေအနေကို များစွာ အမွှမ်းတင်၍ ရေး၏။ သဘာဝမွေဖြစ်ပေါ်နေသော တော, တောင်, ရေ, မြေနှင့် ရာသီ၏ အခြေအနေ လိုက်လျောပုံများကို ကွက်ကွက်ကွင်းကွင်း ပေါ်အောင် ဖွဲ့ဆိုနိုင်သည် မှာလည်း ချီးမွမ်းဖွယ်ပင် ဖြစ်သည်။ စာဆိုကျော်တို့သည် တပေါင်းလ ရာသီ၏ အခြေအနေကို အများအားဖြင့် ဖွဲ့ဆိုကြကုန်သည်။ အဘယ်ကြောင့်ဟူမူ တပေါင်း လတွင် ရာသီ၏အခြေအနေသည် အသာယာဆုံးဖြစ်သောကြောင့်ပင်တည်း။

အခြားဆရာကြီးများ ဖွဲ့ဆိုကြသော တပေါင်းလဘွဲ့နှင့် အထက်ပါ မယ်ခွေ၏ တပေါင်းလဘွဲ့ကို နှိုင်းယှဉ်လျှင် မယ်ခွေ၌ ဉာဏ်ရည်သာသော အချက်တစ်ခု ရှိ၏။ ဤတပေါင်းလရာသီတွင် တောတောင်၏ သာယာပုံကို ရိုးရိုးသားသား မဖွဲ့ဘဲ၊ လေပြေလေညင်းကလေးက တောင်ဘက်မှ တိုက်ခတ်၍ ဒီလှိုင်းကလေးများ တိုးလိမ့်၍ လာသဖြင့် လှိုင်းပုတ်သည့် အသံကလေးများကို ကြားရပုံ၊ ထိုအတွင်း ပန်းပွင့်ကလေးများကို ကျေးငှက်ငယ်များက ခွေချ၍ လေတွင် အမွှေးနံ့တွင် တသင်းသင်း လှိုင်နေပုံ၊ သို့သော် တစ်ကိုယ်တည်းဖြစ်၍ မပျော်နိုင်ပုံများကို လွန်စွာ ယဉ်ကျေးနွဲ့နှောင်း ဆန်းသစ်သော စကားလုံးလေးများဖြင့် ညှပ်၍ သုံးထားခြင်း ကြောင့် မယ်ခွေ၏ ရာသီဘွဲ့သည် ကြည်နူးစရာကောင်းရုံမျှမက အလွမ်းဓာတ်အခံ ရှိသူများ၏ စိတ်ကို လှုံ့ဆော်၍ လွမ်းစရာကောင်းအောင် ဖန်တီးပေးနိုင်ပေသည်။

ဤတပေါင်းလရာသီဘွဲ့ တစ်ခုတည်းပင် မဟုတ်။ ၁၂–ရာသီလုံးတွင်ပင် အဖွဲ့အနွဲ့များမှာ လွမ်းစရာ ဆွေးစရာ စကားကုလေးများဖြင့် တန်ဆာဆင်ထား သောကြောင့် မယ်ခွေ၏ ရာသီဘွဲ့သည် အခြားရာသီဘွဲ့များထက် ထူးခြားကောင်းမွန် သည်ဟု ဆိုရပေမည်။ ဤနေရာ၌ မယ်ခွေသည် ဩကာသလောကကြီးတွင်

စိတ်ဝင်စားတတ်သူဖြစ်၍ မိမိကိုယ်ကလည်း နုနယ်ပျော့ပျောင်းသော မိန်းမသား ဖြစ်သောကြောင့် ဖွဲ့နွဲ့သော စကားများတွင် မိန်းမသားဓာတိပြလျက်ရှိကြောင်း ထင်ရှားတော့သတည်း။

မယ်ခွေသည် ဤရာသီဘွဲ့ အဲချင်းတစ်ခုတည်းဖြင့် နာမည်ထင်ပေါ် ကျော်စောသည် မဟုတ်။ အမရပူရ ဘုရားလေးဆူတိုင် ပျို့နှင့် ရတုများ၊ ဘိုးတော်ဘုရား မိထွေးတော် ဒလမြို့စားမင်းသမီး သေလွန်ရာ ငိုချင်း၊ သမီးတော် မိုးနဲ ဝန်ကတော် သေလွန်ရာ ငိုချင်း၊ သားတော် ပြင်စည် မြင်မူးမင်းသား မင်းရဲမင်းလှရွှေတောင် သေလွန်ရာ ငိုချင်း၊ နှမတော် ရှင်နှင်းပွင့်၊ ရှင်သဲတို့ သေလွန်ရာ ငိုခြင်း၊ အနောက်အိမ်တော် အမြင့်မြို့စားမင်း သားတော် မောင်ကြီး ကွယ်လွန်ရာ ငိုချင်းများကိုလည်း ဆိုသေး၏။ ငိုချင်းများတွင် မယ်ခွေ၏ ငိုချင်းများသည် အစ ပထမဆုံးပေါ်ပေါက်၍ နောက်နောက် ခေတ်စားလတ္တံ့သော ငိုချင်းရှည်ခေါ် ရာပုံတော်ကြီးများ၏ ရှေ့တော်ပြေး ဖြစ်တော့သည်။

## ကျည်းကန်ရှင်ကြီး

ကျည်းကန်ရှင်ကြီး အမည်ဖြင့် ကျော်စောထင်ရှားသော သာမဏေပုဂ္ဂိုလ် ရှင်နန္ဒမေဓသည် အလုံနယ်မြေအဝင်အပါ မုံရွေးရွာအနီး ကျည်းကန်ရွာတွင် သက္ကရာဇ် ၁၁၁၉–ခုနှစ်၌ ဖွားမြင်သည်။ လူမည်မှာ ဦးနု၊ သာမဏေအမည် ရှင်နန္ဒမေဓဟု တွင်သည်။ ကျည်းကန်ရွာတွင် မွေးဖွားသည်ကို အစွဲပြု၍ ကျည်းကန်ရှင်ကြီးဟူသော အမည်ဖြင့်သာ သတင်းကျော်စော ထင်ရှား၏။ ငယ်ရွယ်စဉ်အခါကပင် စာပေကျမ်းဂန်များကို လိုက်စားဆည်းပူးခြင်းပြု၍ လူမှုရေးတို့ကို မြော်တွေးဆင်ခြင် သိကျွမ်းကျင်လိုသော စိတ်ညွှတ်သဖြင့် လွှတ်တော်ရုံးများသို့ သွားရောက်၍ ၃ နှစ်စီ ၄ နှစ်စီ လှည့်လည် ဝင်ထွက် ဆောင်ရွက်ကြည့်ရှု နည်းနာစုလျက် မင်းမှုရေးရာတို့ကို ကောင်းစွာနားလည် သိမြင်လာသည့်အခါရောက်မှ လူ့ဘဝခေတ်ကြီးကို ငြီးငွေ့ စွန့်ခွာ၍ သာမဏေအဖြစ်နှင့် ဓာတိ ကျည်းကန်ရွာ၌ပင် စာပေပို့ချ၍ နေရာ ဘိုးတော်ဘုရား ပင့်ခေါ်သောကြောင့် အသက် ၃၀ ကျော်မှ အမရပူရသို့ ရောက်လာ၍ မောင်းထောင် ဆရာတော်ဘုရားထံဝယ် မှီးကပ် ခစားလေသည်။ ကျည်းကန်ဆရာ ရှင်နန္ဒမေဓသည် လောက၊ ဓမ္မ၊ ရာဇကြောင်း သုံးပါးလုံးတို့၌ ပိုင်းခြားထင်ထင် သိမြင်တော်မူသည့်အတိုင်း လောကရေး၊ ရာဇရေး၊ ဓမ္မရေးနှင့်တကွ စာရေးစာယူမှု

ဖဲ့သော၊ မေတ္တာစာအမျိုးမျိုးတို့ကို နောင်လာ နောက်သားတို့ မှီငြမ်းပြုလုပ်ကြစေရန် အပတ်တကုတ် ရေးသားပြုစုခဲ့လေသည်။ သက္ကရာဇ် ၁၁၆၉-ခုနှစ်တွင် သဗ္ဗောဝါဒီ ကမ္မဋ္ဌာန်း ဆယ်လွန်းတင် ဂါထာ ၁၃-ပုဒ်ကိုလည်း ရေးသားသည့်ပြင် အခြား စွယ်စုံကျော်ထင် သတ်ပုံ အမေးပုစ္ဆာများ၊ လင်္ကာ၊ ပျို့၊ကဗျာ၊ ရတုများကိုလည်း ရေးသားတော်မူသည်။ စွယ်စုံကျော်ထင် သတ်ပုံအမေးပုစ္ဆာ ကျမ်းကြီးသည် လွန်စွာ ကျော်စောထင်ရှား၏။ အမေးပုစ္ဆာပေါင်း ၁၁၁၅-ပုဒ်ရှိ၍ ဤပုစ္ဆာများကား ဗဟုသုတ ဖြစ်ဖွယ်ရာ ဉာဏ်ကစားသော ပုစ္ဆာများ ဖြစ်ကြ၏။ ဤအမေးပုစ္ဆာများကို **'ကြီးသဲလေးထပ် ဆရာတော်ကြီး'** က ဖြေဆိုလေသည်။ ဆယ်လွန်းတင်ဂါထာ ၁၃-ပုဒ်သည် ဓမ္မကြောင်းနွယ်သည့် ဂီတစောင်းသီချင်း ဖြစ်သောကြောင့် လွန်စွာဆန်းသစ်၍ အဖွဲ့အနွဲ့မှာလည်း ထူးခြားလှ၏။ ပါဠိအနက်အားဖြင့် အဓိပ္ပာယ်တစ်မျိုးပေါက်၍ မြန်မာအနက်အားဖြင့် အဓိပ္ပာယ် တစ်မျိုးပေါက်၏။

## မေတ္တာစာဟူသော ဝေါဟာရ

ကျည်းကန်ရှင်ကြီး ပြုစုခဲ့သမျှတွင် မေတ္တာစာများသည် လွန်စွာထင်ပေါ် ကျော်စော၏။ အဘယ်ကြောင့်ဟူမူ ကျည်းကန်ရှင်ကြီး မေတ္တာစာများသည် အခြား မေတ္တာစာများနှင့်မတူ အဖိုးတန်သော မေတ္တာစာများ ဖြစ်ကြသောကြောင့်တည်း။ ပထမအင်းဝခေတ်တွင် ကန်တော်မင်းကျောင်း ဆရာတော် ပြုစုခဲ့သော မေတ္တာစာ အထင်အရှား ပေါ်လာခဲ့ပြီး ဖြစ်၏။ ဒုတိယမင်းခေါင်ထံသို့လည်း ရှင်မဟာသီလဝံသ၊ ရှင်မဟာရဋ္ဌသာရတို့ မေတ္တာစာ ဆက်သွင်းကြဖူး၏။ ထိုအင်းဝခေတ်က မေတ္တာစာ များသည် ဘုရင်မင်းမြတ်ထံမှ မေတ္တာတော်ကို ခံယူလိုသောအားဖြင့် ရေးသား ကြရသော အဖွဲ့အနွဲ့များဖြစ်၏။ မေတ္တာ ခံယူသည်။ မေတ္တာရပ်ခံသည်ဟူသော စကားသည် လူပုဂ္ဂိုလ်များသုံးသော စကားမဟုတ်။ ရဟန်းပုဂ္ဂိုလ်များ သုံးသော စကားဖြစ်၏။ ထိုသို့ ဘုန်းကြီးရဟန်းများ မေတ္တာရပ်ခံသည့်စာ ဖြစ်သောကြောင့် မေတ္တာစာ ခေါ်ဟန်တူ၏။ ထိုကြောင့် ထိုအင်းဝခေတ်က ဘုရင်မင်းမြတ်ထံမှ သုနန္ဒသူရ၏ အသက်ကို အလှူခံသော ရှင်မဟာရဋ္ဌသာရ၏ မေတ္တာစာ၊ ဘုရင် မင်းမြတ်အား တရားနှင့်အညီ မင်းပြုရန် မေတ္တာရပ်ခံသော ကန်တော်မင်းကျောင်း မေတ္တာစာများ ပေါ်ပေါက်လာကြသည်။ ဤသည်တို့ကို ထောက်၍ အင်းဝခေတ်က မေတ္တာစာများသည် ကုန်းဘောင်ခေတ်ပေါ် မေတ္တာစာများနှင့်မတူဘဲ ရည်ရွယ်ချက်

ကွဲပြားကြသည်။ အချုပ်အားဖြင့်ဆိုသော် အင်းဝခေတ် မေတ္တာစာများသည် ဘုရင် မင်းမြတ်ကို အမှူးပြု၍ အမျိုးလေးပါးတို့အား တရားလမ်းကြောင်းဖြင့် ဆုံးမသွန်သင် သော စာများ ဖြစ်၏။

ကျည်းကန်ရှင်ကြီး ရေးသော မေတ္တာစာမျိုးကား မင်းအား ဆုံးမသော စာလည်း မဟုတ်။ ဘုရင်မင်းမြတ်၏ မေတ္တာတော်ကို ခံယူလို၍ ရေးသော စာလည်း မဟုတ်။ ၅၂၈–သွယ်သော မေတ္တာကို အကြောင်းပြု၍ မောင်နှင့် နှမ၊ သားနှင့် အမိ၊ ဆရာနှင့် တပည့်၊ ရဟန်းပုဂ္ဂိုလ်၊ လူပုဂ္ဂိုလ်တို့ တစ်ဦးနှင့်တစ်ဦး၊ ကမ်းလှမ်း ပေးပို့သော စာများပင် ဖြစ်သည်။ သို့သော် ဤစာများသည် မေတ္တာစာ သာမညသာ မဟုတ်။ အကြီးဖြစ်သူတို့က အငယ်ဖြစ်သူတို့အား ဆုံးမသော ဩဝါဒစကားများ လည်း ပါဝင်သည်။ မင်းတုန်းမင်းလက်ထက် စလေ ဦးပုည၏ သောင်းပြောင်း ထွေလာ အကြောင်းမျိုးစုံပါသော မေတ္တာစာများကဲ့သို့လည်း မဟုတ်ဘဲ ဆုံးမစာ သဘောသက်ဝင်သော မေတ္တာစာများ ဖြစ်သောကြောင့် ဦးပုည မေတ္တာစာများနှင့် လည်း ကွာခြား၏။ ထိုကြောင့် ကျည်းကန်ရှင်ကြီး မေတ္တာစာကို ဆုံးမစာ၊ မေတ္တာစာ ဟူ၍ ခေါ်ကြ၏။ ကျည်းကန်ရှင်ကြီးသည် မေတ္တာစာများကို အဖွဲ့အမျိုးမျိုးဖြင့် ရေးသား၏။ ကေပိုဒ် မေတ္တာစာအဖွဲ့မှာ လင်္ကာကဲ့သို့ပင် လေးလုံးတစ်ပိုဒ်သွားဖြင့် စာတစ်ပိုဒ်လုံး ဆုံးသည်တိုင်အောင် ဖွဲ့ဆို၏။ ပိုဒ်စုံ မေတ္တာစာမှာ ရတုပိုဒ်စုံကဲ့သို့ သုံးပိုဒ်ကို မေတ္တာစာတစ်ပိုဒ်ထား၍ မိမိဆိုလိုသည့် အကြောင်းအရာများကို ဖွဲ့ဆို၏။ ဤပိုဒ်စုံတွင် မြီးသေးမြီးသွယ်၊ စကြာရတု စသော ဖွဲ့နည်းမျိုးဖြင့် ဖွဲ့နွဲ့သည်သာ များ၏။ မေတ္တာစာ ရိုးရိုးမှာ လင်္ကာစကားပြေ နှစ်ထွေသင့်ရာ ရောနှောစပ်ဆို ဖွဲ့နွဲ့၏။ ကျည်းကန်ရှင်ကြီး မေတ္တာစာ တစ်စောင်လုံး၏ အဖိုးတန်သော အချက် များသည် ဆုံးမစကားများ ဖြစ်ပေသည်။ ဤဆုံးမစကားများကို စကားပုံသဖွယ် လင်္ကာများဖြင့် ဖွဲ့ဆိုထားသောကြောင့် သာယာ နာပျော်ဖွယ်လည်း ရှိ၏။ မှတ်သား ရန်လည်း လွယ်ကူ၏။

> ကလို၍ ကိုယ်ယားသည်၊ ဝလို၍ သိုထားသည်၊ အင်းကောင်း ဖျာမတန်၊ ငါကောင်း ကျွန်တော် မတန်၊ အမှုထိုက်သောကြောင့် ကြေးဆုံပြန် ရသည်၊ အပြုမိုက်သောကြောင့် ကြေးကုန်ပြန်ကြသည်...

အစရှိသော စကားပုံများသည် ဆုံးမစကားများပင် ဖြစ၍ အဓိပ္ပာယ်မှာလည်း များစွာနက်နဲသည်။ ဤစကားပုံများသည် ရှေးအထက်ကျော်ကာရိက ဆရာကြီးများ

စပ်ဆိုခဲ့သည့် စကားပုံများလည်း မဟုတ်။ ကျည်းကန်ရှင်ကြီးကိုယ်တိုင် အဆန်း ထွင်ယူ၍ မိမိမေတ္တာစာတွင် အဦးဆုံးသုံးစွဲခြင်းပြုသော စကားပုံများ ဖြစ်၏။ ထိုကြောင့် စကားပုံ အဆန်းအသစ်များကို သာယာနာပျော်ဖွယ်ဖြစ်အောင် ကိုယ်ပိုင် ဉာဏ်ဖြင့် ထွင်ယူသော စာဆိုပုဂ္ဂိုလ်ကို များစွာ ချီးမွမ်းထိုက်လှပေသည်။

မေတ္တာစာ တစ်ခုတစ်ခုတွင် မေတ္တာဘွဲ့၊ စာပေးသူဘွဲ့၊ စာယူသူဘွဲ့၊ အထွေထွေဘွဲ့အားဖြင့် လေးပိုင်း ပိုင်းခြားထားရာ မေတ္တာဘွဲ့ အပိုင်းကို ဖွဲ့ရာ၌ ကျည်းကန်ရှင်ကြီးသည် ပြည့်စုံအောင် မဖွဲ့ချေ။ မေတ္တာကို လနှင့် နှိုင်းခြင်း၊ အနဝတတ်ရေနှင့် နှိုင်းခြင်း၊ မဥ္ဇူသကပန်းနှင့် နှိုင်းခြင်း စသော ဥပမာစကားတို့ဖြင့် တန်ဆာဆင်၍ ဖွဲ့နွဲ့ခြင်းကို ဦးပုညကဲ့သို့ အလေးဂရုမပြုခြင်းကြောင့် မေတ္တာဘွဲ့ များတွင် များစွာ လစ်ဟင်းခဲ့၏။ ထိုနေရာတွင် ဦးပုညက သာလွန်ပေသည်။ ကျည်းကန်ရှင်ကြီး၏ မေတ္တာစာများသည် လောကကြောင်း သက်သက်နွယ်သော မေတ္တာစာများဟု ဆိုရငြားသော်လည်း တစ်ခါတစ်ရံ ဓမ္မကြောင်းဖက်သော အပိုင်း များကိုလည်း တွေ့ရပေသေးသည်။ စာဆိုပုဂ္ဂိုလ်သည် သာမဏေကြီးဖြစ်သောကြောင့် ကျမ်းဂန်တို့၌လည်း လွန်စွာ ကျွမ်းကျင်သည်။ ထိုကြောင့် တရားသဘောသက်ဝင် သော အခန်းများဖြင့်လည်း လက်စွမ်းပြခဲ့၏။ သို့သော် လောကကြောင်းဖြစ်သော ဆုံးမ စကားများက ပိုမိုများပြားလေသည်။

## အချင်ဥက္ကံသမာလာ

ဤပုဂ္ဂိုလ်ကား မေတ္တာစာများကို ရေးသားခဲ့လေသည်။ ဖွားရင်း သက္ကရာဇ် နှင့် ဇာတိမြို့ရွာ စသည်တို့ကို ယခုအခါ သေချာစွာ မသိရသေးသော်လည်း '**ပလီ ဉာဏ်ကျော်၊ ရွှေဘွဲ့ကပေါ်သနှင့်၊ လက်စွဲတော် မောင်ရွှေရစ်**' ဟူသော စာပိုဒ်ကို တွေးရှုခြင်းအားဖြင့် ဘိုးတော်ဘုရားနှင့် ဘကြီးတော်ဘုရားတို့၏ ခေတ်နှစ်ခုလုံးကိုပင် မီလိုက်သည်ဟု ခန့်မှန်းဖွယ်ရှိသည်။ အဘယ်ကြောင့်ဆိုသော် ထိုမောင်ရွှေရစ် ဟူသော အမည်သည် မင်းကြီး မဟာဇေယျသူ၏ ငယ်မည်ရင်း ဖြစ်သောကြောင့်တည်း။ ဘိုးတော်ဘုရားလက်ထက် အိမ်ရှေ့မင်းသား၏ထံပါးတွင် ခစားထမ်းရွက်နေစဉ် ဘွဲ့ထူး တစ်စုံတစ်ရာမရသေးမီ အချင်ဥက္ကံသမာလာက ပေးသော မေတ္တာစာ ဖြစ် သောကြောင့် ငယ်မည်ရင်းကိုပင် ရေးသားသုံးစွဲခြင်း ဖြစ်သည်။ ဘွဲ့ရှိသူ အခြား

ပုဂ္ဂိုလ်တို့ထံပေးသော မေတ္တာစာများတွင်မူကား ထိုသူတို့၏ ဘွဲ့နာမံ အသီးသီးကို တပ်၍ ချီးကျူးရေးသားထား၏။ ထိုပြင်လည်း...

တောပုမြောက်ကျောင်း၌၊ အကျင့်သမ္မာ၊ သိက္ခာကာမ၊ လဇ္ဇီပေသလ၊ စာရမတိမ်း၊ စောင့်ထိန်းမြဲစွာ၊ ခြိုးခြံပါသော၊ ဆရာသျှင်ဥက္ကံသမာလာ၊ မေတ္တာစကား၊ မှာကြားပုံ့လှိုင်၊ ကြိုင်ရနံ့ ထုံအပ်သည်၊ အနောက်ရပ်ကျောင်းဒါယကာ၊ လက်ယာကျော်စွာ နော်ရထာ...

ဟူသော စကားရပ်ကို ထောက်သဖြင့်လည်း ထိုအသျှင်မြတ်သည် တောပုမြို့ မြောက်ကျောင်းတွင် သီတင်းသုံးကြောင်းကို ထင်ရှားသိသာ၏။ အသျှင်ဥက္ကံသမာလာ၏ မေတ္တာစာများသည် ဘုရဇ်မင်းမြတ်ကို ဆုံးမလိုရင်းလည်း မဟုတ်။ မေတ္တာရပ်ခံလိုရင်းလည်း မဟုတ်။ စင်စစ် ကျည်းကန်ရှင်ကြီး၏ မေတ္တာစာများနှင့် ဆင်ဆင်တူ၍ ဆရာသမား၊ ညီဖွားနောင်မယ်၊ မျိုးနွယ်သားချင်း၊ မိတ်ဆွေရင်းတို့က ငါးရာ့နှစ်ဆယ် ရှစ်သွယ်မေတ္တာကို ပဓာနထားလျက် အကြံပေး ဉာဏ်ပေး အဖြစ်ဖြင့် သော်လည်းကောင်း၊ မကောင်းမြစ်တာ ကောင်းရာညွှန်ကြားချင်၍သော်လည်းကောင်း ထိုဆရာတော်အား ရေးပေးပါရန် တောင်းပန်သောကြောင့် ရေးသားသော မေတ္တာစာများ ဖြစ်သည်။ ရံဖန်ရံခါလည်း ဆရာတော်ကိုယ်တိုင်က တပည့်များထံ တရားပြသဆုံးမလို၍ ရေးသားပေးပို့လေ့ရှိ၏။ ယင်းသို့ ရေးသားရာ၌ ဆုံးမဩဝါဒ စကားများကို ဆီလျော်အောင် ထည့်သွင်းသည့်ပြင် လောကုတ္တရာကြောင်းဘက်သို့လည်း အထူးဂရုပြုလေသည်။

သာသတီတိသတ္တာ၊ ဝိဂြိုဟ် လာသဖြင့်၊ ဩဝါဒဆုံးမ၊ ပြသသွန်သင်၊ ပဲ့ပြင် ကျိုးကြောင်း၊ မကောင်းမြစ်တာ၊ ကောင်းရာကိုသာ၊ တိုက်တွန်းတတ်စွာ၍၊ ဆရာမည်ရ အနွတ္တနာမံဖြင့်၊ ဥက္ကံသမာလာ၊ ဆရာမြတ်စော...

ဟူ၍ လည်းကောင်း...

အပဏ္ဏက ဇာတ်၌၊ မမြတ်သော လှည်းမှူးကြောင့်၊ ဘီလူးများစွာ၊ ငါးရာ လှည်းသားကို စားလေ၍ ပျက်စီး...

ဟူ၍ လည်းကောင်း...

ပါဠိဝိဂြိုဟ် ဝစနတ္ထတို့နှင့်တကွ ငါးရာ့ငါးဆယ်ဇာတ် အစရှိသည်တို့မှ အကိုးအကားများကို ထုတ်နုတ် ရေးလိုက်ခြင်းဖြင့်လည်း မိမိသည် မည်မျှ ကျမ်းဂန် တတ်ကြောင်း အစွမ်းပြထားလေသည်။ ကျည်းကန်ရှင်ကြီးကဲ့သို့ စကားပုံများ၊ ရတုပိုဒ်စုံများကို ထည့်သွင်းရေးသားခြင်း မပြုခဲ့သည်သာ ထူးခြားတော့၏။

## ဦးဩဘာသ ဆရာတော်

ဘိုးတော်မင်းတရားကြီး လက်ထက်တွင် စကားပြေများ ခေတ်စား၍ လာကြပြန်သည်။ ထူးခြားသော စကားပြေများအနက် ဘုရားအလောင်း မဟာနိပါတ် ဇာတ်တော်ကြီး ၁၀–စောင်ကို မှတ်တမ်းတင်ထိုက်ပေသည်။ စကားပြေအရေးအသား တွင် တစ်ရံတစ်ခါ လင်္ကာသဘော ရောနှောထည့်သွင်းကာ လွန်စွာ ကျွမ်းကျင်တော် မူသော ဦးဩဘာသ ဆရာတော်သည် မင်္ဂလာပူရခေါ် မင်းပူးမြို့၊ ဝါ–နမန္တာ မည်သော မန်းချောင်းနှင့် ဧရာဝတီမြစ်တို့ ပူးဆုံရာဖြစ်၍ မန်းပူးခေါ်ရာမှ မင်းပူးဟု တွင်လာသောမြို့၊ ဝါ–မိုးညှင်းမင်းတရားနှင့် ရှင်ဘို့မယ်တို့ တွေ့ရာအရပ ဖြစ်သည်ကို အစွဲပြု၍ ခေါ်သော မင်းပူးမြို့တွင် ဖွားမြင်သည်။ ထိုပုဂ္ဂိုလ်၏ ဖွားသက္ကရာဇ်ကို သေချာစွာ မသိရပေ။ နာရဒဇာတ်တော်ကြီး နိဂုံးတွင် . . .

> ငယ်သွေးပျိုနု၊ ကောင်းရာမှုဖြင့်၊ ဆယ်စုသက်ဝယ်၊ ဝဏ္ဏာရွယ်၌၊ ရှုဖွယ်ရူပ၊ သမဏလျှင်၊ သုတစရော၊ ပညာပွားမှု၊ ဤဝတ္ထုကို၊ ပြုစ စီရင် . . .

စသည်ဖြင့် ပြဆိုသည်ကို ထောက်သော် နာရဒဇာတ်တော် ပြီးစီးသော သက္ကရာဇ် ၁၁၄၄–ခုနှစ်တွင် ဦးဩဘာသသည် အရွယ် ၁၀–ပါး ရှိသည့်အနက် ဝဏ္ဏဒသက အရွယ်ဖြစ်သော အသက် ၂၀–မှ ၃၀–အတောအတွင်းတွင် ဖြစ်သည်ဟု အနီးဆုံး ခန့်မှန်းရပေသောကြောင့် သက္ကရာဇ် ၁၁၁၄–၁၁၂၄ အတောအတွင်းတွင် မွေးဖွား လိမ့်မည်ဟု ထင်၏။ ထိုပြင်လည်း အခြားဇာတ်တော် နိဂုံးများတွင် ရေးသားဖော်ပြ ချက်အရ ဦးဩဘာသသည် စကုပိုင်း၊ ရပ်သာမြို့၊ မင်းပူးရွာ အသည်ကြီး၏ သားဖြစ်ကြောင်းကိုလည်း သိရပေသည်။ ငယ်စဉ်ရွယ်ကပင် သာမဏေပြု၍ ကျမ်းဂန်များကို လေ့လာဆည်းပူးဟန် တူသည်။ ဇာတ်တော်ကြီးဝတ္ထုများ ရေးသား၍ ကျော်စောသည်တွင်မှ မင်းပူးဆရာတော်ဟု ခေါ်သည်။ ဇာတ်တော်ကြီး ဝတ္ထု

၁၀–စောင် ရှိသည့်အနက် ဇာတ်တော် ၈–စောင်ကိုသာ ရေးသားလေသည်။ ကျန် ၂–စောင်ကိုကား အခြားပညာရှိ ပုဂ္ဂိုလ်များ ရေးသားပြုစုကြသည်။ ဦးသြဘာသ၏ ဆရာတော်ကား မင်းပူးရွာ အနောက်ဘက်ရှိ လေသာကျောင်း ဆရာတော်ဖြစ်သည်။ မဟာဇနက ဇာတ်တော်ကြီး ဝတ္ထု နိဂုံးတွင်...

> ကျောင်းဒါယကာ မောင်ဝ၊ တွင်ထသညာ၊ တို့ဆရာ၏၊ တကာရင်းသား၊ ပျို့ထွားရွယ်ပေါက်၊ နည်းနာသောက်၍၊ မောင်ထောက် တွင်မည်၊ ဤသူသည်လျှင်၊ ကြည်ညိုလေးမြတ်၊ ဆယ်စောင်ဇာတ်ကို၊ မွေးဆွတ်ဆွတ်ကြူ၊ နာခံသူတို့၊ အယူမခဲ၊ ရွှေကြုတ်ထဲ၌၊ ပုလဲဂေါ်မုတ်၊ စီ၍ထုတ်သို့၊ ကောင်းဟုတ် မင်္ဂလာ၊ ရေးစီပါဟု...

စသည်ဖြင့် လာရှိသည့်အတိုင်း မောင်ထောက် တောင်းပန်အပ်သောကြောင့် ဦးသြဘာသသည် ဇာတ်တော်ကြီး ဆယ်စောင်လုံးကိုပင် ရေးသားမည်ဟု အကြံပြုသော်လည်း အကြံအထ မမြောက်။ ၈–စောင်ရေး၍ အပြီးတွင် အနိစ္စရောက်ဟန် တူ၏။ ဦးသြဘာသ မရေးသားမပြုစုရသော ဇာတ်တော် ၂–စောင်သည် ဘူရိဒတ္တဇာတ်နှင့် သုဝဏ္ဏသာမ ဇာတ်တော်ဖြစ်သည်။ ဘူရိဒတ္တဇာတ်တော်ကို ဦးသြဘာသ အနိစ္စမရောက်မီ သက္ကရာဇ် ၁၁၄၈–ခုနှစ်ကပင် ဦးသြဘာသနှင့် ကျောင်းနေဖက်ဖြစ်သူ လေသာ ဆရာတော်၏ တပည့်ရင်း ရှင်နန္ဒမေဓာ အရှင်မြတ်သည် ရှင်ဥက္ကံသမထေရ် တောင်းပန်၍ ရေးသားပြုစုသည်။ ဘူရိဒတ္တဇာတ်တော်ကို ရှင်နန္ဒမေဓာ ပြုစုစဉ်က ဦးသြဘာသ ထင်ရှားရှိသေးကြောင်း သိရသည်။ သက္ကရာဇ် ၁၁၄၈–ခုနှစ် နတ်တော်လတွင် ဘူရိဒတ္တဇာတ်တော် ပြီးစီး၏။ တပို့တွဲလတွင် ဦးသြဘာသက တေမိယဇာတ်တော်ကို ရေးသားပြုစု ပြီးပြန်သည်ကို ထောက်သော် ဘူရိဒတ္တဇာတ်ကို နန္ဒမေဓာအရှင် ပြုစုပြီး၍ ၂–လကြာမှ တေမိဇာတ်တော်ကို ဦးသြဘာသ ရေးသားပြုစုပြီးကြောင်း ထင်ရှားသည်။ ထိုကြောင့် ဦးသြဘာသ အနိစ္စမရောက်သေးမီ ဘူရိဒတ္တဇာတ်တော်ကြီးဝတ္ထု ပေါ်သည်။ ဦးသြဘာသသည် ဘူရိဒတ္တဇာတ်နှင့် သုဝဏ္ဏသာမဇာတ်တော် ၂–စောင်ကို နောက်ဆုံးမှ ရေးမည်ဟု ကြံစည်ဟန် တူ၏။ ဇာတ်တော်များကို တေမိဇာတ်မှစ၍ အစဉ်အလိုက် မရေးသားခဲ့ချေ။

အထက်ပါ ဇာတ်တော်နှစ်စောင်တွင် ဘူရိဒတ္တဇာတ်တော်ကို ပျို့လင်္ကာ အဖွဲ့အနွဲ့ဖြင့် အင်းဝခေတ်က ရှင်မဟာရဋ္ဌသာရ ရေးဖူးပြီ။ သုဝဏ္ဏသာမ ဇာတ်တော်ကိုလည်း ထိုခေတ်ကပင် ပျို့လင်္ကာဖြင့် ရှင်အဂ္ဂသမာဓိ ရေးဖူးလေပြီ။ ထို

ပုဂ္ဂိုလ်တို့၏ အဖွဲ့အနွဲ့များသည်လည်း လွန်စွာပြေပြစ်နက်နဲ ကောင်းမွန်ရကား ဦးသြဘာသသည် စကားပြေဖြင့် ရေး၍ ထိုပုဂ္ဂိုလ်တို့၏ အာဘော်ကို ကျော်လွန်ပါမည်လောဟု ချင့်ချိန်ဟန် တူသည်။ ထို့ကြောင့် နောက်ဆုံး ရေးသင့်မှ ရေးမည်ဟု ကြံစည်လေသလောဟု တွေးတောဖွယ် ဖြစ်၏။ သို့ရာတွင် ရှင်အဂ္ဂသမာဓိ ရေးသော နေမိငရဲခန်း ပျို့နှင့် ဘုံခန်းပျို့တို့ ရှိပါလျက်နှင့် နေမိဇာတ်တော်ကြီး ဝတ္ထု ရေးသားသည်ကို ထောက်ပြန်လျှင် ယခင် တွေးတောချက်သည် မှန်နိုင်မည် မဟုတ်။ သုဝဏ္ဏသာမ ဇာတ်တော်ကိုကား သက္ကရာဇ် ၁၁၈၈–ခုနှစ် ဘကြီးတော် လက်ထက်တွင် စာရေးတော်ကြီး မောင်သာ တောင်းပန်၍ မင်းပူးရွာ ရန်ကုန် တိုက်ကျောင်းတွင် စာပေပို့ချနေသော ရန်ကုန်ဆရာတော်၏ တပည့်ဖြစ်သော ပညာတိက္ခမထေရ် စီရင်ပြုစုသည့် ဤဇာတ်တော်ကြီး ကို ရှေးဆရာတို့ မရေးမသားဘဲ မေ့လျော့နေဟန်ဖြင့် နိဂုံးတွင် ရေးသားထားသည်ကို ထောက်သော် ဦးသြဘာသ အနိစ္စရောက်ပြီးမှ ရေးကြောင်း သိရပေသည်။

ဇာတ်တော်ကြီးဝတ္ထု ၁၀–စောင်ကို ရေးသားပြီးစီးသည့် ခုနှစ်သက္ကရာဇ်ဖြင့် စီစဉ်သော် အောက်ပါအတိုင်း ဖြစ်၏။

၁။ စန္ဒကုမာရ၊ ဦးသြဘာသ ရေး ၁၁၄၄–ခုနှစ် ပြာသိုလပြီး၊

၂။ နာရဒ၊ ဦးသြဘာသ ရေး ၁၁၄၄ တပေါင်းလပြီး၊

၃။ ဝိဓုရ၊ ဦးသြဘာသ ရေး ၁၁၄၅ ဝါခေါင်လပြီး၊

၄။ ဝေဿန္တရာ၊ ဦးသြဘာသ ရေး ၁၁၄၅ တပေါင်းလပြီး၊

၅။ မဟောသဓာ၊ ပ၊ ဒု၊ ဦးသြဘာသ ရေး ၁၁၄၆ တန်ဆောင်မုန်းလပြီး၊

၆။ မဟာဇနက၊ ဦးသြဘာသ ရေး ၁၁၄၆ နယုန်လပြီး၊

၇။ နေမိ၊ ဦးသြဘာသ ရေး ၁၁၄၈ ဝါဆိုလပြီး၊

၈။ ဘူရိဒတ္တ၊ ရှင်နန္ဒမေဓာ ရေး ၁၁၄၈ နတ်တော်လပြီး၊

၉။ တေမိယ၊ ဦးသြဘာသ ရေး ၈၁၄၈ တပို့တွဲလပြီး၊

၁၀။ သုဝဏ္ဏသာမ၊ ပညာတိက္ခ ရေး ၁၁၈၈ နယုန်လပြီး။

အထက်ပါ ကျမ်းပြီး သက္ကရာဇ် အစီအစဉ်ကို ကြည့်သော် ဦးသြဘာသသည် နာရဒဇာတ်တော်ဝတ္ထုကို ၂–လနှင့် အပြီး ရေးသည်။ ဝိဓုရကို ၅–လနှင့် အပြီး

ရေးသည်။ အခြားဇာတ်တော်များကိုလည်း အကြာဆုံး ၇–လ အတွင်း ပြီးစီးအောင် ရေးသည်။ ဤမျှလောက် ကောင်းမွန်သော စကားပြေကြီးများကို ဤအချိန်ကာလ အခိုက်အတန့်တွင် ပြီးစီးအောင် ရေးနိုင်သည့် ဉာဏ်စွမ်း ဉာဏ်စကို ချီးမွမ်းသင့်သည်။ နေမိဇာတ်တော်ကိုကား ဦးသြဘာသသည် တစ်နှစ်ကျော်ခန့်ကြာအောင် ပြုစုဟန်တူသည်။ အခြား ဇာတ်တော်များနှင့် နေမိကို နှိုင်းစာလျှင် ဇာတ်တော် အဖွဲ့အနွဲ့ချင်းမှာ အတူတူပင် ရှိ၍ ပိုမိုမထူးခြားရကား နေမိကို ပြုစုရေးသားနေဆဲတွင် ဦးသြဘာသသည် မမာမကျန်းဖြစ်ဟန် တူသည်။ ထိုသို့ မမာမကျန်းသောကြောင့် ဇာတ်တော်အားလုံးကို ဆက်လက်ရေးနိုင်မည် မထင်သဖြင့် ထိုနေမိဇာတ်တော်ဲ ပြီးစီးသော သက္ကရာဇ် ၁၁၄၈–ခုနှစ် ဝါဆိုလတွင် လက်လျှော့ဟန် တူ၏။ ထိုအခါ နန္ဒမေဓာအရှင်က ဘူရိဒတ္တဇာတ်တော်ကို ပြုစု၍ ထိုနှစ် နတ်တော်လတွင် ပြီးပြန်သည်။ ဦးသြဘာသ ပြုစုသော ဇာတ်တော်ကြီးဝတ္ထု ၈–စောင်၏ စကားသွား စကားလာ အဖွဲ့အနွဲ့များသည် ပြေပြစ်ထင်ပေါ်၍ နေရာတကာ၌ပင် စေ့စပ်သည်။ စကားပို စကားကြွင်း မရှိရအောင် ဖွဲ့ဆိုပေသည်။ ဤဇာတ်တော်ကြီး ဝတ္ထုများသည် အင်းဝခေတ် ရှင်မဟာသီလဝံသ ပုဂ္ဂိုလ်ရေးသော ပါရာယနဝတ္ထုကဲ့သို့ ဓမ္မကြောင်းနွယ်သော ဝတ္ထုများပင် ဖြစ်သော်လည်း မြတ်စွာဘုရားသခင် ဘုရားဖြစ်ပြီးမှ တွေ့ကြုံရသော အကြောင်းအရာများကို ဖွဲ့ဆိုသည်မဟုတ်။ ဘုရားမဖြစ်မီ အလောင်းတော်ဘဝ၌ တွေ့ကြုံဖြစ်ပျက်ခဲ့ရသမျှ ဇာတ်တော်များကို ဖော်ပြရေးသားထားသည်။ ဦးသြဘာသ၏ ဇာတ်တော်ကြီးဝတ္ထုများကို တရားသဘောဖြင့် ဖတ်ရှုရန်လည်း အသုံးပြုနိုင်၏။ ကာလပေါ်ဝတ္ထုများကဲ့သို့ အပျော်သက်သက်ဖတ်ရန်လည်း အသုံးပြုနိုင်၏။ ပါရာယနဝတ္ထုကိုကား တရားသဘောဖြင့်သာ ဖတ်နိုင်သည်။ ကဏိကဏ္ဍလ ဝတ္ထုလာ အရေးအသားနှင့် ဦးသြဘာသ ဇာတ်တော်ကြီးများတွင် တွေ့ရသော အရေးအသားသည် ကွာခြားပေ၏။ မဏိကုဏ္ဍလဝတ္ထုလာ ဝါကျများသည် ရှည်လျား၏။ ဦးသြဘာသ၏ ဇာတ်ဝတ္ထုများတွင် သုံးထားသော စကားများသည် တိုတိုတုတ်တုတ်နှင့် လိုရင်းအကြောင်းအရာများထက် ပိုမိုမဖွဲ့နွဲ့သောကြောင့် ဝါကျများမှာ ပြေပြစ်၍ စေ့စပ်လှ၏။ ဦးကုလား ရေးသားပုံနှင့် ဦးသြဘာသ ရေးသားပုံဖွဲ့နွဲ့ပုံသည် များစွာဆင်တူ၏။ နှစ်ဦးစလုံးပင် ဝါကျအတိုသုံးတတ်ကြ၏။ ဦးသြဘာသရေး ဇာတ်တော်ကြီး ၈–စောင်တွင် ဝေဿန္တရာဇာတ်တော်ကြီးကို အကောင်းဆုံးဟု ဆုံးဖြတ်ရန် သင့်ပေ၏။ ဝေဿန္တရာဇာတ်တော်ကြီး၏ အဖွဲ့အနွဲ့များသည် အခြားအဖွဲ့အနွဲ့များနှင့်မတူ ကွာခြား၏။ ဤဇာတ်တော်ကြီးမှာ အလွမ်း

ဘက်သို့ ဦးတည်၍ ရေးထားသောကြောင့် လွမ်းခန်းတွင် လွန်စွာကောင်း၏။ မဒ္ဒီမိဖုရား ပူဆွေးခန်းကို ဖွဲ့နွဲ့ရာ၌ များစွာသရုပ်ပါ၍ ကရုဏာရသပေါ်အောင် ရေးနိုင်၏။ ဖတ်ရှုရသူတို့ပင်လျှင် မျက်ရည်ကို မထိန်းနိုင်အောင် ဖြစ်၏။ ဦးသြဘာသသည် ဝေဿန္တရာဇာတ်တော်ကို ရေးရာ၌ တောင်ဘီလာဆရာတော် ပြုစုခဲ့သော ဝေဿန္တရာပျို့ဟောင်းနှင့် တွင်းသင်းမင်းကြီး ပြုစုသော ဝေဿန္တရာပျို့သစ်တို့ကို ကိုးကားရေးဟန်တူ၏။ အဖွဲ့အနွဲ့ အာဘော်များကိုလည်း ထိုဆရာကြီးတို့၏ ပျို့များမှ များစွာ အတုရသောကြောင့် မိမိ ဝေဿန္တရာဇာတ်တော်ကြီးဝတ္ထုသည် အခြားဇာတ်ဝတ္ထုများထက် သိသိသာသာ ကောင်းမွန်နေခြင်း ဖြစ်ပေလိမ့်မည်ဟု ထင်မြင်မိသတည်း။

## ဝက်မစွတ် နဝဒေး

မြန်မာ စာဆိုတော်ကြီးများကို ချီးမြှောက်သည့်အနေဖြင့် ဘုရင်မင်းမြတ်တို့သည် ဘွဲ့အမည်များ နှင်းအပ်လေ့ရှိရာတွင် နဝဒေးဟူသော ဘွဲ့သည် စာဆိုကျော်တံခွန်စိုက်သော ဘွဲ့ဖြစ်သည်။ မြန်မာနိုင်ငံ စာဆိုလောကကြီးတွင် နဝဒေးဘွဲ့ကို ဆင်မြန်းရသူတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ အကုံရမည်သော ဇင်းမယ် နဝဒေး၊

၂။ လှော်ကား ၃၀၀၀ မှူးခေါ် တောင်ငူ နဝဒေး၊

၃။ စစ်ကိုင်းထောင်သင်း၊ စလင်းလက်ယာ ပြည်နဝဒေး၊

၄။ ရွှေတောင်နန္ဒသူခေါ် စလင်းနဝဒေး၊

၅။ ဝက်မစွတ် နဝဒေး၊

ဤနဝဒေးဘွဲ့ရသူ ငါးဦးတို့အနက် ပြည်နဝဒေးကြီးကို ပထမ နဝဒေးဟူ၍ ခေါ်ပြီးလျှင် ဝက်မစွတ်နဝဒေးကို ဒုတိယ နဝဒေးဟု ခေါ်ကြ၏။ ဤပုဂ္ဂိုလ်နှစ်ဦးသာလျှင် နဝဒေးဘွဲ့နှင့် ထိုက်တန်ဆုံးဖြစ်သောကြောင့်လည်းကောင်း၊ မင်းပေးဘွဲ့ခံ ဖြစ်သောကြောင့်လည်းကောင်း ကျော်စောထင်ရှားကြ၏။ ကျန်ပုဂ္ဂိုလ် ၃-ဦးရရှိသော နဝဒေးဘွဲ့ကား မင်းပေးဘွဲ့ ဟုတ်မည်မထင်။ အများပြည်သူက ခေါ်ဝေါ်သော ဘွဲ့ဖြစ်တန်ရာ၏။ မင်းအသိအမှတ် မပြုသောကြောင့် ဤဘွဲ့နှင့် မကျော်စောဘဲ နေဟန်တူ၏။ ဝက်မစွတ်မြို့စား ဒုတိယ နဝဒေးသည် စစ်ကိုင်းမြို့နယ်

မြောက်လက် ၁–တောင်ပိုရွာ၊ ၂–သူဌေးကုန်းရွာ၊ ၃–ရေကြည်ရွာ၊ ၄–ရွာစိုက်ရွာ၊ ၅–ရွာဝေးရွာ တည်းဟူသော ဆားတောင်ငါးရွာ အပါအဝင် ရွာဝေးရွာ သူကြီးရိုး ဖြစ်သည်။ ငယ်မည်မှာ ဦးနုတွင်၍ သူကြီးဘွဲ့မှာ ဗလနန္ဒသူဖြစ်၏။ လောကဝိဒူ မော်ကွန်းနိဂုံး သံပေါက်တွင် **'သက်ရှစ်ဆယ်လောက်၊ သုံးနှစ်အောက်၊ ဖွဲ့ထောက် ဆိုလကာ်'** ဟု ပြဆိုပြီးလျှင် **'ကိုးဆယ်လေးခု၊ ထောင်ရာပြု၊ ယခုနှစ် ဂေါဇာ'** ဟု စာပြီး သက္ကရာဇ်ကို တစ်ဖန် ပြဆိုထားပြန်သဖြင့် ၁၁၉၄–ခုနှစ်တွင် ၇၇–နှစ် နတ်သော် ၁၁၁၇–ခုနှစ်တွင် ဖွားမြင်ကြောင်းကား ထင်ရှားတော့သည်။ ဦးနုသည် ဘိုးတော်မင်းတရား၏ သားတော် ပုခန်းမင်းသား၏ ကျွန်တော်ရင်း ဖြစ်သည်။ ဘိုးတော်မင်းတရားသည် သက္ကရာဇ် ၁၁၅၈–ခုနှစ်တွင် မိတ္ထိလာကန်တော်သို့ ဆည်ဖို့ရန် ထွက်ကြွတော်မူရာ ရှုလော့စဉ်ရှည်ချီ မိတ္ထိလာကန် မော်ကွန်းကို ဆက်သွင်းသဖြင့် အချီးအမွမ်း ခံရ၏။ သက္ကရာဇ် ၁၁၆၀–ပြည့်တွင် ပုခန်းမင်းသား သတိုးမင်းရဲကျော်ခေါင်ကို ရွှေဂူမင်းသမီးနှင့် စုံဖက်ရာတွင် တက်ဖြိုးလျှံဝေချီ မင်္ဂလာ လက်ထပ်ရတုကို ဆက်သွင်း၏။ ထိုနောက် သားတော်၊ သမီးတော် လက်ထပ်ရတုများ၊ နားထွင်းသျှောင်ထုံး ရတုများ၊ ဘုန်းတော်ဘွဲ့ ရတုများကို ရေးသားဆက်သွင်းရာ ဘိုးတော်မင်းတရားကြီးသည် လွန်စွာ သဘောကျနှစ်ခြိုက် ရကား ရေကြည့်ရာက အပြန်က နဝဒေးဘွဲ့ကို သနားတော်မူသည်။ နဝဒေးဘွဲ့ကို မည်သည့်သက္ကရာဇ်တွင် ရရှိကြောင်းကိုကား အသေအချာ မသိရပေ။ သက္ကရာဇ် ၁၁၆၈–ခုနှစ်ရေး စန္ဒမုနိ မော်ကွန်း အပိုဒ် ၁၆–တွင်...

> ဗလနန်းသူ၊ ဇမ္ဗူကျော်ရည်၊ သူကြီးမည်မှ၊ ကူးလည်ပျံ့မွှေး၊ လွှဲ၍ပေးသား၊ နဝဒေးမည်ခေါ်၊ ကြားလွှံ့ကျော်သည်၊ ၊ဘွဲ့တော် ရွှေစာ စုံနှင့်တည်း...

ဟူ၍ ပါရှိသည်ကို ထောက်သော် သက္ကရာဇ် ၁၁၆၈–ခုနှစ်တွင် နဝဒေးဘွဲ့ကို ရရှိပြီး ဖြစ်ကြောင်း သိရ၏။ ထိုနောက် ဦးနုသည် ဗြဲတိုက်တော်တွင် သံတော်ဆင့် အရာဖြင့် စွဲမြဲ ထမ်းရွက်ရပြန်၏။ နဝဒေးအမတ်ကြီး၏ အတ္ထုပ္ပတ္တိကို ဖော်ပြသော စာကို အထောက်အထားများကို ရဲတင်းမော်ကွန်း ပုဒ်ရေ ၉၄–တွင်...

> အမရပူရ၊ မြန်မာ့မကိုဋ်၊ ထီးနန်းစိုက်၍၊ သောင်းထိုက်ဇမ္ဗူ၊ ပြောင်ဖြူ လျှံကြွား၊ ပတ္တမြားကုံးလှ၊ ရွှေဘုန်းရသား၊ ပထမဘုန်းလူး၊ ပြည်ထောင် ဦးလျှင်၊ ကျေးဇူးတော်ဘွဲ့၊ ရှိမဲ့ဆန်းပြောက်၊ နှစ်ယောက်မဲ့ထွန်း၊

သည်သာလွန်ဟု၊ မုဠာန်ပျံ့မွေး၊ အောင်ဆုပေးသား၊ ဘေးလည်းကြီးစိုး၊ ဘိုးလည်းကြီးမ၊ ဘလည်း ကြီးပိုင်၊ ကိုယ်တိုင်ချုပ်ချာ၊ သူကြီးရာကို၊ သူ့မှာလွဲမှု၊ ကျိပ်စုကြေးထမ်း၊ စိမ်းရွှမ်းမဆို၊ လွဲလိုလွဲကြိုက်၊ မြဲတိုက်တော်နေ၊ ခေါ်စေထဲပ၊ မြဲစွဲရ၏၊ ဗလနန္ဒသူ၊ ဇမ္ဗူကျော်မွေး၊ နဝဒေးဝင်းလျှံ၊ မင်းစံရတနာ၊ မဟာသခ်ယာ၊ မဟာသီရိ၊ ပါဠိနှစ်အုပ်၊ စည်သူချုပ်၍၊ သရုပ်သကန်၊ ကျော်တန်ဂီဝါ၊ နံ့သာမွေးချို၊ ထိုလည်းတစ်ခြင်း၊ တွင်းသင်း တိုက်ရံ၊ သုံးခံ ကံကျေး၊ ရွာဝေးမစဉ်၊ ဖြတ်ပိုင်းရဉ်လျက်၊ ဂက်ျပျဉ်တန္တု၊ စာဆိုမှုကို၊ ရုရုနှုတ်ခွန်း၊ မထုတ်လွန်းတည့်၊ မကျန်းမာန်စောင်၊ ကြောင်လက်သည်းသို၊ မြောင်သည့် ကိုယ်နှင့်၊ ညိုသည့် လက်ဝါး၊ တရားနှီးနွှယ်၊ ကြီးသက်ရွယ်လည်း၊ ကိုးဆယ်အတွင်း၊ ခြောက်နှစ်ကြွင်းသား၊ ထိုယင်းချိန်ခါ၊ မင်္ဂလာဖြင့်၊ ရွှေစာစသတ်၊ ပြီးဆုံးဖြတ်တည်၊ ၊ဘုန်းမြတ်ဇမ္ဗူ ကသိဏ်းတည်း။

ဟူ၍ စပ်ဆိုထားသည်။ ထိုနောက် ဝက်မစွတ်မြို့ကို အပိုင်စား အသနားတော်မြတ်ခံရ၏။ မင်းကွန်းအရပ်မှာ တွင်းသင်းတိုက်ဝန် မဟာစည်သူ အိုမင်းသောရောဂါဖြင့် ကွယ်လွန်မည့်ဆဲဆဲတွင် ဘိုးတော်မင်းတရား သွားရောက်ကြည့်ရှုတော်မူ၍ မင်းကြီးကွယ်လွန်လျှင် မည်သူအား မင်းဆရာတင်၍ ကိုးကွယ်ရပါအံ့နည်းဟူ၍ ဝမ်းနည်းကြေကွဲသော စကားကို ဆိုလေလျှင် တွင်းသင်းမင်းကြီးနှုတ်မှ ဆားတောင်ဆားလည်းငန်ဘိခြင်းပါပဲဟူ၍ မြွက်ကြားသွားသောကြောင့် တွင်းသင်းမင်းကြီး ကွယ်လွန်လျှင်ဆားတောင် ငါးရွာ အပါအဝင်ဖြစ်သော ရွာဝေး ရွာသူကြီးရိုး နဝဒေးသည် တွင်းသင်းမင်းကြီး၏ နေရာကို အသနားတော်မြတ် ခံရသည့်ပြင် မဟာသခ်ယာစည်သူ၊ မဟာသီရိစည်သူ ဟူသော ဘွဲ့နှစ်ထပ်ကိုလည်း ချီးမြှင့်ပေးသနားခြင်းခံရလေသည်။ ဘကြီးတော်လက်ထက်က တက်ထွန်းဖြိုးကြွယ်ချီ ဘုန်းတော်ဘွဲ့မင်္ဂလာရတုကို ရေးသားဆက်သွင်းရာ ရွာဝေးရာကို အသနားတော်မြတ် ခံရပြန်သည်။ ထိုပြင် မင်းကြီး ဥတ္တမသီရိဘွဲ့ကိုလည်း ထပ်မံအပ်နှင်းခြင်း ခံရပြန်သည်။ ထိုနောက်အိုမင်းမစွမ်းရှိသောအခါ ပတ္တမြားကျောက်စီ တောင်ဝှေးကို အသနားတော်မြတ်ခံရ၍ တံခါးနီအရောက် ပေါင်းယာဉ်စီး၍ ဝင်ခွင့် ရရှိလေသည်။ ထိုနောက် ရွှေဘိုမင်းလက်ထက် သက္ကရာဇ် ၁၂၀၂–ခုနှစ်၊ ပြာသိုလဆန်း ၂–ရက်နေ့၊ အသက်တော် ၈၅–နှစ်တွင် အနိစ္စရောက်ရှာ၏။ ဝက်မစွတ်မြို့စား နဝဒေးကြီးသည် မော်ကွန်း

အများအပြား စပ်ဆိုခဲ့သောကြောင့် မော်ကွန်း နဝဒေးကြီးဟူ၍လည်း အမည် တသီးတခြားဖြင့် ထင်ရှားကျော်စောသေးသည်။ စပ်ဆိုခဲ့သော မော်ကွန်း များကား . . .

၁။ မိတ္ထိလာကန်တော် မော်ကွန်း၊

၂။ စန္ဒမုနိ မော်ကွန်း၊

၃။ ရခိုင်နိုင် မော်ကွန်း၊

၄။ အာသံနိုင် မော်ကွန်း၊

၅။ တရုတ်သံရောက် မော်ကွန်း၊

၆။ ဘကြီးတော်ဘုရား နန်းဖွင့်မော်ကွန်း၊

၇။ ဝိလာသိနီ မော်ကွန်း၊

၈။ လောကဝိဒူ မော်ကွန်း၊

၉။ ဇာဝရီ မော်ကွန်း၊

၁၀။ သာမုဒြိက မော်ကွန်း၊

၁၁။ မင်းကွန်း နန်းတော်ဘွဲ့ မော်ကွန်း၊

၁၂။ ဣသျှံဂူ မော်ကွန်း၊

၁၃။ ထားဝယ်နိုင် မော်ကွန်း၊

၁၄။ ရဲတင်း မော်ကွန်း၊

၁၅။ မုနိရှစ်ဆူ မော်ကွန်းများ ဖြစ်ကြသည်။

ထိုမော်ကွန်းများအပြင် ဘုန်းတော်ဘွဲ့ ရတုများ၊ လက်ထပ်မင်္ဂလာ ရတု များကိုလည်း ဖွဲ့ဆိုသည်။ ဆင်ဖြူရှင်မယ် ချောင်းကိုလည်း ရေးသားဆက်သွင်း လေသည်။ မင်း နဝဒေးသည် စာပေအရေးအသား၌ ထင်ရှားကောင်းမွန်လှခြင်း ကြောင့် အတွင်းသံတော်ဆင့်ကြီး ခန့်တော်မူခြင်းကို ခံရသည်။ အတွင်းသံတော်ဆင့် ကား ဘုရင်မင်းမြတ်၏ အမိန့်တော်များကို စီစဉ်ရေးသား ပြန်ကြားရသော အရာရှိ ပင်တည်း။ ယခုအခါ ဘုရင့်အပါးတော်မြဲ အတွင်းဝန်ကြီး၏ ရာထူးမျိုးနှင့် ညီမျှ သည်ဟု ဆိုထိုက်ပေ၏။ မင်း နဝဒေးသည် ဖွဲ့နွဲ့ရာတွင် အလွန်တရာ စိတ်ကူး

စိတ်သန်း နုနယ်ယဉ်ကျေး နက်နဲသိမ်မွေ့၍ ဖတ်ရသူတို့၏ ဟဒယစိတ်ဓာတ်တွင် ထိမိ စွဲမြဲလောက်အောင် ဥပမာပေး ကောင်း၏။ စကားအသုံးအနှုန်း ရွေးချယ်ရာတွင် ရှင်မဟာသီလဝံသနှင့် ယိုးစွဲလိုက်၏။ ရှင်မဟာသီလဝံသသည် ဒုတိယမင်းခေါင်ထံ ဆက်သွင်းသော ဤသို့ စုံစီချီ ဧကပိုဒ် ရတုတွင်...

> အဏ္ဏုမြူညှင်း၊ မြင်းမိုရ်တွင်းသို့၊ သတင်း ဝှန်ချောက်၊ တောင်ကို ဖောက်သည်၊ စိန့်ကျောက်ပမာ၊ သီလဝါလျှင်...

ဟူ၍ ကိုယ်ရည်သွေး ဖွဲ့ဆိုတော်မူ၏။ ဒုတိယ နဝဒေးက တရုတ်သံရောက် မော်ကွန်း ပိုဒ်ရေ ၃၇–တွင်...

> တံခွန်ထူဆောက်၊ တောင်ကို ဖောက်သည်၊ ကျောက် တစ်ပြိုင်ချိန်၊ မှုန်းမရှိန်မှု၊ စိန်ဝဇီရာ၊ စောင်လျက်ပါသည်...

ဟူ၍ စပ်ဆို၏။ ရှင်မဟာသီလဝံသ၏ စာကိုယ်များကို အတုလိုက်၍ ရေးဟတ်၏။ သို့ဖြစ်သောကြောင့် ဒုတိယ နဝဒေးသည် ရှင်မဟာသီလဝံသ၏ အရေးအသားကို အလွန်နှစ်သက် သဘောကျဟန် တူသည်။ ဝိလာသိနီ မော်ကွန်း အပိုဒ် ၁၂၂– တွင်...

> စံမြောက်ရည်လေး၊ နဝဒေးမှ၊ အပတစ်ပါး၊ သားငှက်တို့နှယ်၊ တွန်ဖွယ် ချိုသာ၊ ဆိုမရာဟု၊ ရွှေဗျာဒိတ်ဦး၊ စရိုက်ကျူးသည်...

ဟူ၍ ပါရှိသည့်အတိုင်း နဝဒေး၏ စာများသည် ပညာရှိတို့၏ နားကို ချိုဆိမ့် စေနိုင်သော ဂုဏ်လည်း ရှိပေ၏။

ဆင်တော် မော်ကွန်းများတွင် ဝိလာသိနီမော်ကွန်းကို ပထမတန်းစား မော်ကွန်း အဖြစ်၌ ထားသင့်ပေသည်။ ဤဆင်တော် မော်ကွန်းတွင် အဖွဲ့အနွဲ့များသည် လွန်စွာ လေးနက်၍ ဖွဲ့ပုံဖွဲ့နည်းများမှာလည်း ရှင်မဟာရဋ္ဌသာရ၊ ရှင်မဟာသီလဝံသ တို့၏ အဆင့်အတန်းလောက်နီးပါး ကောင်းမွန်အောင် ဖွဲ့ဆိုထားပေသည်။ ဤ ဆင်တော် မော်ကွန်းကို ဖတ်ရှုခြင်းအားဖြင့် မင်းနဝဒေးသည် မည်မျှလောက် ဗဟုသုတများသည်ကို ချင့်ချိန်၍ သိနိုင်တော့၏။

ဆင်တော် မော်ကွန်းတွင် ဆင်ကောင်း ဆင်မြတ်တို့၏ လက္ခဏာများကို ထုတ်နုတ်ဖော်ပြထားသည်မှာ များစွာ ဗဟုသုတဖြစ်ဖွယ်ပင်တည်း။ ထိုအပြင်

မင်းနဝဒေးသည် ဆင်တော်၏ဂုဏ်ကို ဖွဲ့ဆိုရာ၌ မိမိအရှင်သခင်၏ ဘုန်းတော်ကိုလည်း ထင်ရှားအောင် ဖွဲ့ဆိုသည်။ ထို့ကြောင့် စကားပရိယာယ် လွန်စွာကြွယ်ဝကြောင်း သိသာပေသည်။ ဗေဒင်အကြောင်းအရာများကို နောင်လာနောက်သားတို့ အလွယ်တကူ သိနားလည်စေရန် ဗာဝရီမော်ကွန်းကို ဖွဲ့ဆိုလေသည်။ ဤမော်ကွန်းကို ထောက်၍ မင်းနဝဒေးသည် ဗေဒင်ယတြာ၊ နက္ခတ်တာရာ ကျမ်းများဘက်တွင်လည်း ကျွမ်းကျင်ကြောင်း သိရပေသည်။ လောကသဘာဝ၏ ဆန်းကြယ်ခမ်းနားပုံကို သိနားလည်စေရန်လည်း လောကဝိဒူ မော်ကွန်းကို ရေးဖွဲ့လေသေးသည်။ ဤအရာ၌ မင်းနဝဒေးသည် လောကဓာတ် ဆရာကြီးတစ်ဦးကဲ့သို့လည်းကောင်း၊ ပထဝီဝင် ဆရာကြီးကဲ့သို့လည်းကောင်း လောကကြီး၏ တည်နေပုံအကြောင်းအရာမှစ၍ သဘာဝဓမ္မအားဖြင့် ထူးဆန်းစွာ ဖြစ်ထွန်းပေါ်ပေါက်နေကြကုန်သော နေ၊ လ၊ ကြယ်၊ တော၊ တောင်၊ ရေ၊ မြေ စသည်တို့ကို ကွက်ကွက်ကွင်းကွင်းပေါ်အောင် ဖွဲ့ဆိုလေသည်။ မြန်မာတို့၏ ဇာတိမာန်တက်ကြွစေရန် လှုံ့ဆော်ရေးအတွက် ရခိုင်နိုင်မော်ကွန်း၊ ထားဝယ်နိုင်မော်ကွန်း၊ အာသံနိုင်မော်ကွန်း၊ ရဲတင်းမော်ကွန်းများကို ဖွဲ့ဆိုလေသည်။ နောင်လာနောက်သား မြန်မာလူမျိုးများ၏ ရဲသွေးရဲစိတ် တဖွားဖွားတက်ကြွစေရန် မိမိတို့ တိုက်ခိုက်အောင်မြင်ခဲ့ပုံများကို စံနမူနာအဖြစ်ပြ၍ လူတို့၏စိတ်ကို သွေးဆောင်ပေသည်။ ဘိုးတော်မင်းတရား၏ ဘုန်းတော်ကြီးကြောင်းများနှင့် မြန်မာ မင်းခမ်း မင်းနားတော် အကြောင်းများကို သိနားလည်စေရန် ဝိလာသိနီမော်ကွန်း၊ တရုတ်သံရောက်မော်ကွန်း၊ အမရပူရမြို့ဘွဲ့ မော်ကွန်းများကို ရေးသားပြုစုရလေသည်။ ထို့ပြင်လည်း လောကီရေးရာ အဝဝ တတ်သိနားလည် ကျွမ်းကျင်ကြစေရန် သာမုဒြိကမော်ကွန်းကို ဖွဲ့ဆိုခဲ့သေးသည်။ မင်းနဝဒေးသည် ရတုပေါင်း ပုဒ်ရေ ၂၀–ကျော်မျှ စပ်ဆိုထားသည်။ ဤရတုများတွင် ဘိုးတော်မင်းတရား၏ ဘုန်းတော်ကို တိုက်ရိုက်စကားဖြင့်သော်လည်းကောင်း၊ သွယ်ဝိုက်သော စကားဖြင့်သော်လည်းကောင်း ဖွဲ့ဆို၏။ ဘုရင်မင်းများအား မိမိကိုယ်တိုင်က ချစ်ခင်ရိုသေလေးမြတ်သည့် စိတ်ရှိသည့်အလျောက် ဘုန်းတော်ဘွဲ့ရတုများတွင် များစွာ ချီးကျူး၍ ဖွဲ့ထားသည့်အကြောင်းများကို တွေ့ရပေသည်။ ဘုန်းတော်ဘွဲ့များကို ဖွဲ့ဆိုရာ၌ ဘုရင်မင်းမြတ်၏ စိတ်နေသဘောထားကိုပင် ပေါ်လွင်အောင် ဖွဲ့ဆိုထား၏။ အတိဝုတ္တဒေါသ သင့်လောက်အောင် အလွန်အကြူး ချီးမွမ်းခြင်း ကိုကား မပြုပေ။ မင်းနဝဒေးသည် ရာဇပရိယာယ်ကို လွန်စွာကျွမ်းကျင်နားလည်သူလည်း ဖြစ်၏။ အမတ်ကြီးတို့၏ ဂုဏ်အင်္ဂါနှင့်လည်း ညီညွတ်လှသော

ကြောင့် ဘုရင်မင်းမြတ်၏ မြှောက်စားခြင်းကို ခံရပေသည်။ ထိုကြောင့် ဗာဝရီ မော်ကွန်း အဆုံးသတ်စာပိုဒ်တွင်...

> ဥဒါန်းစဉ်လာ၊ ထုံးနည်းနာလော့၊ လွတ်သာ ရွှေနန်း၊ ဥကင်စွန်းဝယ်၊ ဖြန့်ဝန်းစကြာ၊ စိုးစံရာတွင်၊ ထွတ်ချာဘုန်းမော်၊ အမိန့်တော်ကို၊ ချီငေါ်ရေးသား၊ အင်ခြောက်ပါးကား၊ မှုများတကာ၊ ထိုသည့်ရာကို၊ မင်းလိုသိလှ၊ ရွှရွှလျင်မြန်၊ ရေးသားဟန်နှင့်၊ မှန်ကန်လုံးညီ၊ ပုလဲသီသို့၊ စီစီလျှင်လျှင်၊ အစဉ်သင့်မှန်၊ ကာရန်သတ်ပုံ၊ လုံးစုံမကြွင်း၊ ထိုးထွင်း မှတ်သား၊ ဖတ်ကြားသာယာ၊ ဖြောင့်တန်းစွာနှင့်၊ လိမ္မာ မင်းရေး၊ မြော်တွေး နောက်ရှေ့၊ စေ့မြေ့သေချာ၊ ဤအရာကို၊ လေ့လာကျွမ်းကျင်၊ တတ်မြောက်စေမူ၊ ထိုသသူကို၊ ရွေးယူထုတ်ဖော်၊ အမိန့်တော်ရေး၊ မဝေးထက်ကြပ်၊ ထံရင်းကပ်၍၊ မလပ်နေ့ည၊ မြဲစွဲရသည်၊ ၊ထိပ်ဝ ဦးတင် ရှိပန်းတည်း။

ဟူ၍ စပ်ဆိုထား၏။ ဤစာပိုဒ်တွင် အမိန့်တော်ရေး ဖြစ်ထိုက်သူ၏ ဂုဏ်အင်္ဂါ ခြောက်ပါး ဖော်ပြထားသည်ကို ထောက်သဖြင့် နဝဒေးသည် မိမိအရှင်သခင် ဘုရင်မင်းမြတ်၏ အလိုတော်ကို သိခြင်းမှစ၍ တိုင်းရေးပြည်မှုတွင် စေ့စပ်သေချာ ရှေ့နောက်စဉ်လာ ဆင်ခြင်စဉ်းစား၍ တိုင်းကျိုးပြည်ကျိုး၊ ဘုရင့်အကျိုးကို သည်ပိုး ရွက်ဆောင်ခြင်းအထိ ဂုဏ်အင်္ဂါခြောက်ပါးတို့နှင့် ပြည့်စုံသောကြောင့် ဘုရင်မင်းမြတ် ရွေးကောက်ခန့်ထားခြင်း ခံရသည်ဟု အမှန်ယူဆသင့်လေသည်။ မင်းနဝဒေးသည် ဤနည်းအားဖြင့် နောက်ဆုံး၌ မင်းကြီးဥတ္တမသီရိဘွဲ့ကို အပ်နှင်းချီးမြှင့်ခြင်း ခံရသည်တိုင်အောင် အထွတ်အထိပ်သို့ ရောက်လာသည်မှာ အံ့သြချီးမွမ်းဖွယ်ရာပင် ဖြစ်တော့သတည်း။

## ဦးအောင်ဖြိုး

ဘိုးတော်ဘုရား လက်ထက်တော်တွင် ရေးအထက်ကျော် ကာရီက တိမ်မြုပ် နေသော သာချင်းအဖွဲ့အနွဲ့သည် တစ်ဖန်ပေါ်ပေါက်လာပြန်သည်။ သာချင်းကို တောင်ငူခေတ် မင်းဗေယျရန္တမိတ်က အစထွင်၍ ဆိုကြောင်း ဖော်ပြခဲ့ပြီ။ သို့သော် လည်း ထိုအဖွဲ့အနွဲ့ သည် တောင်ငူခေတ်၌သာ ခေတ်စားခဲ့၍ ညောင်ရမ်းခေတ်နှင့်

ကုန်းဘောင်ခေတ် ပထမပိုင်းများတွင် တိမ်မြုပ်၍ နေခဲ့ပြန်သည်။ ယခုတစ်ဖန် ဘိုးတော်ဘုရားလက်ထက်တော်တွင် သာချင်းဆရာကြီး ဦးအောင်ဖြိုးသည် သာချင်း အဖွဲ့အနွဲ့များကို ရေးသားပြုစုပြန်သည်မှ အစပြု၍ သာချင်းများ ခေတ်ထ၍ လာ ပြန်တော့သည်။ ဤသို့ သာချင်းများသည် ညောင်ရမ်းခေတ်နှင့် ကုန်းဘောင်ခေတ် ပထမပိုင်းများတွင် ခေတ်မှိန်လာရခြင်းအကြောင်းမှာ ရကန်အဖွဲ့အနွဲ့များ ပေါ်ပေါက် လာသောကြောင့် ဖြစ်ဟန်တူသည်။ သာချင်းအဖွဲ့နှင့် ရကန်အဖွဲ့အနွဲ့တို့သည် များစွာအဆင်တူသည်။ ကုန်းဘောင်ခေတ် ပထမပိုင်းတွင် ရကန်ပေါင်း များစွာ ပေါ်သည့်အတွက် သာချင်းကို အရေးပေးဟန် မတူကြချေ။ သာချင်းဆရာကြီး ဦးအောင်ဖြိုးသည် ပုဂံမြို့ ဇာတိဖြစ်သည်။ မည်သည့်၊ သက္ကရာဇ်တွင် မွေးဖွားသည် ကိုကား မသိရပေ။ အမရပူရ ပထမမြို့တည် နန်းတည် မင်းတရားကြီးလက်ထက် ထင်ရှားကျော်စောသော စာဆိုတော်ဖြစ်သည်။ ဦးအောင်ဖြိုး ရေးသားပြုစုခဲ့သော သာချင်းများမှာကား . . .

၁။ ရာဇဝင် သာချင်း၊

၂။ ရာမ သာချင်း၊

၃။ ကျန်စစ်သား ကြွတ်ဖွင့်ခန်း သာချင်း၊

၄။ တရုတ်ပြည် စွယ်တော်တောင်း သာချင်း၊

၅။ ဗောဓိပင်ကို မာရ်နတ်သားလုခန်း သာချင်း၊

၆။ မင်းဆက် သာချင်း၊

၇။ နှစ်ကျိပ်ရှစ်ဆူဘုရား သာချင်း၊

၈။ ငှက်ကြီး သာချင်း

များ ဖြစ်ကြသည်။ ဤသာချင်းများအပြင် ဇနက ရကန်ကိုလည်း ရေးသားပြုစု သေး၏။ ဦးအောင်ဖြိုးသည် ရာဇဝင်ဘက်တွင် များစွာလေ့လာဆည်းပူးထားဟန် တူသည်ဖြစ်၍ ရာဇဝင်နှင့် ပတ်သက်သော အကြောင်းအရာများကို သာချင်းဖြင့် ဖွဲ့ဆိုသည်။ ထိုသို့ ရာဇဝင်ဘက်တွင် နိုင်နင်းသော ပုဂ္ဂိုလ် ဖွဲ့ဆိုထားသောကြောင့် ရာဇဝင် သာချင်း၊ မင်းဆက် သာချင်းတို့သည် လွန်စွာ အဖိုးတန်သော သာချင်းများ ဖြစ်ကြ၏။ ရာဇဝင်သာချင်းလာ အလောင်းမင်းတရားကြီး အကြောင်းတွင် . . .

မှတ်ရည်စကား၊ ဘိုသုံးပါးတွင်၊ ပိုင်းခြားသိလို၊ နဂါးဘိုနှင့်၊ အုတ်ဘို သုည၊ ကြွင်းရစ်ကြသောကြောင့်၊ ရန်စနိုမ်ချိုး၊ ဘုန်းတော်တိုး၍၊ မှတ်ဆိုးရွှေဘို၊ မြန်တိုင်းအားလုံး၊ သိမ်းယူကျုံး၍၊ ညွတ်ရုံးဆိုရသည်၊ မြင်းမိုရ်ရွှေတောင်၊ ထွန်းသောယောင်၊ ကုန်းဘောင်နဂရ၊ ပြည်သိဃ်မှာ၊ တေဇဝှန်သည်း၊ ရန်ထိပ်လှည်း၍၊ ခမည်းတော်မြတ်၊ ကျွတ်ငုံး နတ်လျှင်၊ ဝန်းပတ်ရံကာ၊ ဗိုလ်များစွာနှင့်၊ မင်္ဂလာရှေးဦး၊ ပိတ္တော ဆယ်ရွာ၊ ရပ်ဂါမာကို၊ ဇေယျာလူလန်း၊ အာဒိမှန်းသည်၊ အောင်ပန်း ခူး၏၊ ရှင်မြူးမွေ့လျော်၊ ထန်းတပ်တော်နှင့်၊ စံတော်မူခိုက်၊ တလိုင်း ကိုးဗိုလ်၊ တောင်ကမ်းပြိုမည့်နှယ်၊ ထိုထိုများစွာ၊ စစ်အင်္ဂါနှင့်၊ ချီလာ တိုက်သော်...

စသည်ဖြင့် ရာဇဝင်ကြောင်းကို လင်္ကာသာချင်းဖြင့် တန်ဆာဆင်ထား၏။ သုံးနှုန်းထားသော စကားများသည် ထင်ရှားပေါ်လွင်၏။ အများသူတို့ နားလည်လွယ်သော စကားများကိုသာ ရွေးချယ်သုံးထား၏။ စကားပြေသွားဖြင့် ရေးသားသော ရာဇဝင်ကို ဖတ်ရှုရလျှင် ငြီးငွေ့မည်စိုး၍ လွန်စွာသာယာသော ကဗျာသီချင်းဖြင့် ဖွဲ့ဆိုထားရကား ဖတ်ရှုရသူတို့ အာရုံ၏ အရသာကို ခံစားနိုင်ကြ၏။ သာချင်းဟူသည့် အတိုင်း သာယာသောသီချင်း ဖြစ်သည်။ သို့သော် ဤသာချင်းကို တူရိယာဖြင့် စည်းဝါးကျနစွာလိုက်၍ တီးမှုတ်နိုင်မည် မထင်။ ရတုများကဲ့သို့ စည်းလွတ်ဝါးလွတ် သာယာစွာ သီဆိုအပ်သော ဂီတမျိုးပင် ဖြစ်တန်ရာသည်။

မင်းဇေယျရန္တမိတ် ပြုစုခဲ့သော သာချင်း၏ အဖွဲ့အနွဲ့များသည် ဦးအောင်ဖြိုး၏ အဖွဲ့အနွဲ့များနှင့် ကွာခြားကြ၏။ မင်းဇေယျရန္တမိတ် သာချင်းသည် ဟောစာ သာချင်းဖြစ်၏။ ဖွဲ့နွဲ့အပ်သောအရာ၌ နယ်ကျဉ်းလွန်း၏။ ထိုပြင်လည်း မိမိဂုဏ်ပုဒ်ကို ဖော်ထုတ်နေခြင်းဖြင့် စကားကြော ရှည်လျား၍ နေ၏။ တိုတိုတုတ်တုတ်နှင့် လိုရင်းကိုရောက်အောင် မဖွဲ့ခဲ့၊ ဦးအောင်ဖြိုး၏ သာချင်းများကား လွန်စွာကျယ်ဝန်း ရှည်လျားသည့် အကြောင်းအရာများကို အတိုချုံးပြီးလျှင် အများနားလည်လွယ်သော စကားလုံးများဖြင့် တန်ဆာဆင်ယင်၍ ဖွဲ့၏။ မိမိ၏ဂုဏ်ပုဒ်ကိုလည်း ချီးကျူး၍ မဖွဲ့နွဲ့ပေ။ ထိုကြောင့် ဦးအောင်ဖြိုး၏ စာများသည် တိုတိုတုတ်တုတ်နှင့် အဓိပ္ပာယ် ပေါ်လွင်သည်။ ဦးအောင်ဖြိုးသည် ရာဇဝင် သာချင်းကို ရေးရာ၌ ဦးကုလား၏ ရာဇဝင်ကြီး၊ တွင်းသင်းမင်းကြီး၏ ရာဇဝင်သစ်၊ ဦးဖျော်၏ ပုလိပ်စားချောင်း၊

မင်းလက်ဝဲနော်ရထာ၏ အလောင်းမင်းတရား အရေးတော်ပုံများကို ကိုးကားဟန် တူ၏။ ထိုရာဇဝင်များလာ စကားအကြောင်းအရာတို့ကို ထိုသာချင်း၌ တွေ့နိုင်၏။ ရာမ သာချင်းကိုကား ဦးတိုး၏ ရာမရကန်မှ အတုယူဟန် ရှိ၏။ ဦးတိုး ရာမ ရကန်က ဦးအောင်ဖြိုး သာချင်းထက် စုံလင်၏။ ဦးတိုး ရာမရကန်က လွှမ်းမိုး နေသောကြောင့် ဦးအောင်ဖြိုး၏ ရာမသာချင်း မှေးမှိန်သွားရလေသည်။ ဦးအောင်ဖြိုး သာချင်းများသည် ထူးခြားကောင်းမွန်လှသော ပထမတန်းစား အဖွဲ့အနွဲ့များ မဟုတ်သော်လည်း မြန်မာစာပေ အဆင့်အတန်းကို သာချင်း စာကိုယ်ဖြင့် ထူထောင် ပေးသော ပုဂ္ဂိုလ်ဖြစ်သောကြောင့် ထိုပုဂ္ဂိုလ်ကိုလည်း မမေ့ထိုက် မမေ့အပ်ပေ။

## ဦးရောက်ကြီး

သက္ကရာဇ် ၁၁၂၂–ခုနှစ်တွင် အလောင်းမင်းတရားကြီး၏ အရိုက်အရာကို ခံတော်မူသော စစ်ကိုင်းမြို့တည် သားတော်ကြီး ဟူ၍လည်းကောင်း၊ နောင်တော်ကြီး ဟူ၍လည်းကောင်း ခေါ်တွင်သည့် မင်းတရားကြီး၏ မိဖုရားခေါင်ဖြစ်သူ ဖောင်းကားစား မောင်မောင်၏ မယ်တော်၌ မောင်အကြီး မင်းရဲဘွဲ့ခံ ငယ်မည် မောင်ဝ ဟူ၍ ရှိသည်။ ထိုမောင်ဝနှင့် ဟန်လင်းမြို့နေ ကျောင်းဒါယကာ သမီး ရှင်ရောင်တို့ သင့်မြတ်ကြသည်တွင် သမီးမယ်နုကို မြင်သည်။ မယ်နုနှင့် မုတ္တမမင်းကြီး အစ်ကို မောင်ရတို့ သင့်မြတ်ကြပြန်သည်တွင် သား မောင်ရောက်ကြီးကို မြင်သည်။ ဖွားသက္ကရာဇ်ကား ၁၁၃၆–ခုနှစ်တည်း။ ငယ်မည် မောင်ရေးဟု တွင်သည်။ မောင်ရောက်ကြီးသည် အရွယ်သို့ရောက်လတ်သော် ဘိုးတော်ဘုရား၏ သားတော်ကြီး အိမ်ရှေ့ဘုရားထံမှာ စားတော် ကွမ်းရေကိုင် ရာထူးဖြင့် ထမ်းရွက် ခစားသည်။ အိမ်ရှေ့ဘုရား နတ်ရွာစံသည့်နောက် အမရပူရမြို့တည် ဘိုးတော်မင်းတရားထံတော်တွင် စည်သူသီရိရွှေတောင်ဘွဲ့နှင့် ကွမ်းရေတော်ကိုင် ရာထူးကို ရရှိပြန်သည်။ ထိုနောက် ဘိုးတော်မင်းတရားကြီး လက်ထက်မှာပင် နေမျိုးရာဇသူဘွဲ့နှင့် မြို့ဝန်၊ ဆင်ဝန်၊ မြောက်ဘက်တိုက်ဝန်၊ ယွန်းစုဝန် ခန့်တော်မူခြင်းကို ခံရသည်။ ဘိုးတော် မင်းတရား မရှိသည့်နောက် ဘကြီးတော်ဘုရားလက်ထက်တွင် မဟာသခ်ယာနှင့် တွဲဘက်၍ မြို့ဝန်ခန့်သည်တွင် မဟာသီဟသူရဘွဲ့ကို ခံယူသည်။ ထိုနောက် ၁၁၈၇–ခုနှစ်တွင် ဝန်ကြီးခန့်သည်။ ထိုနောက် မြင်းစုဝန်ကြီး ခန့်ပြန်သည်တွင် မြင်းစုဝန်ကြီး မဟာသီဟသူရဟူ၍ ကျော်စောထင်ရှားသည်။ သက္ကရာဇ် ၁၁၉၇–ခုနှစ်

အသက် ၆၁-နှစ်တွင် အနိစ္စရောက်ရှိရာသည်။ ထိုအမတ်ကြီးသည် ပညာရှိ ကဝိတစ်ဦးဖြစ်၍ ဥဒေါင်းမင်းပျို့၊ ဣလိသိင်္ဂပျို့၊ စန္ဒကိန္နရီပျို့၊ နမတော် ပုဂံမင်း သမီးချင်း၊ ရတနာပူရမြို့ဖွဲ့ မော်ကွန်း၊ အမရပူရမြို့နန်းသိမ်း ရတုများကို ဖွဲ့ဆိုလေသည်။ ဥဒေါင်းမင်းပျို့သည် ဒုကနိပါတ်မောရ ဇာတ်လာ ဘုရားလောင်း ဥဒေါင်းမင်းအကြောင်းကို ကဗျာလင်္ကာဖြင့် တန်ဆာဆင်ထားခြင်း ဖြစ်၏။ ဖွဲ့နွဲ့ပုံမှာ ပြေပြစ်ချောမောလှ၏။ ရာဇကြောင်းနှင့် လောကကြောင်းဘက်ကို နွယ်၍ ရေးသားလေသည်။ ရှင်အဂ္ဂသမာဓိ၏ ဘုံခန်းလောက် ဖွဲ့နွဲ့ပုံ မယဉ်ကျေးသော်လည်း စကားအထားအသို သိပ်သည်းစေ့စပ်၏။ ဗဟုသုတပြည့်ဝသောသူတစ်ယောက်ဖြစ်သောကြောင့် ရေးသားသည့် စာပေများတွင် ဗဟုသုတဖြစ်ဖွယ်ရာ များစွာပါဝင်သည်။ ဣလိသိင်္ဂပျို့သည် ပဏ္ဏာသနိပါတ် နိဋ္ဌိနိကာဇာတ်လာ ဣလိသိင်္ဂရသေ့ပျို၏ အကြောင်းကို တန်ဆာဆင်၍ ရေးသားထားခြင်းပင်တည်း။ ဤပျို့မှာလည်း ဥဒေါင်းမင်းပျို့ကဲ့သို့ပင် ဖွဲ့နွဲ့ပုံ စေ့စပ်ပြေပြစ်၏။ စကားလုံးများကားသာယာနာပျော်ဖွယ်ဖြစ်အောင် မယဉ်ကျေးလှပေ။ တတိယတန်းစားပျို့ ဖြစ်လေသည်။ စန္ဒကိန္နရီပျို့သည်ကား နောက်ထပ် ပျို့သစ် ပေါ်ပေါက်လာပြန်သည့်အတွက် ပျို့ဟောင်းဖြစ်၍ သွားတော့၏။ ပျို့သစ်ကို မင်းတုန်းမင်းတရားကြီးလက်ထက် နားခံတော်ကြီးတံဆိပ်ကို မင်းလှရာဇကျော်ထင်က ထပ်မံ၍ ဖွဲ့ဆိုသည်။ ထိုနားခံတော်ကြီး၏ ပျို့က ဖွဲ့နွဲ့ပုံများစွာ ယဉ်ကျေးဆန်းပြား၍ အဆင့်အတန်း မြင့်သောကြောင့် ဦးရောက်ကြီး၏ စန္ဒကိန္နရီ ပျို့ဟောင်းသည် မထင်ပေါ်ဘဲ တိမ်မြုပ်၍နေသည်။ ဤပျို့များအပြင် မော်ကွန်း ချင်းများကို ပြုစုသေးသော်လည်း ထူးခြားကောင်းမွန်သော အဖွဲ့အနွဲ့များ မဟုတ်ချေ။

## မုံရွေး ဆရာတော်

မြန်မာစာပေကို အပတ်တကုတ် အားကြိုးမာန်တက် ပြန်လည်ထူထောင်ကြကုန်သော ရဟန်းပုဂ္ဂိုလ် ပညာရှိများအနက် အထူးထင်ရှားသော မုံရွေးဆရာတော်သည် မုံရွာမြို့ စီရင်စု ကြေးမုံရွာဇာတိ သက္ကရာဇ် ၁၁၂၈-ခုနှစ်တွင် ဖွားသည်။ အဖဘောဘိုး သူကြီးရိုးဖြစ်သည်။ အသက် ၆-နှစ်ရှိသော မုံရွေးရွာ အရှေ့ကျောင်း၌ အပ်နှံ၍ ပညာသင်ကြားရသည်။ အသက် ၁၂-နှစ်ရှိသောအခါ မုံရွေး ဇေတဝန်ကျောင်း ဆရာတော် ဦးဝိစိတ္တာလင်္ကာရထံ အပ်နှံ၍ သာမဏေပြုရသည်။ ထိုအခါ

အာဒါသမုခပျို့သစ်ကို ဆိုသည်။ အရွယ်ရောက်သော် ရဟန်းပြု၍ စာပေကျမ်းဂန်တို့ကို ဆက်လက်သင်ကြားရာ ကောင်းစွာ တတ်မြောက်တော်မူသည်။ ဂန္ထန္တရဗဟုသုတ လွန်စွာပြည့်စုံတော်မူ၍ မြန်မာဘာသာ ကဗျာဖွဲ့ဆို စီကုံးခြင်း၌လည်း လွန်စွာ ဝါသနာပါသည့်အလျောက် တတ်မြောက်ကျွမ်းကျင်တော်မူသည်။ အမရပူရမြို့တည် နန်းတည် ဘိုးတော်မင်းတရားကြီးသည် ဆရာတော်၏ သီတင်းဂုဏ်ကို ကြားသိ ကြည်ညိုတော်မူသည်ဖြစ်၍ ငါးထပ်ကျောင်း ဆောက်လုပ် လှူဒါန်းတော်မူသည်။ ဘကြီးတော်လက်ထက် သက္ကရာဇ် ၁၁၈၈-ခုနှစ်တွင် ဆရာတော်ကို အင်းဝမြို့သို့ ပင့်ဆောင်၍ တံဆိပ်တော်ကပ်လှူ ကိုးကွယ်တော်မူသည်။ ဆရာတော်၏ ရဟန်းမည်ကား အာရိယဝံသအာဒိစ္စရံသီတည်း။ တံဆိပ်ကား ဣန္ဒဝဇိရာဘိလင်္ကာရ သိရိဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရုတည်း။ ဆရာတော်သည် ပဉ္စာဝုဓပျို့၊ နာရဒပျို့၊ မဟာသီလဝပျို့၊ အာကာသသျှုတြလင်္ကာ၊ ပြာသာဒ်ကျောင်းဘွဲ့၊ ဥတေနပျို့၊ နာနာဆန္ဒပျို့၊ ကုသပျို့သစ်၊ ကဝိမဏ္ဍနီသတ်ပုံ၊ ပါရမီတော်ခန်းပျို့ အဖြေ၊ ရာဇောဝါဒ မုံရွေ·မေတ္တာစာ၊ သမန္တစက္ခုဒီပနီကျမ်းနှင့် ရာဇဝင်သံပေါက်များကို ပြုစုဖွဲ့ဆိုသည်။ ထိုပြင်လည်း မုံရွေး ဇေတဝန်ကျောင်း ဒါယကာ တရားသူကြီး ဦးရွှေပုနှင့် ညှိနှိုင်းတိုင်ပင်၍ အမွေခွဲပုံကြီး ဓမ္မသတ်ကျမ်းကိုလည်း စီရင်ရေးသား လေသေးသည်။ ထိုကြောင့် ရာဇောဝါဒကျမ်း နိဂုံးတွင် . . .

> ထိုထိုများစွာ၊ ဇာတ်ငါးရာမှ၊ ပဉ္စာဝုဓ၊ နာရဒနှင့်၊ အာဒါသရာဇာ၊
> မဟာသီလဝ၊ ထိုမှတစ်ခါ၊ နာနာဆန္ဒ၊ ကုသဘုန်းရှိန်၊ ဥတိန်မင်းဇော၊
> ပြန့်ပြောနယ၊ အာကာသသျှုတြာ၊ ရတနာရောင်လွှတ်၊ ပြာသာဒ်ကျောင်း
> ဘွဲ့၊ ပြို့ပြို့ သေချာ၊ မှတ်ရာကဲလွန်၊ သမန္တစက္ခု၊ အစုစုနှင့်၊ မင်းမှုစုံစွာ၊
> မဟာရာဇဝင်၊ ကျမ်းပုံယင်ကို၊ စီရင်ပြီးမှ၊ နယကုံလုံ၊ ရေးရိုးစုံသား၊
> သတ်ပုံကဝိမဏ္ဍနီ၊ ကျမ်းဂမ္ဘီလည်း၊ ကုံးသီပြီးမြောက်၊ လိုရာရောက်၏။

ဟူ၍ ပြဆိုထားသည်။ ဆရာတော် ရေးသားပြုစုခဲ့သော ပျို့ကြီး ၇-စောင်အနက် မဟာသီလဝပျို့နှင့် ပဥ္စဝုဓပျို့များသည် ထူးခြားကောင်းမွန်သော ပျို့များဖြစ်ကြသည်။ မဟာသီလဝပျို့သည် ဘုရားအလောင်းတော် မဟာသီလဝမင်းကို ဖွဲ့ဆိုသော ပျို့ဖြစ်သည်။ ဤပျို့တွင် ဆရာတော်သည် ရာဇကြောင်းကို အထူးနွယ်၍ ရေးသားသည်။ လောကဓမ္မရာဇကြောင်း သုံးခုရှိသည့်အနက် ဆရာတော်သည် ရာဇကြောင်းကို များစွာနိုင်နင်းသည်။ ထိုကြောင့် ဆရာတော် စပ်ဆိုသည့် ပျို့များသည် အများအားဖြင့်

ရာဇကြောင်းနွယ်သော ပျို့များဖြစ်ကြ၏။ မဟာသီလဝပျို့တွင် မင်း မှူးမတ်တို့ ကျင့်ရာသော ကျင့်ဝတ်ကျင့်ထုံး အများအပြားကို ဖွဲ့ဆိုလေသည်။ သေနင်္ဂဗျူဟာ ကျမ်းကိုလည်း ဆရာတော်သည် နိုင်နင်းဟန်တူသည်။ သီလဝပျို့ စာပိုဒ် ၁၀၈ တွင် . . .

> သည်ပ တစ်တန်၊ မိန့်တော်ပြန်အံ့၊ တိုင်းစွန်မြေခြား၊ သူ့နယ်နားသို့၊ တပ်ဖျားရှေ့ချီ၊ ရောက်ချေပြီတည်း၊ အစီအရင်၊ ဗိုလ်ပါရှင်တို့၊ သွန်သင် စကား၊ ရဲမက်များကို၊ နားသေဝပ်အောင်၊ လုံ့လဆောင်လော့၊ တပ်တောင် တာကို၊ တည်ရာမဟုတ်၊ ချက်တစ်ဖြုတ်မျှ၊ ချက်ပြုတ်စားသောက်၊ နောက်ကတပ်ကို၊ ဆိုင်းငံ့လိုသည်၊ ချောက်လျှိုမြောင်ကြီး၊ ခရီးကတင်း၊ တက်ဆင်းကန့်လန့်၊ ရန်ကိုဟန့်လို၊ ဆီးတန့်ရာ၌၊ စခန်းဆိုက်လော့၊ ကိန်းပိုက်တဲနေ၊ ညဥ့်ဖြစ်ချေမူ၊ ကင်းသေကင်းရှင်၊ မြင်လွှင်စုံစမ်း၊ ကြောင်းလမ်းသိအောင်၊ ကုန်းတောင်ပို့ဖျား၊ မီးပွားထွန်းပြ၊ နိမ့်ရာက လျှင်၊ ကင်းမနေစေ၊ အသေဝပ်ဝပ်၊ သည်တွင်ရပ်၍၊ တပ်ထာဝရ၊ ချတော့မည့်ခါ၊ တပ်တောင်တာလည်း၊ ရည်ရာမကျ၊ ကိစ္စငယ်ကြီး၊ မပြီးသမျှ၊ ကြိုးကတန်ဆာ၊ ဆင်မြင်းမှာလည်း၊ မကွာသင့်သေး၊ မြားလေး သေနတ်၊ ချပ်မချွတ်လည်း၊ မလွှတ်လက်နက်၊ ဝပ်လျက် ကတုတ်၊ ခလုတ်ကန်သင်း၊ ခိုမှီခြင်းလည်း၊ မယွင်းစေရ၊ ပြီးကုံ ငသော်၊ပြင်က မီးတား၊ တွင်းကားစောင့်လူ၊ မထူမပါး၊ စကား မတော်၊ စုတ်ခေါ်လေသံ၊ နာခံမှတ်ထား၊ ရဲမက်များလည်း၊ လုံဓားမဝေး၊ မြားလေးကိုယ်ပါး၊ ထားတုံမပြတ်၊ သေနတ်မီးပေါက်၊ မဖောက် မလွှတ်၊ ပစ်ခတ်သမူ၊ မပြုစေသင့် . . .

စသည်ဖြင့် စစ်စခန်းချနေရာတွင် စစ်ဗိုလ်မှူး စစ်သူရဲတို့ သိသင့်သိထိုက်သော သေနင်္ဂဗျူဟာ ကျမ်းတစ်ခုလုံးကို အကျဉ်းရုံး၍ ပြက်ပြက်ထင်ထင် သိမြင်နိုင်အောင် ပြဆိုသည်။ ပဥ္စာဝုဓပျို့မှာ ဘုရားအလောင်းတော် ပဥ္စာဝုဓမင်းသားသည် ကန္တာရ တောခရီး၌ ဘီလူးကြီးနှင့် တွေ့ဆုံရာတွင် မကြောက်မရွံ့ ခုခံ၍ ရန်ကို အောင်မြင် သောအကြောင်းကို ကဗျာလင်္ကာဖြင့် ဖွဲ့ဆိုသည်။ ဆရာတော်သည် နိုင်ငံရေးတွင် တစ်ဘက်တစ်လမ်း ပါဝင်ရှက်ဆောင်နေဟန် တူသည်။ အဘယ်ကြောင့်ဟူမူ စပ်ဆို တော်မူသည့် ပျို့များတွင် ရန်အပေါင်းတို့ကို ခုခံဖြိုဖျက်သည့်အကြောင်း၊ ရန်ကို မည်ကဲ့သို့ အောင်မြင်ရသည့်အကြောင်း၊ လုံ့လဝီရိယ မည်ကဲ့သို့ ရှိရမည့်အကြောင်း

များကိုသာ စပ်ဆိုဖွဲ့နွဲ့သည်ဖြစ်ရကား ဘိုးတော်ဘုရားလက်ထက် တိုင်းပြည်အတွင်း၌ မီတင်းနေထိုင်ကြကုန်သော လူအပေါင်းတို့အား တိုက်ရိုက်သဘောဖြင့် မဟုတ်ဘဲ သွယ်ဝိုက်ကွေ့ပတ်၍ ရန်ငတ်ရန်စွယ်အပေါင်းတို့ကို မည်ကဲ့သို့ သုတ်သင်ပယ်ဖြတ်ရန် သညာပေးသည်နှင့် တူတော့၏။ ထို့ကြောင့် နိုင်ငံရေးတွင် တစ်ဘက်တစ်လမ်း အားဖြင့် ဆောင်ရွက်နေသည်ဟု ဆိုသင့်ပေ၏။ ပဋ္ဌာဝုဓပျို့တွင် အလွန်ကောင်းမွန်သော အဖွဲ့အနွဲ့များကို တွေ့ရ၏။ ဖွဲ့လိုသည့်အရာများကို ကွက်ကွက်ကွင်းကွင်း ပေါ်အောင် ဖွဲ့တတ်၏။ တစ်ခါတစ်ရံ နှိုင်းယှဉ်ဖော်ပြသော ဥပမာ ဥပမေယျ များသည် လွန်စွာ ပေါ်လွင်၏။ ပဋ္ဌာဝုဓမင်းသားသည် ဘီလူးကြီးအား လက်နက်ငါးပါးဖြင့် ပစ်ခတ် ထိုးခုတ်သည့်အခန်း၌...

> ကလာပဟု၊ ဆိုထသမိုက်၊ တောင့်ဖြင့်ရိုက်သော်၊ နိုက်သည့် ဒဏ်ချက်၊ ကျောက်ပုံထက်မှာ၊ ငှက်နံ့စုတ်ငယ်၊ နားသောနယ်သို့၊ သူ့ဝယ်ပီပီ၊ တီမျှ မထင်၊ ရှိသည်မြင်သော်၊ ဆွဲငင်၍လာ၊ ယူလိုက်ပါလည်း၊ မကွာလိုဘဲ၊ ကိုယ်စေးနဲ့မှာ၊ တွယ်ကာကပ်မှ၊ ညှပ်ဖြင့်လည်း ကုပ်၊ ချိပ်တွင် မြုပ်သို့၊ လက်ဆုပ်ဆွဲကိုင်၊ မပါနိုင်ဘဲ၊ ယိုင်ခဲ့ရေးတော်၊ ပြရှိန်သော်တည့်၊ ထိုရော်အခါ၊ ဗောဓိလျာလည်း၊ ငါဆုတ်သေးဘူး၊ သည်ဘီလူးကို၊ ပွဲဦးလှလှ၊ မသတ်ရဘဲ၊ မိဘရပ်ဌာန်၊ ခုမပြန်တည့်၊ ထက်ချွန်စွယ်ခေါင်၊ မုန်သောက်ပြောင်ကို၊ တစ်ကောင်ငှက်ငယ်၊ အကြံကျယ်နှင့်၊ နိုပ်နယ်လေရ၊ ငှက်ဖြူရွှကို၊ ဉာဏကဲလွန်၊ ရေပုစွန်သည်၊ နောက်ရန် လျှို့ကတ်၊ နိုင်ကြောင်း သတ်သို့...

စသည်ဖြင့် ပဋ္ဌာဝုဓမင်းသားသည် ကြောက်စိတ် အလျဉ်းမရှိဘဲ ထိုးခုတ်သတ်ဖြတ်ပုံတို့ကို ကွက်ကွက်ကွင်းကွင်းပေါ်အောင် ဖွဲ့ဆို၏။ ဘီလူးကြီးကို ထုရိုက်သည့်အခါ နံ့စုတ်ငှက်ငယ်သည် ကျောက်ပုံထက်မှာ နားသကဲ့သို့ ဘီလူးကြီး မဖြုံဘဲ ရှိပုံတို့ကို ဥပမာများဖြင့် တန်ဆာဆင်၍ ဖွဲ့နွဲ့တတ်သောကြောင့် ဆရာတော်၏ ပျို့များမှာ မျက်စိအောက်တွင် ကွက်ကွက်ကွင်းကွင်း ထင်ပေါ်နေသော အရိပ်ပြ ရုပ်ရှင်ဇာတ်ကားသဖွယ် လူတို့၏ စိတ်ကို ကြောက်ရွံ့ရမည့်နေရာ၌ ကြောက်ရွံ့စေလျက် ကရုဏာဖြစ်ပေါ်စေလိုသည့်နေရာ၌ လှိုက်လှိုက်လှဲလှဲ ကြေကွဲ ဝမ်းနည်းလာအောင် ဖွဲ့ဆိုနိုင်သည်။ ဆရာတော် ဖွဲ့ဆိုလိုသော ကုသပျို့သည် ရှင်မဟာသီလဝံသ၊ ရှင်မဟာရဋ္ဌသာရတို့ ပြုစုခဲ့သော ပျို့များကို မမီချေ။ ဒုတိယတန်းအစား ပျို့များ

အဖြစ်သို့ သွတ်သွင်းသင့်ပေသည်။ ကုသပျို့သည် ပျို့သစ်ဖြစ်၏။ ဤပျို့သစ်မပေါ်မီ စေဥ့်ကူးမင်းလက်ထက်ကပင် ရွှေတောင်နန္ဒမိတ်က ကုသပျို့ကို စပ်ဆိုခဲ့ဖူးသည့်ပြင် ဘိုးတော်မင်းတရားလက်ထက်၌လည်း အလုံစီရင်စု ရဲကျင်းရွာဇာတိ ရွှေကျောင်းဦးပုက ရတနာရောင်ရှိန်ချီ ကုသပျို့ဟောင်းတစ်စောင်ကို ဖွဲ့ဆိုခဲ့ဖူးလေပြီ။ ထိုပျို့တို့မှာ စုံစုံလင်လင်မရှိရုံမျှမက အဖွဲ့အနွဲ့လည်း နေထားတကျ သေသေသပ်သပ်မရှိရကား မုံရွေးဆရာတော်က ပျို့သစ်တစ်စောင်ကို ထပ်မံ၍ ပြုစုလေသည်။ ဆရာတော်သည် လောကကြောင်းဘက်တွင် ရှင်မဟာရဋ္ဌသာရ၊ ရှင်အဂ္ဂသမာဓိတို့လောက် ကျွမ်းကျင်ဟန်မတူ၊ ရာဇကြောင်းဘက်တွင်လည်း သင့်ရုံလောက်ပင်ကောင်းသည်ဟု ဆိုရပေမည်။ သို့သော် ဗဟုသုတ လွန်စွာကြွယ်ဝသူ ပုဂ္ဂိုလ်ဖြစ်သောကြောင့် ဖွဲ့နွဲ့ပုံ စကားတန်ဆာဆင်ပုံများတွင် တခြားဆရာများ၏ အဆင့်အတန်းကို မမီသော်လည်း ဗဟုသုတဖြစ်ဖွယ်ရာ အခန်းများကို ဖော်ပြရာ၌ အခြားဆရာများထက် စုံစုံလင်လင်ရှိသည်ဟု ဆိုရပေမည်။ ဤပျို့များအပြင် ဆရာတော်၏ ထူးခြားကောင်းမွန်သော စာစုများဖြစ်ကြသည့် မုံရွေးမေတ္တာစာ၊ ရာဇောဝါဒကျမ်း၊ ရာဇဝင်သံပေါက်များနှင့် သမန္တစက္ခုဒီပနီကျမ်းများကိုလည်း ဖော်ပြရန် လိုပေသေးသည်။ မုံရွေးမေတ္တာစာသည် သက္ကရာဇ် ၁၁၈၃–ခုနှစ်တွင် အင်းဝမြို့ကို စတုတ္ထအကြိမ် ပြန်လည်တည်ထောင် ဖန်ဆင်းတော်မူသော ဘကြီးတော်မင်းတရားကြီးအား ဆက်သသည့် မေတ္တာစာဖြစ်သည်။ ဤမေတ္တာစာကို သက္ကရာဇ် ၁၁၈၉–ခုနှစ်၊ နယုန်လဆန်း ၃–ရက်၊ တနင်းလာနေ့တွင် ရေးစီး၍ပြီးသည်။ နောက်တစ်နေ့နံနက် မင်းတရားကြီးသည် ဆောင်တော်ဦးဆောင်၊ စနေဆောင်တွင် စံနေတော်မူခိုက် ညီလာခံမှူးမတ်အပေါင်းတို့၏ ရှေ့တွင် ရွှေတိုက်အတွင်းဝန်မင်းကြီး မဟာသက်တော်ရှည်က ဆက်သွင်းသည်တွင် သံတော်ဆင့် မင်းကျော်သီရိက ဖတ်လျှောက်ရသည်။

> ဣန္ဒဝဇီရာဘိလက်ာရသိရီဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု တံဆိပ်တော်ခံ၊ သလ္လာဝတီ၊ သီဒါရုက်ရုံ၊ အလုံမြို့ကျေး၊ မုံရွေး ဇေတဝန်ဆရာ၊ အရိယာဝံသ၊ အာဒိစ္စရံသီ၊ ပုဂ္ဂိုလ်ထေရ်မြတ်၊ မပြတ်သွန်းလောင်းအပ်သော၊ ဩဓိသစေတနာဖြင့် မေတ္တာစာ ဆက်သွင်းပါသည်၊ သာသနာ့ဒါယကာ မဟာဓမ္မရာဇ် တရားမင်းမြတ်...

စသည်ဖြင့် အချီးပြုသည်ကို ထောက်သော် ဆရာတော်၏ မေတ္တာစာသည် ပထမ အင်းဝခေတ်က ပေါ်ပေါက်ခဲ့သော ကန်တော်မင်းကျောင်း မေတ္တာစာကဲ့သို့ပင်

ဘုရင်မင်းမြတ်ကို ပစာနထား၍ အမျိုးလေးပါးတို့အား ဆုံးမသြဝါဒပေးသော စာဖြစ်သည်။ ကန်တော်မင်းကျောင်း မေတ္တာစာနှင့် ကွာခြားပုံကား ကန်တော်မင်းကျောင်း မေတ္တာစာတွင် ရှေးပဝေဏီက ထုံးဟောင်း သက်သေသာဓက အများအပြားကို ထုတ်နုတ်၍ ပြဆိုသည်။ မုံရွေးမေတ္တာစာတွင်ကား ရှေးပဝေသဏီက ထုံးဟောင်း သာဓကများမျှမက ၅၅၀ ဇာတ်နိပါတ်တော်များမှ ကောက်နုတ်ချက်ဖြစ်သော ထုံးတမ်းသက်သေများ၊ မြန်မာရာဇဝင်တွင် နည်းယူမှတ်သားလောက်သော ထုံးတမ်းသက်သေများကိုလည်း ဖွဲ့နွဲ့ရေးသားထားသောကြောင့် ပိုမိုပြည့်စုံသည်။ ကန်တော်မင်းကျောင်း မေတ္တာစာသည် လွန်စွာ နယ်ကျဉ်းသည်။ မုံရွေးမေတ္တာစာမှာကား အလွန်ကျယ်ဝန်းသော စကား ဥပဒေများကို အကျဉ်းချုံးထားသောကြောင့် များစွာနက်နဲသည်။ ထို့ကြောင့် စကားအဓိပ္ပာယ်ဆိုလိုရင်းကို သာမညပုဂ္ဂိုလ် ဗဟုသုတနည်းပါးသူတို့ မသိမမြင်ကြကုန်။ ထိုသို့ ဆိုလိုရင်း အနက်အဓိပ္ပာယ်ကို သိမြင်နိုင်ကြခြင်း မရှိသောကြောင့် ဆရာတော်ကိုယ်တိုင်ပင် မေတ္တာစာ၏ အဖွင့်ဖြစ်သော ကျမ်းကို ရာဇောဝါဒအမည်ဖြင့် သက္ကရာဇ် ၁၁၉၄–ခုနှစ်တွင် ပြီးစီးအောင် စီရင်ပြုစုရပြန်သည်။ ရာဇဝင်ကြောင်း ဇာတ်နိပါတ်ကြောင်းများမှ ထုတ်နုတ်အပ်သော ထုံးဟောင်း သက်သေ သာဓကများ ဖြစ်သောကြောင့် လွန်စွာ အနက်အဓိပ္ပာယ် ကျယ်ဝန်းသော ကျမ်းဖြစ်၏။ ပုံစံကား . . .

> ဆင်တစ်စီးကို၊ မီးသင့်သည့် အကြောင်းကြောင့်၊ ကျီးအပေါင်းကို၊ သတ်ရသည် အနန္တ၊ ကြိုးကြာ ငှက်မ၏ စကားကြောင့် သားနှစ်ယောက်ကို ပမာ ယှဉ်သည့်၊ နရာယဉ် ပြည်ကြီး၌၊ ရွှေထီးကာသော၊ ဓမ္မရာယဉ်မင်းဖျား၊ နွားနှင့်သားကို၊ ပုံထား၍ သေစေသည့်၊ ဧဋ္ဌာရကြည်းမင်း၊ အခင်းတစ်ဝ၊ တစ်ခဏတာ၊ စေတနာကြောင့်၊ ပြည်ဆံတော်မှာ၊ ဌာပနာတိုက်ကို ဖွင့်ရသည့်၊ မင်းနရပတိ၊ မိတေယျ အတု၊ ရွှေရုပ်တု ပြောင်ပြောင်၊ အတောင်ရှစ်ဆယ်၊ ကြီးကျယ် စွင့်စွင့်၊ လွှားလွှားမြင့်ကို၊ ဖိုကျင့်ထိုး၍၊ ရသေ့မြို့အလုံး၊ ယူကြသုံးသဖြင့်၊ ဆုံးဖူးသည်တစ်ဝ . . .

စသည်ဖြင့် ရာဇဝင်ကြောင်းဘက်တွင် မဇ္ဈိမရာဇဝင်၊ မြန်မာရာဇဝင် နှစ်ဖြာစုံလင်စွာဖြင့် သာဓကသက်သေထုတ်၍ မေတ္တာစာများကို ရေးဖွဲ့အပ်သည် ဖြစ်သောကြောင့် မုံရွေးမေတ္တာစာသည် ပထမတန်းစား ဆုံးမသြဝါဒပေး မေတ္တာစာကြီးပင် ဖြစ်တော့

သည်။ အချို့နေရာများ၌ ရာဇဝင်ကြောင်းဘက်သို့ ဦးမလှည့်ဘဲ လောကကြောင်း သက်သက်ဖြင့် ဆုံးမသွားသေး၏။ ပုံစံကား...

> တို့ရှည်တက်ဆင်း၊ အခင်းခင်း၌၊ တင်းတန်သည်အကျော့၊ လျော့တန်သည့် အကြောင်း၊ ပျောင်းတန်သည် အရေး၊ ကြာနေးနည်းများ၊ ထူပါးပေါ့လေး၊ ပူအေးနိမ့်မြင့်၊ နုရင့်ငယ်ကြီး၊ ဝေးနီးတို့ရှည်၊ နောက်ကြည်ဖြူမည်၊ နည်းအဖြာဖြာ၊ အရာရာကို၊ ပညာဝေဖန်၍......

စသည်ဖြင့် ကျင့်ကြံဖွယ်ရာ အကြောင်းများကို ဖော်ထုတ်ပြဆိုရာ၌ လောကကြောင်း သက်သက်ဖြင့် သက်သေသာဓက မထုတ်ဘဲ သွန်သင်ဆုံးမ၏။ ကျည်းကန်ရှင်ကြီး မေတ္တာစာနှင့် အဓိကရ ကွာခြားပုံကား၊ ကျည်းကန်ရှင်ကြီး မေတ္တာစာသည် ၅၂၈ သွယ်သော မေတ္တာကို အကြောင်းပြု၍ မိဘမောင်ဘွား သားအမိ တူဝရီးတို့ အပြန်အလှန်ပေးသော မေတ္တာစာဖြစ်၏။ ဤမေတ္တာစာကဲ့သို့ ဆုံးမဩဝါဒများကိုပင် ဖွဲ့ဆိုသော်လည်း အနက်အဓိပ္ပာယ် နက်မကျယ်လှချေ။ ကွက်ကျားကွက်ကျား ဆုံးမစကားညှပ်၍ ထားသောကြောင့် ရှင်းလင်းပြတ်သားခြင်းကား ရှိ၏။ မုံရွေး ဆရာတော်ရေးသားပြုစုခဲ့သော မင်းဆက် ရာဇဝင် သံပေါက်သည်လည်း အထူး မှတ်သားလောက်ပေသော စာစောင်ဖြစ်သည်။ အဘယ်ကြောင့်ဟူမူ ဤရာဇဝင် သံပေါက်တွင် မြန်မာမင်း အဆက်ဆက်တို့၏ နန်းတက်သက္ကရာဇ်၊ နန်းကျသက္ကရာဇ် များကို အလွယ်တကူ မှတ်သားမိနိုင်စေရန် သင်္ကေတစကားများဖြင့် ရေးသား စီကုံးထားသည် ဖြစ်သောကြောင့်တည်း။ သို့ဖြစ်၍ ရာဇဝင် လိုက်စားသူတို့အဖို့ လွန်စွာ အဖိုးတန်သောစာ ဖြစ်၏။ ရာဇဝင်ဆရာတိုင်း လက်မလွှတ်နိုင်သော သံပေါက်ဖြစ်သည်။ မင်းဆက်ရာဇဝင်ကို သံပေါက်လင်္ကာဖြင့် ဖွဲ့နွဲ့အပ်သောကြောင့် အာဂုံကျက်မှတ်ရန် များစွာလွယ်ကူသည်။ ဆင်ဖြူရှင်လက်ထက်တွင် ပလိပ်ရွာစား ဦးဖျော်သည် ရာဇဝင်တစ်စောင်လုံးကို စေဥ္စကူးမင်း ချေင်းတွင် ဖွဲ့ဆိုခဲ့သဖြင့် ကျက်မှတ်လိုလားသူတို့ အာဂုံဆောင်ကြ၏။ သို့သော် အနည်းငယ် ရှည်လျားသေး သဖြင့် လူတိုင်း အာဂုံမဆောင်နိုင်ကြချေ။ ထိုအခါ စိန္တကျော်သူ ဦးဩက အများ ကျက်မှတ်နိုင်ရန် မင်းဆက်လင်္ကာကို ရေးပြန်၏။ ဤလင်္ကာသည်လည်း ရှည်လျား နေသေးသဖြင့် လူအများတို့သည် အတိုဆုံးဖြစ်၍ ကျက်မှတ်ရန် အလွယ်ဆုံးဖြစ်သော မင်းဆက် ရာဇဝင်ကို တောင့်တကြပြန်သဖြင့် မုံရွေးဆရာတော်သည် အတိုဆုံး နည်းဖြစ်သော သံပေါက်လင်္ကာဖြင့် မင်းဆက်များကို ဖော်ပြပေသည်။ ဤမင်းဆက်

သံပေါက်မှာ ပလိပ်စား ချေင်း၊ မင်းဆက် လင်္ကာတို့ကဲ့သို့ ရာဇဝင်ကြောင်းဘက်တွင် မစုံလင်နိုင်ပေ။ မင်းဆက်များကိုသာ လွယ်လင့်တကူ သိနားလည်ရန်အတွက် ကျက်မှတ်လွယ်အောင် ရေးထားသော သံပေါက်ဖြစ်သဖြင့် မစုံလင်သည်ကိုလည်း အပြစ်မတင်သင့်ပေ။ ဘကြီးတော်ဘုရား၏ ခေတ်တွင် ရာဇဝင်ကို များစွာလိုက်စားကြဟန် တူ၏။ ထိုကြောင့် ရာဇဝင်ကြောင်းနှင့် ပတ်သက်သော စာများ အများအပြား ပေါ်ပေါက်လာကြ၏။ ဦးကုလား ရာဇဝင်၊ တွင်းသင်းရာဇဝင်တို့ဖြင့် အားမရ တင်းမတိမ်သေးရကား ဘကြီးတော်ကိုယ်တိုင်ကပင် တိုင်းပြည်တွင်းရှိ ရဟန်းပညာရှိ၊ လူပညာရှိများကို မှန်နန်းတောင်ဆောင်ကြီးတွင် ရာဇဝင်သစ်ကြီး တစ်စောင်ကို နှိုင်းညှိတိုင်ပင်၍ ပြုစုစေပြန်၏။ ဤရာဇဝင်သစ်ကြီးသည် မှန်နန်းတော်တွင် စီရင်ရေးသားသည့်အတွက် မှန်နန်း မဟာရာဇဝင်တော်ဟူ၍ အမည်တွင်၏။ စာသွားကို ထောက်သော် မှန်နန်းမဟာရာဇဝင်တော်သည် ဦးကုလား ရာဇဝင်ကြီးကို များစွာ အမှီသဟဲပြု၏။ ဤကဗျာလင်္ကာ၊ စကားပြေကျမ်းများမှအပ ထူးခြားကောင်းမွန်သော စာသစ် စာဆန်းများလည်း ပေါ်ကြသေး၏။ အထူးမှတ်တမ်းတင်ထိုက်သည့် အရာများကား ဂီတ ကဗျာ သီချင်းများ ဖြစ်၏။ ဂီတ ကဗျာ သီချင်းများကို ညောင်ရမ်းခေတ်ကပင် မျိုးစေ့ချ၍ ပြုစုပျိုးထောင်လာခဲ့သော်လည်း အသီးအပွင့်ကောင်းများကို မသုံးဆောင်ခဲ့ကြရသေးပေ။ ဘိုးတော်ဘုရားနှင့် ဘကြီးတော်ဘုရား၏ လက်ထက်တော်မှ အစပြု၍ ဂီတသီချင်းတည်းဟူသော အသီးအပွင့်များကို လူတိုင်းသုံးဆောင်ကြရကုန်သည်။ ဂီတသီချင်းများတွင် ထူးထူးခြားခြား သားနားကောင်းမွန်သော အဖွဲ့များကား ယိုးဒယားပတ်ပျိုး၊ ကြိုး၊ ဘွဲ့၊ သီချင်းခံကြီး တလိုင်းနှင့် လေးချိုးကြီးများ ဖြစ်သည်။

## မြဝတီမင်းကြီး ဦးစ

ဂီတခေတ်ကို အထူးဝါယမ စိုက်ထုတ်၍ ပြုစုပျိုးထောင်လာသူတို့တွင် ယိုးဒယားနှင့် ပတ်ပျိုးများကို စတင် ကြံစည်ဖွဲ့နွဲ့သူ မြဝတီမင်းကြီး ဦးစနှင့် ပြင်စည်မင်းသားကြီးတို့ကို မမေ့ထိုက်ပေ။ ယိုးဒယားသီချင်းအဖွဲ့အနွဲ့သည် ယိုးဒယားဘာသာဖြင့် တီးမှုတ်သီဆိုကြသော သီချင်းသံမှ အတုယူ၍ မြန်မာဘာသာ စကားလုံးသို့ ပြောင်းလဲဖွဲ့ဆိုထားသော သီချင်းဖြစ်သည်။ အသံမှာကား ယိုးဒယားသံပင်ဖြစ်၍ မြန်မာစကားလုံးဖြင့် မွမ်းမံထားခြင်းမျှသာ ဖြစ်သည်။ မြန်မာပြည်သို့ ယိုးဒယား

သီချင်းများ ရောက်လာပုံကို ဦးတိုးအခန်းတွင် ဖော်ပြခဲ့လေပြီ။ ယိုးဒယားဘာသာဖြင့် ရှိသော သီချင်းများကို မြန်မာသံ ပြောင်း၍ ဖွဲ့ဆိုသော ပုဂ္ဂိုလ်သည် မြဝတီမင်းကြီး ဦးစဖြစ်သည်။ ဦးစသည် စစ်ကိုင်းမြို့အနောက် မိကျောင်းတက်ချောင်းရွာ ဇာတိ ဖြစ်၍ သက္ကရာဇ် ၁၁၂၈–ခုနှစ်တွင် ဖွားမြင်သည်။ အဖမှာ အလုံမြို့ မြောက်လက် မောက်တက်ရွာနေ နောက်တော်ပါ မြင်းစီးကြီးသား ဦးပေါက်ကျော် ဖြစ်၏။ အမိမှာ သာလွန်မင်းတရားကြီးလက်ထက် အမတ်ကြီး ဗညားကျန်းတော၏မြေး ဒေါ်ငြိမ်းသာ ဖြစ်သည်။ ဦးစ အသက် ၆–နှစ်ကျော်လျှင် အဖ ဦးပေါက်ကျော် သေဆုံးသည်။ အသက် ၁၁–နှစ်တွင် အင်းဝမြို့ မဲထီးကျောင်း ဆရာတော် ဦးပရမ ကျောင်းတွင် သာမဏေပြု၍ စာပေသင်ကြားသည်။ ထိုနောက် လူထွက်၍ စစ်ကိုင်းမြို့ ပန်းထိမ်ဝန်ဟောင်း ဦးညွန့်၏သမီး မအေးနှင့် သင့်မြတ်သည်တွင် ပန်းထိမ်အလုပ် ရွှေကျောက်ရောင်းဝယ်မှု စသည်များကို ပြုလုပ်ကူးသန်း၍ အသက် ၁၉–နှစ်ရှိသော် သားမယားသေဆုံးသည်နှင့် အမရပူရမြို့တော်တွင် အိမ်ရှေ့သံတော်ဆင့် လက်ယာပုံချို ထံ၌ ရေးမှတ်နေသည်။ ထိုနောက် ရွှေဘုံနိဒါန်းကို ရေးသား စီစဉ်သည်တွင် အိမ်ရှေ့အတွင်းဝန် အဘိုးက အိမ်ရှေ့ဘုရားထံမှာ အရည်အချင်းနှင့်တကွ လျှောက် ထား ဆက်သ၍ ခစားနေရသည်။ ထိုနောက် အီနောင်ဇာတ်ဝတ္ထုကို ယိုးဒယား ဘာသာမှ မြန်မာဘာသာသို့ ပြန်ဆိုပြီးလျှင် ဇာတ်စကား တီးမှုတ်ရန် သီချင်း များနှင့်တကွ စီကုံးရေးသား ဆက်သွင်းသည်တွင် အကျော်အစော ဖြစ်သည်။ ထိုနောက် ဘဏ္ဍာစာရေး ခန့်တော်မူပြီးလျှင် အပါးတော်တွင် စေသုံး ထမ်းရွက် စေသည်။ ထိုနောက် ၁၁၇၁–ခုနှစ် အိမ်ရှေ့ဘုရား နတ်ရွာစံ၍ မြေးတော် စစ်ကိုင်း မင်းကို အိမ်ရှေ့သင်းပင်း အလုံးအရင်း နှင်းအပ်တော်မူသည်တွင် အိမ်ရှေ့ သံတော်ဆင့်နှင့် ပြည်လုံးယူ လေ့မှူး ခန့်တော်မူသည်။ ထိုနောက် အိမ်ရှေ့အတွင်းဝန် ခန့်တော်မူ၍ ကသည်းမြင်းတဲ မဟာရာဇာ ထောင်လွှားသည်ကို မြေတိုင်းအတွင်းဝန် နှင့်အတူ ချီတက်တိုက်ဖျက်ရာ မဟာရာဇာ ထောင်လွှားသည်ကို မြေတိုင်းအတွင်းဝန် နှင့်အတူ ချီတက်တိုက်ဖျက်ရာ မဟာရာဇာ ထွက်ပြေး၍ ညီ ဥပရာဇာကို နန်းတင် ခဲ့ပြီးလျှင် ရွှေစက်တော်အောက်သို့ ရောက်သည်တွင် ဒူးနေရာကသည် တော်နေရာသို့ မြင့်၍ နေမျိုးဇေယျသူဘွဲ့နှင့် တော်အဆောင်အရွက်များကို သနားတော်မူသည်။ ၁၁၈၁–ခုနှစ် နယုန်လ ဆဒ္ဒန်ဆင်မင်းသခင် ဘိုးတော်မင်းတရားကြီး နတ်ရွာစံတော် မူ၍ မြေးတော် အိမ်ရှေ့မင်း ရွှေနန်းတက်သိမ်းတော်မူသည်တွင် အတွင်းဝန်အရာ မဟာသီရိဇေယျသူရဘွဲ့ အစီးအနင်း အဆောင်အရွက်နှင့် သူကောင်းပြုတော်မူသည်ကို

ခံရပြီးသည်နောက် ၁၁၈၅–ခုနှစ်၊ ပန်းဝါခွညဝတီကြောင်းချီတော်မူရာ အလုံဝန်ကြီး သတိုးမင်းကြီး မဟာဗန္ဓုလက အုပ်ချုပ်၍ ဦးစကို မင်းကြီးမဟာသိရိသီဟသူဘွဲ့နှင့် လက်ယာစစ်ကဲခန့်၍ အမှုတော်ကို ထမ်းရွက်ရသည်။ စလင်းမြို့သို့ ရောက်လျှင် ရှေ့ချီသောင်းတပ်မှူးအရာနှင့် ပန်းဝါကို တိုက်ခိုက်၍ ဆက်သသည်။ ရွှေဖဝါးတော် အောက်သို့ ရောက်လျှင် ဝန်ကြီးခန့်၍ တိုင်းရေးပြည်မှုများကို စီရင်ရသည်။ ထိုနောက် ရွှေဘိုမင်းတရား အထွတ်အမြတ်သို့ ရောက်တော်မူသောအခါ အကျဉ်းချထားခြင်း ခံရသည်။ ကျောက်မြောင်းမြို့တော်တွင် ကုန်းဘောင် ပရမေဓေယျာဘိချီ ဘုန်းတော် ဘွဲ့ကို ဆက်သရာ အကျဉ်းမှ လွတ်၍ မဟာသိရိဓေယျသူရ ဘွဲ့နှင့် မြင်းတင် အခွန်ကို သနားတော်မူသည်။ နောက် ပုဂံမင်းလက်ထက် မြင်းမူရွာကို သနားတော် မူသည်။ နောက် ညီတော် မင်းတုန်းမင်းတရားကြီးလက်ထက် ၁၈၁၅–ခုနှစ် ဝါခေါင်လဆန်း ၁–ရက်နေ့တွင် ကွယ်လွန်သည်။ မင်းကြီးဦးစ ပြုစုရေးသားခဲ့သော စာများနှင့် သီချင်းများကား . . .

၁။ ရွှေဘုံ နိဒါန်း၊

၂။ အိနောင်ဇာတ်၊ ဇာတ်ချင်းပါ၊

၃။ သမုဒ္ဒဃောသဇာတ်၊ ဇာတ်ချင်းပါ ဟူသတည်း။

ထိုအပြင် ယိုးဒယား၊ ပတ်ပျိုး၊ ဘွဲ့၊ သီချင်းခံကြီး ပုဒ်ရေပေါင်း ၄၀–ကျော် ခန့်အပြင် သိင်္ဂါသံကိုလည်း ရေးသား စီစဉ်သည်။ ရေးစပ်သော ပတ်ပျိုးများအနက် ထူးခြားကောင်းမွန်လှသော ပတ်ပျိုးများကား . . .

၁။ သာဆန်းရဂုံဗွေ ချီ ပတ်ပျိုး၊

၂။ ဘုံပျံနေနန်း ချီ ပတ်ပျိုး၊

၃။ မှိုင်းမှုံပြာဝေ ချီ ပတ်ပျိုး၊

၄။ အထူးထူးငယ်နှင့် ချီ ပတ်ပျိုး၊

၅။ သာတင့်ဆုံး ချီ ပတ်ပျိုး၊

၆။ စိန်ခြယ်ခြူးသန်း ချီ ပတ်ပျိုး၊

၇။ စိန်မြလျှံခြယ် ချီ ပတ်ပျိုး၊

၈။ စိန်ကြယ်ညီလင်း ချီ ပတ်ပျိုး

များဖြစ်သည်။ ဤပတ်ပျိုးများအပြင် ယိုးဒယားသံ၊ တလိုင်းသံ၊ ဒိန်းသံ၊ နွေချင်း၊ ဒွါဒရာသီသံ၊ လောကနတ်သံ၊ လဲ့ဒေါင်းတောင် မိးခွက်သီချင်း၊ ဘုန်းတော်ဘွဲ့ သီချင်း၊ ရှေးကြိုးချင်း၊ ဘွဲ့ချင်း၊ အလိုက်ရတု၊ လေးချိုးသံဆန်းမှစ၍ သီချင်းနှင့် ပတ်သက်သမျှကို စုံလင်အောင် ရေးဖွဲ့ခဲ့သည်။ ပတ်ပျိုးယိုးဒယား သီချင်းများ သည်လည်း ရတုအဖွဲ့အနွဲ့များကဲ့သို့ပင် နွေဘွဲ့၊ မိုးဘွဲ့၊ ဆောင်းဘွဲ့၊ ဘုန်းတော်ဘွဲ့၊ တောတောင်ဘွဲ့၊ ပန်းဘွဲ့၊ ရေလားဘွဲ့၊ မယ်ဘွဲ့၊ မောင်ဘွဲ့ အမျိုးမျိုးရှိသည်။ ယိုးဒယားသီချင်းများတွင် အောက်ပါအတိုင်း ပိုင်းခြား၍ ထားသည်။

၁။ ယိုးဒယားနဲ့သွား၊ သာတင့်ဆုံးချီသည်။

၂။ ချူချာ၊ လွမ်းပိုအောင် ချီသည်။

၃။ ယိုးဒယားကြေးသွား ဟူသတည်း။

ယိုးဒယားကြေးသွား ခေါင်းစဉ်အောက်တွင် ခွဲထွက်သွားသော သီချင်းစု များမှာ...

၁။ ထပ်တွန့်၊ ခိုင်ပန်းစုံ မှုံမာလာ–ချီသည်။

၂။ ငုငစ်၊ မှိုင်းမှုံပြာညိုရီမှောင်ဝေ–ချီသည်။

၃။ ခမိန်၊ တောတောင်စွယ် ချီသည်။

၄။ ဖရဲတင်၊ ရွှေတညာ–ချီသည်။

၅။ ခက်မွန်၊ နှင်းယွန်းသာဟေမန်–ချီသည်။

၆။ ထနောက်၊ တောမြိုင်ခြေလမ်း–ချီသည်။

၇။ အလေးမေ့၊ တောင်ယံတော–ချီသည်။

၈။ ဖြင်းချား၊ ပန်းမြိုင်လယ်–ချီသည်။

၉။ ဘရက်လည်ဆွဲ၊ စုံဆယ်ဖြာ–ချီသည်။

၁၀။ ဖြင်းချင်း၊ ညာနန်းနတ်ကယ်–ချီသည့်။

ထို့အပြင် တလိုင်းသံများမှ ခွဲထွက်လာသော သီချင်းစုများလည်း ရှိသေး၏။ ထိုသီချင်းတို့ကား...

၁။ တလိုင်းသံစုံ၊

၂။ ကြာစေ့ကောက်၊

၃။ သာချင်း ဟူသတည်း။

ဦးစ ရေးသားဖွဲ့နွဲ့သော ပတ်ပျိုးယိုးဒယားများသည် သီချင်းများပင် ဖြစ်သော်လည်း ပျို့လင်္ကာရတုများကဲ့သို့ပင် ပြတ်သား ရှင်းလင်း၍ သုတိလွန်စွာသာသည့် သီချင်းများဖြစ်သောကြောင့် ပျို့ကဗျာ ရတုများကဲ့သို့ ဝါကျ တစ်ခုနှစ်တစ်ခု အကူးများတွင် ၍–လျှင်–စသော စကားဆက်မပါချေ။ သို့သော် ပြေပြစ်ချောမော၍ အဓိပ္ပာယ်ပေါ်၏။ ရတုများကဲ့သို့ပင် ဖွဲ့နွဲ့လိုသည့်အရာများကို ပြည့်ပြည့်စုံစုံဖြစ်အောင် ဖွဲ့နွဲ့နိုင်သည်။ ကဗျာဆရာတို့သည် နွေဘွဲ့ တပေါင်းလဘွဲ့များကို ဖွဲ့နွဲ့ရန် လိုလားကြဘိသကဲ့သို့ ဦးစသည်လည်း မိမိ၏ ပတ်ပျိုးသီချင်းအဖွဲ့ဖြင့် နွေဘွဲ့များကို ဖွဲ့ဆိုလေသည်။ နွေဘွဲ့ ပတ်ပျိုးများတွင် သာဆန်းရဂုံဗွေချီ ပတ်ပျိုးကို အကောင်းဆုံး ပတ်ပျိုးဟူ၍ ဆိုထိုက်ပေသည်။

> သာဆန်းရဂုံဗွေ၊ ညှင်းပြေပြေ၊ လေပြေလောင်း၊ ညာခြေစိမ်းရင့်မောင်း၊ ညောင်းရွက်ကယ်တည့် ကြွေဟန်၊ မြညာရွှေရည်စံ၊ သင်းကျုံကျုံ လေးတည့် ဝင်းတဲ့ ဝင်းလျှံလျှံ၊ ကြူးကြော်ည် လေတည့် မြူးလေ မြူးပျော်စံ၊ မြယွန်းဘုံတိမ်ယံက ဖန်လာမြူခိုး၊ ဖြိုးဖြိုးမှုံရီ၊ အုံ့ညီတည့် ထွေထူးဆန်း၊ ပန်းလေအောင်တည့်မှ ကမ်းနှင့် ရေယဉ်သောင်၊ ညိုမှောင် ယော်ဝါ၊ ရွှေပြာငယ် မြသား၊ နီလာ စိန်ကြောင်ဝေ ရှာစေလိုလို၊ ပြိုဟန်ကသဲ၊ ခါမိုးဟုတ်ပါပဲ...

စသည်ဖြင့် နွေရာသီ၏ အခြေအနေကို စိတ်မျက်စိထဲ၌ ထင်ပေါ်လာအောင် ဆေးရောင်စုံနှင့်တူသော စကားလုံးများဖြင့် ဖွဲ့ဆိုထားသောကြောင့် ဤပတ်ပျိုးအဖွဲ့သည် ရှင်ဥတ္တမကျော်၏ တောလားကဲ့သို့ပင် ပီတိခိုက်ငြိစေတော့၏။ ပတ်ပျိုးသီချင်းများသည် မြန်မာသီချင်း တစ်ဝက်နှင့် ယိုဒယားသံ တစ်ဝက်ကို ပေါင်းစပ်၍ ဖွဲ့ဆိုသော သီချင်းများ ဖြစ်ဟန်တူသည်။ ယိုးဒယားသီချင်းကဲ့သို့ ပတ်ပျိုးသီချင်းမှာ စည်းဝါးမလေးပေ။ ဤသီချင်းများကို မသီဆိုမီ ဆိုင်းဝိုင်းပတ်လုံးကလေးများကို တီးမည့်သူက အစပျိုး၍ တီးမှုတ်ပေးရသည်ကို အစွဲပြု၍ ပတ်ပျိုးသီချင်းဟု ခေါ်ဟန်တူ၏။ မင်းကြီးဦးစ၏ ဉာဏ်ရည်ကို ဝေဖန်ရမည်ဆိုသော် ဦးစသည် ဗဟုသုတပြည့်ဝသူတစ်ယောက် ဖြစ်၏။ ရွှေဘုံနိဒါန်းကို ပြုစုသည်ကို ထောက်သော် မင်းခမ်းမင်းနား အဆောင်အယောင်တို့တွင် ဗဟုသုတများကြောင်း သိရ၏။ ရွှေဘုံနိဒါန်းကဲ့သို့သော စာစောင်မျိုးသည် မြန်မာစာပေတွင် များစွာ လိုလားအပ်၏။ အဘယ်ကြောင့်ဟူမူ မြန်မာမင်းများ မရှိသည့်နောက်တွင် မင်းခမ်းမင်းနား အသုံး

အဆောင်တို့သည် တိမ်ကောပပျောက်ခြင်းသို့ မရောက်မိ ဗဟုသုတအလို့ငှာ စာအုပ်စာတမ်း ရေးသားထားသင့်လှသောကြောင့်ပေတည်း။ အိန္နောင်ဇာတ်သည် ညောင်ရမ်းခေတ်က ဝန်ကြီး ပဒေသရာဇာရေးသော မဏိကက်ပြဇာတ်ကဲ့သို့ပင် နန်းတွင်းဇာတ်ဖြစ်၏။ သို့သော် ဇာတ်ချင်းများမှာ ပတ်ပျိုး ယိုးဒယားစသည်တို့ဖြင့် တန်ဆာဆင်ထား၍ များစွာ ပြည့်စုံသောကြောင့် မဏိကက်ပြဇာတ်ထက် သာလွန်ကောင်းမွန်၏။ ဗသျှူးကျွန်းစွယ်ကို အုပ်စိုးသော အိန္နောင်မင်းသားနှင့် မွတ်စပါးမင်းသမီးတို့ အတ္တုပ္ပတ္တိကို ဇာတ်သဘင်စကားများဖြင့် တန်ဆာဆင်၍ ရေးဖွဲ့ထားခြင်း ဖြစ်သည်။ ထိုခေတ်သည် နိုင်ငံခြားတို့မှ အတုများစွာယူသော ခေတ်ဖြစ်၏။ မိမိတိုင်းပြည်တွင် ဖြစ်ပျက်တွေ့ကြုံရသမျှနှင့် တင်းမတိမ်နိုင်ကြသေးဘဲ နိုင်ငံခြားတွင် ဖြစ်ပျက်တွေ့ကြုံရသမျှတို့ကို အတုယူ၍ မြန်မာမှုပြုကြကုန်၏။ ဤနေရာတွင် မြန်မာများ မျက်စိပွင့်လင်းလာကြကြောင်းကား ထင်ရှားတော့၏။ ယဉ်ကျေးမှုကို အထူးဂရုပြုကြသဖြင့် မြန်မာပြည်၏ အခြေအနေသည် တိုးတက်၍ လာတော့၏။ ဘိုးတော်ဘုရား လက်ထက်တော်မှ စ၍ ဘကြီးတော်မင်းတရား လက်ထက်တိုင် ၁၂–ရာသီ ဘွဲ့များနှင့် ဘုန်းတော်ဘွဲ့များကို ရေးသား ဆက်သွင်း၍ အထူးနာမည် ကျော်ကြားသော ပုဂ္ဂိုလ်နှစ်ယောက်သည် ဖိုးသူတော် ဦးမင်းနှင့် လှူ ဦးမင်းတို့ ဖြစ်ကြသည်။

## ဖိုးသူတော် ဦးမင်း

ဖိုးသူတော် ဦးမင်းသည် ပင်းတလဲမြို့နယ် ရေဝေရွာ ဇာတိဖြစ်သည်။ ဘကြီးတော်ဘုရား လက်ထက်နှင့် ကုန်းဘောင် ရွှေဘိုမင်းလက်ထက်တော်တို့၌ လေးချိုးကြီး၊ ရတု၊ သဖြန်အမျိုးမျိုး၊ တေးထပ်၊ တုံးချင်းတို့ကို ဖွဲ့ဆိုသည်။ စာမှန်ကြီးရွာ (အချို့က ဆမွန်းကြီးရွာ)ကို အသုံးကံကျေး ပေးတော်မူ၍ ချီးမြှင့်ခြင်းခံရသည်။ ဖိုးသူတော်ပြုလုပ်ဖူးသည့်အတွက် ဖိုးသူတော် ဦးမင်းဟူ၍ အမည်တွင်သည်ဟု ဆိုကြ၏။ ဖိုးသူတော်လုပ်သည်မှာ အကြောင်းမဲ့မဟုတ်။ စာဆိုတော် ဦးမင်းနှင့် အမည်ချင်းတူနေ၍ သူ ရေးသည့် စာတို့ကိုလည်း စာဆိုတော် ဦးမင်း ရေးသည်ဟူ၍သာ အများက ထင်မှတ်ကြသောကြောင့် စာဆိုတော် ဦးမင်းနှင့် အမည်ချင်း ထူးခြားစိမ့်သောငှာ တမင် ဖိုးသူတော်လုပ်၍ နေရသည်ဟူ၍လည်း ပြောဆိုကြ၏။ ရှင်ဣန္ဒောဘာသဓေ ဘွဲ့ကိုလည်း ရသည်။ သက္ကရာဇ် ၁၁၉၉–ခုနှစ်၌ ကုန်းဘောင်မင်း

တရားကြီး နန်းတက်၍ ဥကင်ဖွင့် မင်္ဂလာယင်သည့်အခါ အမတ်ကြီး ဦးပေါ်ဦး၊ စိန္တ ကျော်ထင်ဘွဲ့ခံ ကန်ပြင်ရွာစား စာဆိုတော် ဦးမင်း၊ ဝက်မစွတ်မြို့စား စာဆိုတော် နဝဒေးတို့နှင့် ဘုန်းတော်ဘွဲ့ရတုများကို အပြိုင်ရေးသား ဆက်သွင်းရသည်။ ဖိုးသူတော် ဦးမင်းသည် ၁၂–ရာသီဘွဲ့များကို ဖွဲ့ဆိုလေ့ရှိသည်။ ဆိုခဲ့သော ၁၂–ရာသီဘွဲ့ များကား . . .

၁။ ဟောင်းရွက်ညှာ ခါလှစ်လို့ချီ သဖြန်လေးဆစ် ၁၂–ပုဒ်၊

၂။ ထပ်ထပ်သာ စောတော့သည် ချီ ၁၂–ရာသီ လွမ်းချင်း ၁၂–ပုဒ်။

(ဤလွမ်းချင်းကို မြန်မာစာ ညွှန့်ပေါင်းကျမ်း ဒုတိယတွဲတွင် မဟာအတုလမင်းကြီး ဆိုသည်ဟု ပြသည်။ ကဝိသေတ္တု မဥ္ဇူသာကျမ်း စာမျက်နှာ ၂၉၆–တွင် ဖိုးသူတော် ဦးမင်း ဆိုသည်ဟု ပြသည်။)

၃။ နွေဘွဲ့၊ မိုးဘွဲ့၊ ဆောင်းဘွဲ့ လေးချိုးကြီး ၃–ပုဒ် ဟူသတည်း။

ဤ ၁၂–ရာသီဘွဲ့ ကဗျာစုအနက် လေးဆစ်သဖြန်များတွင် အကျယ်မချဲ့ဘဲ လိုရင်းကိုချုပ်၍ ရေးသားထားသည်။ ရာသီဘွဲ့တွင် ပါဝင်စေအပ်သော ပန်း၊ နက္ခတ်တာရာ၊ ရာသီပွဲတော်များကိုသာ ပါဝင်အောင် ရေးသားထားသည်။ ရာသီ အခြေအနေကိုကား ပေါ်လွင်အောင် မဖွဲ့ချေ။ ပုံစံမှာ ကဆုန်လဘွဲ့တွင် . . .

စကားငုံ သင်းလို့၊ ကြယ်မင်းတဲ့ ဝိသာခါ၊ ၊တိမ်ဗွေမှာ ရောင်ခြည် ရွှန်း၊ ထွန်းတဲ့ချိန်ပါ၊ ၊စုံကန္တာ၊ ဟေမာမြိုင်ထဲ၊ ၊ရွှေကျေးပျံ သင်လို့၊ စံပျော်ရှင် သည်ဟိုကူးလို့ငယ်၊ မြူးကြစမြဲ . . .

ဟူ၍ တိုတိုတုတ်တုတ်နှင့် လိုရင်းကို ချုပ်၍ ဖွဲ့သည်။ စာဆို၏ ရည်ရွယ်ချက်အရ နှုတ်တက်အာဂုံဆောင်သူတို့အတွက် မှတ်မိလွယ်စေခြင်းငှာ သက်သက်ပင် အတို ရုံး၍ ဖွဲ့သည်ဟု ထင်မြင်ပေသည်။ ၁၂–ရာသီဘွဲ့ လွမ်းချင်းသည် အတော် အဆင့် အတန်းစားမြင့်သော သီချင်းကဗျာဖြစ်သည်။ လွမ်းချင်းများသည် အလောင်းမင်း တရားကြီး လက်ထက်တော်ကပင် အစပြု၍ ပေါ်၏။ သို့သော် ထိုအခါ များစွာ ခေတ်မစားခဲ့သေးချေ။ လွမ်းချင်းဟူသည်မှာ မိမိနေထိုင်သည့် ရပ်ရွာမှ ခွဲခွာ၍ လာရစဉ် ဇာတိရင်းဖြစ်သော ချက်မြှုပ်ရာအရပ်ကို လွမ်းဆွတ်တသဟန်နှင့် စတင် စပ်ဆိုသော သီချင်းဖြစ်သည်။ အလောင်းမင်းတရားကြီးလက်ထက်က လွမ်းချင်းကို မြောက်ဘက်သံဟူ၍ ခေါ်သည်။ ရွှေဘိုမြို့ မြောက်ဘက် တောလက်ကျေးရွာများတွင်

စတင်ပေါ်သည်ကို အစွဲပြု၍ မြောက်ဘက်သံ ခေါ်သည်။ ထိုအခါက လွမ်းချင်းများသည် နန်းသုံးတော်ဝင်သည့် သီချင်းများမဟုတ်။ တောလက်ကျေးရွာအကြောင်းတို့ကိုသာ ဖွဲ့ဆိုကြကုန်သည်။ စာဆိုသူဦးကြီး၊ ဦးဆောင်တို့သည် မြောက်ဘက်သံအဆိုကောင်းသူများ ဖြစ်ကြသည်။ ကုန်းဘောင်ခေတ်၌ ၁၂-ရာသီဘွဲ့ အမျိုးမျိုးပေါ်ပေါက်၍ ရေးအထက်ကျော်ကာရိက ရတုဖြင့်လည်းကောင်း၊ ပျို့ဖြင့်လည်းကောင်း၊ လင်္ကာဖြင့်လည်းကောင်း၊ တေးထပ်ဖြင့်လည်းကောင်း၊ လေးဆစ်ဖြင့်လည်းကောင်း ဆိုခဲ့ကြဖူးလေပြီ။ ယခုတစ်မျိုး ဖိုးသူတော်ဦးမင်းက အများမဆိုခဲ့ဖူးသေးသော အဖွဲ့အနွဲ့မျိုးဖြင့် အသစ်တစ်မျိုး ကြံဆောင်၍ ဖွဲ့နွဲ့ခြင်းပင် ဖြစ်သည်။ ထပ်ထပ်သာ စောတော့တယ်-ချီ လွမ်းချင်းမှာ ၁၂-ရာသီဘွဲ့ သဖြန်ထက်ပင် စုံလင်သည်။

> ထပ်ထပ်သာ စောတော့တယ်၊ မြကြောငယ် ရစ်သီ၊ ကိုက်ဖူးငယ် ချီသည်၊ ပွင့်သီဂီ ရွှေရင်ခတ်ကယ်တို့၊ ရစ်ရပ်ကယ် နယ်တစ်ခိုက၊ စိုလှတယ်လေး၊ ။နွေခါမှိုင်ငယ်၊ ရာသီမိဿ၊ ဂီမှာနမို့၊ စိတြကြယ်၊ တိမ်မိုးလယ်မှာ၊ စံပယ်ကွန့်ကာ၊ တိမ်ဗွေချာဝယ်၊ ဒေသစာ လှမ်း၊ လှည့်လည်ငယ် မြန်းလို့၊ နစ်ဆန်းငယ် သကြိန်၊ သစ်သစ်သာ ဖန်တော့တယ်၊ နိုင်ငံကြော့ ပြည်သူမှာ၊ ပန်ဆုယူ တာရေသွန်းချိန်မို့၊ လွမ်းလှတယ်လေး...

စသည်ဖြင့် အမရပူရ ရွှေမြို့တော်ကြီးတွင် နေရပါသော်လည်း အတာသကြိန်အခါ၌ တောနယ်များကို လွမ်းဆွတ်ကြောင်း ပေါ်လွင်အောင် ဖွဲ့ဆိုလေသည်။ ဖိုးသူတော်ဦးမင်း စပ်ဆိုသော ဆောင်းဘွဲ့၊ နွေဘွဲ့၊ မိုးဘွဲ့၊ လေးချိုးကြီး သုံးပုဒ်သည် အဖွဲ့အနွဲ့ လွန်စွာကောင်း၍ ပထမတန်း လေးချိုးကြီးများ ဖြစ်ကြ၏။ အဓိပ္ပာယ်မှာ လွန်စွာ လေးနက်၍ ယခုအခါ ကဗျာဆရာတို့သည် ဦးမင်း၏ လေးချိုးများကို စံပြု၍ ထားကြရကုန်သည်။

> အံ့လို့သာ မှုးရတော့၊ ပျံ့ပျူးငယ် သာဟန်ကို၊ နာဂဟံ ဘယ်အတိတ်မှာမှ၊ ခြယ်စိတ်ကယ် ဉာဏ်ရာတော့၊ စံပမာ တူမရှိပါဘူး၊ ဘုမိမြေအောင်နန်းမြို့၊ သောင်ကမ်းခွင်...

အစရှိသော မိုးဘွဲ့လေးချိုး ပထမပိုဒ်၏ စကားနက်နဲပုံကို ချင့်ချိန်၍ကြည့်သော် ဦးမင်းသည် ထူးချွန်သော ပုဂ္ဂိုလ်ဖြစ်ကြောင်း ထင်ရှားတော့သည်။ ဤရာသီဘွဲ့

သီချင်းများအပြင် ဦးမင်းသည် တေးထပ်အများအပြားကိုလည်း စပ်ဆိုခဲ့သည်။ တေးထပ်များတွင် မယ်ဘွဲ့ အမြွက်တေးထပ်သည် ထူးချွန် ကောင်းမွန်သည်။

ကောင်းခြောက်ဆယ့် လေးရပ်၊ သွေးထပ်ထပ် ရုပ်ညီ၊ ရှေးနိပါတ်
ထုတ်မှီသည်၊ ဖုဿတိ ထွတ်ထား၊ ဗိမ္မာနတ် ကိန္နရီလို၊ တသီဂီ
ယိုးတော့မမှား . . .

ဟူသော အပိုဒ်တွင် မိန်းကလေး၏ အချောအလှ ရုပ်ပါရုံကို နိပါတ်တော်လာ ကျမ်းဂန် စကားများမှ ထုတ်နုတ်၍ နှိုင်းယှဉ်ထားသည်။ ဤတေးထပ်ကိုလည်း အချို့က ဦးပုညကပင် စပ်ဆိုသည်ဟု ပြောဆိုကြ၏။ ဦးမင်းသည် တုံးချင်း အဖွဲ့အနွဲ့ ကောင်းလှ၏။

## တုံးချင်း

တုံးချင်းများသည် ဘုရားပွဲတော်များတွင် ထူးဆန်း အံ့ဩဖွယ်ရာအရုပ်ကြီးများကို ကောက်ရိုးဖြင့် ပြုလုပ်၍ အပြိုင်အဆိုင်ကပြ သီဆိုကြသော သီချင်းဖြစ်သည်။ တုံးမတိုက်မီ တုံးချင်းကို ဆိုကြရသည်။ စာဆိုသူတို့သည် တစ်ဘက်က စာဆိုများ မခံချင်အောင် တုံးရုပ်ကိုလုပ်စေ၍ စာဖွဲ့ကြသည်။ ထိုစာတွင် တစ်ဘက်သား၏ အကြောင်းအရာများကို ထည့်စပ်၍ ဖွဲ့သည်။

ဖိုးသူတော် ဦးမင်းသည် လှူဦးမင်းနှင့် စာဆိုဘက် ဖြစ်သဖြင့် လှူဦးမင်းကို ပြောင်လှောင်လိုသောကြောင့် တောင်သူကြီးရုပ်ကို လုပ်၍ တုံးချင်းကို ဖွဲ့ဆိုသည်။ လှူဦးမင်းသည် တောင်သူလူမျိုးဖြစ်ကြောင်းကို ဖိုးသူတော် သိဟန်တူ၏။ ထိုသို့ တောင်သူကြီးရုပ် လုပ်ပြီးလျှင် လှူဦးမင်း၏ အမူအရာပေါ်အောင် စပ်ဆိုသည်တွင် လှူဦးမင်း၏တပည့် အင်းဝမြို့ ဆေးသမားတန်းရပ်နေ ဦးမင်းခေါင်က ဖိုးသူတော် ဦးမင်းအား ပြန်လှန်ချေပလို၍ ဖိုးသူတော်ရုပ်ကြီးတစ်ခုကို ပြုလုပ်ပြီးလျှင် တုံးချင်း ဖွဲ့ဆိုသည်။ တစ်ယောက်နှင့်တစ်ယောက် မခံချင်အောင် ဖွဲ့ဆိုကြခြင်းပင် ဖြစ်သည်။ ဖိုးသူတော်ရုပ် တုံးချင်းအလယ်ပိုင်းတွင် . . .

စက်ချင်းတုံးချင်း၊ အနှုန်းသွင်း၊ မောင်မင်းမည်ရ၊ နာမခေါ်ဆို၊
ဖိုးသူတော် ဗိုလ်ကလေလေ၊ သတင်းငယ်ချို၊ စာဆိုဖွဲ့ကောင်း၊ ပြာညို
နွဲ့နှောင်းကိုလ၊ ပေါင်းရမည်မှာ၊ မောင်နေမြန်းတဲ့ ကျောင်းဝိဟာ၊
ပုံသုသီလာ ခေါ်မှန်းတွင်ငဲ့၊ တစ်စုညီညာ၊ ပျော်စမ်းချင်လှ၊ ရပ်ရွှေ

ကျင်စွန်းကိုလ၊ ထွန်းလည် ခဲ့ပါ၊ ဘုန်းမြတ် ခေါင်မဟာ၊ မြတ်မဟာ
သိမ်တော်ပွဲမှာ၊ သဲကျော်ငြိမ့်ခြိမ့်အုန်း၊ နှုန်းဘက်မမြော်၊ စာဆိုတော်
တစ်ပုံသန့်တယ်၊ ချီးအံ့မဆုံး . . .

စသည်ဖြင့် ဖိုးသူတော်ဦးမင်းအား ပြောင်လှောင်၍ ဖွဲ့ဆိုသည်။ ဟာသဉာဏ်ရွှင်သော အဲချင်း ကဗျာများ ဖြစ်ကြ၏။ ယခုအခါ တုံးချင်းကဗျာများ တိမ်ကော ပပျောက်သွားသည်မှာ များစွာ ဝမ်းနည်းဖွယ် ဖြစ်သည်။ ဖိုးသူတော်ဦးမင်းသည် ဂီတကဗျာများ ဖွဲ့ဆိုရာ၌ ထူးချွန်ကောင်းမွန်သော ပုဂ္ဂိုလ်ဖြစ်သည်။ သို့သော် သီချင်းများမှအပ ပျို့လင်္ကာများကို စာတစ်စောင် တစ်ဖွဲ့ဖြစ်အောင် မဖွဲ့ဆိုခဲ့ပေ။ လောကအကြောင်း သက်သက် ဖွဲ့ဆိုရာ၌သာ အသုံးကျသောသူ ဖြစ်၍နေ၏။ အကယ်၍ ပျို့ကဗျာ မော်ကွန်းများကို ဖွဲ့ဆိုခဲ့လျှင် ဦးမင်းသည် နာမည် တိုးတက် ကျော်ကြားရန် ရှိသည်။ ဖိုးသူတော်ဦးမင်းနှင့် အပြိုင်စာဆိုဖက် ဖြစ်သူကား အမည်တူ လှူဦးမင်း ဖြစ်သည်။ ဦးမင်းဟူသော အမည်မှာ ဆင်တူနေသည်ဖြစ်၏။ ဖိုးသူတော် ဦးမင်း၊ လှူဦးမင်း ဟူ၍ ခွဲခြား မှတ်သားကြကုန်သည်။

## လှူဦးမင်း

လှူဦးမင်းသည် ရွှေတောင်မြို့ စီရင်စု၊ နွားမရန်ရွာတွင် သက္ကရာဇ် ၁၁၄၆-ခုနှစ်၌ ဖွားမြင်သည်။ ထိုရွာတွင် ရှင်သာမဏေပြုကာ တေးကဗျာ ဝါသနာထုံရင်း ရှိသည်ဖြစ်၍ လေ့လာရေးသားသည်။ ထိုနောက် လူထွက်၍ အမရပူရ မြို့တည် နန်းတည် ဘိုးတော်မင်းတရားထံသို့ ဝင်ရောက် ခိုလှုံရာ သားတော် ပုသိမ်မင်းထံတွင် စာဆိုအရာနှင့် ထမ်းရွက်စေသည်။ ၁၁၇၅-ခု အသက် ၃၉-နှစ်တွင် ပုသိမ်မြို့ ဟိုင်းကြီးကျွန်း ဆားခွန်ကို စားရသည်။ ထိုနောက် စိန္တကျော်ထင်ဘွဲ့နှင့် ကန်ပြင်ရွာကို စားရပြန်သည်။ ထိုနောက် ဘကြီးတော်လက်ထက် စာဆိုတော်အရာနှင့် နေအိမ်စုလာဘ်များ သနားတော်မူခြင်း ခံရ၍ စာဆိုတော် မောင်ရေး၊ မောင်တလုပ်၊ မောင်အိ၊ မောင်ဖုန်းတို့နှင့်အတူ လေးချိုး၊ ရာသီဘွဲ့၊ မယ်ဘွဲ့၊ မောင်ဘွဲ့၊ ဘုန်းတော်ဘွဲ့များကို လစဉ်ရေးသား ဆက်သွင်းရသည်။ ထိုနောက် ရွှေဘိုမင်းတရားလက်ထက် စစ်ကိုင်းမြို့ စံနန်းတော်တွင် ဘုန်းတော်ဘွဲ့ကို ဆက်သရာ ငွေတော် သုံးပိဿာ သနားတော်မူသည်။ ထိုနောက် ကျောက်မြောင်းမြို့က ပြည်ကြီးမွန် ဖောင်တော်ဖြင့် အမရပူရသို့ ဝင်တော်မူရာ ဘုန်းတော်ဘွဲ့ကို ဆက်သပြန်သည်တွင် ငွေတော်

သုံးပိဿာနှင့် လှေလောင်းတစ်စင်း သနားတော်မူခြင်း ခံရသည်။ ထိုနောက် အမရပူရမြို့ ရွှေနန်းတော်ကြီးကို မသိမ်းမီ အင်္ဂရိတ်အကြောင်းအရာ၊ ဘက်မနှုန်းသာဘုံးချီ ဘုန်းတော်ဘွဲ့ လေးချိုးကို ဆက်သသည်တွင် မင်းထက်သက်ရှည်ဘွဲ့နှင့် ရွှေနန်းရိုး လမိုင်း လယ်တော်ပယ် ၅၀-ထွက်သင့် စပါး ၁၀၀၀-ကို သနားတော်မြတ် ခံရသည်။ ထိုနောက် ဥက္ကလာပမြို့သို့ ရွှေစက်တော်ဖြန့်ချိရာတွင် ဘုန်းတော်ဘွဲ့ကို ဆက်သွင်းပြန်သဖြင့် လှေလောင်းတစ်စင်းနှင့် ငွေတော် သုံးပိဿာ သနားတော်မူခြင်း ခံရပြန်သည်။ ဝင်တော်မူသည်တွင်လည်း ဘုန်းတော်ဘွဲ့ကို ဆက်သွင်းရာ သာယာဝတီမြို့တွင် ငွေသုံးပိဿာ သနားတော်မူသည်။ ထိုနောက် ဒေးဝန်းစံနန်းတော် ရေသဘင်ပွဲတော်တွင် လှေဘွဲ့နှင့် ဘုန်းတော်ဘွဲ့များကို ဆက်သပြန်ရာ ဆုတော်ငွေ သုံးပိဿာ ထပ်မံရရှိပြန်သည်။ ထိုနောက် သားတော် ပုဂံမင်းလက်ထက် သက္ကရာဇ် ၁၂၀၉-ခုနှစ်တွင် ကွယ်လွန်ရှာသည်။ စာဆိုတော် ဦးမင်းကို မင်းတရားကြီးသည် များစွာ မြှောက်စားတော်မူသည်ကို ထောက်သော် ဦးမင်းသည် ကဗျာလင်္ကာဖွဲ့နွဲ့ရာတွင် ထူးချွန်သော ပုဂ္ဂိုလ်ဖြစ်တန်ရာသည်။ စပ်ဆိုခဲ့သော ကဗျာအများအပြား ရှိသည့်အနက် ဘုန်းတော်ဘွဲ့များနှင့် ၁၂-ရာသီဘွဲ့ လေးချိုးကြီးတို့သည် ထူးခြားကောင်းမွန်၍ မြန်မာစာပေတွင် မှတ်တမ်းတင်ထိုက်သော စာများဖြစ်ကြသည်။ လေးဆစ်ရိုးရိုး အပေါ်တွင် ကန့်တက်၍ တန်ဆာဆင်ကာ ဖွဲ့နွဲ့ပြန်သော လေးချိုးကြီးများကို ဖိုးသူတော်ဦးမင်းက အစထွင်၍ ဖွဲ့နွဲ့သည်ဟု အများအယူရှိကြသည်။ စာဆိုတော် ဦးမင်းသည် ၁၂-ရာသီဘွဲ့ လေးချိုးကြီးကို တစ်ရာသီလျှင် တစ်ပုဒ်ကျစီ ခွဲ၍ ၁၂-ပိုဒ်ပြည့်အောင် စပ်ဆိုသည့်အပြင် နွေဘွဲ့၊ ဆောင်းဘွဲ့၊ မိုးဘွဲ့၊ ဘုန်းတော်ဘွဲ့၊ လေးချိုးကြီးတို့ကို အများအပြားပင် စပ်ဆိုလေသည်။ ဤလေးချိုးကြီးများ အဖွဲ့အနွဲ့တွင် စာဆိုတော်ဦးမင်းနှင့် ဖိုးသူတော်ဦးမင်းတို့သည် တစ်မျိုးတစ်ဖုံစီ ကောင်းကြပေသည်။ ဘုန်းတော်ဘွဲ့တွင် စာဆိုတော် လှူဦးမင်းက ဖိုးသူတော်ဦးမင်းထက် သာဟန်ရှိသည်။ ထိုကြောင့်ပင် ဘုရင်မင်းမြတ်၏ မြှောက်စားခြင်းကို ခံရသည်။ ဖိုးသူတော်ဦးမင်းကဲ့သို့ သာမည အကြောင်းအရာများဖြင့်သာ ဘုန်းတော်ကို မဖွဲ့ဘဲ ခမ်းနားကြီးကျယ်သော အသိုက်အဝန်း ဥပမာ ဥပမေယျတို့ဖြင့် တန်ဆာဆင်၍ ဖွဲ့တတ်သောကြောင့် ဖိုးသူတော်ဦးမင်းထက် ခမ်းနားနက်နဲသည်။ ဖိုးသူတော်ဦးမင်းသည် လှူဦးမင်းလောက် တည်ကြည်ခမ်းနားခြင်းမရှိ။ အပြောင်အပျက်များကို ရေးတတ်၍ ဩကာသ လောကကြီးတွင်လည်း လှူဦးမင်းလောက် စိတ်မဝင်စားတတ်ပေ။ လှူဦးမင်းသည် ဖိုးသူတော်ဦးမင်းကဲ့သို့ စိတ်ကူးထဲတွင် ပေါ်ပေါက်

လာသမျှသော အကြောင်းအရာတို့ဖြင့် မတင်းတိမ်သေးဘဲ ရှေးရှေး ဆရာကြီးများ၏ အဖွဲ့အနွဲ့များမှာလည်း ကောက်နုတ် အတုယူ၍ မိမိကဗျာများကို ခြယ်လှယ်တတ်၏။ အောက်ပါ ဘုန်းတော်ဘွဲ့ နှစ်ခုကို နှိုင်းယှဉ် ကြည့်ရာသည်။ ဖိုးသူတော်ဦးမင်းဆို ဘုန်းတော်ဘွဲ့တွင် . . .

ကွန့်ကွန့်သာ မြူးတော့တယ်၊ ကျွန်းဦးငယ် စုံသာမှာ ဘုံယာမာ ကြွေကျလို့၊ တေဇငယ် ရွှေဉာဏ်နှင့်၊ ဓဲယန်ဘုံ တည်ထိုက်ပေတဲ့၊ ပြည်သိုက်ဝင်၊ ၊မြစ်လောင်းငယ် ဂင်္ဂါ၊ မြသဉ္ဇာနှင့်၊ ဧရာရစ်ဝိုင်း၊ မြေကသိုဏ်းပေမို့၊ ရှေ့တိုင်းငယ် ဥတည်၊ ဂန္ဓာသည်လဲ၊ ထည်ပဏ္ဏာစုံ၊ ထပ်လို့သာ ပုံတော့တယ်၊ မြဂုဏ်စု မုန်ကူငယ်၊ ရာရိပ်ဖြူ ကညာသ ပေတဲ့၊ တိုင်းမျှ ဥကင်၊ ၊ဂန္ဓာရုံငယ်၊ ရဂုံရစ်သန်း၊ စုံတစ်တန်းနှင့်၊ မန္တလေးစက်၊ မျှုအောက်ချက်မှာ၊ ကနက်ကယ်ပစ္စူ၊ ဖြန့်မိုးထူက၊ ဇမ္ဗူပတ်ခြံ့၊ ကြားတိုင်းလန့်လို့၊ မြန့်တစ်မျက်နှာ၊ သာထက်သာပင်၊ သမ္ဘာတော်ရောင်၊ ကပ်ဆုံးသာ ပြောင်ရစ်ဖို့၊ အောင်သဘင်ဝယ်၊ နိသင်လွှန်ကဲ ဆုံးမြတ်ခေါင်ထိ . . .

အစရှိသည့်ဖြင့် ပထမ သုံးချိုးတွင် ဖွဲ့ဆိုသည်။ စာဆိုတော် လှူဦးမင်း၏ ဘုန်းတော် ဘွဲ့တွင်ကား . . .

ကွန့်ကွန့်သာ လှိုင်းတော့တယ်၊ မြန်တိုင်းဒီပါမှာ၊ တညီလာ နောင်ခြွေမဲ့၊ အောင်ဘေရိန် ဆော်ရွှန်းပေတဲ့၊ မော်ကွန်းစံတည်မှာ၊ ဖန်တစ်ခြည် နေနှုန်းပေသည့်၊ ရွှေဘုန်းဂုဏ်၊ ၊ရေနတ်ကယ်လှေရုံ၊ ဂဠုန်ပျံနှင့်၊ ဆဒ္ဒန်နာဂ၊ ပဏ္ဏာသလို့၊ သူရစစ်အောင်၊ စံစိုးထောင်လို့၊ မိုးခေါင် ညွှန့်မြစ်၊ ကွမ်းကသစ်နှင့်၊ ခေတ္တာသရေ၊ ဗျာဒိတ်ချွေသည်၊ ရွှေပြည် ဇေယျာ၊ မွန်နက်သံကို၊ ခွန်ခံရေးပိုင်၊ ကံကျွေးသာ ဆိုင်တော့တယ်၊ ပွားလှိုင်ပျံ့ ဇေယျာမှာ၊ ကေရာဖန်ကိုယ်ပွားပေမို့၊ ထွတ်ဖျားတိုင်အောင် မြှင့်သော်လဲ၊ ချီးခွင့်မကုန်၊ ၊မူအခြည်ဝယ်၊ ရစ်လည်ရုံဝိုက်၊ ခုနစ် တိုက်ထက်၊ မကိုင်ငှကယ် ကိန်းပျော်၊ ဓာတ်ဆံတော်နှင့် မမြော်နှိုင်းရာ၊ နန္ဒဝါလဲ၊ မာလာဂနိုင်၊ သီးပွင့်ဆိုင်၍၊ ဖြိုးခိုင်စွာလှ၊ ဝါသဝတို့၊ နာဂ စက်လည်၊ အောင်ချက်ကယ် တည်ခဲ့တဲ့၊ ပြည်ရန်လုံကို၊ ရှစ်စုံ နောင်စိုးမဲ့ မုဒ္ဒါဘိ . . .

စပယ်ဦးစာပေ

စသည်ဖြင့် ပထမသုံးချိုးတွင် စပ်ဆိုပေသည်။ ဤလေးချိုးကဗျာ နှစ်ပုဒ်၏ အနက် အဓိပ္ပာယ်ကို နှိုင်းယှဉ်၍ ချင့်ချိန်ဝေဖန်သော် စာဆိုသူ လှူဦးမင်း၏ ကဗျာက ပိုမို ခမ်းနား၍ ဥပမာ ဥပမေယျတို့ဖြင့် ကောင်းစွာ ဖွဲ့နွဲ့ထားကြောင်း တွေ့ရပေလိမ့်မည်။ သို့သော် မြောက်ပင့်လွန်းအားကြီးသဖြင့် အတိဝုတ္တဒေါသပင် သင့်လုမတတ် ရှိနေ၏။

> ကေရာ ဖန်ကိုယ်ပွားပေမို့၊ ထွတ်ဖျားတိုင်အောင် မြင့်သော်လဲ၊ ချီးခွင့် မကုန် . . .

ဟူ၍ စပ်ဆိုထားသောကြောင့် စာဆိုသူ လှူဦးမင်းကား ထူးချွန်သော အမြှောက် သမားကြီးပင်တည်းဟု အံ့သြတွေးဆမိပေသည်။ ရာသီဘွဲ့များတွင်လည်း စာဆိုတော် လှူဦးမင်း၏စာက ပိုမို၍ပြောင်သည်။ ပုံစံပြရမည်ဆိုသော် စာဆိုသူ နှစ်ဦးစလုံး စပ်ဆိုသော တပေါင်းလဘွဲ့ လေးချိုးကြီးကို နှိုင်းယှဉ်ကြည့်ပါမူ ဖိုးသူတော် ဦးမင်းက . . .

> မိန်အပိုင်းပေမို့၊ တိမ်လိုင်းမြူငွေမှာ၊ ဖြူပြေပြေ၊ ကျန်နှင်းနှင့်၊ ဖန်ဆင်း ဟန်တွေဆင့်ပါဘိ၊ ရေးခွင့်မြိုင်၊ ။ပုရစ်ကယ် ကိုက်စီ၊ အမြိုက်ကယ်ညီသည်။ ရွှေဖီထုံဝတ်၊ မှုံပန်းရည် ဆွတ်ရင်လ၊ ဘုံထွတ် ကယ် မိုးဆီ၊ ဘဂ္ဂဏီနှင့်၊ ယုန်သီတစ်စု၊ နဝင်းစံတူကြတယ်၊ နွေမူလ သဘင်ကို၊ ဆယ့်နှစ်ခွင် ဒွါဒစက်တွင်မှ၊ သာချက်ကယ်ကုန်လွန် ဆုံးပေမို့၊ မြတ်ဘုန်း ရှင်တော်မိန့်ရတယ်၊ စမ်းစိမ့်ဂနိုင် . . .

စသည်ဖြင့် အချိုးနှစ်ပိုဒ်တွင် စပ်ဆို၍ ထားသည်။ လှူဦးမင်းက ထိုထက် စုံလင်၍ လွှမ်းစရာကောင်းအောင် . . .

> မိန့်တြင်း ပေမို့၊ တိမ်နှင်း ပြန်ဘုံဝယ်၊ ရဂုံမှာ အရွှေဖက်လို့၊ လေရွက်ကျင် ခွေလျက်ပေတဲ့၊ နွေရက်ဝယ်၊ ။ငှက်ကျေးဝယ် သိုက်ဝင်၊ စရိုက်ကယ် ရွှင်သည်၊ ပင်စည်ပုရစ်၊ ကျန်ရွက်ရော် သစ်ရင်လ၊ မြမြစ်ကယ် ရင်ဘောင်၊ ကြူငွေသောင်မှာ၊ ယခေါင်စဉ်ရှည်၊ သဲစေတီ တည်မြဲမို့၊ ရှစ်မည်က မြူချီလျှင်၊ သရဖီ ရွှေလိုဝင်းလို့၊ အင်ကြင်း သန္တာညွန့်တို့၊ ဖူးကွန့်ကိုက်လှယ်၊ ။ကိန္နရီငယ် သံဂီလျော်ခုတ်၊ တောင်လက်ယာ ချုပ်ပေတဲ့၊ နတ်ရုပ်ကယ်ဆင်းအင်၊ ကြငှန်းရှင်လဲ၊

နောက်တွင် စိတ်ဖန်၊ ဖြေပရန်ကို၊ ရွှေဉာဏ်ခွဲဝက်၊ ခြေရေးတော်ခက်ကယ်နှင့်၊ ကျောက်စက်ကယ်တံခွန်၊ စိမ့်စန်း သွန်လို့၊ အဝှန်ရောင်ညီး၊ ပလောင်မီးလဲ၊ တောင်ကြီးငယ် သုတ်သင်၊ လုပ်ငန်းယာပြင်ကြတယ်၊ သဘင်ကျယ်ကို၊ လွမ်းနယ် ပုံပိုင်းလို့ တာမကျုံး၊ ၊ သံချိုငယ် မြည်ပြော၊ ကျော် ဥသြလည်း၊ ဖော်နှောငယ် မယ်မောင်၊ ငှက်ဖိုးခေါင်လဲ၊ နှောင်တခြည်ခြည်၊ ဗျာတော်စည်အောင်၊ သံရှည်ရင့်ရှု၊ မြိုင်မြင့်ငှက၊ လွမ်းကြူငြိမ့်ကြေ၊ လိမ့်ပစေသားနှင့်၊ ထွေတလာလာတြင်းသံသာတော့တယ်၊ နွေအာဒိ ဂိမှာန်ကို၊ နိဗ္ဗာန်ပိုင် ရှင်တော်စောတွင်မှ၊ ဟောခဲ့သာဆုံး . . .

ဟူ၍ ဖွဲ့ဆိုရာ ဖိုးသူတော်၏ လေးချိုးထက် အလွမ်းတွင် သာသည်။ ရာသီ၏ အခြေအနေကို သာမည ရိုးရိုးမဖော်ပြဘဲ ထိုအခြေအနေ၏ လွမ်းစရာကောင်းအောင် ဖန်တီးပုံတို့ကို ထင်ရှားအောင် ဖွဲ့ဆိုသည်။ ဤနေရာ၌ လူဦးမင်းသည် ၁၂–ရာသီ အဲချင်းကို ရေးသူ မယ်ခွေနှင့် တူသည်။ ဤကဲ့သို့ ရာသီ၏အခြေအနေ လွမ်းစရာ ကောင်းအောင် ဖွဲ့နွဲ့တတ်မှ စာဆိုကောင်းတစ်ယောက်ဟူ၍ ချီးမွမ်းသင့်သည်။ အချုပ်အားဖြင့်ဆိုသော် ဖိုးသူတော်ဦးမင်း၏ စာများသည် ဆေးတစ်မျိုးတည်းဖြင့် ခြယ်လှယ်ထားသော တော, တောင် အရုပ်ကားနှင့် တူ၏။ ကွက်ကွက်ကွင်းကွင်းကား ပေါ်၏။ စိတ်ဓာတ်ကို များစွာမထိခိုက်။ လူဦးမင်း၏ စာများကား ဆေးရောင်စုံဖြင့် ခြယ်လှယ်ထားသော တော, တောင်, အရုပ်ကားနှင့် တူ၏။ ကွက်ကွက်ကွင်းကွင်းလည်း ပေါ်၏။ စိမ်းစိုသော မြက်ခင်းနှင့် မှိုင်းညိုသော တိမ်တောင်တိမ်လိပ်များကို မြင်ရခြင်းဖြင့် စိတ်တွင် ထိခိုက်၍ ပိုမိုလွမ်းဆွတ်ဖွယ် ဖြစ်၏။

## မမြကလေး

သက္ကရာဇ် ၁၁၈၁–ခုနှစ်၌ ရတနာပူရ အင်းဝကြေငှန်းကို စတုတ္ထအကြိမ် ဖွင့်လှစ်တည်ထောင် ဖန်ဆင်း၍ စံမြန်းတော်မူသော ဘကြီးတော် မင်းတရားကြီး လက်ထက်တော်တွင် အမျိုးသမီးစာဆိုတော်များ ထွန်းကားပေါ်ပေါက်လာကြကုန်၏။ ဤအမျိုးသမီး စာဆိုတော်များအနက် ထူးခြားထင်ပေါ်သော မမြကလေးသည် ကုန်းဘောင်မင်း၏ အနောက်နန်း မိဖုရား ဖြစ်သည်။ အမရပူရမြို့တည် နန်းတည် ဘိုးတော်မင်းတရားကြီးလက်ထက် အိမ်တော်ပါ ကျွန်ဖြစ်သော တလိုင်းလူမျိုး

ဘိုးထော်ရာအား ပုသိမ်နယ် မိမိဇာတိမြုပ်ကျေးရွာကို သာရဝေါအမည်ပေး၍ ရွာစားသနားတော်မူသည်။ ဘိုးထော်ရာသည် ဝေါတော်အမှုထမ်း ဖြစ်သည်။ ဘိုးထော်ရာ၏သားကို သမိန်ထော်ရာဇာဘွဲ့နှင့် ပုသိမ်မြို့ဝန် ခန့်တော်မူသည်။ ပုသိမ်မြို့ဝန် မယားကြီး၏ မောင်အရင်းဖြစ်သူ ရေကင်းမြို့ဇာတိ ကိုဦးကို ရာဇသတ်၊ ဓမ္မသတ်ကျမ်းတို့၌ ကျွမ်းကျင်သောကြောင့် ဟင်္သာတမြို့ နယ်ပယ်တစ်ဝိုက်က ခုံသမာဓိအရာ တင်မြှောက်ကြသည်တွင် ဘုရင်မင်းမြတ် ကြားသိတော်မူ၍ မင်းပျံချီဘွဲ့ ပေးပြီးလျှင် သာရဝေါပဲ့နင်း ခန့်တော်မူသည်။ မင်းပျံချီသည် မယ်အိ ဆိုသူနှင့် အကြောင်းပါ၍ သက္ကရာဇ် ၁၁၇၁-ခုနှစ်တွင် မမြကြွတ်ကို ဖွားမြင်သည်။ လှပချောမွေ့ ယဉ်ကျေးပေသော မမြကြွတ်ကို အိမ်နီးပါးချင်းတို့က ချစ်ခင်သည့် အလျောက် မြမြဟူ၍ ခေါ်ကြသည်။ မမြကြွတ် အချိန်အရွယ်သို့ရောက်သည့်အခါ ကုန်းဘောင်မင်းသည် နောင်တော် ဘကြီးတော်မင်းတရားလက်ထက် သာယာဝတီ မြို့စား မင်းသားအဖြစ်နှင့်ရှိစဉ် ပုသိမ်မြို့သို့ စုန်ဆင်းတော်မူရာ သာရဝေါ ပဲ့နင်း မင်းပျံချီ၏သမီး မမြကြွတ်ကို မြင်တော်မူ၍ တိမ်းညွတ်တော်မူပြီးလျှင် သိမ်းပိုက် တော်မူသည်။ လွန်စွာမှ ချစ်မြတ်နိုးသည်ဖြစ်သောကြောင့် မြကလေးဟူ၍ ခေါ်စမှတ် ပြုသည်။ မြို့တော်သို့ရောက်သောအခါ မမြကလေးကို အိမ်ရှေ့မိဖုရားအဖြစ်နှင့် မြောက်အိမ်တော်တွင် ထားတော်မူသည်။ ထိုနောက် အိမ်ရှေ့မင်းသည် နောင်တော်၏ အရိုက်အရာကို ခံယူသည့်အခါတွင် မမြကလေးကို ရတနာပုံထက် ဘိသိက်သွန်း၍ သီရိမဟာသုရတနာစန္ဒာဒေဝီဘွဲ့နှင့် အနောက်နန်းတော်ကို ချီးမြှောက်ပေးသနား တော်မူသောကြောင့် အနောက်နန်း မမြကလေးဟူ၍ တွင်သည်။ ကုန်းဘောင်မင်း လက်ထက်တွင် ဘုရင် အမျက်တော်ရှိ၍ ကျည်းတိုက်၌ ချထားသည့်အခါ ပြေပြစ် သော ချစ်သမျှကို-အစချီသည့် ပတ်ပျိုးကို ဆက်သွင်းတော်မူရာ ဘုရင်မင်းမြတ် သနားတော်မူ၍ ကျည်းတိုက်မှ လွတ်တော်မူသည်။

မှတ်ချက်။ ။ချစ်သမျှကိုချီ ပတ်ပျိုးကို အချို့က မင်းကြီးကတော် ခင်ဆုံ ရေးသည်ဟု ဆိုကြပြန်သည်။

၁၂၀၇-ခုနှစ်တွင် မနာလိုသူတို့က မမြကလေးသည် ပြည်စားမင်းသားနှင့် နှလုံးစိတ်ဝမ်း ဇာကွဲမခြား ကြံရာပါ ဖြစ်သည်ဟု ကုန်းချောသော စကားကို ယုံကြည်တော်မူ၍ မမြကလေးကို ဆွေမျိုးတစ်စုနှင့်တကွ ထုံးစံအတိုင်း စီရင်တော် မူသည်တွင် အမျိုးသမီးစာဆိုတော် အနောက်နန်း မမြကလေးသည် အသက်တော်

၃၆-နှစ်မှာ ကံကုန်တော်မူရရှာသည်။ မမြကလေးသည် အလွန်ရဲရင့်သော အမျိုးသမီး ဖြစ်၍ သေမင်းကိုပင် ရင်ဆိုင်ဝံ့သူဖြစ်၏။ ဝမ်းတွင်း၌လည်း အလွန် တရား ပြည့်ဝပေသည်။ အသတ်ခံရမည့်ဆဲဆဲတွင် ရိုင်းပြစော်ကားစွာ မိမိဆံပင်ကို ဆွဲ၍ တွန်းလှဲသူ ပါးကွက်အာဏာသားကိုပင် ဆုံးမစကား သွန်သင်ပြောကြားခဲ့ သေး၏။ ထိုမျှမက သေအံ့ဆဲဆဲတွင် အောက်ပါ တေးထပ်ကို ရေးသား၏။

> လောကဓံတရား၊ ဘုရားပဟောရာ၊ ဖြစ်ပျက်မြဲ ဓမ္မတာ၊ သေချာစွာ မှတ်စွဲ၊ သတ္တဝါတို့ မည်သည်၊ မတည်ကြည်ဖောက်ပြန်တတ်မြဲ၊ ၊ ငါမင်းလို့ ပြုပြန်၊ ခံရသူ အသစ်ပ၊ အဖြစ်ဖြစ် အပြန်ပြန်၊ လွှဲသင့် ပေတန်၊ သခ်ါရ လမ်းမှန်ကို၊ ရွှေဉာဏ်တော် ရှုအုံးရှင့်လေး။
>
> (အပိုဒ် ၁၈-ပိုဒ် မပြည့်၊ အလယ်က ၆-ပိုဒ် ကျနေသည်။)

မမြကလေး ရေးသော ပတ်ပျိုးများကား...

၁။ ရှိစုံရွက်ကြာ အစချီသော ပတ်ပျိုး၊

၂။ နဝရတ်ရောင်စုံ-ချီ၊

၃။ ဂန္ဓမာရိပ်သာ ဖန်ဂူနန်းကလေ-ချီ၊

၄။ ရွှေဖိဂေါဇင်-ချီ၊

၅။ ဂန္ဓမာတောင် လိုဏ်ချောင်ဂူနန်း-ချီ၊

၆။ ချစ်သမျှကို-ချီ စသည်တို့ ဖြစ်ကြ၏။

ထိုအပြင် တေးထပ်များ၊ ဒွေးချိုး၊ လေးချိုး၊ တြိချိုးများ၊ ဘုန်းတော်ဘွဲ့ သီချင်းခံကြီးများကိုလည်း ဖွဲ့ဆိုလေသည်။ ဤဂီတကဗျာများမှအပ ဣန္ဒာဝုဒနန်းတွင်း ဇာတ်တော်ကြီးကိုလည်း မမြကလေးပင် ရေးသည်ဟု အယူရှိကြသည်။ တပ်အပ် သေချာစွာကား မပြောနိုင်ပေ။ မမြကလေးသည် ငယ်ရွယ်စဉ်ကပင် တေးကြီး၊ ဘွဲ့ကြီး၊ ကဗျာ၊ လင်္ကာ၊ ချေင်း၊ ရတု၊ ရကန်များကို အားထုတ်သင်ကြားလာသဖြင့် သံနေသံထားနှင့် စည်းဝါးကျကျ သီချင်းများကို သီဆိုနိုင်သည်။ ဤကဲ့သို့ မမြကလေးသည် ရူပါရုံ၊ သဒ္ဒါရုံတို့ဖြင့် အဆန်းတကြယ် သူတစ်ထူး၏ စိတ်ကို ယိုဖိတ် ညွှတ်နူးစေနိုင်သော သတ္တိနှင့် ပြည့်စုံသူဖြစ်သောကြောင့် ရွှေဘိုမင်း (ဝါ) ကုန်းဘောင်မင်း၏ ချစ်ခင်မြတ်နိုးခြင်းကို ခံရပေသည်။ မင်းတရားကြီး စိတ်ညစ်ညူး

တော်မူသည့်အခါ မိမိကိုယ်တိုင် ယုယုယယကြည့်ရှုကာ သီချင်းများကို သီဆိုဖွဲ့နွဲ့၍ စိတ်တော်ကို ပျော်ရွှင်အောင် ဖျော်ဖြေလေ့ရှိ၏။ မပြကလေးသည် မောင်တော် ရွှေဘိုမင်းကို လွန်စွာချစ်ခင် ရှိသေလှပေသည်။ ထိုကြောင့် စပ်ဆိုသော ကဗျာတိုင်းမှာပင် မောင်တော်ဘုရားအား တမ်းတဖွဲ့ဆိုသော စာပိုဒ်များကို တွေ့ရလေသည်။ ရွှေဘိုမင်းသည် မိဖုရားငယ် များစွာထား၍ အခြားဌာသာ အပျော်အပါး များနေဟန် တူသည်။ ထိုကြောင့် မပြကလေးသည် မောင်တော်အား တမ်းတ၍ နေဟန်ကို ကွက်ကွက်ကွင်းကွင်းပေါ်အောင်...

> ပြာပြာညိုရောင် မှိုင်းတလွဲ့လွဲ့၊ အာကာပြင် သောင်သိုင်း တချဲ့ချဲ့၊ ရွာလာပြန်လဲ တဖွဲ့ဖွဲ့၊ စက်မြုပန်းစုံ၊ သုံသုံငွေနှင်း၊ သွင်းလာပြန်၊ အိုပျော်ပဲ၊ သဲကြွေပန်းလို့၊ လွမ်းရန်ဆင်၊ သေချင်နှယ် ကြွတဲ့ကံ၊ ဖန်လာမှန်း၊ ဆိုငိုတမ်း၊ နန်းဘုံမြင့် ရိပ်ကြာလယ်၊ သုံးယံကြူးလို့ ဖူးမလွယ်၊ ကျွမ်းကြေဖွယ်လေ၊ စက်ရာဝင်ထင်လာရက်ကယ်နဲ့၊ ဆော် ကြက်ကယ် ညံ့ညံ့စီ၊ လင်းလုပြန်ပြီ...

အစရှိသော ပတ်ပျိုးကို ဖွဲ့နွဲ့ဆက်သတော် မူရာသည်။ မပြကလေးသည် နွဲ့နှောင်း ပျော့ပျောင်း၍ ယဉ်ကျေးသော မိန်းမသားဖြစ်သည်လည်း တစ်ကြောင်း၊ နန်းတွင်းသူ မိဖုရားဖြစ်သည်လည်းတစ်ကြောင်းတို့ကြောင့် အဖွဲ့အနွဲ့များမှာ သိမ်မွေ့နူးညံ့လေ သည်။ ၁၂၀၇–ခုနှစ်တွင် ပြည်မင်းနှင့် ကြံရာပါ ဖြစ်သည်ဟူ၍ မနာလိုသူတို့၏ ကုန်းချောစကားကြောင့် အမူရောက်ရမည့်ဆဲဆဲတွင်ပင် မောင်တော်ဘုရားအား တမ်းတသော ကြေကွဲဖွယ်ရာ ကဗျာအမျိုးမျိုးကို စပ်ဆိုခဲ့သေး၏။ မပြကလေးသည် တစ်ခါတစ်ရံ ဤလောကကြီးကို ငြီးငွေ့ဟန်တူသည်။ မောင်တော်ဘုရားကလည်း အထင်လွဲ၍ မုန်းတော်မူသဖြင့် အားကိုးရာမဲ့ဖြစ်သော မပြကလေးသည် စိတ်ရွှင် ပျော်ခြင်း မဖြစ်နိုင်တော့ဘဲ ဝတ်ကြောင်းကို ရန်း၍ လူပုန်းချင်သည့် စိတ်များ ပေါ်ပေါက်လာသောကြောင့်...

> သည် ခင်ခင် ပူသရွေ့ကိုလ၊ လူအတွေ့ ကြောက်တယ်၊ ငူအကွေ့ ချောက်အဆွယ်မှာ၊ တစ်ယောက်ကွယ် ရှောင်ပုန်း၊ သည်ခေတ်တွင် မယ်ကြည်အောင်၊ ဆယ်ပြည်ထောင် ချော့တော့မပြုံး၊ ၊မင်နိုင်ကြော့ ကော့ကော၊ ရှောပစေမထုံး၊ ကတော့မေပတ်သုံးနှင့်၊ အမြတ်ဆုံး ရည်ရွယ်၊ လံတစ်ရာ ငွေချည်ပေါက်၊ သေမည်လောက် ကြောက်တဲ့ခါဝယ်၊ ၊

ရွှေရည်သောက် လျှော်တောထည်ကို၊ ဖော်ဖြေမည် ဆင်မွေ့လို့၊ ရင်လေ့လေ့
ဓောတပသီ၊ စော၍တည်တည်၊ တောအကွေ့ သေလာဂီမှာ၊ မေဓာဝီ
လုပ်မယ် ဖျာ့လေး...

ဟူသော တေးထပ်ကို ရေးစပ် ဖွဲ့ဆိုလေသေးသည်။ ဤကဲ့သို့ ကဗျာဂီတအရာတွင် ထူးချွန်သော ဉာဏ်ဖြင့် ကျက်စားနိုင်ပေသော အမျိုးသမီးစာဆိုသည် ရှေးရှေးသော ဘဝက ဥပဓေ္ဆကကံထက် ထက်ကြပ်မကွာ လိုက်လာညှဉ်းဆဲအပ်သည်ဖြစ်၍ ငယ်ငယ်ရွယ်ရွယ်တွင် ဆုံးပါးပျက်စီးရခြင်းအတွက် စာဆိုလောကကြီးမှာ အထူး ဝမ်းနည်းကြေကွဲဖွယ် ဖြစ်ရတော့၏။ အသက်အတိုင်း နေရပါမူ ထိုထက်ကောင်းမွန်သော စာများကို ဖွဲ့ဆိုနိုင်ပေလိမ့်ဦးမည်ဟု တွေးထင်ဖွယ်ဖြစ်၏။ ဤကား အများ ပြောဆို မှတ်သားကြသော မမြကလေး၏ အကြောင်းအရာတည်း။

## ဦးရွှန်း

ဘကြီးတော်ဘုရား လက်ထက်တော်တွင် ပျို့ကဗျာများ ရေးဖွဲ့ရာ၌ အထူး ထင်ပေါ်ကျော်စောသော ပုဂံ ဆီးမီးခုံ ရွာစား ဦးရွှန်းသည် ဆင်ဖြူရှင်ဘုရားလက်ထက် အနောက်ဘက် တိုက်ဝန် ပုခန်းကြီးမြို့စား ဆားလင်းကုန်း မင်းကြီး မဟာရာဇ သင်္ကြန်၏ သမက်ဖြစ်သူ ပန်းချီတိုက် ဆားလင်းကြီးရွာ ဇာတိ လေးထပ်ကျောင်းနှင့် တကွ ရွှေမုဋ္ဌောဘုရားကြီး ဒါယကာ အမိန့်တော်ရ ဦးသူရ မနေ၏ သား ဖြစ်သည်။ ဦးရွှန်း၏ ဖွားသက္ကရာဇ်ကို ၁၁၂၇-ခုနှစ်ဟူ၍ ဆိုကြ၏။ အမှန်အားဖြင့်ကား...

ဘုရားသာသနာ၊ နှစ်ထောင်သာ၍၊ သုံးရာလွန်ရောက်၊ နှစ်ဆယ့်ခြောက်
ဝယ်၊ ရှေ့မြောက်သေန်၊ ဘူမိမွန်၌၊ ဗိမာန်ဌာန၊ အမရဘုံသစ်၊
တည်သည့်နှစ်နှင့်၊ တံတစ် မလွဲ၊ ပြောင်းဆဲလုလု၊ ရှေ့အားပြုလျက်၊
ဥတုဝဿ၊ ဘဒြတွင်၊ နေလေကြင့်၊ လက်မှတ် သိမ်မွေ့၊ စနေနေ့ဝယ်၊
အရှေ့ဝိဒေ၊ တက်ရောင်နေ၌၊ အောင်မြေ ဗဟိုရ်၊ နန်းရိပ်ခိုသည်၊ ၊
နဂို ငါတို့ ဖွားခါတည်း။

ဟူ၍ ဦးရွှန်း ကိုယ်တိုင် ရေးသားသည့် သုတသောမပျို့ နိဂုံးတွင် ဖော်ပြချက်အရ ၁၁၄၄-ခုနှစ်သာ ဖြစ်သည်ဟု မှတ်အပ်၏။ ဖွားသည့်အရပ်ကား အဝ မြို့တွင်ပင် ဖြစ်သည်။ ငယ်စဉ်ကပင် ဗေဒင်ကျမ်းများကို ဆည်းပူးလေ့လာ၍

ဘကြီးတော်ဘုရား မင်းသားဘဝနှင့်ရှိစဉ် စန္ဒကျော်ခေါင်ဘွဲ့နှင့် ခစား ထမ်းရွက်၍ ဗေဒင်သင်ကြား ပြသသည်။ ဘကြီးတော်ဘုရား နန်းတက်လျှင် အစ ၄၀–တော် သူရ ရွှေတောင် သွေးသောက်မှာ ဖွဲ့တော်မူသည်။ ထိုနောက် ဆိမီးခုံရွာ၊ သာထွန်းရွာ၊ ငနန်ရွာ၊ မြစ်ကိုင်းရွာများကို ရာဇဝတ်ရေးနှင့်တကွ ရွာစားသနားတော်မူသည်။ ဇောင်းကတ္တီပါနီ ရွှေသားဘွဲ့ သင်းကျစ်တပ်၊ ဝတ်လုံပဲရုံ၊ စလွယ် သွယ်ပျောင်း အဆောင်အရွက်ကြီး ရွှေထီး သနားတော်မူသည်။ ကသည်းစစ်၊ ကုလားစစ်များတွင် အမှုတော်ကို ရဲရင့်မြဲမြံစွာ ထမ်းရွက်သောကြောင့် လက်ရုံးရည်၊ နှလုံးရည်နှင့် ပြည့်စုံပေသည်ဟု မိန့်တော်မူ၍ ပုဂံမြို့ကို အစည်းအကြပ် ဗိုလ်ဝန်ခန့်တော်မူသည်။ ဘကြီးတော်ဘုရားလက်ထက်တွင် နောက်ဆုံးရသော ဘွဲ့သည်ကား မဟာမင်းလှ မင်းခေါင်ကျော်ဖြစ်သတည်း။ ရွှေဘိုမင်းတရားကြီး လက်ထက်တော်တွင်လည်း ဤဘွဲ့နှင့်ပင် ပညာရှိ စာဆိုတော်အရာနှင့် သားမယား အခြွေအရံများပါ ဝတ်စား နေထိုင်ရေးအတွက် ဆက်လက် သူကောင်းပြုသည်ကို ခံရသည်။ သားတော် ပုဂံမင်း လက်ထက်တွင်လည်း ထိုနည်းတူပင် ချီးမြှင့် သူကောင်းပြုခြင်း ခံရသည်။ မည်သည့် ခုနှစ်တွင် ကွယ်လွန်သည်ကိုကား မသိရပေ။ သက္ကရာဇ် ၁၂၁၁–ခုနှစ်တွင် ရေးသား ပြုစု၍ ပြီးစီးသော ဓမ္မဇေယျပျို့သည် ဦးရွှန်း၏ နောက်ဆုံးလက်ရာပင် ဖြစ်သည်။ ထိုကြောင့် ၁၂၁၁–ခုနှစ်နောက်မှ ကွယ်လွန်သည်ဟု ယူဆသင့်ပေသည်။ ဦးရွှန်း ရေးသားပြုစုခဲ့သော စာများကား . . .

၁။ တောင်ငူဆို ရတုအဖြေ၊

၂။ ဘကြီးတော်၏ သားတော် နားတော်သွင်း၊

၃။ ၎င်း သမီးတော် ဧချင်း၊

၄။ မဟာသုတ သောမပျို့၊

၅။ မဟော်ဥမင်ခန်း ပျို့၊

၆။ မဟော် ပြဿနာခန်း ပျို့၊

၇။ သရဘင် ပျို့၊

၈။ ဂါမဏိ ပျို့၊

၉။ မဟာဇနက ပျို့၊

၁၀။ ဥမ္မာဒန္တီ ပျို့၊

စပယ်ဦးစာပေ

၁၁။ ဓမ္မဓဇ ပျို့၊

၁၂။ တစ်ဘက်ပြ သတ်ပုံ၊

၁၃။ အာယုဒီဃ ဆေးကျမ်း လင်္ကာများနှင့် ရတုများ

ဖြစ်ကြသည်။ ဦးရွှန်း ရေးသားခဲ့သော စာများအနက် မဟာသုတသောမ ပျို့နှင့် ဥမ္မာဒန္တီ ပျို့သည် အကောင်းဆုံး ပျို့နှစ်စောင်ဖြစ်သည်။ မဟာသုတသောမ ပျို့ကို သက္ကရာဇ် ၁၂၀၁-ခုနှစ် သာယာဝတီမင်းလက်ထက်တွင် ပြုစုပြီးစီးသည်။ မြတ်စွာဘုရားသခင်သည် သမ္မာမ္ဗောဓိ၊ ပရိပါစက၊ သမ္ဘာရဆောက်ဦကို၊ လောက်ကူ ဖြည့်ကျင့်တော်မူစဉ်အခါ၊ မဟာသုတသောမ၊ ဇာတ်ဘဝ၌၊ ရသက ကျင့်ယွတ်၊ ခင်ပွန်းပျက်နှင့်၊ ပေါင်းဖက်သောအား၊ လူ့အသားကို၊ စားကြူးသည်တွင်၊ ပြည်ကနှင်၍၊ တောခွင်မြိုင်ထဲ၊ ကိုယ်ထီးကွဲလျက်၊ ဆင်းရဲကြီးစွာ၊ နေရရှာသော မဟာဗြဟ္မဒတ်၊ ပေါရိသာဒ်လျှင်၊ သဟဿာရဟာ၊ ဂါထာပြလျက်၊ သုတသောမ၊ ဘုရာ့အလောင်း၊ သူတော်ကောင်းနှင့်၊ ပေါင်းရပြန်ဘိ၊ တရားသိသဖြင့်၊ ဇာတိအောင်ခန်း၊ ပြည် ထီးနန်းနှင့်၊ သိမ်းမြန်းစိုးစံ၊ ဘိသိက်ခံရကြောင်းကို မိန့်သံသာယာ၊ အလင်္ကာဖြင့် တန်ဆာဆင်ထားသော ပျို့ဖြစ်သည်။ မဟာသုတသောမ ဇာတ်တော်ကို ညောင်ရမ်းခေတ်တွင် ကျော်စောထင်ရှားသော ဝရာဘိသင်္ဃနာထ ဆရာတော်သည် မဏိကုဏ္ဍလဝတ္ထုကြီးတွင် စကားပြေဖြင့် ရေးသားဖော်ပြ ပြုစုထားပြီးဖြစ်သည်။ သုတသောမ ပျို့၏ အဖွဲ့အနွဲ့များသည် ပြေပြစ်ချောမော၍ အဓိပ္ပာယ် ပေါ်လွင်သည်။ ခက်ခဲနက်နဲသော စကားများကို ဦးရွှန်းသည် မသုံးစွဲပေ။ ဤပျို့မှာ အများသူတို့ လိမ္မာရေးခြားရှိရန် မြော်ကိုး၍ ရေးသောကြောင့် ဦးရွှန်းသည် လွယ်ကူ၍ အနက်မထောင့်သော စကားလုံးများကို ရွေးကောက်စီစဉ်၍ သုံးထားဟန် တူသည်။ ဤပျို့သည် လောက၊ ရာဇ၊ ဓမ္မကြောင်း သုံးဘက်စလုံးတွင် စုံလင်သော ပျို့ဖြစ်သောကြောင့် ပညာရှိကြီးများ ချီးမွမ်းခြင်းကို ခံရပေသည်။ ဤပျို့၏ ကောင်းသော ဂုဏ်ကား ဆိုလိုသော တရားသရုပ်များကို ဖော်ထုတ်၍ ပြခြင်းပေတည်း။

ဆရာ စကား၊ မှတ်နာ နားဖြင့်၊ ခစားမပြတ်၊ ရှိညွှတ်ရိုသေ၊ လုပ်ကျွေးထွေမှ၊ ကောင်းလေသည်သာ၊ ဆရာလာလည်း၊ နေရာထပြီး၊ ခရီးဦးကြို၊ ဆိုသည်တစ်ခြား၊ ဤငါးပါးတွင် တရားမလစ်၊ မင်းသားဖြစ်လည်း . . .

စပယ်ဦးစာပေ

စသည်ဖြင့် တပည့်ဝတ်ငါးပါးကို ကျင့်ဆောင်ရမည်ဟု သာမညအားဖြင့် အပေါ်ယံက မပြဆိုဘဲ ရှေးဦးစွာ တပည့်ဝတ် ငါးပါး၏ သရုပ်အနက်ကို ဖော်ပြပြီးမှ ဤဝတ္တရားများကို ကျင့်ရမည်ဟု ညွှန်ပြပေသည်။ ဦးရွှန်းသည် ရည်ရွယ်ချက်အရ အမျိုးလေးပါးတို့အား . . .

လူဟွင် လူထွတ်၊ လူအမြတ်နှင့်၊ မပြတ်ဖူးတွေ့၊ တစ်နေ့တစ်ရက်၊
ခဏသက်မျှ၊ စပ်ရှက်နှစ်ခြိုက်၊ ပေါင်းရလိုက်မူ၊ ကောင်းမြိုက်သာရ၊
သုခကြွခိုင်၊ မနိုင်ကန်ဘိ၊ ကောင်းကျိုးရှိ၏။

ဟူသည်နှင့်အညီ သူတော်ကောင်း သုတသောမနှင့် တွေ့၍ ဒုက္ခမှ ကင်းလွတ်ရသော ပေါရိသာဒ၏ ထုံးကို နှလုံးသွင်းပြီးလျှင် သူတော်ကောင်း သူမြတ်လောင်းများနှင့် အမြဲမကွာ ပေါင်းသင်းစေလို၍ သုတသောမ ပျို့၌ သတိပေး နှိုးဆော်ထားပေသည်။ သုတသောမ ပျို့အပြင် အခြားထူးချွန်ကောင်းမွန်သော ဦးရွှန်း၏ လက်ရာသည် ဥမ္မာဒန္တီပျို့ ဖြစ်၏။ ဥမ္မာဒန္တီ ပျို့ဟောင်းကိုကား ငယ်မည် မောင်ဘူးကလေး၊ ဘွဲ့မည် ရွှေတောင်နန္ဒမိတ် စပ်ဆိုခဲ့လေသည်။ ဥမ္မာဒန္တီ ပျို့သစ်ကို ဦးရွှန်းသည် သက္ကရာဇ် ၁၂၁၀-ပြည့်နှစ်တွင် ဖွဲ့ဆိုလေသည်။ စိတ္တဇနာကို ပညာဖြင့် ကုသမှသာ ချမ်းသာနိုင်ခြင်း၊ ကုန်းတိုက်သူတို့ စကားကို မဆင်မခြင် ယုံကြည်မိသူတို့မှာ များစွာ အကျိုးယုတ်တတ်သည်ဖြစ်၍ သူတစ်ပါးတို့ စကားကို မိမိကိုယ်ပိုင်ဉာဏ်ဖြင့် အဖန်ဖန်စဉ်းစား ချင့်ချိန်ပြီးမှသာ ယုံကြည်မှု၊ မယုံကြည်မှု ပြုသင့်ခြင်းတို့ကို သိမြင်စေလို၍ ဤပျို့ကို ရေးဟန်တူသည်။ ဦးရွှန်းသည် ဗေဒင်ကျမ်းများကို များစွာ နိုင်နင်းသည့် အကြောင်းအရာကို ဥမ္မာဒန္တီ ပျို့တွင် အထင်အရှား တွေ့ရ၏။ ဤပျို့တွင် ခွဲထားသတ်ပုံများကိုလည်း တစ်ခါတစ်ခါ တွေ့ရ၏။ ဦးရွှန်းသည် တစ်ချက်ခုတ် နှစ်ချက်ပြတ် သဘောဖြင့် ပျို့၏ အရသာကို သုံးဆောင်စေလိုသည့် အပြင် ခွဲထားသတ်ပုံမှန်များကိုလည်း မှတ်သားစေလို၍ ရေးသားထားသောကြောင့် ဤပျို့မှာ ပလိပ်ရွာစား ဦးဖျော်၏ ချောင်းကဲ့သို့ ဂုဏ်ကျေးဇူး အထူးများပေသည်။ ဦးရွှန်းသည် ဤပျို့တွင် လောကကြောင်းနှင့် ရာဇကြောင်းကို ထင်ပေါ်စွာထုတ်၍ ဓမ္မကြောင်းကိုကား အုပ်၍ ရေးထားသည်။

ဥမ္မာဒန္တီကိုမြင်၍ မင်းကြီး ရူးသွပ်မတတ်ဖြစ်သည့်အခန်း၊ စစ်သူကြီးနှင့် မင်းကြီးတို့ စကားအချေအတင် ပြောခန်းများ၌ လောကကြောင်းနှင့် ရာဇကြောင်း

ဘက်တွင် ပေါ်လွင်အောင် နိုင်နင်းစွာ ဖော်ပြထားသည်။ ဤသို့ ဖော်ပြပြီးလျှင် မင်းကြီး၌ ဖြစ်ပေါ်လာသော စိတ္တဇ ဆင်ရိုင်းကို သတိပညာတည်းဟူသော ချွန်းဖြင့် အုပ်၍ ချုပ်တည်းသော အပိုင်းများမှာ ဓမ္မကြောင်းပင် ဖြစ်သည်။ သို့သော် ဤ ဓမ္မကြောင်းကား မထင်ရှားလှဘဲ လောကကြောင်း ရာဇကြောင်းတို့ကသာ လွှမ်းမိုး ထင်ရှားနေ၏။ ဥမ္မာဒန္တီကို မင်းကြီးမြင်၍ တိမ်းမပ်မူးမေ့ပြီးလျှင် တစ်ယောက်ထီးတည်း ညည်းညူတသ၍ မြည်တမ်းပုံ စကားများကို ဖွဲ့နွဲ့ထားရာ၌ ကရုဏာရသ လွန်စွာ ပေါ်သည်။ ထိုသို့ ညည်းညူနေပုံကို ရေးသားသည့်အတွင်း ဥမ္မာဒန္တီ၏ ချောမော လှပပုံ ရူပါပုံကိုပေါ်အောင် တစ်ခါတည်း ဖွဲ့နွဲ့သွားနိုင်သည်မှာ ချီးမွမ်းဖွယ် ဖြစ်သည်။

> အိမ်ကြီးရော၊ ပြူလေသာက၊ မာလာလက်ထဲ၊ ယူကာကြဲသည်၊ ပြိုင်တွဲ ယှဉ်ကြ၊ စံမရသား အလှနတ်လွန်၊ ဥမ္မာမွန်ကား၊ ဟေဝန်စုံကြော၊ မြိုင်ခြေတောဝယ်၊ တယောမိကြောင်း၊ စောင်းနှင့်လိုက်မှီ၊ ကခုန် တည်လျက်၊ ကိန္နရီမ၊ မျက်ချီလှနှင့်၊ ရွှင်ပြသံသာ၊ ကိန္နရာ၏၊ သည်းချာ နူးအောင်၊ နလုံးဆောင်သို့၊ မင်းခေါင်ယူကျုံး၊ ငါ့နလုံးကို၊ မှီအုံး ခွေအောင်၊ စုရုံးဆောင်၏၊ ရွှေရောင်ပျံ့ပျူး၊ ရွှေနဖူးနှင့်၊ ကော့ဖြူး မျက်တောင်၊ ရွှေမျက်မှောင်မှ၊ ရွှေရောင်ဝင်းလျှံ၊ ရွှေနှာတံတွင်၊ သံပုရာဖျား၊ ရွှေရွက်နားလည်၊ ပြန့်ကားရွှေသွေး၊ ရွှေလည်ရေး၌၊ ရွှေကျေးလည်ရစ်၊ ပေါ်စသစ်သို့၊ သနစ်ကုန်စင်၊ ရှုတိုင်းပင်လျှင်၊ ကောင်းအင်စုံစွာ၊ မယ်ဥမ္မာသည်၊ မာယာပန်းမွှေး၊ ငါ့ကိုပေး၍။ ။
> ကြင်ရေးဘွဲ့ရှာ လေသလော...

စသည်ဖြင့် မင်းခေါင်ညည်းတွား၍ နေပုံကို ပြသောအပိုဒ်များမှာ သုတိသာယာ၍ ဥမ္မာဒန္တီ၏ရုပ်ပုံကို ပေါ်လွင်စေသဖြင့် ကရုဏာရသနှင့်လည်း ပြည့်စုံ၏။ ပျို့ တစ်ခုလုံးတွင် ဤနည်းနှင်နှင်ချည်းတည်း။ ထိုမှတစ်ပါး မင်းခေါင်နှင့် စစ်သူကြီးတို့ နီးနှော ချေတင် စကားစစ်အင်ထိုး၍ အပြန်အလှန် ပြောဆိုနေကြဟန် အပိုင်း များမှာလည်း များစွာအတုယူစရာ ဖြစ်၏။ ဆင်ခြေဆင်လက်ပေးပုံတို့မှာ လွှတ်တော် အမိန့်တော်ရ ဦးသူရမန၏ သားပီပီ လွန်စွာထိမိလှပေ၏။ ဦးရွှန်း၏ အခြားပျို့ များသည်လည်း တစ်မျိုးစီကောင်းကြပေသည်။ ဥမ္မာဒန္တီပျို့နှင့် သုတသောမပျို့ တို့သည်ကား အမျိုးလေးပါးအား များစွာ အကျိုးဖြစ်ထွန်းစေနိုင်သော ပျို့နှစ်စောင်

ဖြစ်သည့်အတွက် ဦးရှုန်းရေး အခြားပျို့များထက် သာလွန်ကောင်းမွန်သည်ဟု ထင်မြင်ချက် ပေးလိုပါသတည်း။

## မောင်စံသူ မှာတမ်း

ရှေးအစဉ်အလာက မောင်စံသူဟု ခေါ်ဝေါ်ခဲ့ကြသော်လည်း ကျွန်ုပ်တို့ကမူ ရှေးလူကြီးများကို အရိုအသေပြုသောအားဖြင့် ဦးစံသူဟု ခေါ်သင့်၏။ မဟာရာဇဝင်ကြီး ဆရာကို ရှေးက မောင်ကုလားဟု ခေါ်ခဲ့ကြရာ ကျွန်ုပ်တို့က ဦးကုလားဟု ခေါ်ဝေါ်ခြင်းပြုခဲ့ပြီ။ ဦးစံသူ ရေးသားခဲ့သည့် မှာတမ်းများကို စုဆောင်း ပုံနှိပ်ကာ ရန်ကုန်မြို့ သူရိယသတင်းစာတိုက်က မောင်စံသူကို ရွှေနန်းဘွဲ့မှာတမ်း ဟူသော အမည်ဖြင့် စာအုပ်ထုတ်ဝေထားသည်။ ဦးစံသူ၏ အတ္ထုပ္ပတ္တိကြောင်းရာကိုကား ရှေးစာဟောင်း အမှတ်အသား မတွေ့ရသဖြင့် မွေးဖွားသည့် သက္ကရာဇ်၊ မွေးဖွားရာ ဒေသ၊ မိဘမျိုးနွယ် စသည်တို့ကို မသိနိုင်ချေ။ သို့ရာတွင် ရေးသားခဲ့သည့် မှာတမ်းစာစုကို ဖတ်ရှုချင့်ထောက်သဖြင့် အောက်ပါအကြောင်းအရာများကိုကား ထင်ရှားသိသာ၏။

မှာတမ်းစာအုပ် အပုဒ်ဦးရေ နံပါတ် ၅၀–တွင်

သီရိကောဇာ၊ ထောင်ကသာ၍၊ ရာနှင့်ရှစ်ဆယ်၊ စွန်း၀ယ်နှစ်ခု၊
နွေအားလု၊ ရတုဂိမှာန်၊ တာပြန်ကဆုန်...

ဟူသော စကားကို တွေ့ရသဖြင့် ဤမှာတမ်းကို ဘကြီးတော်မင်းတရား နန်းတက်၍ တစ်နှစ်ခန့်အရှိတွင် ရေးကြောင်း သိသာ၏။ ဘကြီးတော်မင်းတရား၏ ၁၁၈၁–ခု၊ နယုန်လဆန်း ၁၄–ရက်နေ့တွင် နန်းတက်သည်။ ထိုအခါ အင်း၀မြို့ကိုပင် ပြန်လည် တည်ထောင်ခြင်း မပြုရသေး။ ၄–နံပါတ် အပုဒ် မှာတမ်းကိုကား...

မြန်တိုင်းရွှေ၀၊ မဏ္ဍလထွတ်၊ မင်းပွဲစည်သည်၊ ရာပြည်ညွှတ် တုန်းက...

ဟူသော စကားပါရှိသည်ကို ထောက်သဖြင့် အင်း၀မြို့သို့ရောက်မှ ရေးသည်ဟု မှတ်အပ်၏။ ထိုအတူ...

မဏ္ဍိုင်ဓိပတိ၊ ဂိရိကျွန်းခုံ၊ မင်းဝန်ဘုံစည်တုန်းက...

ဟူသော စကားပါသည့် ၁၆-နံပါတ် မှာတမ်းကိုလည်း အင်းဝမြို့ဖြစ်ဟူ၍ပင် မှတ်ယူသင့်သည်။ အင်းဝမြို့ကို မင်းဝံတောင်ညွန့်ဖြစ်သော သန်လျက်ကျွန်းခုံအရပ်တွင် တည်ကြောင်းနှင့် ရာဇဝင် ဘကြီးတော် မင်းတရား အခန်းမှာပင် အထင်အရှား ပြဆိုသည်။ ထို့ပြင်...

ရတနာပူရိန်၊ ရစာဂိန် ရန်လွှင့်နှင့်၊

ဟု အစချီသော ၃၁-နံပါတ်မှာတမ်း၊

ပြည်တွင်ရွှေဝ၊ မြတွင်လည်း ဝေဘူ...

ဟူသော စကားပါရှိသည့် ၃၃-နံပါတ် မှာတမ်း၊

ရွှေဝဖြင့် ဝေဘူ၊ ကြငှာန်းရည် တူသည့်နယ်...

ဟူသော စကား ပါရှိသည့် ၃၄-နံပါတ် မှာတမ်း၊

မင်းဝံဘုံဖျားမှာ၊ တည်ထားသဘင်၊ မြင်းဆင်မိုလ်ထု၊ ပျော်ခင်းတော်
ရှုချိန်မို့...

ဟူသော စကားပါသည့် ၅၄-နံပါတ် မှာတမ်းများလည်း အင်းဝမြို့မှာဖြစ်ကြောင်း ထင်ရှား၏။ ဤပြခဲ့ပြီးသော မှာတမ်းများကို ထောက်သဖြင့်ပင် ဦးစံသူသည် ဘကြီးတော် မင်းတရားလက်ထက်က စ၍ ထင်ရှားသော ပုဂ္ဂိုလ်ဖြစ်ကြောင်း သိသာသည်။

ထိုနောက် အမရပူရ၊ ဒုတိယမြို့နန်းတည် ရွှေဘိုမင်းတရားလက်ထက်တော်မှာလည်း မှာတမ်းရေးသား ထင်ရှားရှိနေကြောင်းကို မှာတမ်း ဦးရေ နံပါတ် ၁၊ ၅၊ ၉၊ ၁၃၊ ၆၀-တို့ကို ထောက်သဖြင့် သိသာပြန်၏။ ၁-နံပါတ်မှာ...

အမရ စံခေါင်၊ ရွှေတောင်ရန်လုစ်၊ ဒီပရာဇ် ခွန်သ...

ဟူ၍လည်းကောင်း။ ၅-မှာ...

အမရ မန်းမြေ၊ ပရမေစံလွှတ်၊ တမွတ်သိရိ၊ ဒုတိယနန်းတည်...

ဟူ၍လည်းကောင်း။ ၉-မှာ...

အမရရွှေဘုံ၊ ရှစ်စုံလှစ်ချက်၊ ကနက်ထောင်စိုက်၊

ဟူ၍လည်းကောင်း။ ၁၃–မှာ...

နက်သန် ပရမ၊ အမရ ရန်ချွေ၊ သည်ရွှေမြေအောင်ချာက...

ဟူ၍လည်းကောင်း။ ၆၀–မှာ...

အမရ ဓိပတိ၊ သိရိကျက်သရေ၊ ပရမေစံခေါင်...

ဟူ၍လည်းကောင်း အသီးသီးပါရှိလေသည်။

ဤပြအပ်ပြီးသောအတိုင်း ဘကြီးတော် မင်းတရားနှင့် ရွှေဘိုမင်းတရားတို့ လက်ထက်တွင် ဦးစံသူ ပေါ်ထွန်းကြောင်း ထင်ရှားသိရှိရသော်လည်း ဦးစံသူ တစ်ဦးသာ မှာတမ်းကို ရေးခဲ့သည်။ အခြားပုဂ္ဂိုလ်တစ်ဦးဦးမျှ မှာတမ်းကို မရေးကြ ဟူ၍ကား မမှတ်သင့်၊ ဦးစံသူ မပေါ်မီကဖြစ်စေ၊ ဦးစံသူ လက်ထက်မှာဖြစ်စေ၊ အခြား မှာတမ်းရေး ဆရာများလည်း ရှိပေဦးမည်။ သို့ရာတွင် ထိုဆရာများ၏ မှာတမ်းစုကို မတွေ့ရဘဲ ဦးစံသူ၏ မှာတမ်းစုကိုသာ ယခု ထင်ရှားတွေ့ရသည်။ ဤသို့ ဖြစ်ရခြင်းမှာ အခြားဆရာများ ရေးသားကြသော မှာတမ်းတို့သည် ဦးစံသူ မှာတမ်းလောက် မကောင်းသည့်အတွက် အစဉ်အဆက် မှတ်သားမထားကြသော ကြောင့် ပျောက်ကွယ်ကုန်လေသည်။ ဦးစံသူ မှာတမ်းသာလျှင် စကားသိပ်သည်းခြင်း၊ စကားလုံးခန့်ခြင်း၊ စကားအသုံးပိုင်ခြင်း၊ ဥပမာပေးကောင်းခြင်း၊ စာသွားပြေပြစ် ချောမောခြင်း စသည်တို့ကြောင့် အစဉ်အဆက် နှစ်သက်လေးစားမှတ်သားလာခဲ့ ကြသဖြင့် ယခုကာလတိုင် ထင်ရှားရှိနေသည်ဟု မှတ်ယူသင့်လေသည်။ ဦးစံသူ မှာတမ်း၏ စကားသိပ်သည်းပုံ စသည်တို့ကို စာကိုယ်မှ ပုံစံထုတ်ပြနေလျှင် ရှည်လျားနေမည်စိုးသဖြင့် မပြတော့ပြီ။

မှာတမ်းဟူသည် သမီးရည်းစား ပေးစာပင် ဖြစ်၏။ ရေးသားနည်းမှာ တစ်ဖက်သား မချစ်ချစ်အောင်၊ မကြင်နာ ကြင်နာအောင်၊ မသနား သနားအောင် သွေးဆောင် အောက်ကျို့ ချော့မော့ ဖြားယောင်းကာ လင်္ကာနဘောတို့ဖြင့် အလွန် ပြေပြစ်သော စာသွားအတွင်းမှာ ဒွေးချိုး၊ လေးချိုး၊ သဖြန်များကို ထည့်သွင်း ရေးသားရလေသည်။ အမည်ကိုကား သမီးရည်းစားတို့ တစ်ဦးထံတစ်ဦးက မှာထားသော စာတမ်းဖြစ်၍ မှာတမ်းခေါ်သည်ဟု ပြောဆိုကြ၏။ ဤအလိုတော်

စာတမ်းဟူသော စကားမှာ မ–အသတ်နှင့် ရေးရမည်ဖြစ်၍ ဤအတိုင်းလည်း အရေးများကြသည်။

အခြားသော ဆရာတို့ကမူကား ကဝိလက္ခဏာသတ်ပုံ မ–သတ်ပြသည့် အပိုင်းမှာ စာတမ်းဟူသော စကား မပါရှိ။ န–သတ်ပြ အပိုင်းမှာလည်း မပါချေ။ ဆကာရန္တနယသတ်ပုံ၌ကား တဝမ်းပူ မ–သတ်နှင့် ရေးရမည့် စကားများကို...

အပြား နှုန်းတမ်း၊ လောင်းတမ်း ခွဲတမ်း၊ သဘောတမ်းတည့်၊ မြည်တမ်း ကြွေးကြော်၊ ခေါ်ကာဆိုက်တမ်း...

ဟူ၍သာ ပြဆိုသည်။ ထိုအထဲမှာ စာတမ်းဟူသော စကားမပါ။ မ–သတ်ပြ သတ်ပုံ လင်္ကာ အဆုံး၌...

ယင်း ဝေါဟာရ၊ ကြွင်းသမျှမှာ၊ အက္ခရာ ရေးထုံး၊ အသုံးထွက်ရာ၊ န–သတ်မှာသည်။ ။သေချာမှတ်ထွေ စွဲသုံးတည်း...

ဟု ပြဆိုထားသောကြောင့် ကြွင်းသမျှထဲတွင် ပါဝင်သည့်စာတမ်း–ဟူသော စကားကို န–သာ သတ်သင့်သည်။ သို့ဖြစ်၍ မှာတမ်း–ဟူသော စကားမှာ အမှာစာတမ်းဟု အဓိပ္ပာယ် မပြန်သင့်။

အမွေဝေခြမ်း၊ ညီအောင်ပျမ်း၊ ခွဲတမ်းစာမကိုင်...

ဟူသော ကဝိလက္ခဏာ သံပေါက်လာ– ခွဲတမ်းစာ– ဟူသကဲ့သို့ မှာတမ်းစာ– ဟု ပြန်ဆိုသင့်သည်။ ခွဲတမ်းစာ–မှာ ခွဲဝေမြဲ ထုံးတမ်းစာဟု အဓိပ္ပာယ်ရယူသကဲ့သို့ မှာတမ်းစာမှာလည်း သမီးရည်းစားတို့ မှာမြဲထုံးတမ်းဖြစ်သောစာဟု အဓိပ္ပာယ် ယူရမည်။ ထိုအတူ အမိန့်တော်ပြန်တမ်းဟူသော စကားမှာလည်း အမိန့်တော်ပြန်သည့် စာတမ်းဟု အဓိပ္ပာယ်မယူဘဲ အမိန့်တော် ပြန်မြဲ ထုံးတမ်းစာ–ဟူ၍သာ ယူသင့်သည်။ စာတမ်းဟူသော စကားမှာကား ဟောင်းသောစာကို စာဟောင်း၊ သစ်သောစာကို စာသစ်၊ ကောင်းသောစာကို စာကောင်း–စသည် ခေါ်ဝေါ်သကဲ့သို့ စီတန်း ရေးသားထားသော စာဖြစ်၍ စာတန်း–ခေါ်သည်။ သို့ဖြစ်၍ န–သတ်တန်း နှင့်သာ ရေးသားသုံးစွဲရမည်ဟု မိန့်ဆိုကြကုန်၏။ အကြောင်းယုတ္တိ ရှိလှပေသည်။ ။ပြခဲ့ပြီးသောအတိုင်း သမီးရည်းစား ပေးစာကိုသာလျှင် မှာတမ်းအဖြစ်ဖြင့် တိုင်းပြည်တွင် အထင်အရှား အများခေါ်ဝေါ်နေကြ၏။ သမီးရည်းစား ပေးစာသာ

မဟုတ်သေး။ ရှေးမြန်မာမင်းများလက်ထက် ဗြဲတိုက်က လွှတ်တော်သို့လည်းကောင်း၊ လွှတ်တော်က ဗြဲတိုက်သို့လည်းကောင်း ပေးပို့ကြသော အမှာစာများကိုလည်း မှာတမ်းဟူ၍ပင် ခေါ်ဝေါ်ကြောင်းကို သတိပြုကြရာသည်။

## ဦးကြင်ဥ

ဤခေတ်တွင် ထူးခြားသော ပြဇာတ်များလည်း ပေါ်ထွက်လာ၏။ ရှေးက မဏိကက် ရတနာ့ကြေးမုံ စသော နန်းတွင်း ပြဇာတ်ကြီးများ ပေါ်ပေါက်ခဲ့လေပြီ။ ဘကြီးတော်လက်ထက်တွင်လည်း အိနောင်ပြဇာတ်တော်ကြီးများ ပေါ်ပေါက်ခဲ့ပြန်သည်။ သို့သော်လည်း ဤပြဇာတ်များသည် လွန်စွာရှည်လျားသည်ဖြစ်သောကြောင့် ဇာတ်သဘင် ခင်းကျင်းပြသရန်အတွက် ရည်ရွယ်၍ ရေးဟန်မတူ။ အပျော်ဖတ်ရန်အတွက်သာ ရည်ရွယ်၍ ရေးဟန်တူသည်။ အကယ်၍ ဇာတ်သဘင် ခင်းကျင်းပြသရန် ရည်ရွယ်ပါလျှင် စကားအစီအစဉ် များပြားလွန်း၍ အာဂုံကျက်မှတ်နိုင်ကြမည် မဟုတ်ပေ။ အကယ်၍ ဤနန်းတွင်းဇာတ်တော်ကြီးများကို ခင်းကျင်းကပြလျှင်လည်း တစ်ညဥ့်အတွင်း၌ပင် ဇာတ်ကွက်လည်၍ ဇာတ်ဆုံးခန်းတိုင် ရောက်မည်မဟုတ်။ ရက်ရှည်လများ ဆက်လက်၍ ပြသရသောကြောင့် လူတိုင်းငြီးငွေ့ကြကုန်ရာ၏။ ထိုကြောင့် တစ်ညဥ့်တွင်းပင် ဇာတ်ကွက်လည်၍ ဇာတ်ခန်းဆုံးအောင် ကပြနိုင်ရန် ဒဏ္ဍာရီပြဇာတ်တိုကလေးများကို ရေးသားပြုစုရလျှင် ကောင်းမည်ဟု အကြံရသော ပြဇာတ်ဆရာကြီးသည်ကား ဦးကြင်ဥ ဖြစ်၏။ ဦးကြင်ဥသည် မြေထဲမြို့ စီရင်စု၊ ဆင်ပေါင်ဝဲရွာဇာတိ ဖြစ်လေသည်။ မည်သည့် သက္ကရာဇ်တွင် ဖွားမြင်ကြောင်းကို မသိရသော်လည်း ဘကြီးတော်လက်ထက်၊ ရွှေဘိုမင်းလက်ထက်၊ ပုဂံမင်းလက်ထက်များတွင် ထင်ရှားကျော်စောသော ပုဂ္ဂိုလ်ဖြစ်သည်။ အသက်အရွယ်ကြီးရင့်သည့်အခါ ပြဇာတ်များ မရေးသော်လည်း ဒေသန္တရဗဟုသုတအလို့ငှာ ဆင်ပေါင်ဝဲရွာမှ လှည့်လည်ရာ ပုသိမ်မြို့သို့ ရောက်ကြိုက် ငါးအမျိုးမျိုး၊ ခရုအမျိုးမျိုး မြင်ရသည်တွင် . . .

ကြံ့စဖူး၊ မြင်ဖူးမှ ယုံစဖွယ်၊ ဖြူ နီ ဝါ ပြာတစ်စုနှင့်၊ ခရုထွေလာဆန်း၊
ကမ်းကွေ့ပတ်လည်၊ ရွှေမင်တံသံပခြုပ်နှင့်၊ ဟန်ရုပ်ပြေ သွယ်သွယ်၊

နတ်မယ်လျှဆံထိုး၊ ၊ဝင်ကစွတ်၊ မြင်ဆွတ်က ကြည့်ဖို့ရာ၊ ဟိုသို့လာ
သည်သို့သွားနှင့်၊ အငှားခန္ဓာမြှောင်ရတယ်၊ ဆန်းခေါင်းထိမျိုး . . .

အစရှိသော လေးဆစ်များကို စပ်ဆိုလေသည်။ ဝါသနာပါသည့် ကဗျာကို မည်သို့ပင် လက်လွတ်မည် ကြံသော်လည်း ဆန်းကြယ်သော သဘာဝမေ့အဖြစ်အပျက်များကို တွေ့ကြုံလာသောအခါ စိတ်လည်၍ ကဗျာနှင့် အိုးစားမခွဲနိုင်အောင် ရှိပြန်တော့သည်။ ထိုဆရာကြီး ရေးသားသော ကဗျာများသည် စကားကြောမရှည်မစင်း လိုရင်း အချက်သို့ ရောက်အောင် တိုတိုတုတ်တုတ်ရှိလှသဖြင့် ဖတ်ရှုနာခံသူတို့၏ စိတ်နှလုံးကို စုရုံးထိခိုက်စေနိုင်သော သတ္တိရှိခြင်းကြောင့် ထိုကဗျာများကို နန်းတော် အိမ်တော်အသီးသီး ရပ်ကြီး ပြည်ကြီးတစ်ဝိုက်တွင် နှစ်ခြိုက်စွာ သုံးစွဲကြကုန်သည်။ ထိုဆရာကြီး ဦးကြင်ဥ ရေးသားပြုစုခဲ့သော စာတို့သည် များစွာရှိသော်လည်း ထိုကာလက စာပုံနှိပ်စက်များ မပေါ်ပေါက်သေးရကား လက်ရေး ပေစာဖြင့် ကူးယူကြရသောကြောင့် တစ်ဆင့်မှတစ်ဆင့် အပြောင်းအလွဲတွင် ချွတ်ချော်မှားယွင်း၍ မူကွဲပြားချက် အဖုံဖုံ တွေ့ကြုံကြရလေသည်။ ထိုပြင် လက်ရေးဖြင့် ကူးယူမထားမိသော စာများသည်လည်း တိမ်ကောပပျောက်ကြရလေတော့၏။ တွေ့ရှိမှတ်သားရသမျှသော စာများကား-

၁။ ဘုရားဟော ကျမ်းဂန်လာ= မဟော်သဓာ ပြဇာတ်၊

၂။ ငှင်း -ဝေဿန္တရာ ပြဇာတ်၊

၃။ ဒဏ္ဍာရီ -ဒေဝကုမ္မာန် ပြဇာတ်၊

၄။ ငှင်း -ဝဏ္ဏ္ဏ ပြဇာတ်၊

၅။ ငှင်း -ပါပဟိန် ပြဇာတ်၊

၆။ ငှင်း -ကာလကဏ္ဏိ ပြဇာတ်၊

၇။ ရတုအမျိုးမျိုး၊

၈။ သီချင်းဆန်း အမျိုးမျိုး၊

၉။ ၁၂ ရာသီဘွဲ့ ညည်းချင်း၊ မိုးဘွဲ့ ညည်းချင်း၊ တောတောင်ဘွဲ့ ညည်းချင်း၊ ဓော်ဂီ ညည်းချင်း၊ သန်းခေါင်အချိန် ညည်းချင်း၊ မုဆိုး စကားအမျိုးမျိုး၊ ဆိုင်းဆင့် အမျိုးမျိုး အစရှိသော သီချင်းပဒေသာများဖြစ်သည်။

တစ်ညဥ့်တွင်းချင်း ကပြနိုင်သော ယခုအခါ ထင်ရှားတွေ့ရှိသမျှ ပြဇာတ်တို့တွင် ဦးကြင်ဥ ရေးသားခဲ့သော ပြဇာတ်များသည် ရှေးအကျဆုံးဟု ဆိုဖွယ်ရှိ၏။ ဦးကြင်ဥသည် မည်သည့် ပြဇာတ်ကိုမဆို ကပြသောအခါ အကြောင်းသက်ဆိုင်ရာ ဇာတ်ကွက်တွင် သီဆို အသုံးပြုရန်ဖြစ်သော ဇာတ်ချင်းတို့ကိုလည်း ရေးသားလေသည်။ ဒေဝကုမ္မာန် ပြဇာတ်ကို မည်သည့်ကာလ၊ မည်သည့်ဌာနတွင် ရေးသည်ဟု အတည်တကျ မဖော်ပြနိုင်သော်လည်း မြန်မာစာညွန့်ပေါင်း ကျမ်းတွင် ဦးကျော်ဒွန်းကမူ ဘကြီးတော်လက်ထက် ရေးသားကြောင်းနှင့် ပြဆိုသည်။ မန္တလေးမြို့တည် နန်းတည် မင်းတုန်းမင်းတရားကြီးလက်ထက်တော်တွင် ဤပြဇာတ်သည် အထူးထင်ပေါ်ကျော်စောသည်။ မင်းတရားကြီးသည် ၁၂၂၈–ခုနှစ် နယုန်လတွင် မန္တလေးတောင်ခြေတွင် စံနေတော်မူကြိုက် အလုံဝန် သပြေငါးရွာစား ကင်းဝန်မင်းကြီး ဦးကောင်းရေးသော ရတနာနဒီ မော်ကွန်းနှင့် စလေဆရာကြီး ဦးပုည ရေးသော ရတနာနဒီ မော်ကွန်းတို့ကို ရှေ့တော်တွင် ယှဉ်ပြိုင်ဖတ်လျှောက်စေရာ စာ၊ မြင်း၊ လှေများကို တစ်စောင်၊ တစ်စီး၊ တစ်စင်း တည်းမျှဖြင့် ချိုးမွမ်းခြင်းငှာ မပိုင်၊ ယှဉ်ပြိုင်ကြည့်မှ သိရသည်ဟု အမိန့်တော်ရှိသော စကားနှင့်ဆက်သွယ်လျက် အထက်က ဆရာကြီးဦးကြင်ဥ ရေးသားသော ဒေဝကုမ္မာန်ပြဇာတ်နှင့် စလေဆရာကြီး ဦးပုညရေးသော ဝိဇယပြဇာတ်တို့တွင် အချို့မှူးမတ်တို့က ဒေဝကုမ္မာန်ပြဇာတ်ကောင်းသည်၊ အချို့မှူးမတ်တို့က ဝိဇယပြဇာတ် ကောင်းသည်ဟူ၍ ငြင်းခုံဖြစ်ပွားသည့် စကားရပ် ထပ်မံဖြစ်ပေါ်ပြန်သည်နှင့် ထိုနှစ်တန်သော ပြဇာတ်တို့ကို ယှဉ်ပြိုင်ဖတ်လျှောက်စေရာ ဦးကြင်ဥရေးသော ပြဇာတ်များအနက် အညံ့ဆုံးဟူ၍ ဆိုသင့်ဆိုထိုက်သော ဒေဝကုမ္မာန်ပြဇာတ်က တုတ်တုတ်တိုတို အပိုအလိုမရှိ ထိမိသိပ်သည်းစည်းစနစ်ကျပေသည်။ ပြဇာတ်ရေးမှုတွင် စံတင်သင့်ပေသည်ဟု မင်းတရားကြီးမိန့်တော်မူကြောင်းလည်း အမှတ်အသားရှိရုံမျှမက ဦးပုညသည် ဤသို့မိန့်တော်မူကြောင်းလည်း ကြားသိပြန်သည်နှင့် ဒေဝကုမ္မာန်ဇာတ်သဘောသွားအတိုင်း ရေးသားသော ကောသလဇာတ်ကို ထိုစံနန်းတော်မှာပင် မင်းတရားကြီးအား ဆက်သပြန်ရာ ဒေဝကုမ္မာန်ဇာတ်ကဲ့သို့ အစပ်အဆို တုတ်တုတ်တိုတို အပိုအလိုမရှိ ထိမိပေစွဟု ချီးမွမ်း၍ ဦးပုညအားလည်း ဆုလာဘ်တော်များ ပေးဖူးကြောင်းနှင့် အမှတ်အသားတွေ့ရသည်ဟု ဒေဝကုမ္မာန်ပြဇာတ်စာအုပ် နိဒါန်းတွင် ဖော်ပြထား၏။ ဦးကြင်ဥသည် နန်းတော်တွင်း၌ ကြီးပြင်းရသူ မဟုတ်သော်လည်း နန်းတွင်းသူ နန်းတွင်းသားတို့၏ ထီးသုံးတော်ဝင် စကားအပြောအဆိုများကို ကျွမ်းကျင်နားလည်သည်။ မြို့ကြီးသူတို့၏

အသုံးအနှုန်းများကို လေ့လာဆည်းပူးထားဟန် တူ၏။ ထို့ကြောင့် ဦးကြင်ဥ ရေးသော ပြဇာတ်များတွင် ထိမ့်မှုနန်းရာ စကားလာ စကားသွားများမှာ အပိုအလို မရှိ ပကတိ အသုံးအနှုန်းများဖြင့် စိတ်နှလုံး နှစ်ခြိုက်ဖွယ်ရာဖြစ်သောကြောင့် ပျော့ပျောင်းနွဲ့နှောင်း၍ စကားအရာ၌ ယဉ်ကျေးသိမ်မွေ့လှသော နန်းတော်သူ များပင်လျှင် ဦးကြင်ဥ ပြဇာတ်လာ အသုံးအနှုန်းများကို အတုယူ၍ သုံးစွဲခဲ့ကြ လေသည်။ ထို့ကြောင့် ဦးကြင်ဥသည် စကားအရာတွင် နန်းတွင်းသူများ၏ ဆရာ တင်ထားခြင်း ခံရသော စကားအသစ်အဆန်းထွင်သူ ပုဂ္ဂိုလ်ကြီးတစ်ဦးဟူ၍ ခေါ်ဆို ထိုက်ပေသည်။ ဤကဲ့သို့ အများချီးမွမ်းခြင်းခံရသော ဦးကြင်ဥသည် စကားအဆန်း လက်တန်းထွင်ပုံ၌လည်း များစွာကျွမ်းကျင်၏။ ဒေဝကုမ္ဘန်ပြဇာတ်တွင် ဘီလူးမသည် လူ့ပြည်သို့ လူသားရှာရန်အလို့ငှာ ထွက်လာသည့်အခန်း၌–

> တိုင်းယက္ခပန်စ၊ မောင်ကြီး ဘုရား နှင်းဆီ၊ အပလီခရာပို၊ ဆန်းဆိုသမျှ တက္ကသိုလ်၊ ယဉ်ဆို မနောဓာတ်၊ ဒူးကိုပင် ဖြတ်ဝံ့ငဲ့၊ လပ်စေတော့ ကာလသား၊ ကျွန်မနှင့် ညားရလျှင်၊ ငါးဆုပ်သစ်မှ၊ သက်ရှိကောင်လို၊ ထောင်၍ထရမည်၊ ထားကြရှော့သတိ၊ ဓာတ်ကြောကို မသိ၍၊ ပေါင်း မိလျှင် ကျွန်ဖြစ်၊ တစ်မျိုးလုံးစုံစုံနစ်ရမည်၊ ဖြစ်ဆစ်သဘော၊ သနစ်ကို ပြောပြီဘူး၊ အတွေ့ဘာဆို အနက်၊ ရှင်ကစွည်းဆရာ၊ ရှစ်စောင်သော သဒ္ဒါကို၊ စိတ်ဖြာ၍ညက်သည့်နှယ်၊ ဆိုင်းချက်ကျနားလည်၊ ဉာဏ်ရည် ကြဲရည် ဟန်ကြည်ကြည်စိမ်းမြမြ၊ မြဇောတ–အဟာန်၊ ကျွန်မတို့အပြန်ကို၊ ယဉ်ရစ်တဲ့ ပွေလိုက်စမ်းအုံးရှင့် . . .

စသည်ဖြင့် ကြမ်းရမည့်နေရာ၌ ကြမ်း၍ နုရမည့်နေရာ၌လည်း နု၏။ တစ်ခါတစ်ရံ ဦးကြင်ဥသည် ဇာတ်စကားများတွင် ဟသာရသပေါ်အောင် ဖွဲ့ဆိုထား၏။ ဤနေရာ၌ ပွဲကပြစဉ် ပွဲကြည့်သူတို့အား ငြီးငွေ့ပျင်းရိခြင်း မဖြစ်စေရန် ရယ်ရွှင်ဖွယ်ရာ စကား လုံးများကို သုံး၍ ထားခြင်း ဖြစ်သည်။ ပုံစံပြရမည်ဆိုသော် သမီးတော် မင်းကဥ္ဇာကို ဘီလူးများ လာရောက်တောင်းရမ်းစဉ်အခါ ဝန်ကြီးများက ပြောဆို ကြိမ်းမောင်းသည့် စကားရပ်တွင် . . .

> ငါတို့သင်းကျစ်၊ ကေရာဇ်၏၊ ရင်နှစ်သည်းချာ၊ မင်းကဥ္ဇာမှာ၊ မဟာ ရောဇ၊ သံရောဇနှင့်၊ ညီမနှစ်ပါး၊ မြေလက်ဝါးခတ်၊ မိတ်အကြည်ဖို့၊ ရည်ရွယ်မှတ်၊ ကွက်လပ်မဟုတ်ပါတကား၊ လင်အရှိသား၊ နိုးလေးပါး

နှင့်၊ ရင်ြဘးအုံ့ထင်၊ နင်တို့ရှင်၊ နားပင် မကြားရော့သလား၊ ထူးထူး ထွေထွေ၊ လာပလေ၊ အသရေသာ နွမ်းရော့မည်၊ ကန်တော့ဆွမ်း လောင်းလိုက်သေးငဲ့လေလဟဲ့ . . .

စသည်ဖြင့် လည်းကောင်း။

ပေါကုန်းရှုံးကုန်၊ ငါတို့ကုန်ကို၊ ရောင်းကုန်မဟုတ်၊ ကွက်လပ်မည်ပင်၊ နင်မထင်နှင့်၊ လင်ငုတ်တုတ်၊ ငုတ်တုတ်ကြင်ရာ၊ ရှိလျက်ပါကို၊ သင်္ကာမကင်း၊ နင်တို့မင်းလည်း၊ ထမင်းပွဲပြင်၊ ကျွေးအုံ့ထင်၍၊ တမင် မက်မှား၊ တအေးအေးနဲ့၊ လက်ဆေးထား၊ အလကား နေရမလေ မဟဲ့ . . .

စသည်ဖြင့်လည်းကောင်း ဟာသရသပေါ်အောင် ဖွဲ့ဆိုထားသည်။ ပါပဟိန်ပြဇာတ် တွင်လည်း ဤကဲ့သို့ကောင်းသည့် အဖွဲ့အနွဲ့များကို တွေ့ရပေသေးသည်။ ဦးကြင်ဥ ရေး ဇာတ်ချင်းများသည် လွန်စွာ ထင်ပေါ်ကျော်စောသည်။ ဦးကြင်ဥသည် တပေါင်းလရာသီကို များစွာအမွှမ်းတင်၍ ဖွဲ့နွဲ့လေ့ရှိသည်။ ရာသီများတွင် တပေါင်းလ ရာသီသည် အသာယာဆုံးဖြစ်သောကြောင့် တပေါင်းလရာသီကို ပညာရှိများ ကဗျာဖွဲ့ရန် နှစ်ခြိုက်ကြကုန်သည်။ ထို့ကြောင့် ဦးကြင်ဥကလည်း . . .

ဩော်–ဂိမှာန်အတာ။ ချိန်အခါကို၊ စိန်ကြာညောင်လွှ၊ ရောင်ကြိုးကြွမှာ၊ အလှငယ်ထူးချွန်၊ သုံးရွှေးမှူး၊ ကြော့ကြူးလွန်တို့၊ လွမ်းဝှန်ငယ် ရှည်ပြန့်၊ ဆည်မတန့်အောင်၊ ငွေနားပန့်ရှင်၊ တောင်မီးခင်လဲ၊ မနှင်ထွန်တိုက်၊ ချွန်စူးငယ်စိုက်လို့၊ အလိုက်ကယ်စာရေး၊ စဉ်ဆက်မျိုးလာ၊ ကြက်ရိုး စာနှင့်၊ ဘာသာငယ်ပွေသည်၊ ခေါင်ရည်ပျော်ပွဲ ဖွဲ့ကြတယ်၊ ။တံငါ၊ လောင်းလှေ၊ တစ်ပုံတစ်သီး၊ တောင်တင်တီးလို့၊ ယာဉ်စီးငယ်တွေ သည်၊ ကြည်ရှေညိုလဲ့စိမ်းမြတယ်၊ ပြဘက်ရ၊ ဖန်နေနန်းလဲ၊ ပြင်ခန် လုမို့၊ ဖဂ္ဂုမာသံ၊ လအဖန်ကို၊ ဘယ်ဉာဏ်ပိုင့်ရှင်၊ မလွမ်းအောင် ဆင်ပမယ်၊ ။ရှင်ခွင်တိုင်း၊ မှုံမှိုင်းတဲ့ပတ်လည်၊ ။သဇင်ကြွင်းငယ် နှင့်၊ အင်ကြင်းသန္တာညွန့်ငယ်တို့၊ ဖူးကွန့်ကိုက်စည်၊ ။ဘမရာ ရွှေပတုန်းငယ်တို့၊ ချွေသုံးကြဝတ်ရည်၊ ညွတ်ကြည်ဖွယ့်ဖော်ကွဲ၊ ။

ယင်းသည့်နေ့ဆိုင်၊ ရသေ့ သူတော်တိုင်မှ ဉာဏ်မခိုင် ရျာန်ထိုင်
လျှောရတယ်၊ ရာသီတွင် စာညီပြောပေပ၊ ကြော၍သာမြ...

စသည်ဖြင့် တပေါင်းလရာသီကို ဖွဲ့ဆိုလေသည်။ ဦးကြင်ဥသည် ထီးသုံးတော်ဝင် နန်းယင်ပြင်တွင် တွေ့ရ ကြုံရသမျှပေါ်ခဲ့သော စိတ်ဝင်စားတတ်သည်မဟုတ်။ သြကာသလောကတည်းဟူသော သစ်ပင်၊ ရေ၊ မြေ၊ တော၊ တောင်တို့၌လည်း ရှင်ဥတ္တမကျော်၊ ရှင်အုံးညိုတို့ကဲ့သို့ပင် စိတ်ဝင်စားတတ်ကြောင်းကို အထက်၌ ဖော်ပြအပ်သော လေးဆစ်ကိုထောက်၍ သိနိုင်သည်။ ပန်းချီမျက်စိရှိသော ပုဂ္ဂိုလ် ကြီးပင်တည်း။

## ဦးရွှေခြည်

ရတနာပုံ မြို့တည်နန်းတည် မင်းတရားကြီး လက်ထက်တော်တွင် ထူးချွန် ကောင်းမွန်သော ပျို့များ ပေါ်ပေါက် ထွန်းကားကြသည့်အနက် နားခံတော် စောလု မြို့စား ဦးရွှေခြည် ရေးသားပြုစုခဲ့သော ပျို့များသည် စကားအနုအယဉ်တွင် ပြိုင်ယှဉ်ဘက် ရှားအောင် ကောင်းသောပျို့များ ဖြစ်သည်။ ဦးရွှေခြည်၏အဖသည် ဘိုးတော်ဘုရား လက်ထက်တွင် ခစားထမ်းရွက်၍ သီရိရာဇသူဘွဲ့ကို သနားခြင်း ခံရသည်။ မင်အရေးအသား အလွန်ကောင်းသူဖြစ်၍ သက္ကရာဇ် ၁၁၅၈–ခုနှစ်တွင် မဲဇလီရွာကို အပိုင်စား သနားတော်မြတ် ခံရပြန်သည်။ ထိုနောက် ၁၁၆၄–ခုနှစ်တွင် တံဆိပ်ဝန် ရာထူးကို ခံယူရပြန်သည်။ သက္ကရာဇ် ၁၁၇၈–ခုနှစ်တွင် အဖကွယ်လွန် သဖြင့် သား ဦးရွှေခြည်ကို အဖ၏ ရာထူးဖြစ်သော တံဆိပ်ဝန် ရာထူးနှင့် မဲဇလီ ရွာကို အပိုင်စားစေပြီးလျှင် အဖ၏ ဘွဲ့ဖြစ်သော သီရိရာဇသူဘွဲ့ကိုပင် ဘိုးတော် မင်းတရားကြီးက အပ်နှင်း ပေးသနားတော်မူသည်။

သက္ကရာဇ် ၁၁၈၁–ခုနှစ် မြေးတော် ဘကြီးတော်ဘုရား အထွတ်အမြတ်သို့ ရောက်တော်မူသောအခါ ရာဇသံရွှေပေမှုစ၍ အလုပ်အဆောင် သေချာ တတ်မြောက် သည်ဖြစ်၍ ဟံသာဝတီ ရတနာပုံတိုက် အဝတ်ထည် တံဆိပ်စားခန့်သည်။ ထိုနောက် စောလုမြို့ကို အပိုင်စားပေးပြန်သောကြောင့် စောလုမြို့စားကြီး တွင်သည်။ ထိုနောက် ၁၁၈၈–ခုနှစ် ရွှေလွှတ်တော်ကြီးတွင် နေမျိုးမင်းလှစည်သူဘွဲ့၊ မင်းလှ ရာဇကျော် ထင်ဘွဲ့ နှစ်ရပ်နှင့် နားခံတော်ကြီး ခန့်သည်။ ၁၁၉၉–ခုနှစ် ရွှေဘိုမင်းလက်ထက်တွင် ကျောက်မြောင်းမြို့ တံဆိပ်ဝန် ခန့်တော်မူပြန်သည်။ ၁၂၀၈–ခုနှစ် သားတော် ပုဂံမင်း

နန်းတက်တော်မူသောအခါ ခမည်းတော်ဘုရား လက်ထက်တော်ကအတိုင်း တံဆိပ်ဝန် အရာနှင့် သူကောင်းပြုတော်မူပြန်သည်။ နာခံတော်မြို့စားကြီး ပြုစုခဲ့သော ပျို့များကား . . .

အကတ္တိ ပျို့၊

အဘိရူက ပျို့၊

ကလိင်္ဂဗောဓိ ပျို့၊

ဒေဝဓမ္မ ပျို့၊

မဟာပဒုမ ပျို့၊

မဟာဓမ္မပါလ ပျို့၊

ဗိမာန်ရတနာ ကျောင်းတော် မော်ကွန်း၊

မဟာဝေယန်ဘုံသာ ကျောင်းတော် မော်ကွန်း

များ ဖြစ်ကြသည်။ စန္ဒကိန္နရီ ပျို့ဟောင်းကို မြင်းဝန် မဟာသီဟသူရဘွဲ့ခံ ဦးရောက်ကြီး ဖွဲ့စပ်ဖူးလေပြီ။ ဦးရွှေခြည်သည် ပျို့ကဗျာ လင်္ကာ စီကုံးဖွဲ့နွဲ့ခြင်း၌ အထူးတတ်မြောက် ကျွမ်းကျင်သည်။ အင်းဝခေတ် ဘုံခန်းဆရာတော် ရှင်အဂ္ဂသမာဓိ၏ အဖွဲ့အနွဲ့ နည်းမျိုးကို လိုက်လေသည်။ လောကကြောင်းရာ တန်ဆာဆင်ခြင်း၌ လွန်စွာချီးမွမ်းဖွယ် ကောင်းလောက်အောင် ဖွဲ့ဆိုနိုင်သည်။ နာခံတော်ကြီးသည် ပျို့အဖွဲ့အနွဲ့များတွင် လုံးထပ်ကာရန် နှစ်ချက်ခတ်၊ သုံးချက်ခတ် ခတ်မိအောင် စပ်ဆိုထားသည်။ အထူးသဖြင့် ပါဠိစကားများကို သုံးလေ့သုံးထရှိ၏။ ပါဠိဘာသာကို အနက်အဓိပ္ပာယ်သက်ဆိုင်သည့် အခြားပါဠိဘာသာနှင့်သော်လည်းကောင်း၊ မြန်မာဘာသာနှင့်သော်လည်းကောင်း ကာရန်ညီညွတ်စွာ ဖွဲ့နွဲ့သောကြောင့် သုတိသာယာ၍ ဘဝင်ငြိမ့်လောက်အောင် ပီတိဖြစ်စေနိုင်သော အဖွဲ့များ ဖြစ်ပေသည်။ ပုံစံပြရမည်ဆိုသော် စန္ဒကိန္နရီပျို့၌ ကိန္နရီမောင်နှံတို့ တော တောင် မြစ်ဆိပ်ကမ်းပါးတို့တွင် လှည့်လည်ပျော်ပါးကစား၍ နေကြပုံကို ဖွဲ့ဆိုရာ၌ . . .

မန္ဒာနဒီ၊ စံရာပြီဟု၊ ရေသီဒါကြည်၊ ပြာညိုချည်ဖြင့်၊ ခိုရည်မမှောင်၊
ထိုသည် တောင်မှ၊ အမြောင် စီးသွယ်၊ မှီးကာရွယ်လျက်၊ မောင်မယ်
နှမ၊ သက်ခဲ့ကြ၍၊ မြအရောင်လင်း၊ မြေသန့်ရှင်းဝယ်၊ ပျံ့သင်းကြိုင်ပျ၊

ဖူးခေါင်လွှကို၊ မောင်က ကမ်းတုံ၊ မယ်လှမ်းတုံနှင့်၊ ပန်းငုံ ပန်းဝတ်၊ ပန်းတမွတ်ကို၊ နန်းလွတ်စံရွှေ၊ သနှ့်သနှ့်ချွေ၍၊ ပျံ့စေပြိုးပြည့်၊ မကုံးလှည့်ပဲ၊ တရှည့်သန်းကူး၊ ပန်းသင်ဖြူးသို့၊ ဆန်းထူး ဆကဲ၊ ဆုပ်ကာ ကြဲလျက်၊ ပျော်မြဲရှင်ရယ်၊ ရေစံပယ်၏၊ ဆွေမယ်တမွတ်၊ လှတုလွတ်တို့၊ အဝတ်ပန်းမုံ၊ အရုံပန်းလွှာ၊ ငွေရောင်ဖြာသည်၊ သောင်သာသဲလွှ၊ စံပပဒ္ဓ၊ နွံလျှနှစ်ကိုယ်၊ ပျော်ကြလို၍၊ ပြာညိုမဟူ၊ ကြည်ကြည်ကြူသည်၊ မဥ္ဇူသက၊ ရည်တူဆသား၊ အလှစီလျဉ်၊ တညီယှဉ်လျက်၊ ယဉ်မုနောမြ၊ အကော်လနှင့်၊ ပင်သောကမည်၊ ပန်းတို့သည်လည်း၊ နန်းတည်နတ်မှာ၊ နန္ဒဝါဝယ်၊ မန္တာဝရီ၊ မှန်စွာပြီသို့၊ ခါမှီခန့်ရှယ်၊ ပျံ့မပြယ်တည့်၊ စံပယ်ငွေရောင်၊ အလယ်ခေါင်၌၊ ကြယ်ပြောင်ဥဋ္ဌု၊ အလျှံစုသည်၊ အံ့သုမာလာ၊ မတူသာသား၊ အဝါ ဝင်းဝင်း၊ အညှာရှင်းလျက်၊ မယွင်းမသွေ၊ ချက်ခြင်းချွေ၍၊ သင်းဝေ မသုန်၊ ခင်းလေကုန်သည်၊ ။နေရှုန္တရ နန်းပွားတည်း၊

ဟူသော အပိုဒ်ကို ကြည့်ခြင်းဖြင့် နားခံတော်ကြီးသည် ဝစနာလင်္ကာရ စကား တန်ဆာ ဆင်ခြင်းအတတ်၌ မည်မျှယဉ်ကျေးဆန်းပြားအောင် ဖွဲ့ဆိုတတ်သည်ကို သိနိုင်ပေသည်။ ပျို့တစ်စောင်လုံးတွင် ဤနည်းနှင့်နှင့် နှစ်ပိုဒ်ညီ၊ သုံးပိုဒ်ညီ ကာရန်ကို ခတ်ကာ ဟပ်ကာ စပ်ဆိုထားသည်။ အဆန်းတစ်မျိုးထွင်သော ဆရာကြီးပင်တည်း။ ဤဆရာကြီး၏ ပျို့အားလုံး၌ပင် ဤကဲ့သို့ ယဉ်ကျေးသာယာသော အဖွဲ့အနွဲ့များကို တွေ့ရပေသည်။

## လှိုင်ထိပ်ခေါင်တင်

မြန်မာစာပေ ကြီးပွားဖွံ့ဖြိုးအောင် ကြိုးစားအားထုတ်၍ အပတ်တကုတ် ထူထောင်ပြုစုကြသော သူတို့အနက် မင်းတုန်းမင်း တရားကြီးလက်ထက်တော်တွင် ဝေနီးနံ့ပြား ထင်ရှားကျော်စောခဲ့သူ အိမ်ရှေ့မင်းမိဖုရား လှိုင်ထိပ်ခေါင်တင်ကိုလည်း မှတ်တမ်းတင်သင့်ပေသည်။ လှိုင်ထိပ်ခေါင်တင်သည် ရွှေဘိုမင်းနှင့် အနောက်နန်း မိဖုရား မမြလေးတို့မှ ဖွားမြင်သော သမီးရတနာဖြစ်၏။ ဖွားသက္ကရာဇ်မှာ ၁၁၉၅– ခုနှစ်တည်း။ သက္ကရာဇ် ၁၁၉၉–ခုနှစ်တွင် ရွှေဘိုမင်း အထွတ်အမြတ်သို့ရောက်လျှင် မိဖုရား မမြကလေးကို အနောက်နန်း မိဖုရားတင်မြှောက်၍ မဟာသုရတနာ စန္ဒာ

ဒေဝီဘွဲ့ကို ပေးသနားတော်မူသည်။ ရွှေလောင်းတိုက်ကို စားရာမှ ဟသ်ာတမြို့ကို ဖြည့်စွက်၍ စားစေသည်။ သမီးတော်ကိုလည်း သီရိသုမြတ်စွာ ရတနာဒေဝီဘွဲ့နှင့် လှိုင်မြို့ကို စားစေသောကြောင့် လှိုင်မင်းသမီးဟူ၍လည်းကောင်း၊ လှိုင်ထိပ်ခေါင်တင် ဟူ၍လည်းကောင်း ခေါ်ဆိုကြကုန်သည်။ ၁၂၀၂–ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၅–ရက်နေ့ကစ၍ သျှောင်ထုံး၊ နားထွင်း၊ တဘက်ဝတ်၊ ဒက်ဆင်မင်္ဂလာဆောင်တော် မူရာတွင် လှိုင်ထိပ်ခေါင်တင်မင်းသမီးကို မိဖုရားခေါင်ကြီး၏ သမီးတော်နှင့်အတူ မှန်းနန်းတော် ဘမရာသန ရာဇပလ္လင်တော်ရှေ့တွင် နားထွင်း ဒက်ဆင် မင်္ဂလာ ဆင်ယင်စေသည်။

မယ်တော် အနောက်နန်း မိဖုရားသည် ရာဇဝတ်ဘေးဖြင့် အနိစ္စရောက်သော် လှိုင်မင်းသမီးသည် ၁၁–နှစ်အရွယ်မျှ ရှိသေး၏။ သမီးတော်ကလေးမှာ မိခင်ကိုသာ များစွာ လွမ်းဆွတ်တသ၍ အားကိုးရာမဲ့ဖြစ်နေသောကြောင့် မင်းတုန်းမင်း မိဖုရား ကြီးသည် သနားတော်မူသဖြင့် ကောက်ယူ ကျွေးမွေးတော်မူ၏။ လှိုင်မင်းသမီးသည် အရွယ်သို့ရောက်လတ်သော် အဆင်းအင်္ဂါနှင့် ပြည့်စုံ၍ မြင်သူတိုင်း ချစ်ခင်ခြင်းကို ခံရသည်။ ကဗျာလင်္ကာ၊ ပတ်ပျိုး၊ ယိုးဒယား၊ သီချင်းခံ၊ ဘောလယ်၊ တေးထပ် အရပ်ရပ်တို့ကို စီကုံးဖွဲ့နွဲ့ရေးသားရာ၌ ထီးသုံးနန်းသုံး အနှုန်းအဖွဲ့ ယဉ်ကျေးဖွယ်ရာ ရှိခြင်းကြောင့် မယ်တော်ဖုရား ကျော်စော ထင်ရှားသကဲ့သို့ စာဆိုတော်အဖြစ်ဖြင့် မင်းတုန်းမင်းတရားလက်ထက်တွင် ကျော်စောထင်ရှား၏။

သက္ကရာဇ် ၁၂၁၄–ခုနှစ်တွင် ရွှေထီးရွှေနန်းကို သိမ်းမြန်းစိုးစံတော်မူသော မန္တလေး ရတနာပုံမြို့တည်၊ နန်းတည် မင်းတုန်းမင်းတရားကြီး လက်ထက် သက္ကရာဇ် ၁၂၁၅–ခုနှစ်တွင် ညီတော် ကနောင်မင်းနှင့် လှိုင်မင်းသမီးအား စုလျား ရစ်ပတ် ထိမ်းမြား၍ အိမ်ရှေ့နှင်းတော်မူသောကြောင့် အသက် ၂၀–အရွယ်တွင် အိမ်ရှေ့မိဖုရား ဖြစ်တော်မူသည်။ အိမ်ရှေ့မင်းနှင့် သားတော်တစ်ပါးထွန်းကားခဲ့ရာ တန်းတပင်မင်းသားဟု တွင်သည်။ ဤမင်းသားသည် သီပေါမင်း အရေးတော်ပုံတွင် ကွပ်မျက်ခြင်းခံရရှာသည်။ လှိုင်မင်းသမီးသည် သက္ကရာဇ် ၁၂၃၇–ခုနှစ်၊ သက်တော် ၄၂–နှစ်တွင် ကံကုန်တော်မူသည်။ လှိုင်မင်းသမီး စပ်ဆိုခဲ့သော ကဗျာများကား . . .

၁။ စိန်ခြူးကြာညောင်–ချီ ဘောလယ်၊

၂။ ပုလဲမြိတ်စု–ချီ ဘောလယ်၊

၃။ ထုံးပန်းမာလာ–ချီ ဘောလယ်၊

၄။ ပဏ္ဍုသေလာ-ချီ ဘောလယ်၊

၅။ နာဂဆဒ္ဒန်-ချီ ဘောလယ်၊

၆။ ရှလဲသာထွေ-ချီ ဘောလယ်၊

၇။ ပြဒ္ဒယ်ချပ်ရုံ-ချီ ပတ်ပျိုး၊

၈။ ပန်းသဉ်လယ်-ချီ ပတ်ပျိုး၊

၉။ ဝိဇယကာရီ နန်းတွင်းဇာတ်၊

၁၀။ ဣန္ဒာဝံသ နန်းတွင်းပြဇာတ်

များမှစ၍ မယ်ဘွဲ့ မောင်ဘွဲ့ တေးထပ် လေးဆစ်များအပြင် ရတုလင်္ကာများဖြစ်သည်။ လှိုင်မင်းသမီးသည် ဘောလယ်နှင့် ပြဇာတ်ရေးရာတွင် အထူးကျော်စောထင်ရှားသည်။ လှိုင်မင်းသမီး ရေးသားသော ဘောလယ် ၆-ပုဒ်ခန့် တွေ့ရှိရပေသည်။ အားလုံးပင် မောင်တော် ကနောင်မင်းသားကို ဖွဲ့ဆိုသော ကဗျာများဖြစ်တော့သည်။ ဘောလယ်ဟူသော အဖွဲ့သည် ရှေးအခါက မပေါ်ခဲ့ဘူးသေးသော သီချင်းဆန်းပင် ဖြစ်သည်။ စည်းလွတ် ဝါးလွတ်သော်လည်းကောင်း၊ တူရိယာနှင့် တွဲဖက်၍သော်လည်းကောင်း သီဆိုနိုင်သည်။ ဘောလယ်သည် လှိုင်မင်းသမီးက အစထွင်၍ စပ်ဆိုဖွဲ့နွဲ့သော ကဗျာသီချင်းဖြစ်၍ ကိုယ်ပိုင်ဉာဏ်ကို အသုံးပြုတတ်သော လှိုင်မင်းသမီးကို မချီးမွမ်းဘဲ မနေသင့်ပေ။ မိန်းမသားပင် ဖြစ်သော်လည်း အများမပြုလုပ် မဖွဲ့နွဲ့သေးသော အဖွဲ့ဆန်းကို စတင်ဖွဲ့နွဲ့၍ ယခုတိုင် ကျော်စောထင်ရှားလျက် ရှိကြသေးသော ဘောလယ်သီချင်းသံကို ကြားရလေတိုင်း လှိုင်မင်းသမီးကို သတိရဖွယ်ဖြစ်တော့သည်။

## ဘောလယ် ဟူသော ဝေါဟာရ

ဘောလယ် ဟူသည်မှာ လှိုင်မင်းသမီးကိုယ်တိုင် မှည့်ခေါ်လိုက်သော အမည်ဖြစ်တန်ရာ၏။ မောင်တော် ကနောင်မင်းသားသည် မိဖုရားငယ်များနှင့် ပျော်ပါးစံစားပြီးလျှင် မိမိအပေါ်၌ စိုက်ပျိုးခဲ့သော ရွှေမေတ္တာတော်ယိုင်ယိမ်း၍နေသည်အတွက် မင်းသမီးမှာ ပူဆွေးဒုက္ခရောက်နေကြောင်းကို မင်းသမီး၏ သီချင်းများက ထောက်ခံလေသည်။ ဤသို့ မောင်တော်သည် မိမိအပေါ်၌ မေတ္တာသဘော တိမ်းပါးပေါ့ပျက်

စိမ်းကားလျက်နေရာ မိမိအပေါ်သို့ မောင်တော်၏ သဘောတော်သည် တစ်ဖန် ပြန်၍ လည်လာရန် ဖွဲ့ဆိုအပ်သော သီချင်းဖြစ်သောကြောင့် သဘောလည်ဟု ခေါ်ရာမှ သ–ကျေ၍ ဘောလည် = ဘောလယ် ဖြစ်လာဟန် တူ၏။ အချို့ဆရာတို့ ကလည်း လှိုင်းမင်းသမီးသည် လှိုင်မြို့ကို စားရသောကြောင့် ဘောလယ်ဟူသော မြို့လည်း လှိုင်မြို့နယ်ပယ်တွင် ပါဝင်ရကား ဘောလယ်ဟူသော အရပ်တွင် ဤ သီချင်းကို စတင်စပ်ဖွဲ့သည်ကို အစွဲပြု၍ ဘောလယ်ခေါ်သည်ဟု ထင်မြင်တွေးဆ ကြ၏။ သုံးထောင့်ရွာတွင် အစပြုသည်ကို အစွဲပြု၍ သုံးထောင့်အိုင်ခေါ်ကြကြောင်းကို သက်သေအထောက်အထားပြကြသည်။ အချို့ဆရာတို့ကလည်း ဘောလယ်မှာ ဘဝလယ်ဟူသော စကားမှ ရွေ့လျောလာသည်။ ဤလူ့ဘုံ လူ့ဘဝကြီး၌ ဆင်းရဲ ချမ်းသာသည် အစဉ်မဟုတ်၊ စုန်ဆန်တက်သက်၍ အမျိုးမျိုးသော ဒုက္ခ၊ သုခနှင့် တွေ့ကြုံနေကြရသည်။ ဤသို့ တွေ့ကြုံကြရခြင်းကား ရှေးဘဝက ပြုခဲ့ဖူးသော ကံအကြောင်း ပြန်လည်လာသောကြောင့် ဖြစ်၏။ ဤသို့ မိမိ၏ဘဝလည်လာသည်ကို အစွဲပြု၍ ဘဝလည် = ဘဝ်လည် = ဘောလယ် ခေါ်ကြသည်ဟူ၍ တွေးဆထင်မြင် ကြကုန်သည်။ ။အချို့ကလည်း ပါဠိအဘိဓာန်ကျမ်းမှာ ဘာဝသဒ္ဒါ၏အနက် ခုနစ်ချက်ပြရာတွင် တင့်တယ်စံပယ်ခြင်းအနက် ပါဝင်သည်ဖြစ်၍ ကဗျာသီချင်းတို့၏ အလယ်မှာ တင့်တယ်သော ဂုဏ်ထူးရှိသည့်သီချင်းဟု ဆိုလိုသည်ဟူ၍ ယူဆကြ ပြန်၏။ မိမိတို့သဘော နှစ်သက်ရာကို ယူမှတ်ရန်သာ ဖြစ်တော့၏။ ။စိန်ခြူး ကြာညောင်ချီ ဘောလယ်တွင် တွတ်တီးတွတ်တာ အခရာအမှုပိုပြီးလျှင် မြူချီသော စကားလုံးကလေးဖြင့် မောင်တော်ကို ရန်တွေ့လိုသောကြောင့်...

> စိန်ခြူး ကြာညောင်၊ လရောင်လင်းပါလို့၊ မှန်ရွှေပြူပြတင်းငယ်က မယ်ခမျှော်၊ သုံးချက်စည်တော်၊ ရိုက်ဆော်ညှင်းတယ်လေး၊ လင်းပြန် လုနော်၊ ။သဇင်သင်းပါတဲ့–ခင်းပြန့်ပေါ်၊ လာနိုးငယ်မယ်မျှော်လို့ တစ်ကိုယ်တော်ထူး၊ ထွေရာစိတ်ကူးပါလို့၊ ဖူးရွှေလက်တင်၊ ဖြစ်ရေး ကုန်စဉ်၊ ဘဝင်တုန် ဆွေးတယ်လေး၊ တွေးကြံလိုက်ယင်၊ ။သစ္စာတော် ရှုးပါစေ့၊ ဆိုဦးကပင်၊ ခင်လေးကို မောင်ကြင်ငဲ့၊ သည်သက်တွင်ပဲ၊ ရှောင်သွေမလွဲပါဘု–ယုံတော့ မေ၊ ပြဒ္ဒမဘွေ–သီဟာဆင့်တယ်လေး၊ စိုညာမြင့်နေ၊ ။နတ်ဒေဝီဖြားသော်လဲ၊ တစ်ပါးကိုမသွေ၊ ရှစ်ဗြဟ္မာ ချေပါလို့၊ အောင်ဇေယျာညွှန်း၊ မတ်ချွေရွှေဝန်းငယ်နှင့်၊ ရေသွန်းတော်ခံ၊

မဟေသီမှန်၊ ဒေဝီတပ်တယ်၊ ဦးဆယ်ထပ်ရံ၊ ၊သည်မယ်ထင်စားပါလို့၊
ကြင်အားငယ်သန်၊ ခုများမှာ သူတစ်ဉာဏ်နဲ့ မူဟန်တော်ခြား၊ ပြုတော်
မူအားရန်ကော၊ မျက်ထားသော်သုန်၊ မချစ်ပြင်ပြင်–သခင်ကိုယ်တော်
စိမ်းတယ်လေး၊ ပိန်းပိတ်လို့မှုန်...

ဟူ၍ ဖွဲ့ဆိုလေသည်။ အိမ်ရှေ့မင်းသားမှာ ကိုယ်လုပ်တော် အများအပြားရှိရာတွင် မြတ်နိုးတော်မူသော ကိုယ်လုပ်တော်များနှင့်သာ အတူ စံတော်မူသည့် ရက်,လက များသဖြင့် မောင်တော်ကို မျှော်ခေါ်တမ်းတ၍ နေရကြောင်း၊ တစ်ခဏမျှ ဖူးတွေ့ လိုကြောင်းတို့ကို ပုလဲမြိတ်စုံချီ–ဘောလယ်တွင် ဖွဲ့စပ်၍ ဆက်သတော်မူသည်။ ထိုသို့ဆက်သတော်မူရာ မောင်တော် ကနောင်မင်းသားသည် လှိုင်မင်းသမီးအပေါ်၌ သနားကရုဏာသက်ရောက်ပြီးလျှင် ယုယပိုက်ဖြားတော်မူပြန်၏။

ထိုအခါ မနာလိုကြသော ကိုယ်လုပ်တော်တို့က မကြာမကြာ ချောပစ်တင် လျှောက်ကြပြန်သဖြင့် နားဝင်တော်မူသောကြောင့် မျက်နှာတော် သုန်သုန်မှုန်မှုန်ဖြင့် လှိုင်မင်းသမီးအား အရေးမပေးဘဲ ရှိပြန်ရာ ထုံးပန်းမာလာချီ–ဘောလယ်ကို ရေးသား ဖွဲ့နွဲ့၍ ဆက်သွင်းပြန်လေသည်။ ထိုနောက် မောင်တော်ကို မိမိအားကိုးကြောင်း၊ မောင်တော်အပေါ်၌ အချစ်မေတ္တာ အဘယ်အခါမျှ ယိုင်မလဲဘဲ ခိုင်မြဲမည့်အကြောင်း၊ သစ္စာကျမ်းကျိန်၍ပင် ပြနိုင်ပါသည့်အကြောင်း၊ နမတော်အား အများချောပစ် စကားဖြင့် မုန်းတော်မမူသင့်ကြောင်းများကို လျှောက်ထားလို၍...

ပဏ္ဍု သေလာ၊ ကွယ်ကာပျောက်ခါမှ၊ သွေကာဖျောက်မယ်ပ–အို
သက်လျာ၊ ဆိုဖူးသည့်တာ၊ ကျိန်သစ္စာ ဖျက်တယ်လေး၊ ယွင်းသွေ
ကွက်ရှာ...

အစချီသော ဘောလယ်ကို ရေးသားဆက်သွင်းပြန်၏။ အိမ်ရှေ့မင်းသား လိမ်းတော် မူရန် စံပယ်ဆီကို အိမ်တော်တွင် ပွတ်ရ၏။ တစ်နေ့သ၌ သမီးတော် စမ္ပာနဂိရ် ထိပ်ခေါင်တင်က အပျိုတော်လွှတ်၍ ဆီမွှေးတောင်းလာသည့်အတိုင်း ဖန်ဘူးဖြင့် ထည့်၍ ကောင်းစွာပေးလိုက်ရာ စံပယ်ဆီတွင် ဥခွံကျွတ်စဖြစ်သော ပိုးဟပ်သေ ကလေး ပါသွားသဖြင့် အမိရင်းမဟုတ်သောကြောင့် ဤကဲ့သို့ မသိုးမသန့်ပြုလုပ် ပေးခြင်း ဖြစ်သည်ဟု အယူတော်ရှိပြီးလျှင် ခမည်းတော်ဘုရားထံ ဝမ်းနည်းစွာ ငိုယိုလျက် အကြောင်းကို လျှောက်တင်လေ၏။

အိမ်ရှေ့မင်းအား ကိုယ်လုပ်တော်ကြီးတို့ကလည်း ချောပစ်လျှောက်တင်ကြသောကြောင့် ယုံကြည်တော်မူပြီးလျှင် ညနေအချိန် ပွဲတော်တည်ရာ၌ ပွဲတော်လိုက်နေသော လှိုင်မင်းသမီးအား သုန်မှုန်လျက် မိန့်ခွန်းတော် မဟာဘဲ ရှိသောကြောင့် လှိုင်မင်းသမီးလည်း ပွဲတော်အပြီးတွင် နေရာမှ ရုတ်တရက် ဆောင့်အောင့်၍ ထွက်သွားသည်တွင် ရွှေစားတော်ကိုင်စွဲပြီး ခုတ်ပိုင်းမည် ပြုတော်မူသည်။ အကြီးတော်များက ဆွဲထား၍ အမျက်ပြေငြိမ်းရလေသည်။ ထိုအခါ လှိုင်မင်းသမီးသည် အဆောင်တော်သို့သွား၍ ရုတ်တရက် ချက်ချင်းပင် အောက်ပါ ဘောလယ်ကို...

> နာဂ ဆဒ္ဒန်၊ သန္ဓေမှန်နှစ်ပေပ၊ ချိန်မှူးစစ်ပါတဲ့ တိမ်ညွန့်စံ၊ စက်သွား သီလဝင် စိန်ရွှေရိုးငယ်လေး၊ ဖိုးပြည် ထိုက်တန်၊ ။ရွှေကိုယ်တော် ဘုန်းမှာလ၊ လက်သုံးတော်မှန်၊ မချွင်းချန်ပါနှင့် ရာသက်ပန်ပေါင်း၊ မြတ်ဉာဏ်ယူလောင်းပါလို့၊ ဆုတောင်းပါတယ်၊ ရာဇမန် ကြိမ်ကြိမ်ထပ်တယ်လေး၊ ပိုင်းသတ်မဲ့ရွယ်၊ ။တကယ်ပင် မုန်းတော့မှာလား၊ မောင်ဘုန်းကြွယ်၊ ရောင်လွှဲသွေဖယ်လို့၊ မတာတွယ်ပဲ၊ ရွှေရင်ထဲမှာလ ငွေသဲစိုင်၊ ကျွမ်းလု ကြွေယိုင်၊ အို–ဆယ်ပြန်သက်ကိုလေး၊ နှင်းဆက်တော့နိုင်...

အစရှိသည်ဖြင့် ဖွဲ့နွဲ့ရေးသား၍ ညအချိန်တွင် မောင်တော့်ရှေ့တော်မှာ သီဆိုရန် ဆက်သဖတ်ကြားစေသည်။

လှိုင်မင်းသမီးသည် ဤဘောလယ်ကို ရုတ်ချည်း ရေးသားဆက်သွင်းပြီးနောက် အစိမ်းရောင်အင်္ကျီ၊ ထဘီများ ဝတ်ဆင်ပြီးလျှင် နန်းတော်ကြီးသို့ ဝင်တော်မူ၍ မင်းတရားကြီးနှင့် မိဖုရားခေါင်ကြီးတို့အား ငိုကြွေးလျှောက်ထားသည်။ ထိုအခါ မိဖုရားကြီးက အိမ်တော်တွင် ခေါ်၍ ထားလေသည်။ အိမ်ရှေ့မင်းလည်း များမကြာမိ အမျက်တော်ပြေပြီးလျှင် မိဖုရားကို ပြန်ခေါ်ပါသော်လည်း လှိုင်မင်းသမီး မလာမရောက်သောကြောင့် မြင်းစာရေးကြီး ညီ မောင်မောင်ဘအား ဘောလယ်တစ်ပုဒ်ကို ရေးသားဖွဲ့နွဲ့စေသည်။ ဤဘောလယ်တွင် မိမိသည် နမတော်ကို ခုတ်သတ်မည်ဟု သန်လျက်ဓားကို ကိုင်ခြင်းမဟုတ်ကြောင်း၊ ရုတ်တရက် ယောင်မှားကာ ကိုင်မိကြောင်း ယနေ့တိုင် တွေ့မြင်ချင်ဇောနှင့် ငေးမှိုင်ပြီး ပူဆွေးသောက ရောက်နေရကြောင်းများကို ပါဝင်အောင်...

စပယ်ဦးစာပေ

ဖူးပွေ့လက်တင်၊ တွေ့မြင်ချင်ရေးငယ်နှင့်၊ နေ့စဉ်ပင် ဆွေးပါရ၊ ငေးငိုမိမှိုင်၊ လဲမလို့ သဲညို့ခွေယိုင်၊ မပြေနိုင်မုန်းနှင့်လေး၊ ရုံးညာသက်ပိုင်၊ ။လက်သုံးတော် ဓားကိုလ၊ ယောင်မှားကာကိုင်၊ နိုင်ချင်လို့ ဟုတ်ပါပဲ၊ နှုတ်အာရဲတယ်လို့ အပြစ်တင်၊ မချစ်ပြင်ပြင်၊ ချစ်ရင် အကျိုးကိုလေး၊ ငြိုးမာန်ဖွဲ့ဆင်၊ ။သတ်တော်မူရက်ထာဖြင့်၊ အသက်ကိုပင်၊ ကျေနပ်အောင်စီရင်၍၊ ပြုချင်တော်တိုင်း၊ ခုခင်နော်ဆိုင်းပါနဲ့၊ ပိုင်းဖို့ရယ်၊ မြရိုးသီလဝင် သံစက်သွားကို၊ ထားအပ်ပါ့မယ်၊ ။ငါ မာန်ထက်သူမို့၊ ရက်စက်လေတယ်၊ သက်သက်ကယ် သွေဖယ်လို့၊ မေတာကယ်စိမ်း၊ သေလွယ်မှ ငြိမ်းမယ်ထင့်၊ နွဲ့ယိမ်းနွဲ့ယိုင်၊ မြစိမ်း လဲ့ချိုင် သန္ဓေနှစ်ကယ်၊ စိမ်းရှာဖြစ်နိုင်...

ဟူသော ဘောလယ်ကို ရေးသား၍ မင်းသမီးထံတော်တွင် ဆက်သစေရလေသည်။ အဆိုပါ ဘောလယ်များအပြင် လှိုင်မင်းသမီး စပ်ဆိုခဲ့သော လေးဆစ်တေးထပ် အများပင် ရှိ၏။ ရှည်လျားမည်စိုး၍ မဖော်ပြတော့ပြီ။ လှိုင်မင်းသမီး ရေးသား ပြုစုခဲ့သော နန်းတွင်းဇာတ်တော်ကြီး နှစ်စောင်လည်း ရှိသေး၏။ ဤဇာတ်တော်ကြီး နှစ်စောင်သည် ယခုထက်တိုင် ထင်ပေါ်ကျော်စောလျက် ရှိကြသည်။

## ဝိဇယကာရီဇာတ်နှင့် ဣန္ဒာဝံသဇာတ်

ဝိဇယကာရီ နန်းတွင်းဇာတ်နှင့် ဣန္ဒာဝံသဇာတ်တော်များမှာလည်း မောင်တော် ကနောင်မင်းသားသည် မိဖုရားငယ်တွေ များစွာထားသောကြောင့် စောင်းမြောင်း ချိတ်ရိပ်လို၍ ရေးဟန်တူ၏။ ဝိဇယကာရီဇာတ်တွင် ဝိဇယကာရီမင်းသား၏ မိဖုရားငယ်များ, များလှကြောင်းကို ပေါ်လွင်အောင် ဖွဲ့ဆို၏။ ဤဇာတ်တော်ကြီး နှစ်စောင်တွင် ဖွဲ့နွဲ့ပုံများမှာ ထီးသံ နန်းသံပါ၍ ယဉ်ကျေးသိမ်မွေ့လှပေသည်။ သုတိသာယာသော စကားလုံးများကို ရွေးထုတ်၍ စပ်ဆိုသောကြောင့် ဇာတ်တစ်ခု လုံးသည် ဖတ်ရှု၍ မငြီးနိုင်အောင် ရှိတော့၏။ တစ်ခါတစ်ရံ ဖတ်ရှုသူများ မပျင်း ရအောင် ဇာတ်ချင်းများကို ရေးသားဖွဲ့နွဲ့၍ ထားသည့်ပြင် တစ်ခါတစ်ရံ ရယ်မောဖွယ်ရာ စကားများကို ကြားညှပ် ထည့်သွင်းထားသည်။ ဝါဏိဇ္ဇမင်းသားကြီး၏ စကားများသည် ရယ်ဖွယ်ကောင်းလှ၏။ ဝိဇယကာရီဇာတ်တော်ကိုကား သက္ကရာဇ်

၁၂၁၄–ခုနှစ်တွင် ဖွဲ့ဆိုသည်။ ကြန္ဒာဝံသကို မည်သည့်သက္ကရာဇ်တွင် ဖွဲ့ဆိုကြောင်း မသိရပေ။ ဤနန်းတွင်း ဇာတ်တော်ကြီးများကို ဖတ်ရှုရန်အတွက် သက်သက် ရည်ရွယ်၍ ရေးသားသည်။ ဦးကြင်ဥ၏ ပြဇာတ်များကဲ့သို့ ဇာတ်သဘင်ကပြရန် ရည်ရွယ်၍ ရေးသည်မဟုတ်။ ဝိဇယကာရီမင်းသားနှင့် အထိန်းတော် ဘယဂန္ဓာတို့ တောတောင်ခရီးတွင် ရောက်လာ၍ ရာသီ၏ သာယာပုံကို အထိန်းတော်ကြီးက ချီးမွမ်းခန်း၌ . . .

> မျှော့မရဲအောင်၊ ရွှေသဲဆွတ်ကြွေ၊ ရဂုံဘွေတွင်၊ လေပြေလောင်းစ၊ တပေါင်းလကို၊ ကိုးနယ်ကလည်၊ ရစ်တိုင်းငယ်ရည်၊ မြူခြည်နှင့်နှင်း၊ တစ်ဂုဏ်ကျင်းလို့၊ မင်းမူသည့်ခါ တောင်သေလာတွင်၊ ထိန်ဝါ တောက်ညီး၊ ယာပြင်မီးနှင့်၊ မြိုင်ကြီးပျော်ရွှင်၊ ကိုကရင်တို့၊ စူးသင်စကာ၊ လုပ်ငန်းတာနှင့်၊ ဒေဝါပဗ္ဗုန်၊ တိမ်ဂဠုန်ဝယ်၊ အမွှန်သီကျူး ချွန်းဆော် မြူးလို့၊ နွေဦးငယ်ချီချီ၊ သည်ရာသီဝယ်၊ ရွှေဖီကဲ့ကော်၊ စွယ်တော် စံကား၊ အိမ်တော်လျားနှင့်၊ သနားစဖွယ်၊ တောစံပယ်၊ သွယ်သွယ် ပျံ့ကြူ၊ တစ်မင်းမူလို့၊ နတ်တူဆင်ရန်၊ ခိုင်လက်တံမှာ၊ ဘယ်ပြန် ညာရုံး၊ ရွှေနန်းသူ ကုံးပါတဲ့၊ သုံးရွှေ့သခင်၊ မြတ်ပန်းတော် ဝင် ထိုက်သည့်၊ သဇင်လိုလို၊ ရနံ့ငယ်ချိုရန်မှာ၊ လွမ်းပိုဖွဲ့စေ၊ သည်ရပ်မြေ တွင်၊ သည်လေဆွတ်ပြန့်၊ ဖြေမတန့်နှင့်၊ ပန်းကျက်သရေ၊ အထွေထွေကို တိမ်ခြေမြန်းကာ၊ ရှာန်ပွားရှာတဲ့၊ သမာပတ်ဝင်၊ မဂ်ဉာဏ်ရှင်သော်မှ၊ ဘဝင်ကြွေမော၊ ပြန်ပြန်စော၍၊ မနောစွဲလည်၊ ထဲမကြည်၊ သဲရည် နောက်ဝေ၊ အထွေထွေနှင့်၊ တည်စေမရှိ၊ ဝိပရိလဲ၊ ကင်းငြိမကုန် ကြန္ဒာရုံကို၊ လုံးစုံထပ်နှောင်၊ သည်မြိုင်ချောင်ဝယ်၊ ငိုယောင်ယောင် ရယ်မလိုနှင့်၊ ဆွေးစေကို ဖန်တတ်တဲ့ တောပါဘုရား . . .

ဟူ၍ ဖွဲ့နွဲ့ထားရာတွင် ရှေးဆရာများ ဖွဲ့ဆိုခဲ့သော ရာသီဘွဲ့များနှင့်ပင် နှိုင်းယှဉ် နိုင်ပေသည်။ အဖွဲ့အနွဲ့စေ့စပ်၍ ဦးကြင်ဥ၏ အဖွဲ့အနွဲ့မျိုးကို အတုယူဟန် တူသည်။ မိန်းမသားပင် ဖြစ်လင့်ကစား ရှေးပညာရှင်ကြီးများ ဖွဲ့ဆိုခဲ့သော အဖွဲ့အနွဲ့များ၏ အဆင့်အတန်းကို ဤမျှလောက် လိုက်၍ ရေးသားနိုင်သည်မှာ ချီးမွမ်းဖွယ်တစ်ရပ် ဖြစ်သည်။

# စလေ ဦးပုည

မင်းတုန်းမင်းတရားကြီးလက်ထက် ထူးကဲစွာ ထင်ရှားကျော်စောသော ပုဂ္ဂိုလ်သည် အများပင် သိပြီးဖြစ်သော စလေဦးပုည ဖြစ်သည်။ ဦးပုည၏ မိဘမည်ရည်နှင့် ဖွားသက္ကရာဇ်တို့သည် မှတစ်ဆောင်နှင့်တစ်ဆောင် မတူ ကွဲပြားလျက် ရှိကြ၍ မည်သည်ကို အမှန်ဖြစ်သည်ဟု မချင့်ချိန်နိုင်အောင်ပင် ဖြစ်သည်။ ဦးပုညကို အချို့က ၁၁၆၉–ခုနှစ်ဖွား၊ အချို့က ၁၁၇၃–ခုနှစ်ဖွား၊ အချို့က ၁၁၇၈–ခုနှစ်ဖွား စသည်ဖြင့် အမှတ်အသားမညီဘဲ ရှိနေသည်။ ဦးပုည မိဘများ၏ အမည်များကိုလည်း ဦးဘိုးကြီး–မမင်းလှဟူ၍လည်းကောင်း၊ ဦးမြတ်ထွား–မဆုံဟူ၍လည်းကောင်း၊ မောင်ပြေ–မယ်အောဟူ၍လည်းကောင်း အမျိုးမျိုး ပြောဆိုကွဲပြားလျက် ရှိကြသည်။ အောက်ပါ ဦးပုည၏ အတ္ထုပ္ပတ္တိသည် နန်းတွင်းမှူဟု အမည်တပ်ထားသော မှတစ်ဆောင်မှ ထုတ်နုတ်ချက် ဖြစ်သည်။

ဦးပုည၏ ဖခင်သည် စလေမြို့သူကြီး ရိုး ပုညသမန်းမျိုး အစီရင် ဦးမြတ်ထွား ဖြစ်၏။ အမိသည် ဦးမြတ်ထွားနှင့် အမွေမကွဲ မောင်နှမတစ်ဝမ်းကွဲတော်သူ မဆုံ တည်း။ ဦးပုည မွေးဖွားသော သက္ကရာဇ်မှာ အမှတ်အသား မညီကြ။ အချို့က ၁၁၆၉–ခု၊ အချို့က ၁၁၇၃–ခု၊ အချို့က ၁၁၇၈–ခုဟူ၍ ပြောဆိုကွဲပြားကြသည်။ ဦးပုည၏ ညီကား မောင်လှိုင်းတည်း။ ဦးပုည၏ ကနဦးကူလက်လှည့် ငယ်ဆရာကား စလေမြို့မ ခင်ကြီးစတည်း။ ဦးပုည မွေးဖွားရင်း တိုက်စုရပ်၏ အရှေ့တောင်အရပ်တွင် ယခုတိုင် ခင်ကြီးစ၏ကျောင်း ရှိသေးသည်။ ကြီးဆရာကား စလေမြို့နေ ခင်ကြီးသာ၊ ပုဂံရွှေကျောင်း ဒလခင်ကြီးတို့တည်း။ နောက် အမရပူရမြို့သို့ရောက်လျှင် ဇန်းမော် ဆရာတော်ထံ စာပေပိဋကတ် သင်ကြားနည်းယူပြန်သည်။ ဦးပုည၏ ငယ်မည်မှာ မောင်ပုတ်စည် တွင်သည်။ ငယ်စဉ်အခါ စည်တော်ကို လက်ဖြင့် ပုတ်၍ ကစား တတ်သောကြောင့် သာယာဝတီမင်းက ပုတ်စည် မှည့်စေသည်။ ရှင်မည်မှာ ဦးပုည တွင်သည်။

ဦးပုညသည် ပိဋကတ်ဗေဒင်တတ်ခြင်း၊ သက္ကတကျမ်းများကို တတ်ခြင်း၊ စာရေးစာဖတ် ကောင်းခြင်းကြောင့် ရှင်ငယ်အဖြစ်ကပင် ကျော်စောခဲ့သည်။ ပုဂံမင်း နန်းကျစတွင် သူကြီးဟောင်း မောင်ကြူနှင့် မြို့ရွာကိစ္စ အငြင်းဖြစ်ကြရသည်တွင် သာသနာပိုင် ဦးဥေယျ စီရင်ဆုံးဖြတ်ခြင်းကို ခံရသည်။ နေပြည်တော်သို့ ရောက်

ပြီးနောက် မြို့သူကြီး ရိုးရာမပျက် ဆက်လက်ကြီးစိုးရန် အားထုတ်ဆဲတွင် မင်းကြီး ဦးပွား ပျက်စီးသောကြောင့် မန္တလေး ရတနာပုံမြို့တည်မင်း နန်းတက်စတွင် ရှောင်ရှား၍ နေရသေးသည်။ မင်းတရားကြီး ရတနာသိင်္ဃမြို့က အမရပူရမြို့သို့ ရောက်တော်မူသည့်နောက် ရှင်အဖြစ်မှ လူထွက်ပြီးလျှင် ဗန်းမော်ဆရာတော်ကို အကြောင်းပြု၍ ပထမအိမ်ရှေ့မင်းထံ စာဆိုတော်အရာနှင့် ထမ်းရွက်နေရသည်။ ထိုအခါ မြို့ဘွဲ့၊ နန်းဘွဲ့၊ ရတုကဗျာ၊ တေးတျာများကို ရေးဆက်ရာတွင် ညီတော်ထံ မင်းတရားကြီး တောင်းယူ၍ အပါးတော်ထံတွင် ရောက်သည်။ ရွှေတိုက်စိုး ဦးကောင်း နှင့် တစ်လှည့်တည်း ဝင်ထွက်ခစားရသည်။ ရည်ရွယ်ရင်း မြို့သူကြီးအရာကို ဦးပုည၌ ဥပမိ ချို့ငဲ့သည့်အတွက်ကြောင့် မလျှောက်ဝံ့ကြချေ။ ချို့ငဲ့ပုံကား လက်ယာဘက် လက်သည် စုံလင်ပါသော်လည်း သိမ်၍ မသန်မစွမ်း ရှိသည်။ ဘယ်လက်ဖြင့် စာရေးရသည်။ အလွန်လက်ရေးကောင်းသော ဟူ၏။ အပါးတော်တွင် ခစားသောအခါ သိမ်သောလက်ဖျားကို အုပ်မိအောင် အင်္ကျီလက်ရှည် ဝတ်ရသည်။

ပုခန်းမြို့စားဝန်ကြီးက မစ,လျှောက်ထား၍ လက်ဖက်ရည်တော်တွင် ထမ်းရွက်ရပြန်သည်။ မင်းလှသင်္ခယာဘွဲ့နှင့် ရွာစည်ရွာကို အပိုင်စားသနားတော် ခံရသည်။ ဦးပုညသည် ကဗျာလင်္ကာဘက်၌ အမျိုးမျိုး ရေးသားသည်။ ရေးသားတိုင်းလည်း ထူးကဲသောအာဘော်ဖြင့် ထိမိသောစကား၊ ဆန်းသစ်သော စကားများကို အခွင့်အားလျော်စွာ သုံးလေ့ ရေးလေ့ရှိသည်။ ကောသလဇာတ်၊ ဝိဇယဇာတ်၊ ပဒုမဇာတ်များကို အိမ်ရှေ့မင်းက အရေးခိုင်း၍ ရေးသား ဆက်သွင်းသည်။ နောက် ဆဒ္ဒန်ဆင်မင်း တရားကို ရေးသားဆက်သွင်းရာ ဆုတော်ငွေ အသနားတော်မြတ် ခံရသည်။ ထိုအခါ ဆဒ္ဒန်တရားဟောသော ဘုန်းကြီးများ အလွန်ကျော်ကြား၍ လာဘ်များကြသည်။ ဘုန်းကြီးသာဗျောနှင့် ဘုန်းကြီးသာဓ ဟူ၍ ရဟန်းတော်နှစ်ပါး ပေါ်ပေါက်ကြောင်းနှင့် ပြောစဉ်မပြတ် ရှိသည်။ (ဦးပုည လက်ထက်တွင် ရုပ်သေးမင်းသား ဦးသာဗျောနှင့် ရုပ်သေးမင်းသမီး ဦးသာဓတို့သည် နန်းတော် အိမ်တော်နှင့်တကွ တစ်ပြည်လုံး ကြိုက်နှစ်သက်ကြသောသူများ ဖြစ်ကြ၏။ သို့ဖြစ်၍ အများကြိုက်နှစ်သက်ကြသော ပုဂ္ဂိုလ်နှစ်ပါးကိုလည်း ထိုသဘင်ဆရာကြီးများ အမည်တပ်၍ ခေါ်ဝေါ်ကြခြင်းဖြစ်၏။) အိမ်ရှေ့မင်း စေခိုင်းတော်မူချက်အရ အိမ်မှုတရားအဆုံးအဖြတ်နှင့် အပြောင်အလှောင်စာများ၊ အပျော်ဘက် တုံးချင်းများကို ရေးဆက်သည်။

ဝိဇယဇာတ်ကို အားကျ၍ မြင်ကွန်းမင်းသား တစ်မျိုးတစ်မည် ကြံစည်ရန် ရှိကြောင်းနှင့် အထောက်တော်များက လျှောက်ထားရင်း အခဲတွင် ထိုမင်းသား ပုန်ကန်သောင်းကျန်းရာ ဦးပုည အခါပေးသည်ဟု စစ်ချက်၊ မေးချက် ထွက်ပြန် သောကြောင့် မြို့သာမြို့စား မြောက်မြို့ဝန် ဦးသာအိုးထံ အကျယ်ချုပ်ထားသည်။ ထိုအတွင်း ဦးသာအိုး၏ မယားငယ် ခင်သုံ့နှင့် ရည်ငံမှု ပေါ်ပေါက်ပြန်သည်။ အပျိုတော်မိမိတ်နှင့် ပတိမ်းစားတို့ နောက်ထပ်ကြံစည်မှု ထောက်လှမ်းချက်ရပြန်၍ စစ်ဆေးပြီးလျှင် ပတိမ်းစားနှင့် မိမိတ်တို့ကို လွှတ်တော်က သုံးတန်းလက်ရများအား ပေးအပ်လိုက်ရာ ဦးပုညကိုလည်း အပါအဝင်ပြု၍ ၁၂၂၉–ခု၊ နယုန်လမှာ မြို့သာ မြို့စား မြို့ဝန်ဦးသာအိုးက အဆုံးစီရင်လိုက်သည်။ နောက် မင်းတရားကြီးက မောင်ပုညကို မမြင်ကြောင်းနှင့် မေးတော်မူရာ သူပုန်ကြံစည်မှုနှင့် မြို့ဝန်မင်း စီရင် ပြီးကြောင်း လျှောက်တင်မှ သိရ၍ 'ဟင်...လူကို ခွေးသတ်လေရဲ့' ဟု မိန့်တော် မူ၏။

ဦးပုည ရေးသော စာများကား အောက်ပါအတိုင်း ဖြစ်သည်။ မင်းကြီးဦးပွား ရေစက်သွန်း ဆုတောင်း မော်ကွန်းစာကို ပုဂံမင်းလက်ထက် ရေးသည်။ လက်ထက် တော်ကြီးတွင်ကား လင်္ကာဘက်တွင် ရတနာနန္ဒီ မော်ကွန်း ပုဒ်ရေ ၂၂–ကို ၁၂၂၄– ခုနှစ် ရေးသည်။ ဇင်းမယ်နိုင် မော်ကွန်း ပုဒ်ရေ ၅၆ (ယိုးဒယားနိုင် မော်ကွန်းဟု လည်း ခေါ်သည်)ကို ရေးသည်။ သဒ္ဒါပုဒ်စစ် ၁၇–ပုဒ်၊ ပင့်ရစ်သတ်ပုံ ၁၃–ပုဒ်၊ ဗေဒင် ဟောကိန်းရကန်နှင့် သင်္ကြိုဟ်ကိုးပိုင်း တေးထပ်များ၊ သက္ကတဘာသာ ဖတ်နည်း လင်္ကာ၊ တေးထပ်အမျိုးမျိုး၊ ၈၀–ပေါ် အမျိုးမျိုး၊ ဆေးနည်း လင်္ကာ ကဗျာအများ ရေးသည်။ လင်္ကာ စကားပြေ ရောစပ်သော ဝိဇယ၊ ပဒုမ၊ ကောသလ၊ ရေသည်ပြဇာတ်များနှင့် တရားဟောစာပုဒ်ရေ ၃၀–ကျော်၊ မေတ္တာစာပုဒ်ရေ ၆၀– ကျော်တို့ကို ရေးသား၏။ ဗျို့ဟတ်ကျမ်းလာ ဇာတာယုဂ်ပေါင်း ၁၅၀–တို့ကိုလည်း တေးထပ်ပေါင်း ၁၅၀–ဖြင့် ပြီးအောင် ဟောကိန်း တေးထပ် ရေးသား၏။ သက္ကဋ္ဌန္ဒ ဆေးကျမ်း လင်္ကာ ၂၆–ပုဒ်ကိုမှ ၁၂၀၄–ခုနှစ်တွင် ရေး၏။ သာသနာရောက်မင်း ပြိုင်စာတမ်းနှင့် သာသနာလျှောက် စာတမ်း၊ ရွှေဘိုမင်းတရား လက်ထက် ဆွမ်း တော်ကြီး စာတမ်း၊ ရှင်ပြု နားထွင်း ဖိတ်စာများနှင့် သာသနာပိုင် ဦးဥ ယျ ပျံလွန်တော်မူရာတွင် ငိုချည်းရှည်တို့ကို ရေးသားသည်။ ပုဂံတွင် နေစဉ် ပိဋကတ် ဘက်ဆိုင်ရာ သဒ္ဒါဂန္ထန္တ ရ နိဿယနံပြောက်များကို ရေးသားခဲ့သည်။ အပျော်ဘက် တုံးချင်းများနှင့် သဘင်တေးဘွဲ့ ယိုးဒယား အမျိုးမျိုးတို့ကိုလည်း ရေးသည်။

ဦးပုညသည် မော်ကွန်း ၄-စောင်မျှ ရေးသားခဲ့သည့်အနက် ရတနာနဒီ မြစ်တော်ဘွဲ့ မော်ကွန်းမှာ အကောင်းဆုံးဟု ဆုံးဖြတ်ရန် သင့်သည်။ ဤမော်ကွန်းကို ၄-၅ ရက်နှင့်ပင် အပြီးရေးသည်ဟု အဆိုရှိသည်။ မင်းတုန်းမင်းတရားကြီးသည် ဦးပုည၏ ရတနာနဒီ မော်ကွန်းနှင့် သပြေငါးရွာစား ကင်းဝန်မင်းကြီး ရေးသော မော်ကွန်း နှစ်စောင်တို့ကို ယှဉ်၍ ဖတ်စေတော်မူရာ ယှဉ်ပြိုင်၍ ကြားနာမှ ဦးပုညက သာကြောင်း သိရသည်ဟု မိန့်တော်မူဖူးကြောင်းကိုလည်း စာပေ အမှတ်အသား တွေ့ရ၏။ ဦးပုည ရေးသားဖွဲ့နွဲ့သော စာအများတွင် အရွှမ်းအပျက်များ တွေ့ရသော်လည်း ဤမော်ကွန်းတွင်ကား အရွှမ်းအပျက် တစ်စုံတစ်ရာ မတွေ့ရ။ တည်တည်ကြည်ကြည် ရေးသားဖွဲ့နွဲ့ထားသည် ဖြစ်သောကြောင့် အထက်တန်းစား ကျသော မော်ကွန်းဖြစ်လေသည်။ ရတနာနဒီမော်ကွန်းတွင် ဦးပုညသည် မင်းတုန်းမင်းတရားကြီး၏ ဘုန်းတော်ကို လွန်စွာချီးကျူး၍ ဖွဲ့ဆိုသည်။ ထိုသို့ အလွန်အကြူး ချီးကျူးမိရကား မင်းတရားကြီးက မောင်ပုည ငါ့ကို မြှောက်လွန်းသည်။ မောင်မင်းစာ အတိဝုတ္တဒေါသ သင့်နေပါပေါ့လားဟူ၍ မိန့်တော်မူဖူးသည်။ ။ဘုန်းတော်ကို ချီးကျူးရာ၌ . . .

> တစ်ကမ္ဘာလျှင်၊ မဟာဗြဟ္မ၊ လျှာကုဋေဖြင့်၊ ဆန်းနေဂိုဏ်းညီ၊
> ဂါထာစီ၍၊ ကျူးချီမြှောက်ဖော်၊ ဆိုလှည့်သော်လည်း၊ ဘုန်းတော်ကဲလွန်၊
> အနေကန်ကို၊ ဝေဖန်ချီးမြှောက်၊ ပြီးမရောက်လိမ့် . . .

စသည်ဖြင့် အလွန်အကြူးဖွဲ့ဆိုတတ်သည်။ ဦးပုညသည် မင်းတရားကြီးအား လွန်စွာ ချစ်မြတ်နိုး၍ ရှိသေဟန် ရှိပေသည်။ ရတနာနဒီ မော်ကွန်း အဖွဲ့တစ်ခုလုံးတွင် မြစ်ကို ဖွဲ့သည့်စကားနည်းပါး၍ မင်းတရားကြီး၏ ဘုန်းတော်ကို တိုက်ရိုက်စကား ဖြင့်သော်လည်းကောင်း၊ သွယ်ဝိုက်၍သော်လည်းကောင်း ဖွဲ့ဆိုသည်က များ၏။

> တစ်ရံသော်တုံ၊ ဘူပေါ်ဇနိန်၊ ပညိန္ဒြေ၊ ဖန်စိတ်ဝေ၍၊ သပြေမန်းငူ၊
> ပြည်ကြီးသူတို့၊ ငွေကြူပြင်လယ်၊ ရစ်သွယ်ခွေဝန်း၊ ဥတင်ကန်း၌၊
> မြင့်သွန်းယူဇနာ၊ ပဒေသာမှ၊ လွယ်ကာဆွတ်ရုံ၊ လူမှုကုံသို့၊ မကျူ
> မရှား၊ ရေစာများ၍၊ စီးပွားချမ်းသာ၊ ဖြစ်ကြောင်းရှာသော်၊ ရှေးခါ
> အရှည် မင်းဘုန်းစည်တို့၊ မြရည် ရွှေလောင်း၊ ရေယာဉ်ချောင်းကို၊
> ဗိုလ်ပေါင်းဝန်လျှား၊ မင်းဘုန်းအားဖြင့်၊ ကြိုးစားကုတ်ကော်၊ တက်လှည့်
> သော်လည်း၊ ဖျော်ဖျော်ရေကြည်၊ မစီးသည်ကြောင့် . . .

စသော အဖွဲ့ကို ကြည့်ခြင်းအားဖြင့် ဦးပုညသည် စကားပရိယာယ်၌ အလွန်တရာ ကျွမ်းကျင်ကြောင်းကို သိရ၏။ ပြဇာတ်ရေးရာတွင် ဦးပုညနှင့် ဦးကြင်ဥတို့သည် တစ်မျိုးစီ ကောင်းကြသည်။ ဦးကြင်ဥက မိမိထိုးထွင်းဉာဏ်ဖြင့် ဒဏ္ဍာရီပုံပြင်ကို ဖန်တီး၍ ပြဇာတ်ရေးသည်။ ဦးပုညက ဘုရားဟောဇာတ် ဝတ္ထုများကို မှီငြမ်းပြု၍ ရေးသည်။ ဇာတ်ကြောင်းဆင်ရာတွင် ဦးကြင်ဥက ပင်ကိုယ်ဉာဏ်ကို အသုံးပြုသော ကြောင့် ဦးပုညထက် သာသည်ဟု ဆိုရပေမည်။ သို့ရာတွင် စကားလုံး ကြွယ်ဝမှု၊ စိတ်ကို ထိခိုက် စွဲငြိအောင် ဖွဲ့ဆိုမှု၊ ရယ်ရွှင်ဖွယ်ဖြစ်အောင် ရေးသားမှုတို့၌ ဦးပုညက ဦးကြင်ဥထက် သာသည်။ အားလုံးပေါ်တွင် ခြုံ၍ကြည့်မည်ဆိုသော် နှစ်ဦးလုံးပင် ပထမတန်းစား ထားလိုက်သော ပြဇာတ်ဆရာကြီးများ ဖြစ်ကြသည်။ ဦးကြင်ဥသည် ပြဇာတ်ကို စထွင်သူ ဖြစ်ကြောင်းကိုလည်း ထောက်ထားရာသည်။ ဦးကြင်ဥ၏ ပြဇာတ်များသည် ဇာတ်ကပြရန်အတွက် အထူးသဖြင့် ကောင်းပေ၏။ ဇာတ်ခန်း ဇာတ်သွားကို အထူးသဖြင့် ကောင်းစွာ စီမံနိုင်သူဖြစ်၏။ ဦးပုည၏ ပြဇာတ်တို့ကား ဇာတ်ကပြရန်အတွက် ဦးကြင်ဥ၏ ပြဇာတ်များလောက် မကောင်း၊ ဖတ်ဖို့ကား ကောင်း၏။ စာတွင် အလင်္ကာ တန်ဆာတို့ဖြင့် ပြည့်ဝခြင်း၊ စကား အသုံး ယဉ်ကျေးခြင်းတို့ကြောင့် ဦးပုည၏ ပြဇာတ်များကို ချီးမွမ်းထိုက်၏။ ဝိဇယ ဇာတ်ကို အိမ်ရှေ့ကနောင်မင်းက စေခိုင်း၍ ရေးရသည်ဟု ဆိုကြသည်။ စေခိုင်း ခြင်းကား တူ,သမက်ဖြစ်သော မင်းတရားကြီး၏ သားတော် မြင်ကွန်းမင်းသား ဆိုးတေသည်ကို သိတော်မူရန် စေခိုင်းသည်ဟု ပညာရှိတို့ ကောက်ယူကြကုန်၏။ အထောက်တော်များကမူကား ဦးပုညသည် ဝိဇယဇာတ်ကို ရေးခြင်းဖြင့် မြင်းကွန်းစား ကိုသာ ကူညီသည်ဟူ၍ တင်လျှောက်ကြ၏။ လွန်စွာ ဂြိုဟ်မွှေသော ပြဇာတ် ဖြစ်သတည်း။

ဝိဇယပြဇာတ်၊ ကောသလပြဇာတ်များအပြင် ပဒုမ ရေသည်ပြဇာတ်များ ကိုလည်း ရေးသေးသည်။ ပဒုမပြဇာတ်ကို နန်းတွင်းသူ မိဖုရားတို့၏ အမူအကျင့် ပျက်ပြားသည်ကို သိ၍ ရွှံ့ရှာတော်မူသော ညီတော်အိမ်ရှေ့မင်းက ခိုင်း၍ ရေးရ သည်ဟု အဆိုရှိသည်။ မင်းတုန်းမင်းတရားကြီး၌ ကိုယ်လုပ်တော် မိဖုရားများစွာရှိ၍ အိမ်ရှေ့မင်းသား၌လည်း ကိုယ်လုပ်တော် မိဖုရားများစွာပင် ရှိသည်။ ဤမိဖုရား ကိုယ်လုပ်တော်များအနက် အချို့တို့သည် နန်းတွင်းသားအချို့တို့နှင့် ပူးပေါင်း၍ မတော်မတရား ကြံစည်တတ်ကြ၏။ ပတိမ်းစားနှင့် နန်းတွင်းသူ မိမိတ်တို့လည်း ဤမတရား ကြံစည်မှုတွင် ပါဝင်ကြသည်။ မိန်းမတို့မည်သည် အကျင့် မကောင်း

ကြောင်းကို ပဒုမဇာတ်တော်ဖြင့် ထင်ရှားသိစေလို၍ ပဒုမ ပေါင်တိုဇာတ်ကို ရေးသား စေပြီးလျှင် ညတွင်းချင်း သဘင်ဝန်တို့က က,ပြကြရသည်။

ထိုအခါမှ မင်းတရားကြီးက မိဖုရားများအကြောင်းကို သိရသည်။ အပြစ်ကင်းသော မိဖုရား ကိုယ်လုပ်တော် အချို့ကမူ မခံချိမခံသာဖြစ်ကြ၍ တော်လေးဝ အပါအဝင်ဖြစ်ကြသော မဒ္ဒီဒေဝီကဲ့သို့ မိမိတို့ကျင့်ကြံကြောင်း သိစေလိုသောကြောင့် ဦးပုညအား ငွေ ၃၀၀–ပေးပြီးလျှင် ဝေဿန္တရာပြဇာတ်ကို အရေးခိုင်းပြန်သည်ဟု အဆိုရှိသည်။ ရေသည် ပြဇာတ်သည် ဦးပုည လက်စွမ်းကုန် ရေးသားသော ပြဇာတ်သည် ဖြစ်ဟန်တူ၏။ ဦးပုည ရေးသော ပြဇာတ်များတွင် အကောင်းဆုံး ပြဇာတ်ဟု ဆုံးဖြတ်ကြကုန်သည်။ ဤပြဇာတ်ကို မင်းတုန်းမင်းတရားကြီးကိုယ်တော်တိုင်က အရေးခိုင်း၍ ရေးသားရသည်ဟု အဆိုရှိ၏။ ညီတော် နောင်တော် နှစ်ဦးတို့သည် အကြောင်းကိစ္စတစ်ရပ်ကြောင်း စိတ်ဝမ်းကွဲပြားလျက် ရှိနေကြစဉ် ညီတော်ကလည်း မမာမကျန်းဖြစ်သည်ဟူ၍ ညီလာခံမဝင်ဘဲ နေတော်မူကြောင်း၊ ထိုနောက် မင်းတရားကြီးက ညီတော်ထံ အမေးအမြန်းကြွတော်မူရာတွင်မှ တစ်ယောက်နှင့်တစ်ယောက် အထင်လွဲလျက်ရှိကြောင်း သိတော်မူကြပြီးလျှင် ရေသည်ပြဇာတ်ကို ရေးသား ကပြစေတော်မူသည်။ မော်ကွန်းမှ တစ်ပါး ဦးပုည ရေးသားသော စာတိုင်းလိုလိုပင် ဖတ်နာသူတို့ နှလုံးရွှင်ပြုံး ထိခိုက်အောင် အပျက်အရွှမ်းများကို ထည့်၍ ရေးလေ့ရှိ၏။ အလွမ်း အဆွေးခန်းကို အရွှင်အပျော်ခန်းလောက် သန်သန်မရေးသည်မှာ ဝါသနာအလျောက် ဖြစ်တန်ရာသည်။

ဦးပုညသည် ကဗျာဖွဲ့ရာ၌ ဇဝနဉာဏ် ထက်သန်လှစွာ၏။ မည်သည့်စာပေကို မဆို ရက်ရှည်လများ စိတ်ကူးဉာဏ်ထုတ်၍ စဉ်းစားမနေရဘဲ အကြန့်ကြာဆုံး ၄–၅ ရက်အတွင်း ပြီးစီးအောင် ရေးသည်။ မေတ္တာစာတေးထပ် မှာတမ်းတို့ကိုကား ဆေးပေါ့လိပ်တစ်လိပ်ကုန်အောင် ရှေးဦးစွာ သောက်လိုက်ပြီးမှ ပုရပိုက်ကို ခင်း၍ မရပ်မနားဘဲ တောက်လျှောက် ရေးသားသည်။ ပဒုမပြဇာတ်ကို ရေးရာ၌ ဝန်စကား၊ မင်းကြီးစကား၊ ညီတော် နောင်တော်စကား၊ မင်းသမီးစကား၊ ပေါင်တိုစကား စသည်တို့အဖို့ စာရေး တစ်ယောက်စီ ထားပြီးလျှင် အလှည့်ကျ တစ်ပိုဒ်စီ၊ တစ်ပိုဒ်စီ လှည့်လည် စီကုံးပြောဆိုသည်ကို စာရေးတို့က လိုက်၍ ရေးကြရသည်။ ဤနည်းဖြင့် တစ်ညဉ့်တွင်းချင်း ပဒုမဇာတ်တော်ကို ရေးသားပြီးဆုံးစေသည်ဟူ၍ ဆိုကြကုန်သည်။ ပြဇာတ်ကို ရေးရာ၌ ဦးပုညသည် အမျိုးလေးပါးတို့ အကျိုးရှိစေရန် ဥပဒေသများကို ပါဝင်အောင် ရေးသည်။ ပုံစံပြရမည်ဆိုသော် သီဟဇာဟု မင်းကြီးသည် ဝိဇယသားဆို

ကို တိုင်းပြည်မှ နှင်ထုတ်သကဲ့သို့ ပြည်ရှင်မင်းဟူသည် အစိမ်းအကျက်မရွေး အပြစ်နှင့်လျော်စွာ မင်းဒဏ်ပေးသင့်သည်ဟူသော ဥပဒေသကို လိုက်နာရန် ပြဆိုသည်။ အရွှမ်းဝါသနာပါသော ဦးပုညသည် ပြဇာတ်တိုင်း၌လိုပင် အရွှမ်းစကား တစ်လုံး နှစ်လုံး ထိထိမိမိရှိအောင် ရေးသည်။ ဝိဇယပြဇာတ်တွင်...

> ပင်လယ်မြစ်မှာ ရေနစ်လို့ မသေ၊ သည်ကျွန်းရောက်မှ၊ အူပေါက်၍ သေမယ်လို့၊ တုမေ့– သင် တကာတို့သည်၊ အာဂစ္ဆန္တိ–လာကြကုန်၏။

အစရှိသော စကားတို့သည် ဖတ်နာသူတို့၏ နှလုံးကို ရွှင်ပြုံးစေသည်။ ဦးပုည ရေးသော မေတ္တာစာများမှာ ပုဒ်ရေ ၆၀–ခန့် ရှိ၏။ ယခုခေတ် ဦးပုညရေးသည် ဟူ၍ မှတ်တမ်းတင်ထားသော အချို့မေတ္တာစာများသည် ဦးပုည လက်ရာချည်း မဟုတ်ဘဲ၊ ကျပင်းဘုန်းကြီး၊ ကန်ရေး ဖိုးသူတော် အစရှိသော ပုဂ္ဂိုလ်တို့ ရေးသားသည့် မေတ္တာစာများနှင့် ရောထွေးလျက် ရှိကြသည်ဟူ၍ ယခုတိုင် ငြင်းခုံပြောဆို နေကြသည်။ ဤမေတ္တာစာများကို ဦးပုညသည် စလေမြို့တွင် သာမဏေဘဝနှင့် ရှိစဉ် အများ လာရောက်တောင်းပန်သည့်အတွက် ရေးပေးရသည်။ မိမိအတွက် ရေးသော မေတ္တာစာများသည်ကား သူတစ်ပါးအတွက် ရေးပေးသော မေတ္တာစာများ ထက် သာလွန်ကောင်းမွန်သည်။

မေတ္တာစာအကြောင်းကို အထက်ကလည်း ဖော်ပြခဲ့လေပြီ။ ဦးပုည၏ မေတ္တာ စာများသည် ဘုရင်မင်းမြတ်အား ဆုံးမပဲ့ပြင်သည့်စာလည်း မဟုတ်။ လူပုဂ္ဂိုလ် အချင်းချင်း ကြီးသူက ငယ်သူကို ဆုံးမသော စာများလည်း မဟုတ်။ မောင်နှမ၊ သားအမိ စသည်တို့ တစ်ဦးနှင့်တစ်ဦး သာကြောင်း မာကြောင်း ပေးစာပင် အရင်းခံ ဖြစ်သည်။ ဤစာများတွင် ဘုန်းကြီးပင့်၊ ရှင်ပြု၊ ရဟန်းခံ၊ လှေအလှူခံ၊ လှေ လုပ်ငွေ၊ ဒေါနဆီ အစရှိသော အမျိုးမျိုးသော အကြောင်းအရာများကို ဖွဲ့ဆိုသောကြောင့် အခြားမေတ္တာစာများနှင့် ကွာခြားသည်။ ရှင်ပြုမေတ္တာစာ၊ ရဟန်းခံမေတ္တာစာများကို ထိုအခါက တောင်းပန်သူများအတွက်သာ မဟုတ်၊ ယခုတိုင်အောင်ပင် အများအတွက် ကောက်နုတ် သုံးစွဲနိုင်သေးသောကြောင့် မေတ္တာစာ ပဒေသာများဟု ခေါ်ဆိုထိုက် ပေသည်။ ဤမေတ္တာစာများတွင် မေတ္တာဘွဲ့ကို အထူး ဂရုပြု၍ ဖွဲ့သည်။ မေတ္တာကို လနှင့်သော်လည်းကောင်း၊ အနဝတတ် ရေနှင့်သော်လည်းကောင်း၊ မဥ္ဇူသကပန်းနှင့် သော်လည်းကောင်း ဖွဲ့နွဲ့ရာ၌ ဦးပုည၏ ကိုယ်ပိုင်ဉာဏ်များ ဖြစ်တော့သည်။ ဤ

မေတ္တာဘွဲ့များတွင် ဦးပုညသည် အခြားမေတ္တာစာ ဆရာများထက် ထူးထူးကဲကဲ သာလွန်ကောင်းမွန်ပေသည်။ မိမိအတွက် ရေးသားသည့် မေတ္တာစာများတွင် မိမိ၏ ဇာတိ စိတ်နေသဘောထားများ ကွက်ကွက်ကွင်းကွင်း ပေါ်လာအောင် ဖွဲ့ဆိုထားသည်။ ပြန်ပေးမေတ္တာစာ၊ လူပျိုမလှည့်ကြောင်း မေတ္တာစာများပင်တည်း။ အပျက် အရွှမ်း ဝါသနာပါသော ဦးပုညသည် မေတ္တာစာများတွင်လည်း အပျက်အရွှမ်းကို လက်မလွှတ်ပေ။ တကာမ မိဿေသစ်သို့ပေးသော ဒေါနဆီ မေတ္တာတွင်...

> ဒေါနဆီဘဝမှ၊ စုတိမနေ၊ သေလွန်ပြီးလျှင်၊ အထောက်မတန်၊ ရေနံဘဝတွင်၊ ပဋိသန္ဓေ၊ စွဲလာနေသည်ကို၊ ဆရာလည်း မသိ၊ သတိလည်း မထား၊ ဘုရားတစ်ဆူတွင်၊ ကြည်ဖြူစေတနာ၊ သဒ္ဓါစိတ်ပြေး၍၊ ဆီမွှေးပူဇော်မည် အကြံနှင့်၊ ရောင်လျှံတော် မဏိဦးက၊ ဖန်ဘူးကို စောင်း၍၊ လောင်းလိုက်ရာတွင်၊ ရုပ်ရှင်တော်မြတ်စွာလည်း၊ နံ့ရှာတော်မူလွန်း၍၊ ရွှေခွန်းတော်မတုံ့၊ အနိုင်သာငုံ့ပြီးလျှင်၊ ရှုံ့၍ ခံတော်မူရာချေသည်...

ဟူ၍ ဖတ်ရှုသူတို့၏ စိတ်နှလုံး ရွှင်ပြုံးအောင် ရေနံဆီ လှူလိုက်ကြောင်း တိုက်ရိုက်မဆိုဘဲ စီကုံးရေးသားလေသည်။ ဦးပုည၏ မေတ္တာစာများတွင် တစ်ခါတစ်ရံ နိုင်ငံရေးနှင့်ပတ်သက်၍ အတိတ်နိမိတ်ပေါ်သော အဖွဲ့များကိုလည်း တွေ့ရသည်။ ပုံစံမှာ ပြန်ပေးမေတ္တာစာတွင်...

> တိုင်းရေးပြည်ရေး၊ မင်းရေးစိုးမှု၊ ဤလူ့စု၏၊ အာယုသင်္ခါရ၊ ကာလဆုံးဖြတ်၊ အနာဂတ်ကို၊ နိယတ်သန္နိဋ္ဌာန်၊ အဘိညာဏ်တမျှ၊ လောကဗျူဟာ၊ နတ်ဒေဝါကဲ့သို့၊ ခြင်းရာပြက်ပြက်၊ သိပြီးလျက်နှင့်၊ ကမ္ဘာပျက်ခါနီးမှ၊ ယောင်တီး ယောင်တ၊ လူ့ဘဝကို၊ ရပေသည့်ယောက်ျားကဲ့သို့၊ မင်းပါးစိုးခွင် ဝင်လိုသည့်ဝိတက်၊ သည်ရမ္မက်များနှင့်၊ သက်သက်ကြီး ဆရာဝေး၏...

စသည်ဖြင့် ဆိုထားရာ၌ ဦးပုညသည် ဗေဒင်အရာ၌ ကျွမ်းကျင်သည့်အားလျော်စွာ မြန်မာပြည်ကြီးသည် မကြာမီ ထီးကျိုးစည်ပေါက်ဖြစ်ရတော့မည့် အကြောင်းကို ရှေးဦးစွာ ကြိုတင်သိထားဟန် တူ၏။ ဦးပုညသည် လိုရာအနက်ကို ကွက်ကွက်ကွင်းကွင်း ရှင်းလင်းပြတ်သားစွာ ပေါ်လွင်၍လာအောင် ဖွဲ့ဆိုနိုင်သည်။ ပုံစံမှာ...

ဖွတ်ကျောပြာစု၊ ခရုဆန်ကျွတ်၊ ခါးဝတ်လွှာချင်း၊ ထမင်းရက်ချန်၊ ရေရက်မှန်နှင့်၊ ကတ်ကျန်မွဲတေ၊ ဖွတ်ဘိုးအေများကို၊ လူစေလိုသော၊ ဝတ္ထုနိပါတ်၊ ပိဋကတ်နှင့်၊ လျှာပြတ်အောင် ဟောသော်လည်း၊ ဟော ရင်းသာ ပျံတော်မူရမည်၊ ဆန်ဖြူဖြူ တစ်ခွက်မျှ၊ ထွက်နိုင်ပုံမရ...

အစရှိသည်ဖြင့် ပစ္စည်းဥစ္စာ ဆင်းရဲချို့တဲ့ခြင်းကို မျက်စိထဲတွင် အရိပ်ပြ အကောင် ထင်အောင် ဖွဲ့ဆိုနိုင်သော သတ္တိရှိပေသည်။ ဦးပုညရေးသော တရားစာများကိုလည်း ဝတ္ထုပုဒ်ရေ ၃၀–ကျော် အထင်အရှား တွေ့ရသည့်အနက် အချို့တရားစာများသည် ဦးပုည လက်ရာ မဟုတ်ကြောင်းနှင့် သုတေသီပုဂ္ဂိုလ်တို့ ငြင်းချက်ထုတ်ကြပြန်လေ သည်။ အဘယ်ကြောင့်ဟူမူ၊ ကျပင်းဘုန်းကြီး တရားစာစုတွင်လည်း ဦးပုည တရား စာအချို့ ပါဝင်နေသောကြောင့် ဖြစ်သည်။

ဦးပုည တရားစာများတွင် ဆဒ္ဒန်ဆင်မင်း ဝတ္ထုသည် အကောင်းဆုံး ဖြစ်သည်။ ဤဆဒ္ဒန်ဆင်မင်း ဝတ္ထုကို လက်ကိုင်ပြုပြီးလျှင် လာဘ်လာဘရွှင်လျက် ရှိကြကုန်သော ဘုန်းကြီးသာဗျော့နှင့် ဘုန်းကြီးသာဖဲတို့သည် ဦးပုညအား ကျေးဇူးဆပ်၍ မကုန် နိုင်အောင် ရှိတော့သည်။ ဦးပုညသည် ပရိယာယ်ပုဒ်၊ ဝေဝုစ်အဖြာဖြာ၊ ဥပမာနှင့် တကွ ချဲ့ကား၊ ဖွဲ့ကာ ဆိုတတ်သည့်အတွက် အထူးကျော်စောခြင်း ဖြစ်သည်။ ဆဒ္ဒန်ဆင်မင်း ဝတ္ထုတွင် ကြာဖြူတောကို ဖွဲ့ရာ၌...

စိနရဋ္ဌ၊ ဂန္ဓလတိုင်း၊ ယွန်းတို့ဂိုဏ်း၌၊ နက်ရှိုင်းဘူမိရတ်၊ ပံသုဓာတ်မှ၊ လူနတ်မကျို၊ ကမ္ဘာ့လိုဖြင့်၊ နဂိုဓမ္မစစ်၊ ကတ္တာနစ်သော၊ ကျူနှစ် ဘော်စင်၊ ငွေချော်ပင်ကဲ့သို့၊ မြူမင် မခြယ်၊ တင့်တယ် သန့်ရှင်းစွာ၊ ဃာန ဝိညာဏ်၊ နာမက္ခန်တဝ၊ ပသာဒတို့နှင့်၊ အောင်ပ ကုလား၊ ဆွေသားမိတ်တူ၊ နှာညွန့်ကို ချူတတ်သော၊ ကြာဖြူတောတစ်ထပ်...

စသည်ဖြင့် ဆန်းပြားခမ်းနားစွာ စကားပရိယာယ်တို့ဖြင့် တန်ဆာဆင်၍ ဖွဲ့ထား သည်။ သူ့အိမ ဝတ္ထု၌လည်း...

မယ်သက်ကြားလည်း၊ ကြွားကြွားရွှင်ရွှင်၊ စိတ်ကြီးဝင်၍၊ ရွှေစင် ကျောက်မြတ်၊ နဝရတ်သော၊ ပရုတ်သော၊ ပေါ်များသူ မင်းသူဌေး၊ စက္ကဝါတင်းတောင်းနှင့်၊ ခပ်လောင်း၍ ပေးသော်လည်း၊ ကျေးဇူးတော် အရှင်၊ ငါ့သခင်ကို ကိုယ်ပင်တို့သို့၊ ဘယ်အတွက် ပို့လိမ့်မည်...

အစရှိသည်ဖြင့် သူ့အိမ်၏ ဝမ်းလည်းမြောက်ရှင် စိတ်ကြီးလည်း ဝင်နေသော မျက်နှာထားအမူအရာ ကိုယ်ဟန်ကို နှုတ်မြွက်သံဖြင့် ပေါ်အောင် ဖွဲ့တတ်ပေသည်။ ကာကဝလိယဝတ္ထုဦးလည်း ဆင်းရဲသား မောင်နံ့တို့၏ ဆင်းရဲပုံကို . . .

> ဘူမိကမ္ဗလာ၊ မြေမွေ့ရာထက်၊ ချူချာတော် မူလှသော ကာကဝလိယ၊ မွဲပြာကျမောင်နံ့ . . .

စသည်ဖြင့် ယဉ်ကျေးသိမ်မွေ့စွာ ဖွဲ့ဆိုလေသည်။ ဦးပုညသည် ဝါသနာဘာဂီ အလျောက် စကားအရွှမ်းအပျက်ကို နေရာတကာတွင် သုံးတတ်သည်။

> ဝိဝဋ္ဋဋ္ဌာယ၊ ကပ်အစက၊ ပါပဗာဟိ၊ တပသီဟု၊ လောကီရှာန်သခင်၊ သစ်သီးစားဆွတ်၊ ထမင်းမွတ်၍၊ ကိုယ်ဝတ်လျှော်တေ၊ ခြံသစ် ရေနှင့်၊ ဆူးပလွေသီး၊ စိပ်ပုတီးကို၊ နွယ်ကြိုးလျှိုဖောက်၊ လည်ဝယ်ရောက်သည်၊ ခလောက် ကျွဲမှာ ဆင်သို့ . . .

စသည်ဖြင့် လောကီရှာန်သခင်ဟု ချီးမြှောက်ကာ ဆိုပြီးနောက် **'ထမင်းမွတ်၍၊ ခလောက်ကျွဲမှာ ဆင်သို့'** ဟူသော စကားတို့ဖြင့် အပျက်အချော်ဆိုသောကြောင့် အချို့ပညာရှိတို့ မနှစ်မြို့ကုန်။ ရဟန်းတော်ကြီးများကမူ မောင်ပုည ရူးများနေရော့ သလား ဟူ၍ မိန့်ဆိုတော်မူကြသည်။ ပဋ္ဌမသင်္ဂါယနာတင် မင်းတရားကြီးက မောင်ပုည စာဖတ်လျှင် ပါးစပ်သနလိမ့်မည်ဟူ၍ အပြစ်တင်တော်မူသည်ဟု တစ်ဆင့် စကား ပြောကြားကြ၏။ စင်စစ်မှာ အဆိုပါ အဖွဲ့သည် ရကန်အဖွဲ့ဖြစ်၏။ ရကန်ဟူသည် အကျောက်အကန် စကားပါရမြဲ ဖြစ်သည့်အတိုင်း လောကီရသေ့ကြီး များကို ကန်ခြင်းပင် ဖြစ်သည်။ ဤသို့ ကန်ခွင့်ရအောင်လည်း အရင်းက ပါပဗာဟိ ဟူသော စကားကို ခံထားခဲ့သည်။ ဗာဟိ = သာသနာတော်မှ အပဖြစ်၍။ ပါပ = ယုတ်ညံ့သော။ လောကီရှာန်တို့၏ အရှင်သခင် ဖြစ်စေကာမူ သာသနာတော်မှ အပဖြစ်၍ သာသနာတော်တွင်း အရိယာ သံဃာတော်တို့နှင့်စာလျှင် ယုတ်ညံ့သေး သည်သာဟု ဆိုလိုသည်။ ဤသို့ ကန်ခွင့်ရအောင် စကားခံခဲ့ပြီးမှ ရကန်သဘော အတိုင်း အကော်အကန်ရေးခြင်း ဖြစ်သောကြောင့် ဦးပုညကို အပြစ်မဆိုသာဟု ကျွန်ုပ်တို့ ထင်ပေသည်။ အသောအရွှမ်း ဝါသနာပါသူ ဖြစ်စေကာမူ အလွမ်းအဆွေး ခန်းဆိုင်ရာ ကြုံကြိုက်လာပြန်လျှင်လည်း . . .

> နာရဏီခိုင်၊ အင်ကြင်းမြိုင်နှင့်၊ မြစိုင်ပသျှောင်၊ ရွှေဂူချောင်မှာ၊ ဆွေမောင်နှင့်မယ်၊ ကျီစယ်သမှူ၊ ပန်းခိုင်လှ၍၊ ကယုကယင်၊ ချစ်တဲ့တင်လျက်၊ ကြင်ကြည်လည်လည်၊ ပျော်ခဲ့ဖူးသည်များကို၊ ကြံစည်စေ့စေ့၊ တစိမ့်စိမ့် အောက်မေ့၍၊ တငွေ့ငွေ့ ဆင်ခြင်၊ ပူဆကို ငင်မိလျှင်၊ ပူပင်လယ်ရေ၊ လှိုင်ဗောင်ဗင် ဝေသောကြောင့်၊ မပြေနိုင် မဆည်နိုင်၊ သည်းစိုင်လောင်ခြစ်၊ ကျမျက်ရည် ချောင်းဖြစ်အောင်၊ အော်ဟစ်၍ ငိုဆဲတွင်...

စသည်ဖြင့် ရင်ကွဲနာနှင့် နတ်ရွာစံတော်မူရရှာသော သုဘဒ္ဒါ မိဖုရားကြီး၏ အကြောင်းကို ကရုဏာရသ ပေါ်လွင်အောင် ဆဒ္ဒန်ဆင်မင်းဝတ္ထု၌ ဖွဲ့ဆိုထားလေသည်။

ဦးပုည စာများတွင် ကြံဖန်ဆက်စပ်၍ သုံးစွဲထားသော စကားသစ် စကားဆန်းတို့ကို များစွာတွေ့ရ၏။ ပင်ထွက်ဉာဏ်ကောင်းသော ကဝိထူးကြီး ဖြစ်ပေသည်။ ထိုသို့သော စကားဆန်းများကိုလည်း ကြာမြင့်စွာ စိတ်ကူးထုတ်မနေရဘဲ လက်တန်းပင် တစ်မဟုတ်ခြင်း စပ်ဆိုနိုင်သော ဟူ၏။ ဤတရားစာများမှအပ ဦးပုည ရေးသော ငိုချင်းမှာတမ်း လေးဆစ်များနှင့် တေးထပ်ပေါင်း ၂၀၀–ကျော်တို့ကိုလည်း တွေ့ရလေသည်။ ကဗျာတို့မည်သည် ကာရန်မိ၍ အဓိပ္ပာယ်ကောင်းသော်လည်း ကဏ္ဍာသုခ မဖြစ်က ကဗျာကောင်း မဆိုရာ။ ဦးပုည ရေးသော ကဗျာတို့မှာကား ကာရန်လည်း မိ၊ အနက်လည်း ကောင်း၊ ကဏ္ဍာသုခလည်း ဖြစ်၊ ဟဒယရွှင်ဖွယ် စကားလှယ် ဝေဝုစ်၊ စကားသစ် စကားဆန်းလည်း များပြားသောကြောင့် လူအများ နှစ်သက်ကြသည်။ ဤသို့ ဦးပုည၏ စာများသည် နိုင်ငံတွင် လွန်စွာကျော်ကြား၍ ဦးပုညကို မမီနိုင်ကြကုန်သော အခြားကဗျာဆရာများက မနာလို ဝန်တိုကြကုန်သည်။ နိုင်ငံ၌ စာကောင်းပေကောင်း တစ်စောင်ပေါ်လျှင် ဦးပုည ရေးသည်ဟုပင် စွပ်စွဲပြောဆိုဖန်များသဖြင့် ဝန်စာရေး ဦးသာက လွမ်းချင်းတွင် ဖွဲ့ဆိုထားသည်ကား...

> စာမကုံးချင်ဘူး၊ လုံးလုံးကြီးစိတ်နာ၊ ခုအခါ၊ တို့သူငါ သေအောင်ကောင်းစေတော့၊ ရှေးကြောင်းရင်း ကုသိုလ်ဖန်၊ နိုင်ငံမှာ ကိုပုညတဲ့၊ သူမှသာစာပြောင်၊ ပြည်ဘောင်အုံ့တဲ့ မင်းပေလေး၊ ၊စီပြန်ပါလည်း၊ ဤစာဘယ်က၊ ကိုပုညလို့၊ ဖြစ်ရတော့သာ၊ လွန်ကျော်စောတဲ့၊ သာဗျောဟာ၊ ဆိုရှာသမျှ၊ ကိုပုညတဲ့၊ ခုမှနောက်ပေါ်၊ ရင်တော်ခြုံးအုံ၊ ကမျိုးစုံတဲ့၊ ဘုံတစ်ပဲသာ၊ အမှုတုံးတို့၊ သုံးပြန်ရှာ၊ ဆရာစလေ၊

သူ့နှုတ်ထွက်၊ သူ့ချက်ပေလို့၊ တည်နေဝန့်ရှင်၊ ချိုးမွမ်းပုံ တစ်ကြင်၊ ဟိုအရင်စာတွေဟာ၊ ကိုစလေ သူစီကုံးရော့ထင့်၊ ရွှေမန်းသူ အဲ့မှုတုံး တို့ရယ်၊ ငြင်းကြအုံးကွယ်လေး. . .

ဟူသတည်း။ ဤလွမ်းချင်းကို အချုပ်တန်း ဆရာဘေ ရေးသည် ဟူ၍လည်း ဆိုကြ၏။ ထိုအချုပ်တန်း ဆရာဘေကလည်း ဦးပုညကို အမြဲလိုပင် ပြိုင်ဆိုင် ရေးသားလေ့ရှိသည်။

လောက ဟတ္ထေချို့ရင်လ၊ လူဖို့မကောင်း၊ ၊မန်းကနက်မှာလ၊ စန်းလက်ဇာတာ ပြောင်လို့၊ ကဗျာလျောင် နဘေတေးကိုလ၊ ဆရာယောင် စလေက ရေးလိုက်တယ်၊ တွေးဆသင့်ကြောင်း. . .

ဟူ၍ ဆရာဘေက ရေးလိုက်လျှင် ဦးပုညက **'ခါးတောင်းကြိုက် ပဒုံးပိတ်နှင့်၊ ကျုံးထိပ်က ဘော'** အစရှိသော တေးထပ်ကို ရေးစပ်လေသည်။ သူ၏ စာပေ များကို ယှဉ်မတုဖို့အကြောင်းကိုလည်း **'ဂျပ်ကောင်နှယ် ဖင်ကြားက၊ သန်းစကား ခုဝါ'** ချီသော တေးထပ်ဖြင့် ရေးစပ်၍ ဖွဲ့နွဲ့ခဲ့လေသည်။ ဤတေးထပ်၌ စကား ကြမ်းတမ်းလှ၏။ ဦးပုညသည် ကြမ်းသည့်အရာတွင် သူမတူအောင် ကြမ်း၍ ပျော့တန်သည့်အရာတွင် ဖယောင်းက အရှုံးပေးရကြောင်းကိုလည်း တေးထပ်ဖြင့် ရေးစပ်ထားခဲ့၏။ ထိုသို့ အများနှစ်သက်ခြင်း ခံရသော ကဗျာရှင်သည် ဖွားစကပင် ဉပစ္ဆေကကံ မကင်းတတ်ဟု ဟောရင်းရှိသည့်အတိုင်း သတိလွတ်ကင်း၍ မင်းပါး စိုးခွင် အမှုတော် ဝင်ရောက်ထမ်းမိရာ ဦးသာအိုးလက်တွင် အသက်သေရအံ့ဆဲဆဲမှာ ကဗျာရေးစပ်ခဲ့သေး၏။

ဟုတ်ပလေ နှုတ်ချွေ ဟရမှာဖြင့်၊ ပုဗ္ဗေစ ထင်ရဲ့လေ၊ ၊ကောသလ ငယ်တို့၊ ဘဝ အသရေလျှမ်းပါတဲ့၊ ရွှေနန်းစံရာ နရိန်မှ၊ ခါချိန်တန် ပျက်စမြဲဟာမို့၊ စွဲမိသံဝေ၊ ၊အကုသိုလ်ဃာတကတတ်ရယ်က၊ ယခုလို လာလို့ ဖြတ်တာကြောင့်၊ စရပ်သို့ပြေးရလေ၊ ခွေးသေသို့ သေ ရငြား၊ ၊သိလျက်ပင်၊ ဝိပါက်တကယ်ထင်လို့၊ ရွှေဉာဏ်ရည်မဝေခွဲ နိုင်ဘု၊ ပွဲတွေ့အမှား. . .

ဟူသော ကဗျာသည် သူသတ်တို့ လက်တွင်းရောက်မှာ ရေးသောကဗျာ ဖြစ်ကြောင်း နှင့် မှတ်သားထားကြသည်ကို တွေ့ရသည်။

ဦးပုည၏ တေးထပ်များနှင့် ဆရာဘေ၏ တေးထပ်များကို ယှဉ်ပြိုင်လျှင် ဦးပုညရေး တေးထပ်က သာကြောင်း တွေ့ရ၏။ ဆိုလိုသော အနက် အဓိပ္ပာယ်ကို မကွယ်မထောင့် ကွက်ကွက်ကွင်းကွင်းပေါ်အောင် ရေးနိုင်၏။ စကားအပိုအလို မရှိပေ။ ဦးဘေ၏ တေးထပ်များကား တစ်ချို့နေရာ၌ အနက်သဘော ကွယ်ထောင့်၏။ နိဗ္ဗိန္ဒဘွဲ့တေးထပ်များတွင်ကား ဦးဘေက သာမယောင်ယောင်ရှိ၏။ သူ့အဖွဲ့က ပိုမိုစေ့စပ်၏။ မယ်ဘွဲ့ မောင်ဘွဲ့များတွင် ဦးပုညက ထင်ထင်ရှားရှား သာလွန်ကောင်းမွန်၏။ ဤအရာ၌ ဥပမာ ပေးရမည်ဆိုသော် ဦးပုည၏ စာများသည် လူပြက်ပါသော အငြိမ့်သဘင်နှင့် တူ၏။ ဦးပုညနှင့် တစ်ခေတ်တည်း ပေါ်သော အခြားဆရာတို့၏ စာများကား လူပြက်မပါ အဆိုသက်သက် အငြိမ့်သဘင်နှင့် တူ၏။ လူပြက်ပါသော အငြိမ့်ကား ပြက်လုံးများဖြင့်လည်း ကြည့်ရှုသူတို့ကို ဖြေဖျော်၏။ အက,အဆိုဖြင့်လည်း ဖြေဖျော်၏။ လူပြက်မပါသော အငြိမ့်ကား အဆိုသက်သက်ဖြင့်သာ ဖြေဖျော်သဖြင့် ပွဲမထိန်းနိုင် ရှိတတ်၏။ ငြီးငွေ့ပျင်းရိခြင်း ဖြစ်တတ်၏။ ထို့ကြောင့် လူပြက်ပါသော အငြိမ့်နှင့်တူသည့် ဦးပုည စာများက ပိုမိုကောင်းမွန်သည်ဟု ဆုံးဖြတ်သင့်တော့သည်။

## ကင်းဝန်မင်းကြီး

မင်းတုန်းမင်းတရားကြီး လက်ထက်တော်တွင် နလုံးရည် လက်ရုံးရည် နှစ်ပါးစုံဖြင့် အမှုတော်ထမ်းရွက်သော ကင်းဝန်မင်းကြီးသည် ဦးပုညအောက် အသက်ငယ်၍ ဦးပုညနှင့် တစ်ခေတ်တည်း တစ်မင်းတည်းတွင် ခစားသူဖြစ်သော်လည်း ကံအကြောင်းကို လိုက်၍ ချီးမြှင့်မြှောက်စားခြင်း ခံရပေသည်။ ဦးပုညမှာကား ဥပဓိ ချို့ငဲ့ခြင်းကြောင့်တစ်ကြောင်း၊ ကုသိုလ်ကံ အခွင့်မသင့်သောကြောင့် တစ်ကြောင်း ရာထူးကြီးငယ် မရခြင်း ဖြစ်တန်ရာသည်။ ကင်းဝန်မင်းကြီးသည် မုံရွာမြို့ စီရင်စု ဆင်ရှင်မြို့နယ် မုံတိုင်ပင်ရွာတွင် သက္ကရာဇ် ၁၁၈၃–ခုနှစ်၌ ဖွားမြင်သည်။ အဂ္ဂသေနာပတိ ဝန်ရှင်တော် မင်းကြီးဖြစ်မှ မိမိဇာတိရင်းဖြစ်သော မုံတိုင်ပင်ရွာကို မင်းတိုင်ပင်ရွာဟူ၍ အမည်ပြောင်းစေသည်။ ကင်းဝန်မင်းကြီး၏ ငယ်မည်မှာ မောင်ချင်း ဖြစ်သည်။

မောင်ချင်း၏ မိဘများကား မုံတိုင်ပင်ရွာတွင် နတ်သျှင့်ရွှေး သေနတ်အစု အမှုထမ်းဝေပုံပါ ရက်ကန်းယင်သွားများ လုပ်ကိုင်ရောင်းချသူ အဖ ဦးမှို၊ အမိ

ဒေါ်စီတို့ ဖြစ်ကြသည်။ မောင်ချင်း အသက် ၇–နှစ်အရွယ်တွင် ငှက်ပျောတောရွာ ကျောင်းထိုင်ပုဂ္ဂိုလ် ဦးဆန်းထံ စာပေသင်ကြားရန် အပ်နှံထားသည်။ အသက် ၁၀–နှစ်အရွယ်တွင် မောင်ချင်းကို ထိုကျောင်း၌ပင် ရှင်သာမဏေပြုကြသည်။ ဘွဲ့မည်မှာ အာသဘဟု တွင်သည်။ အသက် ၂၅–နှစ်ရောက်သော် ပါဠိအဋ္ဌကထာ ဋီကာ ကျမ်းဂန်များ စုံလင်စွာ တတ်မြောက်ပြီးပြီဖြစ်၍ အမရပူရမြို့သို့ ကြွရောက်တော်မူပြီးလျှင် ဗားကရာတိုက်တွင် သီတင်းသုံးနေသည်။ သက္ကရာဇ် ၁၂၁၀–ခုနှစ်တွင် လူထွက်၍ မင်းတုန်းမင်းသား၏ အိမ်တော်တွင် ခစားထမ်းရွက်ရာ မောင်ချင်း အမည်နှင့် မလျောက်ပတ်၊ မောင်ကောင်းအမည်သို့ ပြောင်းရမည်ဟု အမိန့်တော် ရှိသောကြောင့် ထိုနေ့မှစ၍ မောင်ချင်း အမည်ပျောက်ပြီးလျှင် မောင်ကောင်းဟူ၍ တွင်လေသည်။

သက္ကရာဇ် ၁၂၁၂–ခုနှစ်အတွင်း နေမျိုးနရစည်သူ ဘွဲ့နှင့် အိမ်တော်တွင် ဘဏ္ဍာစာရေး ခန့်သည်။ ၁၂၁၄–ခုနှစ် မင်းတုန်းမင်း အထွတ်အမြတ်သို့ရောက်လျှင် ဦးကောင်းကို မင်းလှသိခ်သူ ဟူသော ဘွဲ့နှင့် စစ်ကိုင်းမြို့နယ် ရွာသစ်ကြီးရွာကို ရွာစား ပေးသနားတော်မူပြီးလျှင် ရွှေတိုက်စိုး ခန့်တော်မူသည်။ ထိုနောက် နိုင်ငံ ရေးရာတွင် ကျွမ်းကျင်လှသောကြောင့် ရွှေတိုက်စိုးအရာနှင့် မတန်ချေဟု အမိန့်တော် ရှိပြီးလျှင် လွှတ်တော်ကြီးဌာနတွင် အမှာတော်ရေး အရာနှင့် ပခန်းကြီး စီရင်စု သပြေ ငါးရွာစား ခန့်တော်မူသည်။ ထိုအခါ မိမိထက် အသက်ကြီးသော ဆင်ကြန် သခင်နှင့် မင်းတရားကြီးက လက်ဆက်ပေးသည်။

ထိုနောက် သက္ကရာဇ် ၁၂၂၃–ခုနှစ်အတွင်း အလုံမြို့ဝန်အရာ ခန့်ထား သူကောင်းပြုခြင်း ခံရပြန်သည်။ ၁၂၂၆–ခုနှစ်တွင် အလုံမြို့ဝန်အရာမှ ပြောင်း၍ လွှတ်တော်စာရေးကြီးအရာနှင့် ရမည်းသင်း တောင်ငူမြို့သို့ လွှတ်တော်မူသည်။ ၁၂၂၈–ခုနှစ်အတွင်း မြင်ကွန်း အရေးတော်ပုံကြီး ပေါ်ပေါက်၍ ကင်းဝန်မင်းကြီးအား ပြန်ခေါ်တော်မူပြီးလျှင် အပါးတော်၌ မင်းကြီးမဟာစည်သူဘွဲ့နှင့် ဝန်ထောက်တော် အရာ ခန့်တော်မူပြန်သည်။ အရေးတော် ပြီးပြေသည့်ကာလ အရပ်ရပ်ကြင်းကင်း၊ ရေကင်းများကို ကင်းဝန်အရာနှင့် အုပ်ချုပ်စီမံစေသည်။ ထိုအခါတွင်မှ ကင်းဝန် မင်းကြီး တွင်သည်။ ၁၂၃၃–ခုနှစ်တွင် နိုင်ငံခြားများသို့ ရာဇမဟာမိတ်ဖြစ်ရန် သံအမတ်ခန့်၍ စေလွှတ်တော်မူသည်။ နိုင်ငံခြားမှအပြန်တွင် အဂ္ဂသေနာပတိ ဝန်ရှင်တော်မင်းကြီး ခန့်တော်မူသည်။

သက္ကရာဇ် ၁၂၄၀-ပြည့်နှစ်အတွင်း မင်းတုန်းမင်းတရားကြီး နတ်ရွာစံ၍ သီပေါမင်းတရား နန်းတက်တော်မူလတ်သော် လက်ဝဲတော် စစ်သူကြီးရာထူး သုဓမ္မာဟူသောဘွဲ့၊ သက်တော်ရှည်ဟူသော ဘွဲ့များကို သနားတော်မူခြင်း ခံရသည်။ ထိုအခါ ကင်းဝန်မင်းကြီး၊ သေနတ်ဝန်ကြီး၊ လယ်ကိုင်းမြို့စားမင်းကြီး၊ မင်းကြီးသက်တော်ရှည်ဟူ၍ ခေါ်စမှတ် ပြုကြသည်။ သက္ကရာဇ် ၁၂၄၇-ခုနှစ်တွင် မြန်မာနိုင်ငံကို အင်္ဂလိပ်မင်းများ သိမ်းပိုက်တော်မူပြီးနောက် လွှတ်တော်တွင် မြန်မာမှူးတော် မတ်တော်များနှင့် ကူညီထမ်းရွက်ရသည်။ ၁၂၅၉-ခုနှစ်တွင် အင်္ဂလိပ်မင်းပေး စီ-အက်-အိုင် ဘွဲ့နှင့် ဥပဒေပြု မင်းတိုင်ပင်အဖွဲ့တွင် ဝင်ရောက်ထမ်းရွက်ရသည်။ သက္ကရာဇ် ၁၂၇၀-ပြည့် အသက် ၈၇-နှစ်တွင် အနိစ္စရောက်သည်။

မင်းကြီးဖွဲ့ဆိုခဲ့သော စာများကား...

၁။ တိဏ္ဍာကပျို့၊

၂။ နေမိရကန်၊

၃။ ဓမ္မောဇ မော်ကွန်း၊

၄။ ရတနာနဒီ မော်ကွန်း၊

၅။ ဓမ္မသတ်လင်္ကာများနှင့် အဖွင့်ကျမ်းများ၊

၆။ သီပေါမင်းတရား၏ သားတော် မြပုခက်တင် ချင်း၊

၇။ သီပေါမင်းတရား၏ သမီးတော် ချင်း၊

၈။ လူးတား၊

၉။ လွှဲချင်း၊

၁၀။ ဓမ္မသတ် ၃၆-စောင်ချုပ်၊

၁၁။ အမွေမှုဓမ္မသတ် ကျမ်းကြီးများ၊

၁၂။ ဆောင်းပါး၊ မေတ္တာစာ၊ မှာတမ်း၊ နိုင်ငံခြားသွား နေ့စဉ်မှတ်တမ်းများ၊ ကျောက်စာ၊ ရတု၊ သာချင်း၊ ယိုးဒယားပတ်ပျိုး အစရှိသော ကဗျာဗန္ဓသီချင်း အများဖြစ်သည်။

ကင်းဝန်မင်းကြီးသည် ငယ်စဉ်ကပင် ဆောင်းပါး ရတု မေတ္တာစာများကို ရေးသားဖွဲ့နွဲ့ခဲ့သည်။ သက္ကရာဇ် ၁၂၂၀-ပြည့်နှစ် သပြေငါးရွာစား စာရေးတော်ကြီးရာထူးနှင့်

ခစားထမ်းရွက်နေစဉ် မင်းတရားကြီးက မဟာနိပါတ် နေမိဇာတ်ကို ရကန်ရေးသား ဆက်သွင်းရမည် အမိန့်တော် ရှိသောကြောင့် မင်္ဂလာအောင်ကိန်းချီ နေမိရကန်ကို ရေးသားပြုစုသည်။ ဖွဲ့နွဲ့ပုံမှာ ဦးတိုး ရာမရကန်၏ အဆင့်အတန်းကို မမီ။ စကားလုံးပြောင်၏။ အနက်အဓိပ္ပာယ်လည်း ပေါ်ပေသည်။ ဖွဲ့နွဲ့ပုံမှာ တိုက်ရိုက် စကားများလွန်း၍ ဂုဏ်မမြောက်လှပေ။ ရကန်ပုဒ်ရေ ၆–တွင် နေမိမင်းကို နတ် ပြည်သို့ ဆောင်ယူရန် မာတလိနတ်သား ဝေဇယန္တာရထားဖြင့် လာသည်ကို နန်းတော် သူများ မြင်၍ ထိတ်လန့်တကြား ဖြစ်သည့်အခန်း၌ . . .

အလို ဘုရား၊ သကြားကူပ၊ နတ်မျှာတန်ခိုး၊ မိုးပြိုမလောက်၊ အတောက် နှင့်ညီညီ၊ တစ်နန်းလုံးပိရချည့်၊ သတိမရ၊ ထသူပြေးသူ၊ အော်သူ တစ်ချို့၊ မခို့တရှိများနှင့်၊ ၊အဆောင်သို့ပြေးဝင်၊ ငယ်သွင်ငယ်ရာ၊ လိပ်ပြာစဉ်လွင့်၊ ခါဖြင့်ခက်တော့၊ မော့လို့မှ ယခု၊ ရှုဝံ့ဘူးဆို၊ ရွှေသဲ များဖို၊ အလိုကြောက်တယ်၊ စိန္တေ ယျကြီးငယ် ကယ်တော်မူပါ၊ ကူကြပါ ဆိုသံ၊ ရွှေနန်းတော်သံများနှင့်၊ ပြောင်းဆန်အောင် ခရာပိုတို့၊ ခိုစရာ ရှား၊ တစ်စတစ်စ၊ မြရောင်စိန်ရောင်၊ ကြောင်နှင့်နီလာ၊ သန္တာနှင့်ရွှဲ၊ ပုလဲနှင့်ဥဿဖယား၊ ပတ္တမြားကွပ်၊ ရထားမြတ်လျှင်၊ နီးလတ်ရကား၊ မီးမှတ်မှားမှ၊ ထောက်ပွားရိုးရဲ၊ နန်းထဲနန်းတွင်း၊ ဆောင်တွင်းခန်းတွင်း၊ တစ်မြို့လုံးလင်းသည်နှင့်၊ နန်းတွင်းအလေ့၊ အမွေ့အဆန်း၊ စိတ်သန်း စိတ်ကူး၊ သူတစ်ထူးငါတစ်ကွဲ၊ ယဉ်နဲ့ယဉ်ခင်း၊ အခန်းတွင်းမှာ၊ အိပ်ရင်းယဉ် ပျော်ရင်းယဉ်၊ အိပ်နိုးထတစ်ပုံယဉ်၊ ယဉ်ချင်းတိုင်း ယဉ်ရော့၊ အယဉ်ကို စိတ်ကူးလို့၊ ညဦးက အပြီး၊ ဖီးကာလိမ်းကာ၊ စက်မွေ့ရာမှာ၊ ပျော်ကာပျော်စ၊ အိပ်သူက တခြား၊ ကစား၍ နေသူ၊ အလှည့်တူ အလှည့်စောင့်၊ ပျော်ပေါင့်ပျော်ပါး၊ ရေးစကားပြောရင်း၊ ခြေဆင်းလဲ့လူ၊ ရွှေနန်းသူအလုံး၊ နေကြတုန်းကို၊ ရှုန်းရှုန်းရှိုးရှိုး၊ ကြိုးသံဇက်သံ၊ ရထားသံ ရွှေခြူသံ၊ ညိုးညိုးညံ၍၊ အလျှံရော အရောင် ရော၊ နှစ်ခုစပ်နှောသောအခါ၊ သောကနဲသံပြိုင်၊ ကုန်း၍ကြွ၍၊ မထတတ် ဒရဗယ်၊ မသယ်နိုင် မပိုးနိုင်၊ ကိုယ်မနိုင် လက်မနိုင်၊ မီးတိုင်ကို ငြိမ်းပါ၊ မှန်အိမ်ကို သိမ်းပါ၊ နှုတ်ကလည်း တစာစာ၊ နွေအခါဟာမို့၊ ကတ္တီပါ ပုံနှိပ်၊ ခြုံစောင်တော်ရွှေမြိတ်နှင့်၊ မိတ်ကလည်း မဖွဲ့လို၊ ကိုယ်ဗလာကျင်း၊

စက်ဘုံတွင်းမှာ၊ အလင်းနှင့် မရာအောင်၊ ပျာကယာအထမို့၊ မလှပနိုင်၊
မီးအိမ်နှင့်မီးတိုင်၊ မကိုင်ဘဲနေစေ၊ ငြိမ်းလို့ပဲသေသေ၊ ဝေဇယန်ရောင်၊
တစ်နန်းလုံးပြောင်၊ မှောင်ပျောက်သည့်အခါ၊ နေရာင်လို ဖြာသော
ကြောင့်၊ ပဝါကို စမ်းယောင်၊ လက်ပိုက်၍ ဝပ်ယောင်၊ ဘယ့်နယ်
ဟန်ဆောင်မချည်း၊ ခြံရွှေစောင်မကယ်လာက၊ ရယ်စရာများ...

စသည်ဖြင့် နန်းတော်သူများ၏ ဖီးပုံ၊ လိမ်းပုံ၊ ဝတ်ပုံ၊ ဆင်ပုံ၊ အိပ်ပုံ၊ နေပုံ၊ ပြောပုံ ဆိုပုံ၊ နန်းမူနန်းရာ၊ နန်းရတုများ ပါရှိရာ မောင်ကောင်းသည် လှုပုံကြည့်တော့ မတုန်မလှုပ် ဣန္ဒြေကြီးနှင့် ရေးလိုက်တဲ့ စာများကတော့ နှိုက်နှိုက်ချွတ်ချွတ် နန်းတော်သူများ အမူအရာကို သူ ဘယ်က မြင်ထားပါလိမ့် ဟူ၍ အရှင်နန်းမတော်ကြီးက အံ့ဩစကား မိန့်ကြား မြွက်ဆိုတော်မူဖူးလေသည်။ မင်းကြီးသည် ဦးတိုးကဲ့သို့ပင် မိန်းမတို့၏ အတွင်းသဘော ဇာတိကို ပေါ်အောင် ရေးနိုင်ကြောင်း ထင်ရှား၏။

ထိုနောက် သက္ကရာဇ် ၁၂၂၆–ခုနှစ်အတွင်း ရတနာပုံမြို့တော်တွင် နွေမိုးမပြတ် ပြည်သူတို့ သုံးရေ သောက်ရေ အလိုရှိသလောက် ပြည့်စုံအောင် မတ္တရာမြစ်အထက် မြန်မာခရီး ၆–တိုင်ကွာ နဂါးရစ်မြစ်က ခွဲပြီးလျှင် ရွှေမြို့တော်ရောက် ဝင်းတော်မှူး သူရဲဝန် သတိုးမင်းကြီး မဟာသမိန်စောဖြတ်စကို ကြပ်မ,ဖောက် လုပ်စေ၍ ပေါက်ရောက်ရှိသည့် မြစ်ကို ရတနာနန္ဒီဟု သမုတ်တော်မူ၍ မင်းကြီး ဦးကောင်းအား ထိုမြစ်ဘွဲ့ မော်ကွန်းကို ရေးသားဆက်သွင်းရမည် မိန့်တော်မူရာ ထိုနှစ်တွင်းပင် ကြားပိမ့်မင်္ဂလာချီ ရတနာနန္ဒီမော်ကွန်းကို ရေးသားဆက်သွင်းသည်။

ဤမော်ကွန်းကို စလေဦးပုညအားလည်း ရေးသားဖွဲ့နွဲ့စေ၍ မော်ကွန်းနှစ်စောင်ကို နန်းတော်တွင်း၌ ယှဉ်ပြိုင်ဖတ်စေတော်မူသည်တွင် ဦးပုည စာကသာကြောင်းနှင့် မင်းတရားကြီး မိန့်တော်မူသည်။ ဤသည်ကို ထောက်၍ ကင်းဝန်မင်းကြီးသည် ကဗျာအရေးအသား အဖွဲ့အနွဲ့တွင် ဦးပုညကို မမီကြောင်း သိရပေသည်။ လက်ရုံးရည်ဘက်တွင်ကား ဦးပုညနှင့် အပြတ်အသတ် ကွာပေသည်။ ကင်းဝန်မင်းကြီးသည် ဦးပုညကဲ့သို့ နှလုံးရည်ဘက်တွင်သာ တစ်ဖက်သတ် အမှုတော်ထမ်းသည် မဟုတ်ဘဲ နှစ်ဖက်နှစ်လမ်း ထမ်းရွက်နေရသောကြောင့် နှလုံးရည်ဘက်တွင် ဦးပုညကို မမီကြောင်း ထင်ရှားသည်။ နန်းတွင်း၌ ကြီးပြင်းရသူဖြစ်သော်လည်း လက်ရုံးရည်ဖြင့်လည်း အမှုထမ်းသူဖြစ်ရကား စစ်မက်ရေးရာဘက်တွင် အလေ့

အလာပြုရသောကြောင့် ဦးပုညလောက် နူးညံ့ယဉ်ကျေးသော စကားလုံးများကို မရှာဖွေနိုင်လေ။

မင်းကြီးသည် ကဗျာများတွင်မက ဓမ္မသတ်ကျမ်းများကိုလည်း များစွာ ပြုစုလေသည်။ ဓမ္မသတ် ၃၆–စောင်ချုပ် အမွေမှုဓမ္မသတ်ကျမ်းကြီးနှင့် အိမ်မှုခန်း ဓမ္မသတ်ကျမ်းကြီးတို့ကို ကင်းဝန်မင်းကြီးသည် ကိုယ်ဖိရင်ဖိ အပတ်တကုတ် အားထုတ်ရေးသားပြုစုခဲ့ပေသည်။ ထိုဓမ္မသတ်ကျမ်းကြီးများကို ယခု အစိုးရမင်းတို့ လက်ထက်တိုင်အောင် အသုံးပြုလျက် ရှိကြပေသေးသည်။ ဤဓမ္မသတ်ကျမ်းကြီးများ အပြင် နာဠသံခိပ်ဓမ္မသတ်လင်္ကာ၊ အဋ္ဌသံခေပဝဏ္ဏနာ၊ ပကိဏ္ဏက ဓမ္မသတ်လင်္ကာ စသည်တို့ကို ပြုစုခဲ့သောကြောင့် ကင်းဝန်မင်းကြီး၏ကျေးဇူးသည် များစွာကြီးမား လှ၏။ တရားသုခမိန် အမတ်ကြီးဖြစ်ပေသည်။

မင်းကြီး ပြုစုခဲ့သော လူးတား ချင်းများသည်ကား ထူးခြား ကောင်းမွန် လှသည် မဟုတ်ပေ။ မေတ္တာစာများကိုကား ငယ်စဉ်ကပင် ရေးသားသည်။ ကြီးမှ ရေးသားသော မေတ္တာစာများလည်း ရှိ၏။ ဦးပုည မေတ္တာစာများကဲ့သို့ ဆွေမျိုး မိတ်ဆွေတို့ တစ်ဦးနှင့်တစ်ဦး သာကြောင်း မာကြောင်း ပေးသောစာမျှ ဖြစ်၏။ တစ်ခုထူးခြားသည်ကား မင်းကြီး၏ မေတ္တာစာများတွင် လေးချိုး ဒွေးချိုး တေးထပ် အစရှိသော ကဗျာသီချင်းများ ပါခြင်းဖြစ်၏။ ရေးအခါက ရေးကြသော မှာတမ်းနှင့် အနည်းငယ် ဆင်တူ၏။ ဤမေတ္တာစာများသည် ကောင်းမွန်ပါသော်လည်း ထင်ပေါ် ကျော်စောခြင်း မရှိခဲ့ပေ။ အဘယ်ကြောင့်ဟူမူ ထိုခေတ် ထိုအခါမှာ ဦးပုည မေတ္တာစာများက လွှမ်းမိုးနေသောကြောင့် ဖြစ်တန်ရာ၏။ ကဗျာသီချင်းများကိုလည်း မင်းကြီးသည် ပြုစုခဲ့သေး၏။

## အိုင်ချင်း

ထိုသီချင်းများတွင် အိုင်ချင်းစုကို မှတ်တမ်းတင်သင့်၏။ အိုင်ချင်းများသည် ပထမအင်းဝခေတ်ကပင် စ၍ ပေါ်ခဲ့ရာ ကောက်စိုက်သူတို့ ဆိုကြသော အိုင်ချင်းများ ကိုသာ တွေ့ရ၏။ ဤသို့ တောရွာကျေးလက်တွင် ဖြစ်ပျက်သော အကြောင်းအရာ များကို ဖွဲ့နွဲ့သည့် အိုင်ချင်းများကိုသာ တွေ့ရသောကြောင့် နန်းသုံးတော်ဝင်သည့် ကဗျာ ဟုတ်မည်မထင်။ ဤအရာ၌ **'အိုင်အိုင်ရင့်ကျူး၊ နှလုံးနူးအောင်'** ဟူသော ဆုတောင်းခန်း ကဗျာကို ထောက်၍ သူတစ်ပါးတို့ စိတ်နှလုံးကြည်နူးစေတတ်သော

အသံတစ်မျိုးကို အိုင်ဟု ခေါ်သည်။ ထိုအသံမျိုးဖြင့် သီဆိုရန် စီစဉ်ဖွဲ့နွဲ့အပ်သော သီချင်းဖြစ်၍ အိုင်ချင်းဟု ခေါ်၏။ ဤသီချင်းသံကို ကြားလိုက်လျှင် မျက်ရည် ဖြိုင်ဖြိုင်အိုင်၍ စီးဆင်းလာစေတတ်သော သတ္တိကြောင့် အိုင်ချင်း ခေါ်ပါသည် ဟူ၍လည်း ဆိုကြသည်။

မင်းကြီးသည် ၁၂-ရာသီဘွဲ့ အိုင်ချင်းကိုလည်း ဖွဲ့ဆိုခဲ့သည်။ ဤအိုင်ချင်း များသည် အင်းဝခေတ်ပေါ် အိုင်ချင်းများနှင့် မတူ။ အဖွဲ့အနွဲ့ များစွာ ကွာခြား၏။ အင်းဝခေတ်ပေါ် အိုင်ချင်းများတွင် **'သူငယ်ချင်းငယ်ကောင်း၊ ယောင်းမတို့လေး'** ဟူ၍ အစချီသည်။ ထိုပြင် ကင်းဝန်မင်းကြီး၏ အိုင်ချင်းများထက် ရှည်လျားသည်။

၁။ တန်ခူးစိတြ၊ မိဿခါသော်၊ ရင်ခတ်ကယ်ကဲ့ကော်၊ မွေးကျော် ကြိုင်လွှင့်၊ အတာသဘင်၊ ပျော်ရွှင်ဆိတ်မင်းဝင့်။

၂။ ပြိဿကဆုန်၊ မြူးခုန် နွားနှင့်၊ စံကားပွင့်တို့၊ ခါသင့်ချိန်ခါ၊ ညောင်ရေတော်ပွဲ၊ ထွန်းမြဲဝိသာခါ။

အစရှိသည်ဖြင့် ၁၂-လ အစီအစဉ်အတွက် တစ်ရာသီ တစ်ပုဒ်ကျ ၁၂-ပုဒ် စပ်ဆို ဖွဲ့နွဲ့သည်။ မင်းကြီးသည် အဖွဲ့အနွဲ့ကို ဂရုမပြု။ အာဂုံမှတ်လွယ် ကျက်လွယ်ရန်ကို ရည်ရွယ်ပြီးလျှင် ဤကဲ့သို့ တိုတောင်းစွာ ရေးဟန်တူသည်။ မင်းကြီး ရေးသားခဲ့သော နေ့စဉ် မှတ်တမ်းများကိုလည်း အထူးတလည် ကြည့်ရှုမှတ်သားထိုက်ပေသည်။ ဤမှတ်တမ်းမျိုးကို ကင်းဝန်မင်းကြီးကပင်လျှင် အစထွင်၍ ရေးပေသည်။ ဤသို့ ခရီးစဉ်မှတ်တမ်း အရေးအသားမျိုးကို အင်္ဂလိပ်လူမျိုးများ ရေးမှတ်လေ့ရှိကြရာ ကင်းဝန်မင်းကြီးလည်း အင်္ဂလိပ်လူမျိုးများထံမှ အတုယူပြီးလျှင် ခရီးသွားမှတ်တမ်းကို ရေးသားဟန် တူ၏။ ဤသို့ မှတ်တမ်းရေးခြင်းအားဖြင့် မိမိသွားလာခဲ့ဖူးသော ဒေသများ၊ မိမိလုပ်ကိုင်တွေ့ကြုံခဲ့ဖူးသော အရာများကို နောင် မေ့လျော့နေ၍ ပြန်လည် သိရှိလိုက မှတ်တမ်းတွင် ပြန်ကြည့်နိုင်သည်ဖြစ်၍ မိမိအတွက် အကျိုးရှိသည့်အပြင် အခြားသူတို့သည်လည်း ထိုမှတ်တမ်းကို ဖတ်ရှုကာ မရောက်ဖူး၊ မမြင်ဖူးသော အရာတို့ကို ကိုယ်တိုင်သွားရောက် တွေ့မြင်သကဲ့သို့ သိရှိခြင်းများကို ဖြစ်စေနိုင် သောကြောင့် အခြားသူတို့အတွက်လည်း အကျိုးဖြစ်ထွန်းစေနိုင်၏။

ကင်းဝန်မင်းကြီး ပြုစုခဲ့သော ခရီးသွားမှတ်တမ်းများသည် လန်ဒန်သွား မှတ်တမ်းနှင့် ပြင်သစ်သွား မှတ်တမ်းများ ဖြစ်သည်။ ဤမှတ်တမ်းများတွင် ကဗျာ၊

လေးချိုး၊ ရတုများကိုလည်း တွေ့ရသည်။ အပျက်အရွှမ်း စကားများကိုလည်း အချို့နေရာ၌ တွေ့ရ၏။ ခရီးစဉ်အတိုင်း ရောက်သည့်နေရာ အရပ်များတွင် တွေ့ကြုံခဲ့ရသော အံ့သြထူးဆန်းဖွယ်ရာများကို ရေးသားထားသဖြင့် ဗဟုသုတများစွာ ဖြစ်စေသော မှတ်တမ်းကြီးများ ဖြစ်ကြ၏။ ဤမှတ်တမ်းကြီးတွင် ထူးခြားသည့် အရာကား ကင်းဝန်မင်းကြီး၏ ရံဖန်ရံခါ မပြီကလာ ပြီကလာနှင့် သုံးတတ်သော အင်္ဂလိပ်စကားများပင်တည်း။ မင်းကြီးသည် မိမိ အင်္ဂလိပ်စကား မတတ်ကြောင်းကို ဖတ်ရှုသူတို့အား သိစေလိုဟန် တူ၏။ လန်ဒန်သွား ခရီးနေ့စဉ် မှတ်တမ်း ဒုတိယ တွဲတွင် ခရီးစဉ် ရကန်တစ်ပုဒ်ကို ရေးသားထား၏။

> သေနတ်အမြောက်၊ လောက်လောက်လုံလုံ၊ တောင်နှယ်ပုံ၍၊ ပြည့်စုံ
> လျှင်းအောင်၊ လုပ်ဆောင်သည့်နေရာ၊ သူနာတိုက်ခန်း၊ မင်းတို့
> နန်းများနှင့်၊ မြူးစီးယမ်းဝယ်၊ ဆန်းတကြယ် များလည်း၊ ကြောက်ဖွယ်
> မှတ်ရန် စုံ၏။

ဟူ၍ လည်းကောင်း၊ မေတ္တာစာ တစ်ခုတွင်လည်း...

> ရွှင်လန်းသမှု၊ နလုံးပြုပြီးလျှင်၊ နိုင်းမတု လောက်အောင်၊ သိုင်းခရု
> လိုက်ပါသည်။

ဟူ၍ လည်းကောင်း အင်္ဂလိပ်လူမျိုးတို့၏ စကားကို တိုက်ရိုက်ယူ၍ သုံးနှုန်းထားသောကြောင့် အချို့နေရာများတွင် အင်္ဂလိပ်စာ မတတ်သူတို့အတွက် အခက်ကြီး တွေ့ရတော့သည်။

## မန်လည် ဆရာတော်

မင်းတုန်းမင်းတရားကြီးနှင့် သီပေါမင်းတရားတို့ လက်ထက်တော်များတွင် စာဆိုလောကကြီးအတွင်း ထင်ရှား ကျော်စောကြကုန်သော ရဟန်းပုဂ္ဂိုလ်များလည်း အများအပြား ပေါ်ပေါက်ထွန်းကားကြကုန်သည်။ ဤရဟန်းပုဂ္ဂိုလ် စာဆိုကျော်တို့ အနက် မန်လည်ဆရာတော်သည် ထူးခြားသော ပုဂ္ဂိုလ်တစ်ပါး ဖြစ်ပေသည်။ ဆရာတော်၏ ငယ်မည်သည် ဦးမာဖြစ်၏။ ရဟန်းဘွဲ့ကား ဦးဇဝနတည်း။ သက္ကရာဇ် ၁၂၀၃–ခုနှစ်တွင် ကသာ စီရင်စု အင်းတော်ကြီးမြို့နယ် မန်လည်ရွာ၌ ဖွားမြင်သည်။ ဦးမာ၏ အမိအဖတို့မှာ သစ်ကုန်သည်ကြီး ဦးထင်ညိုနှင့် ဒေါ်ဖြေတို့

ဖြစ်ကြသည်။ ဦးမှာ ၃-နှစ်ရွယ်တွင် ဖခင် သစ်ကုန်သည်ကြီး ကွယ်လွန်သည်။ အသက် ၁၂-နှစ်ရွယ်တွင် ဝန်းသိုမြို့ တောင်ပေါ်ကျောင်း ဘုန်းကြီးဦးပန်းအောင်ထံ အပ်နှံ၍ စာပေများကို လေ့လာသင်ကြားစေရာ ဗဟုသုတ ပညာရပ်တို့ကိုလည်း ဆည်းပူးသည်။ အသက် ၂၀-တွင် ရဟန်းပြု၍ ပိဋကတ်စာပေ ကျမ်းဂန်များကို ဆက်လက်သင်ကြားပြန်ရာ သက္ကတ၊ မာဂဓ၊ ဂန္ထန္တ ရကျမ်းများနှင့်တကွ ပိဋကတ် သုံးပုံကို ကမ်းတစ်ဖက်ရောက် တတ်မြောက်တော်မူသည်။ ကဗျာအရာ၌လည်း အင်းဝခေတ် စာဆိုတို့၏ အဆင့်အတန်းနီးနီး မီသည်ဟု အဆိုရှိကြသည်။ ဓမ္မ ကြောင်းဘက်တွင် များစွာ နိုင်နင်းတော်မူသည်။ ထိုပုဂ္ဂိုလ်သည် ပညာရှိဖြစ်လိုသူတို့ စံယူခြင်းငှာထိုက်သော မဟာသုတကာရီ မဃဒေဝ လင်္ကာသစ်ကို ရေးသားတော် မူသည်။ ဤကျမ်းတစ်စောင်တည်းနှင့်ပင် ကဗျာ့ပါရဂူဟု မှတ်ယူထိုက်သော ပုဂ္ဂိုလ် ဖြစ်ပေသည်။ အခြား ရေးသားပြုစုခဲ့သော စာများကား ဆုတောင်းစာ၊ ဘုရားရှိခိုး အမျိုးမျိုး၊ သံချို၊ လေးချိုး၊ သဖြန်၊ ဟောစာများအပြင် ပါဠိကျမ်းဂန်ဆိုင်ရာ ဝိနိစ္ဆယ ကျမ်းများ ဖြစ်သည်။ သက္ကရာဇ် ၁၂၇၉-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့ကို အစိုးရ မင်းများ၏ ကပ်လှူခြင်းကို ခံရသည်။ သက္ကရာဇ် ၁၂၈၁-ခု၊ ဝါဆိုလတွင် ပျံလွန် တော်မူသည်။

## မဃဒေဝ လင်္ကာသစ်

ဆရာတော်သည် သက္ကရာဇ် ၁၂၃၃-ခုနှစ်၊ ရဟန်း ဆယ်ဝါရရှိတော်မူသော အခါ ရေးသာမဏေအဖြစ်နှင့် နေမိဇာတ်တော်ကို သင်ကြားခဲ့စဉ်က မဃဒေဝမင်း တောထွက်ခြင်းကို လွန်စွာ ကြည်ညိုသော သဒ္ဓါတရား ဖြစ်ပွားခဲ့ဖူးသည်တစ်ကြောင်း၊ ပညာရင်နို့ သောက်စို့ရာဖြစ်သော ဆရာအရှင်များ၏ ကျေးဇူးတော်ကို ဆပ်လိုသည် တစ်ကြောင်း များကြောင့် မဃဒေဝလင်္ကာသစ်ကို စတင်ရေးသားတော်မူသည်။ သို့ရာတွင် မြတ်စွာဘုရား၏ အမှုတော်ထမ်း ရဟန်းအာဇာနည် သာသနယောဂီ ဖြစ်တော်မူသည့်အတိုင်း ဘုရားကိစ္စ၊ သာသနာရေးကိစ္စများကို ဆောင်ရွက်နေရသည့် အတွက် ပြီးဆုံးအောင် မရေးသားနိုင်ဘဲ ဖင့်နွဲ့လျက် ရှိရလေသည်။

သက္ကရာဇ် ၁၂၆၆-ခုနှစ်တွင်မှ တစ်ဖန် သတိရတော်မူပြန်၍ ဆက်လက် ရေးသားတော်မူပြန်သည်။ မဃဒေဝ လင်္ကာသစ်ကြီးသည် ထုံးတီးနည်းနာဖြာဖြာစုံလင်

ပုံပြင်ဝတ္ထု၊ ဇာတ်နိပါတ်ရာဇဝင်၊ ဆေးကျမ်း၊ ဓာတ်ကျမ်း၊ နက္ခတ်ကျမ်း၊ ဗေဒင်ကျမ်း စသော လောကီ လောကုတ္တရာ ဗဟုသုတ အနှစ်သာရတို့နှင့် ပြည့်ဝ စုံလင်စေနိုင်သော ကျမ်းကြီးတစ်စောင် ဖြစ်ပေသည်။ သို့ဖြစ်၍ မဟာသုတကာရီဟု အရင်းက အမည် တပ်ထားလေသည်။ ဆရာတော်သည် ရာဇဓမ္မလောကကြောင်း သုံးမျိုးလုံး၌ပင် များစွာကျွမ်းကျင်တော်မူသည်။

ဆရာတော်၏ အဖွဲ့အနွဲ့များသည် လောကကြောင်း၊ ရာဇကြောင်းတို့နှင့်တကွ ဆိုင်ရာဆိုင်ရာ များစွာလေးနက်၍ တရားအဆိအနှစ်တို့၏ စုဝေးရာ ဌာနကြီး ဖြစ်ပေသည်။ ဤကျမ်းတစ်စောင်ကို ဖတ်ရှုလေ့လာထားပါလျှင် အခြားကဗျာကျမ်း အစောင်စောင်တို့ကို နားလည်ရန် မခဲယဉ်းတော့ပေ။ တစ်နည်းအားဖြင့် မဃဒေဝ လင်္ကာသစ်ကြီးသည် ဗဟုသုတ ဟင်းလေးအိုးကြီးနှင့် တူ၏။ ဤ ဗဟုသုတ ဟင်းလေးအိုးကြီးမှ လောကီ လောကုတ္တရာ ကျမ်းဂန်ဆိုင်ရာ ဗဟုသုတအမျိုးမျိုး တို့ကို ထုတ်ယူသုံးဆောင်နိုင်ကြလေသည်။

> မဟာဝိသယ၊ တိလောက နှိုက်။ နရမရူ၊ သနင်္ကုတို့၊ သရဘူဦးစိုက်။ မကိုဋ် နဝရတ်၊ ကျောက်စိန်ထွတ်ဖြင့်၊ ညွတ်၍ညွတ်၍၊ ဦးနိမ်ဖော့လျက်၊ ညဉ့်နေ့မစဲ၊ တရဲရဲတည့်၊ အမြဲရောင်ညီ၊ မပြတ်ထိသား၊ နန္ဒီဝမုန၊ သကျမာရဇိန်၊ စောမုနိန်၏၊ သိရိန္ဒာဘိ၊ သိရိရတနာ၊ မင်္ဂလာမျှို့ပေါင်း၊ ပုန်းတောင်းပြိုးပြက်၊ ရာ့ရှစ်ကွက်နှင့်၊ ရွှေစက်ပဝရ၊ စရဏာဟု၊ ပါဒ နတ်သန်၊ စုံနှစ်တန်ကို၊ ငွေဗိတာန်ကြီး၊ ကဒဏ်ထီးသို့၊ မိုးပြီးဥသုံ၊ ဘေးမျိုး လုံမှ၊ သုံးပုံပိဋကတ်၊ ဝါဏီမြတ်ဟု၊ သူရဿတီ၊ နတ်ဒေဝီ လည်း၊ ယှဉ်မိုနိစ္စ၊ မပြတ်မ၍၊ ငါ့နလုံးတိုက်၊ ရွှေကြာသိုက်၌၊ ပျော် ပိုက်စေပြီး၊ ဂိုဏ်းကြီး အရိယာ၊ ဂုဏ်ကိုးဖြာနှင့်၊ သင်္ဃာပရမတ်၊ ရှစ်ပါးနတ်ကား၊ လောကဓာတ်ဒီသာ၊ ရှစ်မျက်နှာက၊ စကြဝဠာ တောင်ကြီး၊ ကာဆီးသော့ယောင်၊ တန်ခိုးရောင်ဖြင့်၊ ရန်မှောင်မမှောင့်၊ တည်နေစောင့်၍၊ ချမ်းသောင့်ချမ်းသာ၊ အကြင်ငါလျှင်၊ လင်္ကာ ဤကျမ်း၊ နည်းစုံပွမ်းကို . . .

စသည်ဖြင့် ကျမ်းဦး၌ ပဏာမ နိဒါန်းစကား ရေးသား ဖွဲ့နွဲ့ထားပုံသည် နက်နဲ ခမ်းနားလှပေသည်။ ထိုအပြင် ဆရာတော်သည် ဤလင်္ကာကြီးကို ပြုစုရေးသားရာ၌

သတ်ပုံကျမ်းကြီးတစ်စောင် ဖြစ်အောင်လည်း ရည်ရွယ်ဟန်တူ၏။ အဘယ်ကြောင့်ဟူမူ မဃဒေဝ လင်္ကာကြီး တစ်စောင်လုံးတွင် ခွဲထားသတ်ပုံများဖြင့် တန်ဆာဆင်ထားသောကြောင့် ဖြစ်၏။ ခွဲထားပြဆိုသည့် ပုံစံကား...

တဏှာ့ကျေးကျွန်၊ ကာမ ဝန်ကား၊ သည်းဝှန် ထပ်ထပ်၊ ရှင်တိုင်းကျပ်၏၊ ကြီးကြပ် ညှဉ်းပန်း၊ သက်ကုန်ကျွမ်းအောင်၊ မလန်းမကြည်၊ ပွတ်နယ် နည်း၍၊ ဆုံကျည်ပွေ့ကြိတ်၊ တကျိတ်ကျိတ်သို့၊ မဆိတ် ဖန်ဖန်၊ အလွန်ကျဉ်းမြောင်း၊ ဒုက္ခထောင်း၏။

စသည်ဖြင့် ခွဲထားသတ်ပုံတို့ကို ဖော်ပြဖွဲ့နွဲ့ထားလေသည်။ ဤပုဂ္ဂိုလ်၏ အဖွဲ့အနွဲ့ကောင်းပုံများကို ကောက်ယူထုတ်နုတ်၍ တစ်ခုပြီးတစ်ခု ချီးမွမ်းဝေဖန်ခြင်းပြုနေရပါလျှင် လွန်စွာ ကျယ်ဝန်းနေမည် ဖြစ်သောကြောင့် သုတေသီ ပုဂ္ဂိုလ်တို့သည် မဃဒေဝ လင်္ကာသစ်ကြီးကို မျက်ဝါးထင်ထင် ကိုယ်တိုင်ဖတ်ရှု၍ ကဗျာဗန္ဓအဆင့်အတန်းနှင့် ပုဂ္ဂိုလ်ကြီး၏ ဉာဏ်စွမ်းရည်ကို ဆုံးဖြတ်ကြပါကုန်။

မဃဒေဝလင်္ကာသစ်ကြီးမှအပ အခြားပြုစုခဲ့သော ကျမ်းများလည်း ရှိသေး၏။ ဆရာတော်သည် ပုဏ္ဏာဝိသဇ္ဇနာ ကျမ်းများနှင့် သုတ် ပါဠိတော် နိဿယအမျိုးမျိုး စုစုပေါင်း ကျမ်း ၃၀-ကျော်ခန့်ကို စီရင်ရေးသား ပြုစုခဲ့ပေသည်။ ကဗျာ သီချင်းဘက်တွင်လည်း ဘုန်းကြီးပျံ့ငိုချင်းများ၊ လေးချိုး၊ ဒွေးချိုး၊ သံချိုများကို ဖွဲ့နွဲ့ရေးသားခဲ့သည်။ မန်လည်ဆရာတော်နှင့် ပုသိမ် ဘုန်းတော်ကြီး ဦးပဒုမတို့ အပြန်အလှန် ရေးကြသော လေးချိုးများသည် ယခုထက်တိုင် နိုင်ငံ၌ အနံ့အပြား ရှိကြပေသေးသည်။ ပုသိမ် ဦးပဒုမက ဒသသီလ ဝိနိစ္ဆယစာအုပ်ကို ရေးထုတ်သောကြောင့် မန်လည်ဆရာတော်နှင့် ဝိဝါဒ ဖြစ်ပွားကြရာတွင် အောက်ပါ လေးချိုးကို ဆရာတော်က...

သူမတို့လေမှ၊ သူတို့လျှင် တကယ်မြည်တဲ့၊ မြို့ရွှေလည် ရွှေစည်ကြီးပါကွဲ့၊ တီးသမျှဖိမ့်ဖိမ့်တုန်၊ ။သူမာလျှင် မာစိန်စောင်းပါပဲ၊ သူပျောင်းလျှင် အရေဖြစ်နိုင်ငဲ့၊ မယုံလျှင် မအေနှင့်စစ်လာတော့၊ သနစ်ကိုကုန်မလင်းသော်လဲ၊ အဖြစ်ဆို ဂုဏ်သတင်းကိုလ၊ လေညှင်းလာသင်းကာပျံ့၊ ပန်းရနံ့ပုံ၊ ။ဓာတ်မသိတာမို့၊ ဟတ္ထိယုန်ငယ်ထင်ထင့်၊ ဟိုအောက်ခွင် ငါးဇင်ရိုင်းဟာနှင့်၊ ငါးသိုင်းတွေ အညာဆန်တို့ကို၊

တံငါလန် ရွှေလည်ကွေ့တွင်ဖြင့်၊ တစ်ခါပြန် ဆန်မတွေ့ရအောင်၊ ဘေးတွေ့စိမ့်တကက်တကက်ကုန်။ မစုန်ရသည့်တိုင်း၊ ။ရိုးသိသိ၊ ငါးပိ ငါးချဉ် သိပ်ပါလို့၊ ထောင်းကြိတ်ချေ၊ ကြေအောင်ညက်စေမှ၊ နောင်သက်ခါ အရေးဖြင်သည့်ပြင်၊ ခွေးဖင်မှာ ချေးဘင်ဖြစ်စေရမယ်၊ ငါးချစ်တလိုင်း...

စသည်ဖြင့် ရေးသားပေးပို့လိုက်ရာ ဦးပဒုမကလည်း ပြန်လှန်၍ ရေးသားပြန်သောကြောင့် စာစ်ဖန် ထပ်မံ၍...

ပဒုမ၊ တုပကာ နင်မယောင်နဲ့၊ ဆင်ပြောင် ခြင်ကောင် ဝါးသည်သို့၊ ယားရုံမျှ ဥပမာ၊ ။ဉာဏ်အနက်ကိုလှ၊ စံဘက်ပေါ် နင်မလျော်ဘု၊ နင့်မယ်တော် ရှင်ဇလာနှင့်၊ ခင်ဆရာ အိမ်ထောင်ကျလျှင်၊ ပဒုဆိုမောင်ရွှေမမှာ၊ သားငယ်မျှသာ၊ ။ပညာကို ယှဉ်ကာချင့်လျှင်၊ အခွင့်ငယ်အရာနှင့်၊ ယောဇနာသမ္ဗန်မျိုးကိုမှ၊ နည်းရိုးပင် ဘာမကျခင်က၊ မင်းရန်စ ငါ့ကိုရှာ၊ ငါဘာပြု ဖြုံမတုန်း၊ ။နှစ်ဘက်ကန်း၊ မျက်ခန်းနေကိုပြိုင်သို့၊ ခွင့်လုံးပိုင်မင့်စာများပြီမို့၊ အလားငယ် ပယ်မကျစေနှင့်၊ သာအရာခွင့်ကျေကြအောင်ပ၊ ငါဆရာ မင့်ဖေဘကို၊ ဦးချလှည့်အုံး...

ဟူ၍ ဆရာတော်က ရေးသားဖွဲ့နွဲ့ပြန်လေသည်။ ထိုအခါက ဆရာတော် ရေးသားတော်မူသမျှ ကဗျာများကို တိုင်းသူပြည်သား သုတေသီတို့ ဂရုတစိုက်ပြုကာ ကူးယူမှတ်သား၍ ထားကြကုန်သည်။ နောက်ဆုံး အောက်ပါ ကိုယ်ရည်သွေး လေးချိုးကို မန်လည်ဆရာတော်ပင် ရေးသားတော်မူသည်။

မာန်မလုပ်ချင်ဘူး၊ မာန်လုပ်လျှင် လွယ်သည်သာပ၊ ငယ်မည်မှာ (န)ကို သတ်ရုံပဲ၊ နေရပ် မာန်ရွှေလည်နှင့်၊ မာန်နှစ်လီ မာန်စုံကွန့်၊ ဖူးအညွန့်ခေါင်ကတင်၊ ။သို့ကတဲ လုပ်ပဲ သမ္ဗဇဉ်နှင့်၊ မာန်မယှဉ် ဉာဏ်ယဉ်အုပ်ပါလို့၊ သိမ်းချုပ်ကာ မာန်ကိုကင်းစေရ၊ ယင်းခုခေတ်တွင်၊ ။တကယ်ဆို တကယ်လားပါပဲ၊ အကျယ်ဆို ကျယ်မပွားပြီဘူး၊ မြတ်ဖျားစိန္တေယျာမှာ၊ လူပြိတ္တာ ပုရာဏတို့ကို၊ ယှုမိစ္ဆာ သကာကျအောင်လို့၊ မီးရေပြ တန်ခိုးဆင်၊ အရိုးပင်လာကျမ်း၊ ။ထို့တူသာ၊ ပြိုင်လိုလျှင် ပြိုင်လာတော့၊ ဆိုင်လာလျှင် ကြာမနေးနှင့်၊ ရှုံးသူဟာ

နှမပေးပါလို့၊ လိုသေးလျှင် ကိုယ်ပိုင်ယူမှ၊ နိုင်တဲ့သူ ယောက်ဖကြီးပါပဲ၊
ဇက်ပေါ်မှာ ဒေါက်ခွစီးတဲ့ပြင်၊ (ရီး)စုပ်ကြဲတမ်း။

ဤသို့လျှင် ဆရာတော်သည် သိမ်မွေ့နက်နဲသည့် ဓမ္မသဘာဝတို့ကို ပြဆိုသင့်သည့်အရာ သိမ်မွေ့နက်နဲစွာသော ဓမ္မသဘာဝတို့ကို ထုတ်ဆိုဖွဲ့နွဲ့ခြင်း၊ ယဉ်ကျေးနုနယ်စွာ ဖွဲ့နွဲ့ရမည့်အရာ ယဉ်ကျေးနုနယ်စွာပင် ဖွဲ့နွဲ့တော်မူခြင်း၊ ကြမ်းကြမ်းတမ်းတမ်း ရေးသားဖော်ပြ ဆုံးမရမည့်အရာ ကြမ်းတမ်းစွာပင် ရေးသားဖွဲ့နွဲ့ခြင်းတို့ကို ကျကျနန ပြုတော်မူနိုင်သဖြင့် ဆရာတော်၏ အံ့ချီးဖွယ်ရာ ဌာနဌာနကောသလ္လဉာဏ် ထက်သန်တော်မူလှသည်ကို ကြည့်ညိုကြရန်သာ ဖြစ်လေသည်။

## လယ်တီဆရာတော်

လယ်တီဆရာတော်သည် ဒီပဲရင်းမြို့နယ် စိုင်ပြင်ရွာ၌ သက္ကရာဇ် ၁၂၀၈-ခုနှစ်တွင် ဖွားမြင်တော်မူ၍ အရွယ်သို့ရောက်သောကာလ အစဉ်အတိုင်း ရှင်သာမဏေရဟန်းအဖြစ်ကို ခံယူကာ ပဉ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရား လက်ထက်တော်တွင် ပရိယတ္တိ ဝိသာရဒဂုဏ်နှင့် ပြည့်စုံတော်မူသော **'သုဒဿနဓဇ အတုလဓိပတိ သိရီ ပဝရ မဟာဓမ္မ ရာဇာဓိရာဇဂုရု'** ဘွဲ့တံဆိပ်တော်ရ စံကျောင်းဆရာတော်၏ အထံတော်၌ ပရိယတ္တိကို သင်ကြားပို့ချ၍ နေတော်မူသည်။ ဘွဲ့အမည်မှာ **ရှင်ဉာဏ**ဟူ၍ တွင်၏။ ထိုနောက် သက္ကရာဇ် ၁၂၄၄-ခုနှစ်တွင် သလ္လာဝတီမည်သော ချင်းတွင်းမြစ် အရှေ့ဘက် ကမ်းထိပ်ဝယ် သာယာပျံ့ပျူးသော ဆိပ်ကမ်းဈေးနှာ များစွာသော လူမျိုး စေတီပုထိုးတို့ဖြင့် တင့်တယ်စွာ တန်ဆာဆင်အပ်သော မုံရွာမြို့သို့ ပြောင်းရွှေ့၍ သီတင်းသုံးတော်မူသည်။

မုံရွာမြို့ အရှေ့မြောက် ကုလားလေးတာ အပြင်ငါးရာကွာတွင် လယ်တီမည်သော တောအုပ်သည် ရှိ၏။ ၁၂၄၈-ခုနှစ်တွင် ထိုတောအုပ်ကို ရှင်းလင်း၍ တိုက်တာ အရံ ကျောင်းကန်များ တည်တော်မူပြီးလျှင် တပည့်သံဃာတော်အများနှင့် သီတင်းသုံးတော်မူ၏။ ၁၂၅၀-ပြည့်နှစ်တွင် သိမ်ကြီးတစ်ခုကိုလည်း သမုတ်တော်မူသည်။ ဤသီတင်းသုံးတော်မူရာ ကျောင်းတိုက်ကြီးသည် ရှေးဟောင်း **လယ်တီ**မည်သော တော၏ နာမကို အစွဲပြု၍ လယ်တီတိုက်ဟု တွင်၏။ ဆရာတော်ဦးဉာဏမထေရ်သည်လည်း လယ်တီဆရာတော် ဟူ၍ပင် အမည်တွင်တော်မူသည်။

ဆရာတော်သည် အရပ်ရပ်မှလာသော စာသင်ရဟန်းတို့အား ပါဠိအဋ္ဌကထာဋီကာ ကျမ်းဂန်တို့ကို ကောင်းစွာ ပို့ချတော်မူ၏။

ထိုနောက် ဆရာတော်သည် မြန်မာနိုင်ငံ အတွင်းရှိ အမြို့မြို့အရွာရွာသို့ လှည့်လည်၍ တရားဟောပြောတော်မူလျက် ရံဖန်ရံခါလည်း တပည့်သံဃာ တကာများ တောင်းပန်ချက်အရ မြန်မာဘာသာဖြင့် ကျမ်းပေါင်းများစွာ စီရင်ပြုစုတော်မူသည်။ သက္ကရာဇ် ၁၂၇၃–ခုနှစ် အင်္ဂလိပ်မင်းလက်ထက်တော်တွင် **အဂ္ဂမဟာပဏ္ဍိတ** ဘွဲ့ တံဆိပ်တော်ကို မြန်မာနိုင်ငံတွင် ရှေးဦးမဆွ ခံယူတော်မူရသည့်ပြင် သက္ကရာဇ် ၁၂၈၀–ပြည့်နှစ်လောက်တွင် မြန်မာနိုင်ငံ ရန်ကုန်မြို့ တက္ကသိုလ် ကျောင်းတော်ကြီးက ဆရာတော်အား (ဒီ–လစ်) ကျမ်းတတ်ပါရဂူ ဘွဲ့တော်ကြီးကို လှူဒါန်းခြင်း ခံတော်မူရပြန်သည်။

လယ်တီဆရာတော်သည် သက္ကရာဇ် ၁၂၈၅–ခုနှစ်တွင် သက်တော် ၇၇–နှစ် စေ့ရောက်၍ ပျဉ်းမနားမြို့တွင် ပျံလွန်တော်မူလေသည်။ ဆရာတော် ပြုစုခဲ့သော ကျမ်းဂန်စုကို မုံရွာမြို့ လယ်တီတောရ ကျောင်းတိုက်ကြီးအတွင်း၌ ကျောက်ထက် အက္ခရာ တင်ဆဲရှိသည်။ ဆရာတော် ပြုစုခဲ့သော ကျမ်းပေါင်း ၅၀–ကျော် ၆၀–ခန့် ရှိသည့်အနက် ထင်ရှားကျော်စောသော ကျမ်းများကား အောက်ပါအတိုင်း ဖြစ်သည်။

| | |
|---|---|
| ၁။ မရမတ္တ ဒီပနီကျမ်း၊ | ၂။ နိရုတ္တိ ဒီပနီကျမ်း၊ |
| ၃။ ပရမတ္ထသံခိပ်ကျမ်း၊ | ၄။ သဒ္ဒသံခိပ်ကျမ်း၊ |
| ၅။ နိဗ္ဗာန ဒီပနီကျမ်း၊ | ၆။ ပဋိစ္စသမုပ္ပါဒ ဒီပနီကျမ်း၊ |
| ၇။ မဂ္ဂင် ဒီပနီကျမ်း၊ | ၈။ သောမနဿုပေက္ခာ ဒီပနီကျမ်း၊ |
| ၉။ ရူပ ဒီပနီကျမ်း၊ | ၁၀။ ဗောဓိ ပက္ခိယ ဒီပနီကျမ်း၊ |
| ၁၁။ သာသနဝိသောဓနီကျမ်း၊ | ၁၂။ ဥတ္တမပုရိသ ဒီပနီကျမ်း၊ |
| ၁၃။ ဓမ္မ ဒီပနီကျမ်း၊ | ၁၄။ အနတ္တ ဒီပနီကျမ်း၊ |
| ၁၅။ လက္ခဏ ဒီပနီကျမ်း၊ | ၁၆။ ဝိနယသံခိပ်ကျမ်း၊ |
| ၁၇။ သင်ပုန်းကြီးသံခိပ်ကျမ်း၊ | ၁၈။ ပစ္ဆာဝိသဇ္ဇနာပါဠိနိဿယကျမ်း၊ |
| ၁၉။ ရောဂန္တရ ဒီပနီကျမ်း၊ | ၂၀။ ဗုဒ္ဓဘာသာအလင်းကျမ်း၊ |
| ၂၁။ စေတိယင်္ဂဏဝိနိစ္ဆယကျမ်း၊ | ၂၂။ ပဋိစ္စသမုပ္ပါဒ်အကျဉ်း၊ |

၂၃။ လယ်တီပုစ္ဆာ အဖြေ ပေါင်းချုပ်၊
၂၄။ ဒါနာဒိ ဒီပနီကျမ်း၊
၂၅။ ဝိဇ္ဇာမဂ္ဂ ဒီပနီကျမ်း၊
၂၆။ အာဟာရ ဒီပနီကျမ်း၊
၂၇။ ကမ္မဋ္ဌာန ဒီပနီကျမ်း၊
၂၈။ ပါရမီ ဒီပနီကျမ်း၊
၂၉။ ဘာဝနာ ဒီပနီကျမ်း၊
၃၀။ လယ်တီဆရာတော် ရေးသော ကဗျာများကို စုပေါင်းထားသည့် ဂမ္ဘီရ ကဗျာကျမ်း စသည်များ ဖြစ်လေသည်။

အထက်ဖော်ပြပါ ကျမ်းများအနက် အချို့အဝက်ကို မှတ်ချက်ချ၍ ဝေဖန်ပြသင့်သည့်အတိုင်း အောက်၌ အနည်းငယ် ဖော်ပြလိုက်ပေသည်။

ဝိနယသံခိပ်ကျမ်းသည် ရဟန်း သံဃာများအဖို့ ဝိနည်းဒေသနာတော်ကို အလွယ်တကူ သိမှတ် နားလည်ကြစေရန် ဝိနည်းပိဋကတ်တော်တို့မှ လိုရာလိုရာ ပဓာနဖြစ်သော အချက်တို့ကို ထုတ်နုတ်စိစစ် အကျဉ်းချုံး ရုံးတော်မူပြီးလျှင် ရေးသားစီရင်အပ်သော ကျမ်းဖြစ်၏။ ဤကျမ်းကို ရှေးဦးစွာ သံပေါက်စာကိုယ်ဖြင့် ရေးသားပြီးမှ အောက်တွင် အကျယ်ဖွင့်ဆိုတော်မူ၏။

ဤသို့ ဦးစွာ သံပေါက်စာကိုယ်ဖြင့် ရေးသားခြင်းသည် ရဟန်းရှင်လူတို့ အာဂုံကျက်မှတ်နိုင်စေရန် ရည်ရွယ်ခြင်းဖြစ်၏။ ပုံစံပြရမည်ဆိုသော် **'တိုက်တွန်းချီးမွမ်း၊ သောဘိုညွှန်း၊ စွန်းငြိထိုသူမှာ'** ဟူ၍ သံပေါက်ဖြင့် ရေးသားလိုက်ပြီးနောက် အောက်တွင် အကျယ်ပြလိုရကား . . .

> မသေတဲ့ နိုင်သောသူကို သေတဲ့အောင် တိုက်တွန်းမှု၊ မသေချင်သောသူကို မသေဝံ့သောသူကို သေချင်အောင် သေဝံ့အောင် ချီးမွမ်းမှု၊ သေလိုသူကို သေရန် နည်းလမ်းပြညွှန်မှု များသည်လည်း ပယောဂ စွန်းငြိလျက် ရှိ၏၊ ထိုပယောဂကြောင့် သေခဲ့လျှင် ပါရာဇိက ကျ၏။

အစရှိသည်ဖြင့် ဖွင့်ဆိုပြန်သည်။ ဤရေးသားပုံကို ကြည့်ခြင်းဖြင့် ဆရာတော်သည် စာပေရေးသားရာ၌ ကွက်ကွက်ကွင်းကွင်း ရှင်းလင်းပေါ်လွင်အောင် ရေးနိုင်သည့် အပြင် အကျဉ်းကို အကျယ်၊ အကျယ်ကို အကျဉ်း၊ လိုသလို စီစဉ်၍ သုံးနှုန်း

ရေးသားနိုင်သည် ဖြစ်ရကား ဆရာတော်၏ မြန်မာဘာသာ အရေးအသားတို့သည် အထူးသဖြင့် ဩဇာဂုဏ် မြောက်လှပေသည်။

ဘာဝနာ ဒီပနီကျမ်း၌လည်း အတ္တဒိဋ္ဌိ အလွန်ကြောက်ရွံ့ဖွယ်ကောင်းပုံ အခြင်းအရာကို သာမန်လူများပင် နားလည်သိမြင် ဆင်ခြင်တွေးဆ သတိသံဝေဂ တရား ရရှိလာနိုင်လောက်အောင် . . .

အတ္တဒိဋ္ဌိရှိနေကြကုန်သော သတ္တဝါတို့သည်ကား လူ့ပြည်မှာ သူဌေး သူကြွယ်၊ ပဒေသရာဇ်၊ ဧကရာဇ်၊ စကြာမန္ဒာတ်မင်းဖြစ်၍ နေကြကုန်သော်လည်း ဒုစရိုက် မီးဟောင်း အနန္တ၊ ဒုစရိုက်မီးသစ် အနန္တ ဝိုင်းလျက် နေကြကုန်၏။ အပယ်မီးတွေ အနန္တဝိုင်းလျက် နေကြကုန်၏။ နတ်ပြည်ခြောက်ထပ်၌ နတ်မင်း၊ သိကြားမင်းဖြစ်၍ နေကြကုန်သော်လည်း ထိုဒုစရိုက်မီး အပါယ်မီးတွေ ဝိုင်းလျက်နေကြကုန်၏။ ဗြဟ္မာပြည်၌ ဗြဟ္မာမင်းဖြစ်၍ နေကြကုန်သော်လည်း ထိုဒုစရိုက်မီး အပါယ်မီးတွေ ဝိုင်းလျက်နေကြကုန်၏။ ဘဂဝံဘုံမှာ ဗြဟ္မာကြီးဖြစ်၍ နေကြကုန်သော်လည်း ဒုစရိုက်မှုတွေ တန်းလန်း၊ အပါယ်သို့ ကျရောက်ရန် အပယ်မှုတွေ တန်းလန်းနှင့် နေကြကုန်၏။ အတ္တဒိဋ္ဌိ ရှိနေကြသမျှ ကာလပတ်လုံး ထိုဒုစရိုက်မီး၊ အပါယ်မီးတို့၏ ငြိမ်းမှုဟူသော သန္တိသုခကို အဏုမြူမျှ မရကြကုန်။ ၊ဒုစရိုက်သစ် အနန္တဆိုသည်ကား အတ္တဒိဋ္ဌိရှိနေသမျှ ကာလပတ်လုံး ရှေ့သို့တွင်တွင် မိုက်မှားသွားကြဦးမည့် အမှုသစ်တွေကို ဆိုသတည်း၊ တရားစောင့်ထိန်းသော လူသူတော်ကောင်း၊ နတ်သူတော်ကောင်း၊ ဗြဟ္မာသူတော်ကောင်းဖြစ်၍ နေကြကုန်သော်လည်း ရှေ့သို့ ထိုဒုစရိုက် အမိုက်အမှား အနန္တမီးထဲသို့ ဝင်ကြရ ရောက်ကြရဦးမည် မချွတ်တည်း။

စသည်ဖြင့် ပေါ်လွင် သိသာအောင် ထင်ရှား ရှင်းလင်းစွာ ရေးသားဖော်ပြတော်မူလေသည်။

ရူပဒီပနီကျမ်းတွင်လည်း ဆရာတော်၏ စကားအသွားအလာ ပြေပြစ်ပုံနှင့် စကားပြေအရေးအသား ပြတ်သားပေါ်လွင်ပုံတို့ကို တွေ့ရခြင်းဖြင့် ဆရာတော်သည် ကျမ်းဂန်အရာ ပါဠိဘာသာတွင်မက မြန်မာဘာသာဘက်၌လည်း နောက်ဆရာများ

အတုခိုး နည်းယူရလောက်အောင် စွမ်းဆောင်တော်မူကြောင်း ထင်ရှား သိသာလှပေသည်။ ဤကျမ်းတွင် ကံအကြောင်းကို ရေးသားရာ၌...

> မိမိရှေးကံဟောင်းသည် ကောင်းချင်ပါလျက် တစ်ရွာလုံးအတွက်၊ တစ်မြို့လုံးအတွက်၊ တစ်ပြည်လုံးအတွက်၊ တစ်နိုင်ငံလုံးအတွက်၊ တစ်တိုင်းလုံးအတွက်ကြောင့် မိုးကြီးခေါင်၍၊ ရေကြီးကြီး၍၊ လေကြီးလာ၍၊ မီးကြီးလောင်၍၊ မင်းဘေးကြီးသင့်၍၊ ကပ်ဥပဒ်ဘေးကြီးတိုက်၍ ရှောင်ခွင့်မသာ ပါရသည်များမှာလည်း အများအတွက်နှင့်ဖြစ်နေသော ဥပဒ်ဒဏ်ကို မိမိကံတစ်ခုအားနှင့် မခံနိုင်၍ ပါရလေသည်။

စသည်ဖြင့် ကွက်ကွက်ကွင်းကွင်း ရှင်းလင်းစွာ ဖော်ပြပြီးလျှင် ကံနောက်သို့ ဉာဏ်နှင့် ဝီရိယတို့ လိုက်ပါအပ်ကြောင်း ထပ်လောင်း၍ ရေးသားဖော်ပြရာတွင်လည်း...

> လူမျိုးတစ်ပါးတို့နှင့် ဘာသာစကား ပြောဆိုကြရာ ဉာဏ်ဝီရိယကိုလွှတ်ထား၍ ကံတစ်ခုတည်းနှင့် ပြောကြသဖြင့် မိမိဘာသာဘက်၌လူမျိုးတစ်ပါး စိတ်သဘော ကြေလည်အောင် မပြောနိုင်ဘဲ စောင်းမိစောင်းရာ စိတ်အိုက်မာန်ပါနှင့်သာ ပြီးကြသည်များကို မြော်မိသည်ဖြစ်၍ ကံတစ်ခုတည်းကိုသာ သန်သန်ယူသော လူမျိုးများသည်ဉာဏ်ဝီရိယမှုတို့၌ တင်းတင်းကြပ်ကြပ် မပြုကြသဖြင့် စည်းစိမ်ချမ်းသာတို့မှ ဆုတ်ယုတ် ဆွံ့ပါးသည်ကို မြင်ရသည်ဖြစ်၍လည်းကောင်း၊ အာယုကပ်ဟု ဆိုအပ်သော အသက်တမ်းတို့၏ ဆုတ်ယုတ်ပုံကို တရားကိုယ်ရင်းနှင့်တကွ ခြားခြားနားနား မြင်ခဲ့ပေလျှင် လူ့ရွာ၌ အသက်တို့မှု ရှည်မှုများမှာ ကံဟောင်းသည် ပမာဏမဟုတ်လွန်း၊ အကြောင်းတစ်ပါး များစွာပင် ရှိပေသည်ဟု သဘောပေါက်၍...

စသည်ဖြင့် စေ့စပ်သိပ်သည်းစွာ ပညာနည်းပါးသူ လူပိန်းတို့ပင်လျှင် နားလည်အောင် ရေးသားတော်မူစွမ်းနိုင်သည်။ ဤမျှလောက်သော ပုံစံတို့ကို ထုတ်ပြလိုက်ခြင်းဖြင့်ပင် ကြွင်းသော မြန်မာဘာသာ စကားပြေကျမ်းများစွာတို့မှာလည်း အသီးအသီး စကားအသွားအလာ မည်မျှ ပြေပြစ်ကောင်းမွန်မည်၊ ရှင်းလင်းမည်၊ ခဲယဉ်းရှုပ်ထွေး

လှသော အရာများကိုပင် ထင်ရှားလွယ်ကူအောင် ဖော်ပြနိုင်မည်များကို သိသာလောက်ပြီဖြစ်၍ အခြားကျမ်းများအတွက် ထုတ်ဖော်၍ မပြတော့ပြီ။

ဆရာတော်သည် စကားပြေဘက်တွင်သာ မဟုတ် ကဗျာဘက်တွင်လည်း နှိုက်နှိုက်ချွတ်ချွတ် ဉာဏ်ကျက်စားခဲ့သည်ဖြစ်ရာ ယခုအခါ ဆရာတော်၏ ဓမ္မကြောင်းနှင့် ဆိုင်သော ကဗျာ လင်္ကာများကိုလည်းကောင်း၊ လောကကြောင်းနှင့် ပတ်သက်သော ကဗျာအစောင်စောင်တို့ကိုလည်းကောင်း၊ အများဗိုလ်လူတို့ လေ့လာကျက်မှတ်ကြဆဲပင် ဖြစ်သည်။ ဆရာတော်၏ ကဗျာများသည် ဓမ္မကြောင်းနှင့် ပတ်သက်၍ လွန်စွာ ယဉ်နု နက်နဲသဖြင့် လောကီ လောကုတ္တရာ နှစ်ဖြာသော အကျိုးကို ဖြစ်စေနိုင်သည်။ ယခုအခါတွင် ထိုဆရာတော် ပြုစုခဲ့သော ကဗျာတို့ကို တစ်ပေါင်းတည်း ပြုလုပ်၍ **'ဂမ္ဘီရ ကဗျာကျမ်း'** ဟူသော အမည်ဖြင့် ရိုက်နှိပ်ထုတ်ဝေထားကြသည်။

ဆရာတော်သည် ဆိုးသွမ်း ညစ်ညမ်းနေသော တပည့်ဒါယကာတို့အား တရားပြ၍ ဆုံးမလိုသောအခါ မေတ္တာစာ ရေးသား ပေးပို့တော်မူတတ်လေသည်။ ဆရာတော်ရေးသားသော မေတ္တာစာ စောင်ရေ ၁၀–ကျော်ခန့် ရှိသည့်အနက် အားလုံးတို့မှာ အများအားဖြင့် ဆုံးမစာ မေတ္တာစာများ ဖြစ်တော့သည်။ ထိုမေတ္တာစာများအနက် ဒေးဒရဲမေတ္တာစာ၊ သေရည်သောက်စားခြင်းမှ တားမြစ်သော မေတ္တာစာ၊ ထီမေတ္တာစာ၊ နွားမေတ္တာစာ၊ မီးပွဲမေတ္တာစာ၊ ဆုတောင်းပြည့်မေတ္တာစာ၊ ပတ္တမြားမေတ္တာစာတို့သည် လွန်စွာ ကျော်စောထင်ရှားသော မေတ္တာစာများ ဖြစ်ကြသည်။ မေတ္တာစာရေးရာ၌ ဆရာတော်၏ အာဘော်သည် ကျည်းကန်ရှင်ကြီး၊ ရှင်ဥက္ကံသမာလာတို့၏ အာဘော်နှင့် ခပ်ဆင်ဆင်တူ၏။ ဦးပုည အာဘော်နှင့်ကား လုံးလုံးကွဲပြား ခြားနားလှတော့၏။ သို့သော် လင်္ကာစကားပြေ နှစ်ထွေရောစ္စ ရေးသားအပ်သော မေတ္တာစာဖြစ်၍ တစ်ခါတစ်ရံ စကားအသွားအလာမှာ ရှင်ဥက္ကံသမာလာတို့ထက်ပင် ဆန်းကြယ်နုယဉ်၍ ပြေပြစ်ကောင်းမွန်လှပေသည်။ ရှင်ဥက္ကံသမာလာကဲ့သို့ပင် မေတ္တာစာအတွင်း၌ နိပါတ်ကော်ဇာဝင်အလာကို ထင်ရှားစွာ ထုတ်နုတ် ဖော်ပြရေးသားတတ်သည်သာမက တစ်ခါတစ်ရံလည်း စကားပုံလက်တန်းကလေးများကို ကြားညှပ်၍ သုံးသွားပြန်လေသည်။ ရှင်ဥက္ကံသမာလာသည်လည်း အရက်သုရာမသောက်စားရန် တားမြစ်သော မေတ္တာစာတစ်စောင်ကို ပုရစ်ကုန်းတောင်ရွာ၊ ကျောင်းဒါယကာ လက်ယာဖေယျကျော်ထင်ထံသို့ ရေးသားခဲ့ဖူးပေသည်။ ထို

မေတ္တာစာကို လယ်တီဆရာတော် ရေးသားသော စိုင်ပြင်ရွာ ကျောင်းဒါယကာ သူကြီးဦးဆိုင်းသို့ သေရည်သေရက် မသောက်ရန် ဆုံးမသော မေတ္တာစာနှင့် နှိုင်းယှဉ်၍ ကြည့်သင့်ပေသည်။

> လေ့ကူးမုံရွာ၊ အရည့ာဝါသီ၊ လယ်တီဆရာ၊ ဩဝါဒပေါင်း၊ ခုပါနှောင်ပါ၊ သံသရာဌ၊ နှစ်ဖြာလုံးကောင်းစေဖို့၊ လမ်းကြောင်းစင်းစင်း၊ မရှုတ် မချ၊ ဟုတ်သမျှကို ထုတ်ပြကာလင်းလိုက်မည်၊ စဉ်းစား၍နှာပါ၊ ကျောင်းမ တိုက်ကျောင်း ဒါယကာ၊ စိုင်ပြင်ရွာ သူကြီး ဦးဆိုင်း၊ ၊ အရိုင်းတွင် သေရက်၊ အခက်တွင် ပိဋကတ်၊ အမြတ်တွင် နိဗ္ဗာန်၊ အမြန်တွင် သိန္ဓော၊ ခေါင်းကောက်၍ ယောရိုးတွင်၊ စကားမျိုး တစ်ခွန်း ထွက်ရသော၊ သေအရက် ငရဲမီးတွေကို၊ ကြီးလျက်နှင့် အငယ်လုပ်၍၊ မဟုတ်သည့်ကာလ၊ အဓမ္မခေတ် အတွင်းပေမို့၊ မငြင်းသာ မဖယ်သာ၊ စိတ်ကပင် မပါသော်လည်း၊ မိစ္ဆာတို့စရိုက်အားကို လိုက်စားကာ ဖွတ်တိုး၍၊ ရွာကျိုးကို ရွက်ဆောင်ရသည်ဟု၊ ငါဆရာ့နှစ်ဘက်နား၊ ဆတ်ဆတ်ကြီးကြားရလျှင်၊ လားလားဟဲ့လေ၊ သည်လူ့ပြေနယ်ကော၊ အထွေတစ်ရာ၊ မနေသာအောင်၊ ပွေဗျာပါရှုပ်၊ အယုတ်တစ်မူ၊ မဟုတ်တွေ ထူလှချည့်နော်၊ လူတွင် လူတတ်၊ လူတစ်မတ်ဟု၊ လူမြတ်တစ်ယောက်၊ ပြောစလောက်ပါလျက်၊ မခေါက်မရက်၊ သည်ကာလမွဲ၊ သင်းမိုက်မဲ လှ၍၊ အလွဲသို့ တက်ယောက် ရာရချေသည်၊ အထောက်မတန်၊ အနွယ် အရိုး၊ ဘေးနှင့် ဘိုးက၊ အမျိုးမှန်သည့်၊ အဖိုးတန်ကျောင်းဒါယကာ၊ လူသမာ သူတော်စင်များကို၊ နင်ဖျက်သည်သာပဟု၊ ကာလကို စိတ် ဆိုး၍၊ ငြိုးသံနှင့် ဆရာ မဲမိ၏။

စသည်ဖြင့် ရေးသားထားပုံမှာ ပြေပြစ်ရှင်းလင်း၍ စကားတန်ဆာဌ နားသကာ လောင်းသကဲ့သို့ ကောင်းလှပေသည်။ အသိခက်ခဲသော စကားပဟေဠိတို့ကို ရှင်ဥက္ကံသမာလာတို့ ရေးသကဲ့သို့ ဆရာတော်သည် မည်သည့်အခါကမျှ မသုံးစွဲ ခဲ့လေ။ ဒီပဲရင်း မေတ္တာစာတွင် သေရည်သေရက်သောက်စား၍ မှောက်မှားပျက်စီး ရဖူးသော ဝတ္ထုသက်သေ သာဓကေတို့ကို ထောက်ပြလို၍...

> ဝတ္ထုသွားနိပါတ်မှာ၊ လူ နတ်တို့ဆရာ၊ မြတ်ဘုရားလက်ထက်ခါတွင်၊ သာဂတ မထေရ်ရှင်၊ မြေတွင် ငုပ်လျှိုး၊ မိုးအာကာယံ၊ ပျံလိုပျံ

> သက်လိုသက်၊ မာန်ခက်သည့် နဂါးကို၊ ခြေဖျားဖြင့် နှိပ်ချိုး၍၊ တန်ခိုးဖြင့် ဆုံးမရာ၊ တကာတို့ သဒ္ဓါ၍၊ ကြည်ညိုစွာလှူဒါန်းသော၊ သေရက်ကြမ်း သုရာကို၊ ဘုဉ်းပေးကာ အသောက်ကြူးသောကြောင့်၊ နောက် မူးမေ့ချောက်ချား၊ ရှေးမူရာ ဖောက်ပြားလျက်၊ ဘုရားရှင် မျက်မှောက် ဝယ်၊ တရားစဉ်ပျက်ပျောက်၍၊ ရှုးခြင်းသို့ ရောက်လေသည် တစ်ကြောင်း၊ ၊ငင်းပြင် တစ်ခြား၊ တာဝတိံသာဘုံဖျားဝယ်၊ သိကြား ဟောင်း၊ မလိမ္မာတို့သည်၊ သေသုရာယစ်သောကြောင့်၊ သိကြားသစ် ဣန္ဒာတို့က၊ စုန့်မ်ကာ ခြေကိုကိုင်၍၊ အစိုးပိုင် ပစ်ကာချသောကြောင့်၊ မေရုရပေဟဋ္ဌာ၊ သခွတ်နန်းရိပ်သာတွင် အသုရာဖြစ်ကြကြောင်း...

စသည်ဖြင့် ရေးသားတော်မူလေသည်။ ထို့ပြင် ဆရာတော်သည် ကျည်းကန်ဆရာ၊ ရှင်ဥက္ကံသမာလာတို့ကဲ့သို့ပင် မေတ္တာစာ, စာကိုယ်အတွင်း စကားပုံများကို ထည့်သွင်း၍လည်း ရေးတော်မူသည်။

> အရိုင်းတွင် သေရက်၊ အခက်တွင် ပိဋကတ်၊ အမြတ်တွင် နိဗ္ဗာန်၊ အမြန်တွင် သိန္ဓော...

ဟူ၍ လည်းကောင်း၊

> လူ့ဗာလကလည်း တက်တက်မိုက်၊ ခုကာလကလည်း သက်သက်ဆိုက်၊ ဓာတ်ခိုက်နှင့် နတ်ကြိုက်၊ ဆိုက်တိုက်သည့်အခါ...

ဟူ၍ လည်းကောင်း၊

> မနောက ကလိမ်ခြုံ၊ အပြောက ဝတိံဘုံ၊ ယုံလောက်အောင် ဖွဲ့နွဲ့၊ ကုန်မှောက်အောင် ဉာဏ်ချဲ့၍၊ အရွဲ့နှင့် အကဲဆစ်၊ အထဲညစ် အပေါ် ပြောင်၊ မတွေ့မှ အနိုင်ရှောင်၊ သူတော်ယောင်ဆောင် တစ်ဖက်လှ၊ ပစပ်ပြောက ပျားသကာ၊ စိတ်သဘောက ခါးတမာ၊ မပြုသာလျှင် ငရဲကြောက်၊ ပြုသာလျှင် အလဲမှောက်၊ သံသရာဈေးကြောင်းပေါက်၊ အပါယ်ဘေး ရွေးမျှ မကြောက်၊ ခုမျက်မှောက်ဒိဋ္ဌကိုသာ၊ နိဗ္ဗာန် လောက် စိတ်ချ၍၊ အနိစ္စ သဘောမျိုးမှာ၊ ပြောရိုးမို့ ပြောကြသည်...

ဟူ၍ လည်းကောင်း ဤသို့ စသည်ဖြင့် ရေးသားထားသော စကားစုပင် ဖြစ်၏၊ နွားမေတ္တာစာ၌လည်း...

လူတို့လို တီတီတာတာ၊ မပြောတတ်ရှာကြလို့၊ ငုတ်တုတ်သာ မပြန်လှန်၊ ပြုသမျှခံရသည်၊ ဌာန်ကရိုဏ်းပြတ်သား၊ နှုတ်လျှာများ တတ်အားလျှင်၊ နွားတို့က ဆိုရန်၊ ခွင့်ရှိသည် အမှန်မှာ မြန်မာနှင့် ကုလား၊ နှစ်ပြည် ထောင် တိုင်းသားတို့၊ ဖြစ်ပွားသည့် တွက်တာသည်၊ ငါတို့မှာ သေတ္တု၊ အကုန်လုံး စုချေသည်၊ သူတို့ဘေး သူတို့ဘိုး၊ သူတို့နွယ်တစ်ရိုး၊ တစ်မျိုးလုံး တစ်ဆွေလုံး သူတို့တိုင်မဆုံး၊ တို့တစ်တွေပခုံးမှာ၊ မီးဟုန်းဟုန်း ထမတတ်၊ တို့လုံ့လ တို့စွမ်းအန်၊ တို့အပန်းခံနိုင်လို့၊ ဆန်စပါး၊ ပြောင်း၊ နှမ်း၊ ဘူး၊ ခရမ်း၊ ပဲအမျိုး၊ မြေပြင်လုံးမောက် ဖြိုးအောင်၊ တိုးတက်သည့် ဘဏ္ဍာနှင့်၊ လိုရာတိုင်းပြည့်စုံ၊ ကုံလုံကြ အသီးသီး၊ ကျောင်းကြီးဆောက် ဘုရားတည်၊ တစ်တိုင်းလုံး ကြွယ် သည်မှာ၊ ဘယ်သူက အရင်းဟု၊ စဉ်းစားဖွယ်မရှိ၊ ထင်အလင်း သိပါ လျက်၊ သတိပင် မပေါ်၊ ကျေးဇူးကို မမြော်၊ စိတ်အချော် တိမ်းပါး၊ မိတ်မတော်စိမ်းကားလျက်၊ တို့အသား တို့အသည်း၊ တို့အဆီ ရွှဲရွှဲကို၊ ထမင်းပွဲအလယ်၊ အနင့်သား တယ်ပြီးလျှင်၊ ရယ်ကာ ပြုံးကာ၊ အရသာခံစား၍ လင်မယား တစ်တွေ၊ မြိန့်ကြသည့်အနေမှာ၊ မြိန်နိုင်ပ သူတို့ကိုယ်၊ မျိုရက်ပေ့ သူ့ခံတွင်း၊ တို့လုပ်သည့် ထမင်းကို၊ တို့ ဟင်းလျာ အသားနှင့်၊ စားကြသည့်ဖြစ်နဲ့ကို၊ တို့အသဲ နာလိုက်ကဲ့ . . .

စသည်ဖြင့် ဖွဲ့ဆို ထားရကား ကျွဲနွားတို့အပေါ်၌ ကရုဏာသက်ရောက်ပြီးလျှင် ကျွဲနွားတို့အသားကို တစ်သက်ပန်ရှောင်ရှား၍ မစားမသုံးချင်သော စိတ်ကောင်း စိတ်မြတ်တို့သည် တဖျတ်ဖျတ်ဝင်လာခြင်းဖြင့် ဇီဝိတဒါနအလှူကြီးသည် အတော် ခရီးရောက်ခဲ့ပေသည်။

ဆရာတော်သည် လင်္ကာစကားပြေနှစ်ထွေ ရောယှက်သော မေတ္တာစာ အဖွဲ့ မျိုး၌သာ ကျွမ်းကျင်သည်မဟုတ်။ လင်္ကာသက်သက်၊ ဒွေးချိုး၊ လေးချိုး၊ တေးထပ် အရပ်ရပ်တို့တွင်လည်း တစ်ဖက်ကမ်းခပ် ကျွမ်းကျင်တတ်မြောက်တော်မူကြောင်းကို . . .

ဆိုပိမ့် မညာ၊ စေ့စေ့နာလော့၊ ဂင်္ဂါသဲမျှ၊ ပွင့်ကုန်ကြသား၊ ဘုရား သာသနာ၊ ခေတ်အခါဝယ်၊ လူ့ရွာနတ်၌၊ နင်ကြွဲကြိုက်လည်း၊ အမိုက် မချွေ၊ အလိုက်နေ၍၊ အခြေမကြီး၊ အချည်းနှီးလျှင်၊ ယီးတီးယောင်တောင်၊ ခုတိုင်အောင်တည့်၊ သန်းခေါင်လကွယ်၊ တောအုပ်လယ်၌၊ ရှစ်နယ်

> ပတ်ကုံး၊ အပြည့်ဖုံးသည်၊ မိုးလုံးတိမ်တိုက်၊ လျှပ်မကြိုက်သား၊ အမိုက်
> အပြား၊ အင်လေးပါးထက်၊ နင်ကားရာထောင်၊ မကမှောင်၏ . . .

စသော ဆုံးမစာ လင်္ကာကို ထောက်သဖြင့် လည်းကောင်း၊

> အဝိဇ္ဇာ ပိတ်ကာဆို့၊ မိစ္ဆာမြို့ပြင်ပြင်၊ ဣဋ္ဌာလို့ ခင်မင်လျှင်၊ လွှင်စင်
> မည် မလွဲ၊ အရိုးစု အပုပ်ကောင်ကို၊ အဟုတ်ယောင်မှားဖို့ဖန်နဲ့၊ ၊
> အသုဘ ရုပ်တစ္ဆေငယ်၊ မဟုတ်လေ ကိုယ်ထဲ၊ အပုပ်ရေ စိုတရွှဲဟာမို့၊
> ယိုမစဲ သူ့မှာ၊ သွေးသည်းခြေ ပြည်သလိပ်တွေက၊ တည်မဆိတ်
> လျှမ်းပြည့်သည်သာ၊ ၊သို့ကလောက် ရွံစရာကို၊ လွန်တဏှာမက်စွဲလို့၊
> စက်ဝဲရှာ တပေပေ၊ မွန်းနစ်ကြပလေ၊ တဏှာဖမ်းတဲ့ အကန်းတွေမှာ၊
> အပန်းမပြေဟိုက်မောရှာကြလေး၊ တဏှာပူးတဲ့ အရူးတွေမှာ အမူး
> မပြေ မိုက်မောရှာကြလေး၊ တဏှာလိုက်တဲ့ အမိုက်တွေမှာ၊ အဟိုက်
> မပြေ ပင်ပန်းရှာကြလေး။

စသော တေးထပ်များကို ထောက်သဖြင့် လည်းကောင်း၊

> မိုက်မလင်းနိုင်လို့၊ မြိုက်ခင်းညာဆီမှာ၊ ခါတော်မှီသိမဝေနိုင်ဘု၊ ဒီကွေ့
> တွင် နကုန်မျှောပြန်ရ၊ အတော ဘယ်မသတ်နိုင်တဲ့၊ ရဟတ်ဘွေ . . .

အစချီသော လေးချိုးကြီးကိုထောက်သဖြင့်လည်းကောင်း၊ ကြွင်းသောအရာများကို ဂမ္ဘီရ ကဗျာကျမ်း၌ ကြည့်ရှုသဖြင့် လည်းကောင်း ထင်ရှားသိသာနိုင်သည်။ ဤမျှ လောက် သာသနာတော်ကြီးနှင့်တကွ ပါဠိဘာသာ၊ မြန်မာဘာသာတို့ကို တိုးပွား အောင် မဆုတ်မနစ်သော လုံ့လဖြင့် အားကြီးမာန်တက် ချီးမြှင့်တော်မူခဲ့သော လယ်တီဆရာတော်သည် သင်္ခါရတရားကို မလွန်ဆန်နိုင်သည်ဖြစ်ရကား သက္ကရာဇ် ၁၂၈၅–ခု၊ သက်တော် ၇၇–နှစ်တွင် ပျံလွန်တော်မူရလေသတည်း။

## ကုန်းဘောင်ခေတ်– ဒုတိယပိုင်း နိဂုံးချုပ်

လယ်တီဆရာတော်၏ အဆုံးတွင် ကုန်းဘောင်ခေတ် ဒုတိယပိုင်းကို ပြည့်ဖုံးအုပ်၍ နိဂုံးချုပ်ရန် သင့်လေသည်။ လယ်တီဆရာတော်၏နောက် ပေါ်ပေါက်ထွန်းကား၍ ဤစာဆိုလောကကြီးအတွင်း ထင်လင်းကျော်ကြားကြကုန်သော ပညာရှင်

အများ ရှိကြသော်လည်း ယခုခေတ်သစ်တွင်းသို့ ကျရောက်နေကြသဖြင့် ချန်လှပ်၍ ထားခဲ့ရပေသည်။ ခေတ်ကို ပြန်လှန်၍ ကြည့်မည်ဆိုလျှင် ဤဒုတိယပိုင်းခေတ်သည် စာပေအသီးအပွင့်တို့ ငွားငွားစွင့်စွင့် ကြွားကြွားဝင့်လျက် သီးပွင့်ကြသောခေတ် ဟူ၍ ဆိုနိုင်ပေသည်။ ဤအသီးအပွင့်များကိုလည်း သုတေသီပုဂ္ဂိုလ်တို့သည် ပြည့်စုံလောက်ငွာ သုံးဆောင် စားသောက်ရသောကြောင့် ဤသစ်ပင်ကို အသီး အပွင့်နှင့် ပြည့်စုံအောင် ရှေးဦးမဆွကပင် မြေတောင်မြှောက်ခြင်း၊ ရေလောင်းခြင်း စသည်ဖြင့် ပြုစုပျိုးထောင်ခြင်းအမှု ပြုခဲ့ကြကုန်သော ဥယျာဉ်မှူး စာဆိုတော်ကြီး များကို အတိုင်းထက် အလွန်ကျေးဇူးတင်ဖွယ်ရာ ဖြစ်ပေသည်။

ဘိုးတော်မင်းတရားကြီး လက်ထက်တော်တွင် စာဆိုသူ အတွင်းဝန်ထောက် ဦးညိုသည် အပြစ်မလွတ်သော စာတစ်လုံးကြောင့် အသက်ဆုံးခြင်း ခံရလေသည်။ မင်းတုန်းမင်းတရားကြီး လက်ထက်တော်တွင် ဦးပုည အသတ်ခံရသည်မှာလည်း အရင်းစစ်က စာပေအတွက်နှင့် ပတ်သက်၍ပင် ဖြစ်သည်။ ဤသို့လျှင် မြန်မာ စာပေပင်ကြီးကို အသက်ပေး၍ ပြုစုပျိုးထောင် လာကြကုန်သော စာချစ်ပုဂ္ဂိုလ် ပညာရှင်များ၏ ကျေးဇူးကြောင့်သာလျှင် မြန်မာစာပေပညာသည် တက်သစ်သော နေမင်းကဲ့သို့ တဝင်းဝင်းတပြောင်ပြောင် အရောင်အဝါ ထွန်းလင်း၍ ဂုဏ်သတင်း ကြိုင်လှိုင်လှသော ဒုတိယပိုင်းခေတ်ကြီးတွင် ရဟန်းပုဂ္ဂိုလ်၊ လူပုဂ္ဂိုလ် ပညာရှိတို့ အသီးသီး အဝ၀ လက်စွမ်း ဉာဏ်စွမ်းပြခဲ့ကြပေသည်။ လူပုဂ္ဂိုလ်များဘက်တွင် တွင်းသင်းမင်းကြီး မဟာစည်သူ၊ ဦးတိုး၊ ဝက်မစွတ်နဝဒေးကြီး၊ မြဝတီမင်းကြီး ဦးစ၊ ဦးပုည အစရှိသော ပုဂ္ဂိုလ်ကြီးများက ဦးစီးခေါင်းဆောင်၍ ရဟန်းပုဂ္ဂိုလ်များ ဘက်တွင် ကျည်းကန်ရှင်ကြီး၊ အသျှင်ဥက္ကံသမာလာ၊ ဦးဩဘာသ၊ မုံရွေးဆရာတော်၊ မန်လည်ဆရာတော်၊ လယ်တီဆရာတော်တို့က ဦးစီး ခေါင်းဆောင်ပြုကာ အပတ် တကုတ် ကြပ်မအားထုတ်၍ မြန်မာစာပေ တိုးပွားမှုကို ကြိုးစားခြင်းပြုစုကြပေသည်။ ထိုအတွက်ကြောင့်သာလျှင် ပျို့ကဗျာ အဖွဲ့အနွဲ့တွင်လည်း ပထမတန်းစား ပျို့ ကဗျာမဟုတ်စေကာမူ အင်းဝခေတ် ပညာကျော် ပုဂ္ဂိုလ်များ၏ ကဗျာအဆင့် အတန်းနီးနီး ပေါက်ရောက်ခဲ့ပေသည်။ တွင်းသင်းမင်းကြီး၊ ဦးရောက်ကြီး၊ မုံရွေး ဆရာတော်၊ နားခံတော်ကြီး မင်းလှရာဇကျော်ထင်၊ မန်လည်ဆရာတော်တို့၏ ပျို့ များသည် ထူးခြား ကောင်းမွန်လှသော ပျို့များဖြစ်၍ ယခုတိုင် ကျော်စောထင်ရှား လျက် ရှိကြသည်။

ဤခေတ်တွင် နိုင်ငံခြားဖြစ်ကြသော ယိုးဒယားပြည်၊ တရုတ်ပြည်၊ ဗသျှူး ကျွန်းစွယ်၊ အိန္ဒိယပြည်၊ အင်္ဂလန်ပြည်၊ ပြင်သစ်ပြည်၊ အီတလီပြည်များနှင့်လည်း အဆက်အသွယ်ပြုလုပ်ကြသောကြောင့် နိုင်ငံ၏ မျက်စိပွင့်လင်းပြီးလျှင် ကူးသန်း ရောင်းဝယ်မှုတွင်လည်း တွင်ကျယ်၍ လာလေသည်။ ယဉ်ကျေးမှုအဖြာဖြာတို့၌ လည်း နည်းနာနယ အတုရ၍ သာသနာဘာသာ ပညာအရောင်အဝါတို့သည်လည်း ထွန်းလင်းပေသည်။ ယိုးဒယားပြည်နှင့် ဆက်သွယ်ခြင်းအားဖြင့် ယိုးဒယားပတ်ပျိုး သီချင်းများ မြန်မာနိုင်ငံ၌ ပြန့်ပွားလာရခြင်းသည် မြန်မာပြည်၏ ဂုဏ်ယူဖွယ် တစ်ရပ်ပင် ဖြစ်ပေသည်။ ယိုးဒယားပြည်၊ ဗသျှူးကျွန်းစွယ်များမှ ရရှိခဲ့သော ရာမဇာတ်တော်ကြီး၊ အီနောင်ဇာတ်တော်ကြီးများကိုလည်း မြန်မာဘာသာဖြင့် ပြန်ဆို ရေးသားကြသည်။ ရွှေတိုက်ဝန် ဦးတိုးသည် ရာမရကန်ကို ရေးသားပြုစုရာ ဤရကန်သည် ပထမတန်းစား ရကန်ကြီးအဖြစ်သို့ မှတ်ပုံတင်သွင်းခြင်း ခံရပေသည်။ မြဝတီမင်းကြီး ဦးစကလည်း ယိုးဒယားသံဖြင့် ရှိသော ယိုးဒယားသီချင်း ဗသျှူး အသွားဖြင့် ရှိသော သီချင်းတို့နှင့် အီနောင်ဇာတ်များကို မြန်မာမှု ပြုခဲ့ပေသည်။ မင်းကြီး ဦးစ၏ လုံ့လ ဉဿဟကြောင့် သီချင်းဘက်တွင် မြန်မာများ ခေတ်သစ် ထူထောင်နိုင်ကြပေသည်။ ရှေးအထက်က ဤမျှလောက်များပြားသော သီချင်း၊ ပတ်ပျိုး၊ ယိုးဒယားတို့ မပေါ်ခဲ့သေးရကား ဤခေတ်ကြီးကို ဂီတသဘင် ထွန်းကား သော ခေတ်ကြီးဟူ၍ ဆိုနိုင်ပေသည်။

ဤသို့ သီချင်းများ ထွန်းကားလာသည့် အချိန်အခါ၌ ဇာတ်ပွဲသဘင်များလည်း တစ်ခါတည်း ထွန်းကားလာရပြန်တော့သည်။ လူဇာတ်ပွဲသဘင်သည် ညောင်ရမ်း ဆက် ခေတ်ဆီလောက်ကပင် ပေါ်ပေါက်ထွန်းကားခဲ့သည်ဟု ယူဆဖွယ်ဖြစ်သော် လည်း ပြုစုပျိုးထောင်ခြင်း မရှိသောကြောင့် ခေတ်စားခြင်း မရှိခဲ့ပေ။ ကုန်းဘောင် ခေတ် ဒုတိယပိုင်းတွင်မှ များစွာ တိုးတက်ထွန်းကားလာလေသည်။ ထိုအပြင် ရုပ်စုံစင်တော်ကြီးများလည်း ဤခေတ်မှအစပြု၍ ပေါ်ပေါက်လာကြဟန် တူသည်။ ဤသို့ ဇာတ်သဘင် ရုပ်သေးသဘင်များ ပေါ်ပေါက် ထွန်းကားလာသည်နှင့် တစ်ပြိုင်နက် နန်းတွင်းပြဇာတ်ကြီးများ၊ ညဉ့်ချင်းပေါက် ပြဇာတ်တိုကလေးများ ကိုလည်း စာရေးဆရာတို့က ရေးသားကြရသဖြင့် ပြဇာတ်များ ထွန်းကားခေတ်စား၍ လာရပြန်သည်။

ဤပြဇာတ် ဆရာများတွင် ဦးကြင်ဥ၊ ဦးပုညတို့၏ ကျေးဇူးသည် အလွန်ပင် ကြီးမားပေသည်။ မေတ္တာစာများဘက်တွင်လည်း တစ်မျိုးခေတ်စား၍လာပေသည်။

ရေးအခါက မေတ္တာစာကို အများအားဖြင့် ဘုရင်မင်းမြတ်အတွက်သာလျှင် ရေးသားခဲ့ကြလေသည်။ ဤကုန်းဘောင်ခေတ်မှစ၍ မေတ္တာစာအရေးအသားကို တစ်မျိုးပြုပြင်ပြီးလျှင် ဆွေမျိုးမိတ်ဆွေတို့ တစ်ဦးနှင့်တစ်ဦး ကမ်းလှမ်းပေးပို့သော စာအဖြစ် အသုံးပြုလာကြပြန်သည်။ မေတ္တာစာများဘက်တွင် ကျည်းကန်ရှင်ကြီး၊ အရှင်ဥက္ကံသမာလာ၊ ဦးပုည၊ ကင်းဝန်မင်းကြီးတို့က ပြုစုပျိုးထောင်၍ မေတ္တာစာအပင်ကြီး ကြီးပွားအောင် ကြိုးစားခဲ့ကြပေသည်။ မော်ကွန်းများဘက်တွင်လည်း ဤကုန်းဘောင်ခေတ်ကြီးသည် ထွန်းကားသော ခေတ်ဖြစ်ပေသည်။ ထို့ကြောင့် မော်ကွန်းခေတ်ကြီးဟူ၍လည်း အမည်ပေးနိုင်လေသည်။ ဝက်မစွတ်မြို့စား နဝဒေးကြီးတစ်ဦးတည်းက မော်ကွန်းစောင်ရေပေါင်း ၂၀-ခန့်ကို ရေးသားပြုစုခဲ့သဖြင့် မော်ကွန်းနဝဒေးကြီး ဟူ၍ပင် အမည်တွင်ခဲ့လေသည်။ ဤမော်ကွန်းများသည်လည်း အင်းဝခေတ် ရှင်မဟာသီလဝံသ၊ ရှင်မဟာရဋ္ဌသာရတို့၏ မော်ကွန်းများ၏ အဆင့်အတန်းကို မမီစေကာမူ နီးနီးကပ်ကပ်လိုက်သော မော်ကွန်းများ ဖြစ်ကြပေသည်။

အမျိုးသမီး စာဆိုတော်များဘက်တွင်လည်း ဤကုန်းဘောင်ခေတ်ကြီးကပင် ဂုဏ်ယူနိုင်ပေသည်။ အမျိုးသမီးများဘက်တွင် ပထမတန်းစား စာဆိုသူများဖြစ်ကြကုန်သော ဝန်ကတော်မယ်ခွေ၊ အနောက်နန်း မပြုကလေး၊ လှိုင်ထိပ်ခေါင်တင်တို့သည် ယောကျ်ားစာဆိုများနှင့် ရင်ပေါင်တန်းကာ အစွမ်းပြခဲ့ကြသည်။ ထိုသူတို့၏ စာများသည်လည်း ညံ့သောစာများ မဟုတ်ကြသောကြောင့် အထူးမှတ်တမ်းတင်ခဲ့ရပေပြီ။ အမျိုးသမီးတို့၏ စာများသည် ယဉ်လှ နုလှ၏။ ဇာတိပင်ကိုသဘောအားဖြင့် မိန်းမသားများ ဖြစ်ကြသည့်ပြင် နန်းတွင်း၌ ကြီးပြင်းကြသူများ ဖြစ်ပြန်သောကြောင့် ထိုအမျိုးသမီးတို့၏ စာများသည် အနုအယဉ်တွင် ပြိုင်မရအောင် ကောင်းမွန်လှပေသည်။ အဖွဲ့ဆန်းများဖြစ်ကြသော ဘောလယ်၊ ပတ်ပျိုး၊ လေးချိုး၊ အဲ၊ အဏ်များကို ထိုအမျိုးသမီးတို့ကလည်း ရေးသားကြပေသည်။ အများအားဖြင့် သီချင်းများဘက်က နိုင်နင်းစွာ ပျိုးထောင်ခဲ့ကြသည်။ အပျော်ဖတ်ရန် နန်းတွင်းဇာတ်တော်ကြီးများကို ပြုစုခဲ့ကြသေးသဖြင့် ဤအမျိုးသမီးများ၏ ဂုဏ်ကျေးဇူးအထူးကို မချီးကျူးဘဲ မနေသင့် ဖြစ်တော့သည်။

ယခုခေတ်အခါ၌ အဆိုပါ ကဗျာထိပ်တင် စာဆိုရှင်တို့၏ နည်းပေးလမ်းပြ ရေးသားပြုစုထားခဲ့ကြသော စာအဆီအနှစ်တို့ကို တစ်တစ်ခွခွ လိုက်စားဆည်းပူးကြည်နူးဝမ်းမြောက်စွာနှင့် မြန်မာစာပေ ပင်မကြီး လဲကျမသွားနိုင်ရန် ညီညာဖြဖြ

လုံ့လ ဥဿာဟဖြင့် ဝိုင်းဝန်းဖေးမ ဆက်လက်ပြုစုစောင့်ရှောက်ကြရန် တာဝန်ကား ကျွန်ုပ်တို့အပေါ်သို့ ကျရောက်၍ နေချေပြီ။ ထို့ကြောင့် ဤမြန်မာစာပေ ပင်မကြီးကို ကျွန်ုပ်တို့ပင်လျှင် ဥယျာဉ်မှူးကဲ့သို့ ပြုစုစောင့်ရှောက်ခြင်းဖြင့် အသီးအပွင့် အသစ်တွေ ထွက်ကာ စေဖြာလာသည့်ကာလ၊ ထိုအသီးအပွင့်တို့၏ အရသာအချိုအဆိမ့်တို့ကို အမျိုးလေးပါးတို့အား နှစ်သိမ့်လွန်ကဲ အသည်းစွဲကြအောင် ဝေငှပေးကမ်းကာ ကောင်းစွာ သုံးဆောင်နိုင်ကြစေရန် ကြိုးစားကြကုန်ရာသတည်း။

မြန်မာစာပေသမိုင်း ပြီး၏။

# မြန်မာစာပေသမိုင်း

(ရန်ကုန်တက္ကသိုလ်ကျောင်းအုပ်ကြီး)

ပါမောက္ခ ဦးဖေမောင်တင်

